# မြန်မာ့စွယ်စုံကျမ်း

## အတွဲ - ၂







ကျန်ဝစ်သားပင်း

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်

၏

# ရုပ်ပြဗဟုသုတဘဏ်



အတွဲ - ၂

ကျ - ခွံ

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

**တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆုရာရွေးနုတ်၍ လေ့လာ ပါက စာရှုသူသည် အပျင်းလည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်းနှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထို့မျှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းဖြေရန် နည်းများလည်း ရရှိပေအံ့။**

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ စာရှုသူသည်မိမိမည်မျှမှတ်မိ၍ အသိဉာဏ်အခြေ၊ ဗဟုသုတအခြေမည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန်အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိအံ့၊ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေ့လာရန်တိုက်တွန်းရပေသည်။

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓါတ်ပုံစသည်ဖြင့်ဝေဆာစွာမွမ်းမံရန်ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှအကူအညီများရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပို့လိုက်ဗရေရီနှင့် ပေါပေါ့ပါးမှရင်း၊ နယူးယော့မြို့ အီဝင်ဂယ်လိုဝေမှရင်း၊ ဓါတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူရာပေါင်းများစွာရှိသည့်အနက် စွယ်စုံကျမ်းနှင့်ထိုက်တန်သည့်ရုပ်ပုံ၊ ဓါတ်ပုံ၊ မြေပုံစသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှရရှိပါ၍ ကျေးဇူးအထူးတင်ပါကြောင်း။

| အမည် | နေရပ် | ဓါတ်ပုံပါစာမျက်နှာ |
|---|---|---|
| ကျောက်စာဌာန | မန္တလေးမြို့ | ၁၇၇ |
| ချင်းရေးရာဝန်ကြီးဌာန | ရန်ကုန်မြို့ | ၃၈၆။ ၃၈၇။ ၃၈၈။ ၃၈၉။ ၃၉၀။ ၃၉၁။ ၃၉၄။ ၃၉၅ |
| ဆိုဗီယက်သံရုံး | ရန်ကုန်မြို့ | ၃၆၀ |
| တရုပ်သံရုံး | ရန်ကုန်မြို့ | ၄၂၀ |
| တိရစ္ဆာန်ရုံ | ရန်ကုန်မြို့ | ၄၄၁ |
| မြေတိုင်းဌာန | ရန်ကုန်မြို့ | ချင်းဝိသေသတိုင်းမြေပုံ |
| ယဉ်ကျေးမှုဝန်ကြီးဌာန | ရန်ကုန်မြို့ | ၄၄၃ |
| ရုပ်ရှင်နှင့်ပြဇာတ်ဌာန | ရန်ကုန်မြို့ | ၃၈၆ |
| လူထုပညာရေးကောင်စီ | ရန်ကုန်မြို့ | ၃၈၆။ ၃၈၇။ ၃၉၂ |
| သစ်တောဌာန | ရန်ကုန်မြို့ | ၁၀။ ၈၉။ ၁၄၄။ ၁၆၂ |
| ကေစိန် | အာဂျန်တာဓါတ်ပုံတိုက် | ၂၂၈ |
| ကိုကျော်ခိုင် | ရန်ကုန်မြို့ | ၃၀၃။ ၄၀၇ |
| ကိုကျော်ဆွေ | ရန်ကုန်မြို့ | ၄၂ |
| ဦးကျင်စိန် | မော်လမြိုင်မြို့ | ၃၉၇ |
| ဦးကြင် | ရန်ကုန်မြို့ | ၄၀၁ |
| ကိုခင်မောင် | မော်လိုက်မြို့ | ၃၈၄ |
| ဦးခင်မောင်မြင့် | မန္တလေးမြို့ | ၃၂၀ |
| ခင်လေးမောင် | ရန်ကုန်မြို့ | ၄၉။ ၈၄။ ၁၄၁။ ၁၆၉။ ၂၆၂။ ၂၇၁။ ၂၈၀။ ၂၈၁။ ၃၀၆။ ၃၀၇။ ၃၇၆။ ၃၈၀။ ကျန်စစ်သားရောင်စုံပုံ။ နန်းမြို့တွင်း၌ရောင်စုံပုံ |
| ဒေါ်ခင်သီတာအောင် | ရန်ကုန်မြို့ | ၃၀၈ |
| ဒေါ်ခင်သိန်း | ရန်ကုန်မြို့ | ၄၂ |
| ခိုင်မေဦး | ရန်ကုန်မြို့ | ၃၁၇ |

| အမည် | နေရပ် | ဓါတ်ပုံပါစာမျက်နှာ |
|---|---|---|
| ဦးငွေညွန့် | ကျိုက်ထိုမြို့ | ၇၆ |
| ဦးငွေထွန်း | မုံရွာမြို့ | ၃၈၁ |
| ဦးစိုး | ရန်ကုန်မြို့ | ၁၆၆။ ကြာကန်ရောင်စုံပုံ |
| ကိုစိုးအောင် | ရန်ကုန်မြို့ | ၄၃၃ |
| ဦးစံဘော | ကျောင်းကုန်းမြို့ | ၈၁ |
| ဦးစံသင် | မြောင်းမြမြို့ | ၁၃၆။ ၁၇၂။ ၂၄၇။ ၃၃၀။ ၃၅၂ |
| ဦးစိန်လှိုင် | ကြံခင်းမြို့ | ၁၉၀ |
| ဦးဆင့် | ကျောက်ဆည်မြို့ | ၃၂၁ |
| ဦးညွန့် | ရန်ကုန်မြို့ | ၃၈၂။ ၃၉၈ |
| ဦးတက်ထွတ် (ဘီတီစီ) | လန်ဒန်မြို့ | ၁၀၅။ ၃၂၇။ ၃၂၈ |
| ဦးထွန်းကြိုင် | မြိတ်မြို့ | ၂၆၅ |
| ဦးထွန်းမြ | သံတွဲမြို့ | ၅၃။ ၄၃၀ |
| ဦးထွန်းရည် | ရန်ကုန်မြို့ | ၂၄၇ |
| ဦးထွန်းရွှေ | ပြည်မြို့ | ၇၂ |
| ဦးထွန်းအောင် | မန္တလေးမြို့ | ၄၆။ ၄၇။ ၅၂။ ၈၅။ ၃၂၂။ ၄၀၃ |
| ဒဂုန်ပဦးဘတင် | ရန်ကုန်မြို့ | ၄၃၇ |
| နယူးပစ်ဓါတ်ပုံတိုက် | ရန်ကုန်မြို့ | ၆။ ၇။ ၂၃။ ၇၃။ ၈၂။ ၁၁၂။ ၁၁၈။ ၁၅၇။ ၂၃၂။ ၂၈၂ |
| ဦးပေသီး | ရန်ကုန်မြို့ | ၁၀၀ |
| ဦးဖေခင် | ရန်ကုန်မြို့ | ၃၂၉ |
| ဦးဖေသန်း | ရန်ကုန်မြို့ | ၄၀၆ |
| ဒုဗိုလ်မှူးကြီးဘရှင် | ရန်ကုန်မြို့ | ၈၇ |
| ဗိုလ်မြိုင် | အောင်ဆန်းမြို့ | ၂၈၅ |
| ကိုဘစိန် | မိုးကုတ်မြို့ | ၂၄၅။ ၂၄၆ |
| ဦးဘမိုး | ရန်ကုန်မြို့ | ၄၂၁ |
| ဦးဘသစ် | သံတွဲမြို့ | ၂၂၅ |
| ဦးဘသန်း | ရန်ကုန်မြို့ | ၇၇။ ၃၁၄ |
| ဦးဘသောင် | စစ်ကိုင်းမြို့ | ၂၈၆။ ၃၃၁။ ၃၅၉။ ၄၀၀။ ၄၄၄။ ၄၅၃ |
| ဦးဘအောင် | မော်လမြိုင်မြို့ | ၇၁။ ၇၂။ ၇၉။ ၁၇၀ |
| ဒေါ်မမလေး | ရန်ကုန်မြို့ | ၄၀၅ |
| ဦးမောင်ကလေး | ရွှေကျင်မြို့ | ၂၉။ ၈၃။ ၂၈၅။ ၂၃၁။ ၂၃၄။ ၂၃၇။ ၂၉၀။ ၂၉၇။ ၃၁၃။ ၃၇၉။ |

| အမည် | နေရပ် | ဓါတ်ပုံပါစာမျက်နှာ |
|---|---|---|
| ဦးမောင်မောင်တင | ရန်ကုန်မြို့ | ၃၇ |
| ဦးမျိုးစိန် | ပျဉ်းမနားမြို့ | ၄၄၀ |
| ဦးမျိုးမြင့် | ရန်ကုန်မြို့ | ၃၂၃ |
| ဒေါ်မြရီ | ရန်ကုန်မြို့ | ၈၀ |
| မြန်မာ့အလင်းသတင်းစာတိုက် | ရန်ကုန်မြို့ | ၆၃ |
| မြို့မဓါတ်ပုံကူးတိုက် | ရန်ကုန်မြို့ | ၁၈။ ၁၀၇။ ၁၈၂။ ၁၈၆ |
| ရတနာဦးသွင် | ရန်ကုန်မြို့ | ၇၅ |
| ရုပ်ရှင်နှင့်ပြဇာတ်အစည်းအရုံး | ရန်ကုန်မြို့ | ၃၀၉ |
| ရွှေဒုန်းဘီအောင် | ရန်ကုန်မြို့ | ၃၁၁ |
| ဦးလှကျော် | စစ်ကိုင်းမြို့ | ၃၃၀ |
| ဦးလှဦး | ကျုံ့ပျော်မြို့ | ၁၁၀ |
| ဦးလွင် | ရန်ကုန်မြို့ | ၁၆၅ |
| သခင်ခင်မောင်ဦး | တောင်တွင်းကြီးမြို့ | ၂၃၅ |
| ဦးသောဘိတ | စစ်ကိုင်းမြို့ | ၄၀၈။ ၄၁၈ |
| ဦးသန်းထွန်း | ကျောက်ဆည်မြို့ | ၄၁ |
| ဦးသန်းအောင် | မန္တလေးမြို့ | ၄၃၉ |
| ဦးသိန်းစံ | ကျောက်ပန်းတောင်းမြို့ | ၄၉ |
| ဦးသိန်းဖေ | ရန်ကုန်မြို့ | ၄၃၄။ ၄၃၅ |
| . ဦးအေးမောင် | ရန်ကုန်မြို့ | ၃၁၆ |
| အတွတ် | မြန်အောင်မြို့ | ၂၃၁ |

# ဤကျမ်းကိုမရှုစားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီစဉ်ပုံကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာအသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင်ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေဖတ်ရှုနိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ်အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျာဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစတို့ကို ကရဝိက၊ သျှင်။ ကျာဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကိုမလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ်ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ်ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ်တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကိုသိလိုပါက၊ ညွှန်းထားသောနေရာတွင် ပြန်လည်ဖတ်ရှုလေ့လာနိုင်စေခြင်းငှါ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါအကြောင်းရပ်အားလုံးငုံမိအောင် မေးခွန်းထုတ်ထားခြင်းမဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များအတွက်သာလျှင် မေးခွန်းများကိုရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ်အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြားကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်း ဆက်စပ်နေသည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မှဲ့အကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်းရပ်ခေါင်းစည်းသို့ရင်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီရှိသဖြင့် ပိုမိုပြည့်စုံစွာလေ့လာစေလိုသောအခါတွင်ရင်း၊ (...................... — ရှု။) ဟုညွှန်းသည်။ ပညာသဘောအားဖြင့် ဆက်သွယ်ခြင်းမရှိစေကာမူ၊ တနည်းတလမ်းအားဖြင့် နီးစပ်သည့်အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (...................... — လည်းရှု။) ဟုညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ်သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ်လောက်ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သားဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက်အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ပြက္ခဒိန်ကိုရင်း၊ ပညာရပ်များကို စံနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကိုရင်း၊ ထည့်သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာလှန်လှောရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါအကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင်မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက်မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

## ဤကျမ်းပါအကြောင်းရပ်များကိုအောက်ပါအက္ခရာစဉ်အတိုင်းစီစဉ်ထားသည်

၁။ အ
၂။ အာ
၃။ အား

၄။ အိ
၅။ အီ
၆။ အီး

၇။ အု
၈။ အူ
၉။ အူး

၁၀။ အေ့
၁၁။ အေ
၁၂။ အေး

၁၃။ အဲ့
၁၄။ အယ်
၁၅။ အဲ
} နောက်ပစ် နှင့် ယသတ်

၁၆။ အော့
၁၇။ အော်
၁၈။ အော

၁၉။ အို့
၂၀။ အို
၂၁။ အိုး

၂၂။ အက်
၂၃။ အောက်
၂၄။ အိုက်
} ကသတ်

၂၅။ အင့်
၂၆။ အင်
၂၇။ အင်း
} ငသတ်

၂၈။ အောင့်
၂၉။ အောင်
၃၀။ အောင်း
၃၁။ အိုင့်
၃၂။ အိုင်
၃၃။ အိုင်း
} ငသတ်

၃၄။ အစ် — စသတ်

၃၅။ အည့်
၃၆။ အည်
၃၇။ အည်း
} ညကြီးသတ်

၃၈။ အဉ့်
၃၉။ အဉ်
၄၀။ အဉ်း
} ဉကလေးသတ်

၄၁။ အတ်
၄၂။ အိတ်
၄၃။ အုတ်
} တသတ်

၄၄။ အန့်
၄၅။ အန်
၄၆။ အန်း
၄၇။ အိန့်
၄၈။ အိန်
၄၉။ အိန်း
၅၀။ အုန့်
၅၁။ အုန်
၅၂။ အုန်း
} နသတ်

၅၃။ အပ်
၅၄။ အိပ်
၅၅။ အုပ်
} ပသတ်

၅၆။ အမ့်
၅၇။ အမ်
၅၈။ အမ်း
၅၉။ အိမ့်
၆၀။ အိမ်
၆၁။ အိမ်း
၆၂။ အုမ့်
၆၃။ အုမ်
၆၄။ အုမ်း
} သေးသေးတင် နှင့် မသတ်

၆၅။ ျ — ယပင့်
၆၆။ ြ — ရရစ်
၆၇။ ွ — ဝဆွဲ
၆၈။ ှ — ဟထိုး
၆၉။ ျွ — ယ ပင့် ဝဆွဲ
၇၀။ ြွ — ရ ရစ် ဝဆွဲ
၇၁။ ျှ — ယပင့် ဟထိုး
၇၂။ ြှ — ရရစ် ဟထိုး
၇၃။ ွှ — ဝဆွဲ ဟထိုး
၇၄။ ျွှ — ယပင့်ဝဆွဲဟထိုး
၇၅။ ြွှ — ရရစ်ဝဆွဲဟထိုး

# ပိဋကတ်စာပေ ကျွမ်းကျင်သော ကျစွာမင်းမြတ်

**တိုင်းပြည်နိုင်ငံ သာယာဝပြောချိန်တိုင်းတွင် သာသနာဘာသာထွန်းကားစမြဲဖြစ်ပေရာ၊ ကျစွာမင်းလက်ထက် စာပေများတိုးတက်လာရခြင်းသည် နိုင်ငံသာယာ၍ မင်းမြတ်ကိုယ်တော်တိုင်က ပိဋကတ်ကျွမ်းကျင်ကာ ကြိုးစားပို့ချပေးနိုင်ခြင်းကြောင့်ဖြစ်ပေသည်။**

**ကျစွာမင်း။** ။မြန်မာနိုင်ငံ သမိုင်းတွင် ကျစွာမင်းအများရှိသည့်အနက်၊ ဓမ္မရာဇာဘွဲ့ခံ ကျစွာမင်းသည် ပုဂံနေပြည်တော်၌ ပုဂံခေတ်ကျောက်စာများအရ ကောဇာသက္ကရာဇ် ၅၉၇ ခု နံကာလဆန်း ၁၄ ရက် ကြာသပတေးနေ့တွင် နန်းတက်သည်။ ခမည်းတော်မှာ နန်းတောင်းများ ဟုတွင်နေသော နားတောင်းများမင်း ဖြစ်သည်။ ကျစွာမင်း၏ဘိုးတော် နရပတိစည်သူမင်းနှင့် ခမည်းတော် နားတောင်းများမင်းတို့၏ လက်ထက်တော်တို့တွင် မြန်မာနိုင်ငံမြောက်ဖျားနှင့်တောင်ဖျားဒေသတို့ကို စစ်ဆင်အောင်နိုင်ခဲ့ပြီးဖြစ်သည်သာမက၊ သီဟိုဠ်ကျွန်းနှင့် နိုင်ငံခြားဆက်သွယ်ရေး ကောင်းမွန်စွာရှိနေပြီးဖြစ် ရကား ကျစွာမင်း စိုးစံသောအချိန်သည် နိုင်ငံငြိမ်းချမ်းသာယာ၍ ယဉ်ကျေးမှုအချက်အလက်များ ကောင်းစွာတိုးတက်ဆဲဟုဆိုနိုင်သည်။

ပုဂံခေတ်မင်းတို့၏ နန်းစံသက္ကရာဇ်များနှင့် စပ်လျဉ်း၍ ရာဇဝင်ကျမ်းအများ ကွဲလွဲနေကြသည်။ ကျောက်စာပါ သက္ကရာဇ်တို့နှင့် အနီးစပ်ဆုံးသက္ကရာဇ်များကို ဇာတာပုံရာဇဝင်၌ သာတွေ့ရသည်။ ကျစွာမင်းနန်းစံနှစ်ကို ဦးကုလား ရာဇဝင်၌ ၅၇၁ ခု၊ တွင်းသင်းတိုက်ဝန် ရာဇဝင်၊ မှန်နန်း ရာဇဝင်နှင့် ဇာတာပုံရာဇဝင်တို့၌ ၅၉၆ ခုဟုဖော်ပြထားသည်။

စာပေကျမ်းဂန်တွင် ကျနစွာ တတ်မြောက် ကျွမ်းကျင်သောမင်းဖြစ်ကြောင်း၊ ပိဋကတ်သုံးပုံကို ကိုးခေါက်ပြန်၍ သင်တော်မူခဲ့ကြောင်းနှင့် မြန်မာရာဇဝင်တို့၌ဆိုသည်။ ပါဠိ အဋ္ဌကထာဋီကာကျမ်းတို့မှ အထူးထူးသောအဓိပ္ပါယ်တို့ကို ကြံတော်မူသည်ဖြစ်၍ မေးအံ့သောအရာ၌ ထိုမင်းနှင့်တူသူမရှိ၊ အရိယာသံဃာတော်တို့အားလည်း တနေ့ ခုနစ်ဝါရ စာချတော်မူ၏။ စေတသိက် ရုပ် နိဗ္ဗာန်ရပုဂ္ဂိုလ်တို့အားလည်း သိစေလို၍၊ မောင်းမတို့အားပြဋ္ဌန်းစရာ ပရမတ္ထဗိန္ဒုကိုလည်း စီရင်တော်မူ၏။ သဒ္ဒါဖက်ကလည်း သဒ္ဒဗိန္ဒုကျမ်းကိုအဖွင့်ဋီကာနှင့်တကွပြုစုတော်မူ၏။ ထိုမင်း သည်သာမက သမီးတော်သံပျင်မင်းသမီးပင်လျှင် ရဟန်းသံဃာတော်တို့အား စာပို့ချနိုင်လောက်အောင် စာပေကျမ်းဂန်တို့၌ ကျွမ်းကျင်တတ်မြောက်သည်။ သမီးတော်၏ခင်ပွန်း သံပျင်အမတ်သည်လည်း သံပျင်ဋီကာကိုစီရင်သည်ဟုဆိုသည်။

နရပတိစည်သူဘုရင် စိုးစံသည့်နှစ်များအထက်က မွန်စာ၊ ပါဠိစာနှင့် ပျူစာတို့ထွန်းကားခဲ့၍ နရပတိစည်သူ လက်ထက်ရောက်မှ မြန်မာစာကို တိုင်းပြည်စာပေအနေဖြင့် တွင်ကျယ်စွာအရေးတယူသုံးစွဲကြောင်းရေးထိုးခဲ့သောကျောက်စာများကို ထောက်ထား၍သိရှိနိုင်သည်။ ကျစွာမင်းလက်ထက် တိုင်းနိုင်ငံဝပြောသာယာ၍ သာသနာတော်ရေးတွင်များစွာထွန်းကား တိုးတက်ခဲ့သည်မှာ သံသယဖြစ်ဖွယ်မရှိပေ။ မြန်မာစာအသုံးအနှုန်း များပြားလာသည်နှင့်အမျှ ပါဠိကျမ်းဂန်တို့မှ မြန်မာဘာသာသို့ပြန်ဆိုလေ့လာကြံဆကြသည့်အတိုင်း၊ ဤမင်းလက်ထက်တွင် သာသနာရေးဆိုင်ရာစာပေထွန်းကားတိုးတက်ခြင်း၊ သာသနာတော် နေရောင်လရောင် ထွန်းပြောင်ခြင်းများ ရှိခဲ့သည်။

သာသနာရေးနှင့် စာပေတွင် ကောင်းစွာမွေ့လျော်လိုသောကြောင့် တူးရွှင်းတောင်ခြေကကျသောရေကို ကန်ကြီးဆည်၍ ကြာမျိုးငါးပါးနှင့်ပြည့်စုံစေ၏။ ဝမ်းဘဲ၊ ဟင်္သာ၊ ကြိုးကြာ၊ ရေကြက်၊ စက္ကဝက်စသော ရေငှက်အပေါင်းတို့ မြူးပျော်ကျက်စားကြ၏။ ကန်အနီးတွင် လယ်ယာများစီရင်၍ တနှစ် ၃ သီးစိုက်ပျိုးနိုင်သည်။ ကန်အနီးတွင်မင်းတဲ သာယာစွာဆောက်၍ တနေ့ခုနစ်ဝါစာပို့ချတော်မူကြောင်း ရာဇဝင်တို့၌ပါရှိသည်။

ပြုတော်မူသောကုသိုလ်တော်တို့မှာ စကုမြို့ ခဲတော်ကြီးအရပ်၌ ပြာသာဒ်ကျောင်းနှင့် ပုဂံမြို့ ပြဿဒါးဘုရားဖြစ်သည်။ ကျစွာမင်းသည် ၁၆ နှစ်စိုးစံအုပ်ချုပ်၍ သားတော်ဥဇနာမင်းကထီးနန်းဆက်ခံလေသည်။ ဦးဘရှင်။

**ကျာဘမ်း၊ မောင်း၊ခုံ တော်။** ။မောင်ကျာဘမ်းကို သက္ကရာဇ် ၈၂၀ ပြည့်နှစ်တွင် ပုဂံမြို့၌မွေးဖွားသည်။ ဖခင်မှာ ဦးဥာဏ်လင်း၊ မိခင်မှာဒေါ်နှင်းဇံဖြစ်သည်။ ဦးဥာဏ်လင်း ဒေါ်နှင်းဇံတို့တွင်သား ၅ ဦးဖွားမြင်သော်လည်း တယောက်မျှ အဖတ်မတင်ခဲ့ချေ။ မိဖနှစ်ပါးတို့သည် သားသမီးအဖတ်တင်စေသောငှာ အမျိုးမျိုး သောယာယီယတြာ နှင့် တကွကုသိုလ်ကောင်းမှုတို့ကိုပြုလုပ်ခဲ့ပြီးနောက်၊ သားတယောက်ထွန်းကား လာပြန်ရာ ထိုသားငယ်ကိုယာယီယတြာ နည်းများစွာတို့ဖြင့် ကြံဖန်ဖမ်းယူရသောကြောင့် မောင်ကြံဖမ်းဟု အမည်မှည့်ခေါ် သည်။ မောင် ကြံဖမ်း ကို ပုဂံမြို့ ရွှေဂူကျောင်း ဆရာတော် ထံတွင် အပ်နှံ၍ ပညာသင်ကြားစေသည်။ ရှင်သာမဏေဘဝမှ ရဟန်း ဘောင် သို့ တက်ရောက်ခဲ့ရာ ဘွဲ့မှာသျှင်ကုဏ္ဍလဖြစ်သည်။

သျှင်ကုဏ္ဍလသည် ဘာသန္တရ၊ ဂန္ထန္တရကျမ်းဂန်များနှင့် တကွ ရာဇသတ်ဓမ္မသတ် ဖြတ်ထုံးကြီးတို့ကို ကျနသေချာအောင် လေ့လာဆည်းပူးခဲ့ပြီးနောက်၊ ရဟန်း ၅ ဝါတွင်



တောတခိုတွင် ဘုရင်တဆူ မင်းမူသည့်ကျား

ကျားဆရာ ကြောင်ဟူသောဆိုရိုးစကားအတိုင်း ကြောင်မျိုးဝင်တိရစ္ဆာန်ဖြစ်၍ ယင်းအမျိုးတွင် အလှပဆုံးနှင့် အချီးအကျဆုံးဖြစ်သည့်ပြင် ရဲစွမ်းသတ္တိအရာတွင်လည်း အစွမ်းဆုံးဖြစ်သည်။

လူဝတ်လဲခဲ့သည်။ ထိုနောက်ပုဂံမြို့တွင် ရှေ့နေအဖြစ်အသက်မွေးမြူသည်။ ခရာခဲဆက် ကျစ်လစ်နက်နဲသော အမှုအခင်းမှန်သမျှတွင် ရှေ့နေမောင်ကြံဖမ်း လိုက်ပါဆောင်ရွက်က နိုင်သည်ချည်းဖြစ်သည်။ ရှေ့နေလိုက်စဉ် သူတပါး၏စကားအကျကိုဖမ်း ယူပြောဆိုခြင်း အရာတွင် လွန်စွာမှလျင်မြန်ကျွမ်းကျင်ရကား ရဟန်းရှင်လူအများတို့က သူ့အားမောင်ကျဘမ်းဟုခေါ်ဝေါ်ကြသည်။ အစီအစဉ်မရှိဘဲ အကြောင်းရပ်တခုကို ရုတ်ခြည်းပြောဆိုခြင်းမျိုးကို ကျဘမ်းစကားပြောနည်းဟု ယခုတိုင်တွင်လျက်ရှိနေသည်။ ပုဂံမြို့နယ်တွင် မောင်ကျဘမ်းနှင့်ယှဉ်ပြိုင်နိုင်သောရှေ့နေရှေ့ရပ်ကျမ်းတတ်ခုံမင်းများမရှိရကား၊ ဆရာတော်သံဃာတော်များနှင့်တကွ ရှေ့နေရှေ့ရပ်များပါဝင်သော ပြည်သူလူထုအစည်းအဝေးကြီးက မောင်ကျဘမ်းအား သမတခုံအဖြစ် တင်မြှောက်ကြသည်။

မောင်ကျဘမ်းသည် သမတခုံမင်းအဖြစ်ဖြင့် အတန်ကြာအောင် ရှုပ်ထွေးဆန်းကြယ်သောအမှုအခင်းတို့ကို ဖြောင့်မတ်စွာ စစ်ဆေးဆုံးဖြတ်ပေးခဲ့သည်။ သို့ရာတွင် ခုံတော်အဖြစ်နှင့် ဆောင်ရွက်ရသည်ထက် အင်းဝနေပြည်တော်သို့ သွားရောက်လျက် ရှေ့နေလိုက်ရခြင်းက ပိုမို၍ဂုဏ်သတင်းပျံ့သင်းမည်ဟုယူဆပြီးလျှင် အင်းဝမြို့သို့သွားရောက်၍ ရှေ့နေလိုက်ပြန်သည်။

မောင်ကျဘမ်းမှာ ရာဇသတ်ဓမ္မသတ်များကိုတတ်သိကျွမ်းကျင်သည့်အပြင် ဆင်ခြေဆင်လက်သန်သူ ဖြစ်သဖြင့် ရှေ့နေရှေ့ရပ်ခုံမင်းများနှင့်တကွ လွှတ်တော်ဝန်ကြီးများပင် မေတ္တာပြယ်လျက်ရှိကြသည်။ တရံခါသော်မောင်ကျဘမ်းက နန်းစဉ်လက်သုံးဓမ္မတာသစ္စာတော်ကျမ်းကြီးကို ပယ်ဖျက်ငြင်းဆန်ကြောင်းနှင့် ဘုရင်မင်းမြတ်အား လျှောက်တင်ကြလေလျှင် ဘုရင့်အမိန့်တော်ဖြင့် သူ့အားလွှတ်တော် ၅ ရပ်တွင်ရှေ့နေလိုက်ခြင်းကို ပယ်ဖျက်လိုက်လေသည်။

မောင်ကျဘမ်းသည် မိမိကိုယ်တိုင် ရှေ့နေမလိုက်ရသော်လည်း အင်းဝနေပြည်တော်ရှိ ရှေ့နေရှေ့ရပ်များအား အမှု၏ခက်ခဲနက်နဲလျှို့ဝှက်အပ်သောအဆစ်အပိုင်းများကို သင်ကြားပြသကာ အပူဇော်ခံ၍စားသောက်နေထိုင်လေ၏။

မောင်ကျဘမ်း ပေါ်ထွန်းသောခေတ်မှာ အင်းဝ ဘုရင်ဒုတိယမင်းခေါင်လက်ထက် ပေလေးပင်သျှင်လေးပါးဟုထင်ရှားကျော်စောသောရဟန်းတော်များနှင့် တခေတ်တည်းပင်ဖြစ်သည်။ မောင်ကျဘမ်းမှာ ထောင်လွှားတက်ကြွလျက်ပြောဆိုတတ်သဖြင့်၊ ရဟန်းတော်များနှင့်လည်း မကြာခဏ အငြင်းဖြစ်ပွားလေ့ရှိသည်။ အခါတပါး၌ မောင်ကျဘမ်းကအင်းဝနေပြည်တော်တွင်ဆွမ်းတအုပ်မျှကို ဘယ်အိမ်မှာမဆိုပါးရိုက်ဖိတ်တော့ရနိုင်သည်ဟုတောင်တွင်းကြီးဆရာတော်သျှင်ဥတ္တမကျော်အား လျှောက်ထားမိချေသောကြောင့် ထိုဆရာတော်က မောင်ကျဘမ်း၏ဇနီးအား ပါးကိုရိုက်၍ဆွမ်းဖိတ်ဖူးကြောင်း၊ မောင်ကျဘမ်း၏မာနကို ချိုးနှိမ်ရာတွင် သပိတ်မှောက်ကံပေါ်ပေါက်လာကြောင်း အဆိုရှိသည်။

မည်သို့ဖြစ်စေကာမူ မောင်ကျဘမ်းမှာ ကျမ်းဂန်ကျေပြွန်ထူးချွန်တတ်မြောက်သောပုဂ္ဂိုလ်ဖြစ်သည့်ပြင် တခဏုပ္ပတ္တိဉာဏ်နှင့် ပြည့်စုံသူလည်းဖြစ်သည်။ တရံရောအခါ မောင်ကျဘမ်းသည် တရားခုံရုံးပေါ်တွင် မိမိ၏ဂုဏ်ပုဒ်ကိုဖေါ်၍ ကိုယ်ရည်သွေး စာတပုဒ်ကို ရုတ်ခြည်းဆိုလိုက်သည်မှာ ‘တိတ်လည်းလေးတန်၊ ဗျာဒိတ်ခံသည်၊ နေရပ်မှာပြည်ရွှေဂံ၊ အမိမယ်နှင်းဇံ၊ ရှေ့နေတွင်ဘက်မစံ၊ ကျော်စောသူငါမောင်ကြံ၊ ဘုရားမှာကကုသန်’ ဟုဖြစ်သည်။ မောင်ကျဘမ်း၏ကွယ်လွန်သောခုနှစ်သက္ကရာဇ်ကိုမတွေ့ရသေးချေ။

**ကျား**။ ။ခြင်္သေ့ကိုသာလျှင် ကျွန်ုပ်တို့သည် ရဲစွမ်းသတ္တိနှင့်ပြည့်ဝသည်ဟု ယူဆကိုးကားလေ့ရှိကြ၏။ သို့ရာတွင် ခြင်္သေ့နှင့် သတ္တိတွင်မခြားသောကျားကိုလည်း လျစ်လျူရှုထားရန်မသင့်ပေ။

ခြင်္သေ့သည် အာဖရိကတိုက်တောများတွင် စိုးမိုးနေသည်ကိုတွေ့ရသကဲ့သို့ ကျားသည်လည်း အာရှတိုက်တခွင်တွင် သားကောင်တို့အပေါ်၌ မင်းမူလျက်ရှိသည်ကိုတွေ့ရသည်။ အကယ်စင်စစ် ကျားမှာ ကျားဆရာကြောင်ဟူသောဆိုရိုးစကားအတိုင်း ကြောင်မျိုးတွင်ပါဝင်သည်။ အိမ်တွင်လက်သပ်မွေးထားသော ကြောင်နှင့် နှိုင်းစာကြည့်ပါမူ အရွယ်အစား ကြီးမားခြင်းမှလွဲ၍ ခြားနားချက်များစွာမရှိလှသည်ကိုတွေ့ရမည်။

ကျားသည်တောက်ပြောင်လှပသော အသွေးအမွေး၊ အချိုးအစားကျနပြေပြစ်သောကိုယ်လုံးကိုယ်ထည်၊ ဖျတ်လတ်ပေါ့ပါးသောကိုယ်ဟန်တို့ကြောင့်၊ ကြောင်မျိုးဝင်တိရစ္ဆာန်အပေါင်းတို့တွင် အလှပဆုံးနှင့်အချိုးအကျဆုံးဖြစ်သည်။ အာရှတိုက်တခွင်လုံးတွင် ကျားအမျိုးမျိုးရှိသည့်အနက်၊ ဗင်္ဂလားကျားမျိုးမှာ လူသိအများဆုံးဖြစ်သည်။ အခြားအတော်အသင့် လူသိများသော ကျားမျိုးတို့မှာ မန်ချူးရီးယားကျား၊ ကော်ကေးရှားကျားနှင့်ပသျှူးကျားမျိုးတို့ဖြစ်သည်။ လူသိအများဆုံးသော ဗင်္ဂလားကျား၏အသွေးအမွေးမှာ အခြားသောကျားများနှင့်မတူ၊ နီဝါဝါအရောင်ရှိပြီးလျှင် တကိုယ်လုံးတွင် အနက်ရောင်အစင်းကြောင်းကြီးများဖြင့် လှပစွာရှိသည်။ ကျားကိုသဘာဝက ဤကဲ့သို့မြေကြီးနှင့် ခွဲမရအောင် ရောင်စုံခြယ်၍ပေးထားသောကြောင့် တောချုံပိတ်ပေါင်းများအကြား သို့မဟုတ် မြက်ရှည်တောကြီးများ၏အလယ်တွင်ရှိနေလျှင်၊ ကျားမှန်းရုတ်တရက် ခွဲခြားသိရှိနိုင်ရန် ခဲယဉ်းသည်။

ကြောင်မျိုးတွင်ပါဝင်သောတိရစ္ဆာန်များမှာ ရေနှင့်များစွာမနီးစပ်ကြချေ။ သို့သော်ကျားမှာ ဤသို့မဟုတ်ဘဲတမျိုးတဖုံထူးနေသည်ကိုတွေ့ရသည်။ ကျားသည်ရေကူးကျင်လျင်၏။ ထိုမျှသာမက အလွန့်အလွန်အခက်အခဲအကျဉ်းအကျပ်တွေ့နေရသည့် အခါများ တွင် သစ်ပင်ကိုပင် တက်နိုင်သေးသည်။ ကြောင်ကဲ့သို့ညဉ့်အချိန်တွင်ပို၍မျက်စိစူးသဖြင့် နေ့အခါတွင် သားကောင် လိုက် လေ့မရှိဘဲ ညအခါမှသာလှည့်လည်ကျက်စားလေ့ရှိသည်။ အစာရှာထွက်သည့်အခါတွင် အမဲကောင်ကို မှောင်ခိုပုန်းလျှိုး၍ အုပ်ဖမ်းသတ် ဖြတ် စားသောက်တတ်သည်။ သားကောင်လိုက်ရာတွင် အလွန်ပင်ရဲစွမ်းသတ္တိရှိ၍ မည်သည့်သတ္တဝါမျိုးကိုမဆို အယဉ်အရိုင်းမရွေး တွေ့မရှောင်ကိုက်သတ်လေ့ရှိသည်။

ကျားသည် လူကို အလိုအလျောက် ရန်ပြုခဲ သည်။ လူကိုသတ် ဖြတ် စားသောက် ရန် လည်း အပတ်တကုတ် ကြိုးပမ်းအားထုတ် လေ့ မရှိ ပေ။ သို့ရာတွင်လူ၏အသားကို တကြိမ်တခါ မျှမြိုး မြိုး မြက် မြက် စားလိုက် ရဘူးသော ကျား သည်လူကိုပင်လိုက်လံသတ် ဖြတ် စားသောက်တတ်သည်။ ယခင်က စားခဲ့ဘူးသော အခြား အသား အားလုံး ကိုပစ် ပယ် ၍၊ လူ၏အသားကိုသာတန်းတန်းစွဲတပ်မက်၍နေသောကျားမှာအမှန်ပင်ကြောက်စရာကောင်းပေသည်။

အိန္ဒိယ နှင့် မြန် မာ နိုင်ငံ တို့ ရှိ တောထူထပ် သော နေရာများတွင် ကျားကိုအလွန်တရာကြောက်ရွံ့ကြသည်။ အထူးသဖြင့် အိန္ဒိယတိုင်း ရင်း သားများ သည် ကျား ကို လွန် စွာကြောက်ရွံ့ကြသည်။ အဘယ်ကြောင့်ဆိုသော် ထိုအရပ်ဒေသများတွင် တနှစ်တနှစ်လျှင် ကျားကြောင့်လူတထောင်မျှသေဆုံးကြရသောကြောင့်ဖြစ်သည်။ အသက်အရွယ်ငယ်သေးသော ကျားပျိုများသည် သန်စွမ်း ရဲရင့် ကြသဖြင့် ကျားအိုများထက်ပို၍ကြောက်စရာကောင်းသည်။

အမဲလိုက်သမားများသည် ကျားပစ်ထွက်ရာ၌ အသက်ဆံဖျားစွန့် စားရ သည်။ အချို့ ကျားပစ် သမားများ သည် ကျားကို ဆင် ပေါ် မှ အကာအကွယ် ယူ၍ပစ် လေ့ရှိကြ၏။ အချို့မှာလည်း ကျွန်ုပ်တို့မြန်မာနိုင်ငံ၌ မကြာခဏတွေ့ရသည့်အတိုင်း မြင့်မားသောသစ်ပင်ပေါ် တွင် လင့်စင်များထိုးကာ ပစ် လေ့ရှိသည်။ ထိုသို့ပစ် သည့် အခါတွင် မိမိတို့အလိုရှိသည့်နေရာသို့ ကျားရောက်လာစေရန် ပစ်ကွင်းတွင်အမဲသေကောင်ဖြင့်များခေါ် ရသည်။

သို့သော်ကျားကိုပစ်ခတ်ဖမ်းယူနိုင်ရန်မှာ ထင်သလောက်မလွယ် ကူ ချေ။ အဘယ် ကြောင့် ဆိုသော် ကျား သည်အကောင်ကြီးပင်ကြီးငြားသော်လည်း အလွန်ပေါ့ပါးဖျတ်လတ်သောကြောင့်ဖြစ်သည်။ ကျားမှာအစာကိုရှာဖွေရာ၌



သားငယ်များအပေါ် တွင် အခြားတိရစ္ဆာန်များနည်းတူ ကြင်နာယုယလေ့ရှိသည်ကျားမကြီး

သော်ငင်း၊ အစာရှာဖွေရာတွင်တွေ့ရသော ဘေးအန္တရာယ်များကို ရှောင်ကွင်းရာ၌ သော်ငင်း၊ အုံသြဖွယ်ကောင်းလောက်အောင် ပါးနပ်လျင်မြန်ရှံသာမက၊ ရဲလည်းရဲရင့်ပေသည်။ ကျားမှာ သူ့ဇာတိတောရိုင်းဒေသနယ်တွင်ဖြစ်မူ၊ အသွေးအသားကို လိုချင်မက်မောဆုံးသောသတ္တဝါဖြစ်သည်။ လွတ်လွတ်လပ်လပ်မနေရဘဲ အချုပ်အနှောင်ခံနေရသောအခါများတွင်၊ ကျားသည် မည်သူကိုမဆို သစ္စာဖေါက်ဖျက်လျက် အသက်ကိုရန်မူရန်အခွင့်အရေးကို အမြဲတမ်းရှာဖွေနေတတ်သည်။ ထိုကြောင့် တိရစ္ဆာန်ရုံများသို့ အလည်အပတ်သွားသည့်အခါတွင် ကျားကိုသွား၍မစဘဲ စည်းကမ်းသေဝပ်စွာကြည့်ရှုရန်သတိပြုရမည်။

ကျားအမသည် တကြိမ်လျှင် ၂ ကောင်မှ ၅ ကောင်အထိ သားပေါက်တတ်၏။ မွေးဖွားပြီးစ ကျားကလေးသည် မိခင်ကျားမကြီးနှင့် အချိန်အတန်ကြာသည်တိုင်အောင် အတူတကွနေထိုင်လေ့ရှိ၏။ အသက်သုံးနှစ်အရွယ်ခန့်တွင် သားကောင်လိုက်ပုံလိုက်နည်းကို မိခင်ကျားမကြီးက ကောင်းစွာသင်ကြားပြသပေးသည်။ ထိုနောက်မှ မိမိသဘောအလျောက် တသီးတခြား သားကောင်လိုက်ထွက်နိုင်သည်။ တိရစ္ဆာန်ရုံများတွင် ယခုအခါ ခြင်္သေ့နှင့်ကျားကို အတူတကွထား၍ မျိုးစပ်ပေါက်ဖွားစေနိုင်သည်ကိုတွေ့ရ၏။ ဖခင်ကကျား၊ မိခင်ကခြင်္သေ့မ ဖြစ်လျှင် ကျားခြင်္သေ့ဟုခေါ်၍၊ ခြင်္သေ့ကဖခင်ဖြစ်လျက် မိခင်ကကျားမ ဖြစ်လျှင် ခြင်္သေ့ကျားဟု ခေါ်ကြလေသည်။

**ကျားထိုးခြင်း။** ။ကျားထိုးခြင်းသည် လွန်စွာ ရှေးကျသောအိမ်တွင်းကစားမှုတခုဖြစ်၍၊ ကမ္ဘာပေါ်ရှိ နိုင်ငံတိုင်းလိုလိုမှာပင် တွေ့ရှိနိုင်လေသည်။ ယခုရေးသားသည့်ကျားထိုးခြင်းအကြောင်းမှာ အင်္ဂလိပ်ကျားထိုးခြင်း ဖြစ်သည်။ ကျားထိုးရန်ခုံမှာ စစ်တုရင်ခုံကဲ့သို့ အဖြူအနက်ကွက်ကျားဖေါ်ထားသည့်အကွက် ၆၄ ကွက်ပါရှိသော စက္ကူချပ်ထူသို့မဟုတ် သစ်သားခုံဖြစ်လေသည်။ ကျားများမှာ သစ်သားသို့မဟုတ်အမာခံတွေ့ဖြင့်ပြုလုပ်ထားသည့် အပြားဝိုင်းကလေးများဖြစ်လျက် အဖြူအနက်ခွဲခြားထားလေသည်။ ကျားထိုးခြင်းကို လူနှစ်ယောက်သာကစားနိုင်သည်။ စ၍ကစားရာတွင် တယောက်ကကျားအဖြူ ၁၂ ကောင်ကိုယူ၍၊ အခြားတယောက်ကကျားအနက် ၁၂ ကောင်ကိုယူပြီးလျှင် မိမိဖက်နောက်ဆုံးသုံးတန်းရှိ အနက်ကွက်များပေါ်တွင်ချထားရသည်။

ကျားထိုးသည့်အခါ မိမိနှင့်ဆိုင်ရာကျားများကို တလှည့်စီတကွက်ကျရွှေ့သွားရသည်။ ကျားအနက်ကို ယူသောသူသည် ဦးဆုံးစတင်၍ရွှေ့ရ၏။ ပွဲပြီးသည့်အခါ ကျားများကိုလဲလှယ်၍ကစားရလေသည်။

ကျားများကို ရှေ့တည့်တည့်အကွက်သို့မရွှေ့ရချေ။ ရှေ့ဖက်ဗယ်ညာထောင့်တန်းအကွက်များရှိသည်တွင် လစ်လပ်နေသောအနက်ကွက်သို့ ရွှေ့ရသည်။ နောက်သို့ပြန်၍မရွှေ့နိုင်ချေ။ ရန်သူကျားသည် မိမိကျား၏ရှေ့အကွက်တွင်ရှိ၍၊ ထိုရန်သူကျား၏ နောက်ဖက်ရှိအကွက်သည်လပ်နေခဲ့လျှင်၊ မိမိ၏ကျားသည် ရန်သူကျားကိုကျော်၍ ကွက်လပ်သို့ခုန်ကာ နေရာယူလိုက်ပြီးလျှင် ရန်သူကျားကို စားနိုင်လေသည်။ ထိုအကွက်နှင့်ဆက်၍ တည့်တည့်ဖြစ်စေ၊ ထောင့်ချိုးဖြစ်စေ၊ တကွက်ကျော်လွတ်နေသေးလျှင် ရန်သူကျားနှစ်ကောင်သုံးကောင်လုံးကို တကြိမ်တည်း၌ပင်စားလိုက်နိုင်သည်။ စားလိုက်သောကျားများကို ကျားခုံပေါ်မှဖယ်ယူထားရ၏။ ဤသို့ဖြင့်ကျားတကောင်သည် ရန်သူ၏နောက်ဆုံးတန်းသို့ရောက်ရှိသွားလျှင် ထိုကျားကို အရောင်တူကျားတကောင်ထပ်ဆင့်ပေးလိုက်ခြင်းဖြင့် ဘုရင်မြှောက်လိုက်ရလေသည်။ ထိုသို့ပြုလုပ်ခြင်းကို ကင်းခေါ်ကျားကြီးပေးရသည်ဟုခေါ်သည်။ ကင်းသည်လွန်စွာတန်ခိုးကြီး၏။ မိမိနေရာအကွက်မှ ရှေ့သို့ဖြစ်စေ၊ နောက်သို့ဖြစ်စေ၊ ထောင့်ချိုးအတိုင်းလေးဖက်လေးတန် ကွက်တူနေရာလပ်တို့သို့ လိုသလိုတက်နိုင်၊ ဆုတ်နိုင်၊ ကျော်နိုင်၊ စားနိုင်သည်။ ကင်းသည်ထိုမျှအခွင့်အရေးရသော်လည်း၊ တခါတရံ အရွှေ့မှားသွားပါက သာမန်ရန်သူကျား၏ အစားကိုခံရတတ်သည်။ ကျားများအားလုံး အစားခံရသည့်အခါဖြစ်စေ၊ ပိတ်မိနေသည့်အခါဖြစ်စေ၊ ထိုကျားများကိုကိုင်၍ကစားသူသည် ရှုံးလေတော့သည်။



ကစားရန်ကျားကွက်တွင်ကျားများကိုအသင့်စီထားပုံ ယာဖက်ရှိအဖြူကျားနှင့်ဝဲဖက်ရှိအနက်ကျားများသည်ဗယ်ညာထောင့်တန်းကွက်များကိုရွှေ့ကြရမည်။

တဖက်နှင့်တဖက်အပြီးအပိုင် အနိုင်မကစားနိုင်ဘဲ ကျားကွက်လည်နေသောပွဲကို သရေပွဲဟုခေါ်သည်။ ကျားများကိုရွှေ့မိလျှင် ပြန်၍မချရတော့ဘဲ ဆက်၍ သာရွှေ့သွားရ၏။

ရွှေ့ပြီးသောကျွားကိုလည်း ပြန်၍ ရုပ်သိမ်းနိုင်ခွင့် မရှိချေ။ စည်းကမ်း တခုအရဆိုသော်၊ ရန်သူကျွား ကိုစားနိုင် သော အခွင့် အရေး ရလျက် မစားဘဲနေခဲ့လျှင် ထိုမစားသော ကျွားကို တဖက်ကစားသူက သိမ်းယူနိုင်ခွင့် ရှိလေသည်။

ကျွားထိုးခြင်းသည် လွန်စွာစိတ်ဝင်စားဖွယ် ကောင်း၍ လူငယ်လူရွယ်ကျောင်းသားများသာမက၊ လူအများပင် နှစ်သက်ကြသောကစားနည်းတမျိုးဖြစ်၏။ ထိုကစားနည်းမှာ အပျင်းဖြေသဘောမျှသာမဟုတ်၊ ထိုးထွင်းဉာဏ်ထက်သန်စေရန်အတွက်လည်း များစွာအထောက်အပံ့ ဖြစ်စေသော ကစားနည်းတခုဖြစ်လေသည်။

**ကျွား–မ ပညာရေး။** ။ကျွား–မ ပညာရေးမှာ ကျောင်းများတွင် ယောကျ်ားကလေးနှင့် မိန်းကလေး များကို တတ်နိုင်သမျှအတူတူရောပြီး တချိန်တည်း၌ စာသင်ခန်းတခုတည်းတွင် သင်အံစာတမျိုးတည်းကို သင်ရိုးသင်တမ်းကုန်ဆုံးသည်အထိ အတူသင် ကြားခြင်း ကို ဆိုလိုသည်။ ရှေးအခါများက မိန်းကလေးများ၏ပညာသင်ကြားရေးကို ဂရုမပြုခဲ့ကြချေ။ မိန်းကလေးဆိုလျှင် ပညာကိုထူးချွန်အောင် သင်ရန် မလို၊ ယောကျ်ားများကိုဖျော်ဖြေရန်အတွက် သူတို့၏ရုပ်ရည်လှပမှု၊ ကိုယ်ဟန်ကြော့ရှင်းမှုတို့လောက် ကို ဂရုစိုက်ကာ ပြုပြင် နေရန် သာရှိသည် ဟူသော ရှေး ခေတ် တယူသန် ဝါဒစွဲကြောင့် မိန်းမ ပညာတတ် များ ခေါင်းပါးခဲ့လေသည်။ သို့သော်တဖြည်းဖြည်းခေတ်ပြောင်းလာသည်နှင့်အမျှ ပေါင်းသင်းဆက်ဆံရေးသဘောထား၊ ငွေရေး ကြေးရေး အခြေအနေနှင့် သာသနာရေး အယူအဆ စသည်တို့မှာလည်း ပြောင်းလဲလာလေရာ၊ မိန်းကလေးများအား ပညာသင်ကြားပေးရန် ခေတ်အလျောက်လိုအပ်လာသည်ဟု သဘောပေါက် ခဲ့ကြသည်။ အစ၌ မိန်းကလေး များကိုပညာသင်ကြားပေးရန် မိန်းကလေးကျောင်းများကို သီးသန့်ဖွင့်ပေးခဲ့ကြသည်။ ထိုနောက်တွင် ငွေရေး ကြေးရေး သက်သာချောင်ချိမှု အတွက် ယောကျ်ား ကလေး ကျောင်း များ မှာပင် မိန်း ကလေး များ ကို တပါတည်း လက်ခံ၍ ပညာသင်ကြားပေးခဲ့၏။ သို့သော် မူလတန်းများလောက် တွင် သာ ထိုသို့ ပူးတွဲလက် ခံကာ သင် ကြား ပေး



ကျွား–မ ပညာရေးစံနစ်ကို လက်တွေ့စမ်းသပ်လျက်ရှိသော မြို့မအမျိုးသားအမျိုးသမီး အထက်တန်းကျောင်းကြီး

သည်။ အလယ်တန်း၊ အထက်တန်းများ၌ကား သီးသန့်ခွဲခြား၍သင်ကြားနေခဲ့ကြရသေးသည်။ စကော့တလန်ပြည်တွင် ၁၇ ရာစုနှစ်နောက်ပိုင်းလောက်မှအစပြု၍ မူလတန်းများ၌ ကျား–မ တွဲ၍ပညာသင်ကြားခွင့်ပြုခဲ့ရာ၊ ထိုအချိန်မှစတင်၍ ထိုကျောင်းမျိုးများစမ်းသပ်ဖွင့်လှစ်ခဲ့လေသည်။ အင်္ဂလန်ပြည်တွင် ထိုကဲ့သို့ ကျား–မ တွဲ၍ ပညာသင်ကြားပေးသောကျောင်းများ ဗီဒေးနှင့်ဗက်ဒဖေါ့တွင် ရှိခဲ့သော်လည်း စကော့တလန်ပြည်၊ ဥရောပတိုက်နှင့် အမေရိကန်ပြည်ထောင်စုနိုင်ငံတို့တွင် ရှိကြသော ကျောင်းများလောက် ခေတ်မစားချေ။

ကျား–မတွဲ၍ ပညာသင်ကြားရခြင်းမှာ ယောကျ်ားကလေးနှင့်မိန်းကလေးတို့သည် အိမ်တွင်ငယ်စဉ်အခါက အခွင့်အရေး အတူတူရသကဲ့သို့ ကြီးပြင်းသည့်အခါတွင်လည်း အခွင့်အရေးအတူတူရရှိလျက် တာဝန်ကိုညီတူညီမျှ ထမ်းဆောင်နိုင်ရန်အတွက်ဖြစ်လေသည်။ ယောကျ်ားကလေးနှင့် မိန်းကလေးတို့သည် ငယ်စဉ်က အတူနေပင်ဖြစ်သော်လည်း သွေးသားမတော်စပ်ပါက အရွယ်ရောက်လာသောအခါ တဦးနှင့်တဦး ဆက်ဆံရမည်ကို ရှက်သလို ကြောက်သလို ရင်ဖိုလျက် နှလုံးထား မသန့်ရှင်းမှုများ ပေါ်ပေါက်လာတတ်သည်။ ထို့ကြောင့်ရှေးအခါက အရွယ်ရောက်ပြီဖြစ်သော ကျား–မတွဲနေသည်ကို မနှစ်သက်တတ်ကြချေ။ သို့သော်ကျား–မတွဲ၍ ပညာသင်ကြားရေးကို အားမပေးခြင်းကြောင့် အကျိုးဆုတ်ယုတ်စေနိုင်သည်။ ကျားနှင့်မတို့ခွဲခြားနေလျှင် တဦးနှင့်တဦးပို၍စိမ်းပြီး မခေါ်ရဲမပြောရဲဖြစ်သွားတတ်၏။ ကျားနှင့်မ နေ့စဉ်အတူတွေ့ရဖန်များလျှင် ယောကျ်ားကလေးနှင့်မိန်းမကလေးတို့ တဦးနှင့်တဦးဆက်ဆံရာတွင် စိတ်သန့်ရှင်းလာ၍ ထူးခြားတုန်လှုပ်ခြင်းရှိတော့မည်မဟုတ်ချေ။ ထို့ကြောင့် ကျောင်းများ၌ ကျားမ တွဲ၍ပညာသင်ကြားပေးလျှင် တနည်းအားဖြင့် အကျိုးရှိသည်ဟုဆိုနိုင်ပေသည်။ ယခုခေတ်တွင် ကျား–မတွဲ၍ သင်ကြားသောကျောင်းများ အမြောက်အမြား ရှိနေရုံမျှမက၊ တက္ကသိုလ်များမှာပင် သီးခြားအမျိုးသမီးတက္ကသိုလ် ဟူ၍မရှိဘဲ ကျား–မတွဲ၍ သင်ကြားပေးသောတက္ကသိုလ်များသာရှိလေသည်။ ကျား–မတွဲ၍သင်ကြားနိုင်သည့် အတွက် ယောကျ်ားကလေးများအား သင်ကြားပေးသောအတတ်ပညာရပ်များကို မိန်းကလေးများသည်လည်း ဆည်းပူးလာနိုင်ပြီးလျှင် ယောကျ်ားနည်းတူ အရာရာတွင် အမြင်ကျယ်လာ၍ မိန်းမပညာတတ် အများအပြားထွန်းကားပေါ်ပေါက်လာလေသည်။ ဤသို့ အကျိုးရှိသော်လည်း အပြစ်ကား မလွတ်သေးပေ။ အဘယ်ကြောင့် ဆိုသော် ယောကျ်ားကလေးနှင့်မိန်းကလေးတို့သည် တဦးနှင့်တဦး စိတ်ဓါတ်တွင်၎င်း၊ ကိုယ်ကာယသန်စွမ်းမှုတွင်၎င်း၊ မတူညီကြသဖြင့် ယောကျ်ားများနှင့်သင့်လျော်သောဘာသာရပ်သည် မိန်းကလေးများနှင့်မသင့်လျော်ဘဲ မိန်းကလေးများနှင့်သင့်လျော်သောဘာသာရပ်သည်လည်း ယောကျ်ားကလေးများနှင့် မသင့်မလျော်ဖြစ်တတ်လေသည်။ သို့သော်လည်း တက္ကသိုလ်ကျောင်းများသို့ ရောက်လာကြသောအခါ၌ကား များသောအားဖြင့် ဘာသာရပ်များကို ကျားမ နှစ်ဦးစလုံး လိုက်နာလေ့လာနိုင်ရန် အတွက် သင့်လျော်အောင်စီစဉ်ပေးထားလေသည်။



ကျား – မ တွဲ၍ပညာသင်သော ကျောင်းစာသင်ခန်းတခု

မြန်မာနိုင်ငံတွင် ရှေးအထက်ကာရီက မိန်းကလေးများသည်ဘုန်းကြီးကျောင်းများ၌ စာသင်ကြားခွင့် မရရှိခဲ့ကြချေ။ လူကျောင်းများ၌သာ ယောကျ်ားကလေးများနှင့် ရောနှော၍ သင်ကြားခဲ့ရသည်။ သို့သော် အထက်တန်းကျောင်းများတွင်မူ ထိုသို့ရောနှော သင်ကြားပေးခြင်းကို ၁၉၁၈ ခုနှစ်ခန့်ကစတင်ဆောင်ရွက်ခဲ့သည်။ ပဌမအစတွင် မိန်းကလေးအထက်တန်းကျောင်းမရှိသောမြို့များ၌ အထက်တန်းပညာကို သင်ကြားလိုသော မိန်းကလေးများအား ယောကျ်ားကလေးကျောင်းများသို့ တက်ရောက်သင်ကြားခွင့်ပြုခဲ့သည်မှ တစတစပွားများလာခဲ့သည်။ ထိုသို့အစမ်းသဘော တီထွင်ဆောင်ရွက်ခဲ့ရာမှ အောင်မြင်လာသည်ကို တွေ့ရှိရသဖြင့် ကျား–မ စာသင်ကျောင်းများ မြောက်မြားစွာပေါ်ပေါက်လာခဲ့သည်။ ဤစံနစ်နှင့်စပ်လျဉ်း၍ ရန်ကုန်

မြို့ပေါ်ရှိ မြို့မအမျိုးသားအမျိုးသမီးအထက်တန်း ကျောင်းတော်ကြီးမှာ မြန်မာနိုင်ငံတွင် ကျား–မ အတူရောရှ ပညာဆည်းပူးရာ စံပြကျောင်းကြီးတစ်ခုဖြစ်ပေသည်။

**ကျားသစ်။** ။ကျား သစ်သည် ကြောင် မျိုး တွင်ပါဝင်၍ ကျားနှင့်ခြင်္သေ့မှလွဲလျှင် ကြောက်မက်ဖွယ် အကောင်းဆုံးသောသတ္တဝါဖြစ်သည်။ ကိုယ်ပေါ်တွင် နှင်းဆီပွင့်များသဖွယ် အဝါခံတွင် မည်းနက်သောအကွက်များရှိခြင်းကြောင့်အထူးလှပသည်။ ကျားသစ်တို့သည် ပျမ်းမျှခြင်းအားဖြင့် ပခုံး၌ ၂ ပေ ၄ လက်မခန့်မြင့်၍၊ နှာဖျားမှအမြီးဖျားအထိ ၇ ပေခွဲခန့်ရှည်တတ်ကြသည်။ အချို့သောကျားသစ်ထီးတို့မှာ ၉ ပေအထိပင်ရှည်ကြ၏။ အထီးသည် ပိဿာ ၃၀ မှ ၅၀ အထိအချိန်စီး၍ အမ သည် ၂၅ ပိဿာခန့်သာရှိတတ်သည်။ ကျားသစ်အမသည် တကြိမ်လျှင် ၂ ကောင်မှ ၄ ကောင်အထိသားပေါက်တတ်၏။

ကျားသစ်သည်ခုန်နိုင် လွှားနိုင်၍၊ သစ်ပင်များ ပေါ်သို့လည်း အထူးလျင်မြန်ပေါ့ပါးစွာတက်နိုင်သည်။ ထိုသို့တက်ပြီးလျှင် ခိုင်ခံ့သောသစ်ကိုင်းတခုပေါ်တွင် ငြိမ်သက်စွာဝပ်၍ပုန်းကွယ်နေပြီးနောက်၊ သစ်ပင်အောက်မှဖြတ်သွားသော သမင်ဒရယ်၊ ချေငယ်၊ စိုင်၊ ဆတ်စသည့် သားကောင်များပေါ်သို့ခုန်အုပ်တတ်သည်။ တခါတရံ မြစ်ချောင်းအနီးရှိချုံဖုတ်အောက်၌ ပုန်းကွယ်နေပြီးလျှင်၊ ရေသောက်ဆင်းလာသော သားကောင်များကို ဖမ်းဆီးစားသောက်တတ်သည်။ တခါတရံလည်း ရွာတွင်းသို့ပင်ဝင်ရောက်၍၊ ခွေး၊ ဆိတ်၊ နွားငယ်စသော သားကောင်များကို ဖမ်းယူကိုက်ချီသွားတတ်သည်။



**အိန္ဒိယကျားသစ်၏သဘာဝအနေ
သားကောင်ကိုခုန်အုပ်ရန်ဤသို့စောင့်နေသည်။**

ကျားသစ်သည် အာရှတိုက်၊ အာဖရိကတိုက်နှင့်မလ္လာယုကျွန်းစုများ၌ နေထိုင် ပေါက်ပွား၏။ အမေရိကတိုက်၌ ဂျက်ဂွားခေါ် ကျားသစ်တမျိုးရှိရာ အာရှတိုက်၊ အာဖရိကတိုက်ရှိ ကျားသစ်များနှင့် အမဲကွက်ပေါ်ပုံချင်းမတူချေ။



ကမ္ဘာပေါ်တွင်အပြေးအမြန်ဆုံးတိရစ္ဆာန်ဖြစ်သည့် ' ချီးတား ' ခေါ် ကျားသစ်မျိုး

အိန္ဒိယနိုင်ငံတွင် ချီးတား ခေါ် ကျားသစ် (သစ်ကျွတ်) တမျိုးရှိ၍၊ ယင်းတို့ကို အမဲလိုက်ရန်ငယ်စဉ်ကပင် သင်ကြား လေ့ကျင့် ပေးထားနိုင်သည်။ ထိုကျားသစ်ကို အမဲလိုက်ကျားသစ်ဟုလည်း ခေါ်ကြ၏။ ယင်းတို့ကို အင်္ဂလန်ပြည်၌ ပြေးပွဲတွင်စမ်းသပ်၍ အသုံးပြုခဲ့ဘူး၏။ အိန္ဒိယနိုင်ငံတွင် တကိုယ်လုံးမည်းမှောင်၍ အရေပေါ်တွင်အနက်ကွက် ရေးရေး သာထင်သော ကျားနက်ခေါ် ကျားသစ်နက်တမျိုးလည်းရှိသေးသည်။ ကျားသစ်နက်၏ကိလေသာနည်းပါးမှုကို တင်စား၍ ကျားသစ်နက်၏အရေ (သစ်နက်ရေ) ကို ဟိန္ဒူယောဂီတို့ အမြတ်တနိုး ဆောင်ကြသည်။

မြန်မာတို့တွင် တိရစ္ဆာန်တို့နှင့်ခိုင်းနှိုင်း၍ စကားပုံသုံးစွဲတတ်ကြသကဲ့သို့၊ အနောက်နိုင်ငံတို့၌လည်း ကျားသစ်၏ အကွက်ကိုအကြောင်းပြု၍ စကားပုံသုံးစွဲလေ့ရှိကြ၏။ ယင်းမှာ လူတဦးတယောက်၏ ဇာတိသဘော သို့မဟုတ် အပြစ်အနာအဆာတို့ကို ဖျောက်ဖျက်ကွယ်ဝှက်ခြင်းငှါမတတ်နိုင်သည့်အဖြစ်ကိုပေါ်လွင်စေရန် 'ကျားသစ်အကွက်မပြောင်းနိုင်သလိုဘဲ' ဟု ပုံခိုင်းပြောဆိုတတ်ကြလေသည်။

**ကျားသစ်။အမေရိကန်။** ။အမေရိကန်ကျားသစ်—ရှု။

**ကျီး။** ။ကျွန်ုပ်တို့နေ့စဉ်နှင့်အမျှ တွေ့မြင်နေရသောငှက်များတွင် ကျီးသည်ရှောင်၍မလွတ်၊ နေရာတကာတွင်တွေ့မြင်ရသောငှက်ဖြစ်သည်။ ငှက်အပေါင်းတွင် ကျီးသည် လူ့လောကနှင့်အနီးကပ်ဆုံးဟုဆိုရပေမည်။ ထိုကြောင့်ကျွန်ုပ်တို့လူအချင်းချင်းစကားပြောရာတွင်၊ 'ကျီးကိုဘုတ်ရိုသေ၊ ဘုတ်ကိုကျီးရိုသေ'၊ 'နတ်ကရာကျီးမော' စသည်ဖြင့် ပြောဆိုသုံးစွဲကြသည်။

ကျီးပါဝင်သော ပုံဝတ္ထုများတွင် အထင်ရှားဆုံးကား ဘုရားဟော တိကနိပါတ် ဥလူကဇာတ်၌ ပါရှိသော ကျီးနှင့်ခင်ပုပ်တို့၏ ကမ္ဘာရန်အကြောင်းပင်တည်း။

ကမ္ဘာဦး၌ လူများ၊ ခြေလေးချောင်းတိရစ္ဆာန်များ၊ငါးများသည်စည်းဝေးကြ၍၊ မဟာသမတ၊ ခြင်္သေ့၊ ငါးကြီးအာနန္ဒာတို့ကို အသီးသီး မိမိတို့ ဆိုင်ရာဆိုင်ရာမင်း မြှောက်ကြရာ၊ ငှက်များကလည်း အားကျမခံမင်းမြှောက်ရန် စည်းဝေးကျင်းပကြသည် ။အစည်းအဝေးတွင် ငှက်များက ခင်ပုပ်ငှက်ကိုမင်း မြှောက်ရန် သဘောတူညီကြ၏။ ထိုနောက် အားလုံးသဘောတူညီချက်ရရန် ကန့်ကွက်သူရှိမရှိသုံးကြိမ်တိုင်တိုင်မေးလေရာ၊နောက်ဆုံးအကြိမ်တွင်ကျီးတကောင်က 'ခင်ပုပ်ငှက် သည် အမျက်မထွက်မီကပင် ကြောက်မက်ဖွယ်မျက်နှာရှိသည်။ အမျက်ထွက်သည့်အခါတွင်မူ ဆိုဖွယ်ရာရှိတော့မည်မဟုတ်' ဟုကန့်ကွက်သဖြင့် ခင်ပုပ်ငှက်လည်းမင်းမဖြစ်တော့ဘဲ၊ ထိုအခါမှစ၍ ကျီးနှင့်ခင်ပုပ် ငှက်တို့သည် ကမ္ဘာရန်ဖြစ်လာကြသည်ဟုဆိုလေသည်။

ကျီးသည် ပါဿဗေဒအရ ကော်ဗီဒီဟူသောမျိုးရင်းတွင် ပါဝင်၍ ထိုမျိုးရင်းတွင် ဗွတ်ကုလား၊ တောကျီး၊ ကျီးအ နှင့် သပိတ်လွယ် ရင်ကျားစသည့် ငှက်များ လည်း ပါဝင်သည်။ ကျီးဟုဆိုရာတွင် ဤနေရာ၌မြို့ကျီးဟုခေါ်ကြသော ကျီးမျိုးကိုဆိုလိုသည်။ ကျီးသည်အလျား ၁၇ လက်မခန့်ရှိ၍အမွေးအတောင်နက်သည်။ သို့ရာတွင်သဘာဝ၏ဆန်းကြယ်သောသဘောကြောင့် တခါတရံ ဩစတြေးလီးယားတိုက်ကဲ့သို့သောဒေသ၌ ကျီးဖြူကိုတွေ့ရတတ်သည်။

ကျီးသည်အခြားငှက်များကဲ့သို့ ထူးထူးထွေထွေ မမြည်တတ်ဘဲ၊ အားအားဟူ၍သာအော်တတ်သည်။ နေ့လည်နေ့ခင်း အိမ်အနီးအပါးတွင် ကျီးတကောင်တည်း သာယာစွာမြည်လာလျှင် ကျီးသာသည်ဟုဆိုကြသည်။ မြို့ကျီး၏မြည်သံသည် တောကျီးသံ ကဲ့သို့ စူးရှမာကျောခြင်းမရှိချေ။

ကျီးမျိုးတွင် မြို့ကျီးနှင့်တောကျီးဟူ၍ နှစ်မျိုးနှစ်စားရှိသည်။ မြို့ကျီး မှတပါး ကျန် ကျီး များ ကို တောကျီး ဟု ခေါ်ကြသည်။ တောကျီး သည် မြို့ကျီး နှင့် ဆင်တူသော်လည်း ကိုယ်ထည်မှာ အနည်းငယ်ပို၍ ကြီးမား သည်။ နှုတ်သီး လည်း အနည်းငယ် ပို ၍ တုတ် သည်။ အလျားမှာလက်မ ၂၀ မှ ၂၂ လက်မအထိရှည်သည်။ နေးနေးနှင့်ဖြောင့်ဖြောင့်ပျံတတ်ပြီးတောင်ပံကိုမှန်မှန် ရိုက်တတ်သည်။ အတောင်များသည် မြို့ကျီး၏အတောင်များထက် သိသိသာသာ ကြီးမားပြီး အနည်းငယ်ကျဲသည်။ အရောင်မှာမူ မြို့ကျီးနှင့်မခြား နက်ကျောလေသည်။

မြို့ကျီး ကဲ့သို့ပင်၊ အား အားဟု အော်တတ် သော်လည်း တောကျီးကန်း၏အသံသည် တခါတရံခက်ထန်၍ တခါတရံတွင် သာယာ နာပျော်ဖွယ်ကောင်း သည်။ အလွန် ပူပြင်းသောနေ့လည်အခါများတွင် အရိပ်ကောင်းသောသစ်ကိုင်းများတွင် နားကာ အာလုပ်သံကြီးနှင့်ပျင်းရိဘွယ် 'မ – – ဝါ၊ မ – – ဝါ' ဟုအော်တတ်သည်။ တောကျီးများသည် အမိပွါယ်တမျိုးစီရှိသော အသံသုံးလေးဆယ်နှင့် အချင်းချင်းဆက်သွယ်လေ့ရှိကြသည်။



လူနေရပ်ကွက်တွင်အမြဲတစေတွေ့နိုင်သည့်ကျီး



ခရစ္စမတ်ပွဲတော်သုံး မစ္စယ်တိုးကျီးပေါင်းပွင့်ခက်များ

တောကျီးဟုဆိုရစေကာ ထိုငှက်များသည် တောထဲတွင် သာမနေဘဲ မြို့နီး ချုံစပ်များ သို့လည်း လာရောက် ကြသေးသည်။ တောကျီး တို့သည် အုပ်အသင်းဖွဲ့ကာနေတတ်၍ နံနက်စောစော အသိုက်မှထလာပြီးလျှင် နေဝင်ဆည်းဆာတွင်အိပ်တန်းတက်ကြသည်။

တောကျီးသည် အခြားမျိုးတူငှက်များကဲ့သို့ မြေပြင်တွင် ကျက်စားသောတွေ့ရာစား ငှက်မျိုးဖြစ်သည်။ လူတို့စွန့်ပစ်သောစားကြွင်းစားကျန်များ၊ အမှိုက်သရိုက်များ၊ အစေ့မဲ့သီးများ၊ ကြွက်၊ ကြောင်စသောနို့တိုက်တိရစ္ဆာန်ကလေးများ၊ အသေကောင်ပုပ်များကို စားလေ့ရှိသည်။ အထူးသဖြင့် ငှက်ဥများနှင့် ပေါက်ခါစငှက်ကလေးများကို ဖျက်ဆီး စားသောက်တတ်သည်။ ထိုကြောင့်တောကျီးကန်းကို ငှက်တို့၏ရန်သူအမှတ် ၁ ဟုခေါ်ထိုက်သည်။ ဆိုးသွမ်းသောအခြားအကျင့်တရပ်မှာ သေခါနီး တိရစ္ဆာန်၏မျက်လုံးကိုဖေါက်စားတတ်ခြင်းဖြစ်သည်။

မိတ်လိုက်ချိန်ဖြစ်သော ဖေဖွာရီလတွင် ငှက်ဖို၏အမူအရာမှာ အလွန်ထူးခြားသည်။ ထိုအချိန်တွင် ငှက်မ၏ရှေ့တွင် ခြေကလေးမြှောက်ကာ၊ ခေါင်းကလေးငုံ့ကာ၊ အတောင်ဖြန့်ကာ၊ အမြီးကြွကာနှင့် ငှက်မကိုမြှူတတ်သည်။ တခါတရံတွင် ငှက်ဖိုသည်မိမိသဘောကျသောငှက်မထံသို့အစာကိုချီ၍ လာတတ် သည်။ ငှက်မက ကြိုက် လျှင် လက်ခံ၏။ အဖိုနှင့်အမသည် ရာသက်ပန် တွဲဖက်နေထိုင်လေ့ရှိသည်။

မတ်လမှမေလအထိသည် တောကျီးကလေးများ ပေါက်ချိန်ဖြစ်သည်။ တမြုံလျှင်အများအားဖြင့် ၄ ဥ မှ ၅ ဥ အထိရှိ၍တခါတရံ ၆ ဥ ရှိသည်။ ဥမှာရှည်မျော့မျော့ဖြစ်ပြီး အခွံမှာချော့မွတ်သည်။

တောကျီးကန်းကို မြန်မာနိုင်ငံ၌ ကွင်းပြင်များ၊ တောင်ခြေများနှင့်တောင်မြင့်များတွင် လှည့်လည်ကျက်စားလျက်ရှိသည်ကို အနှံ့အပြားတွေ့နိုင်သည်။

**ကျီးတာရာ။** ။တာရာကြီးကိုးလုံး — ရှု။

**ကျီးပေါင်း။** ။ကျီးပေါင်းသည် အခြားသစ်ပင်၏ပင်စည်နှင့် အကိုင်း အခက်များ ပေါ်တွင် တွယ်ကပ် မှီခို၍ ရှင်သန်ကြီးပွားရသော ချုံပင်မျိုး ဖြစ်သဖြင့်၊ အပင်လောက၌ အလွန်ထူးဆန်းသောအပင်ဟုဆိုရပေမည်။ ကျီးပေါင်းသီးတို့ကို ကျေးငှက်များကိုက်ချီစားသောက်ယင်း သစ်တပင်မှတပင်သို့လူးလာပျံသန်းစဉ်၊ သစ်ကိုင်းပေါ်တွင် နှုတ်သီးမှတွယ်ကပ်ကျန်ရစ်ခဲ့သောအစေ့များမှ ကျီးပေါင်းပင်များ ပေါက်လာခြင်းဖြစ်သည်။

လူနှင့် တိရစ္ဆာန်ကိုယ်ပေါ်ရှိ သန်း နှင့် လေးတို့သည်၎င်း၊ ကိုယ်တွင်းရှိတုတ်ကောင်၊ သံကောင်တို့သည်၎င်း၊ လူနှင့် တိရစ္ဆာန်တို့၏ သွေးသားကို မှီ၍ ရှင်သန်ကြီး ပြင်းရသဖြင့်၊ ယင်းတို့မှီခိုရာ လူနှင့်တိရစ္ဆာန် တို့၏ ကျန်းမာရေးကို ထိခိုက်စေ၏။ ထို့အတူ၊ ကျီးပေါင်းတို့သည်လည်း မိမိတို့ရှင်သန်ကြီးပွားမှု အတွက် လိုအပ် သော အာဟာရဓါတ် အချို့ ကို ပင်မ



အခြားသစ်ပင်ကိုမှီခို၍ပေါက်ရောက်သောကျီးပေါင်းပင်

သစ်ပင်မှစုတ်ယူရရှိသဖြင့် ထိုအပင်၏ ကြီးပွားဖွံ့ဖြိုးရေးကို အနည်းနှင့်အများထိခိုက်စေသည်။

ကျီးပေါင်းပင်တို့သည် ရုက္ခဗေဒ အလိုအရ 'လိုရန်သေစီ' မျိုးရင်းတွင်ပါဝင်၍ မျိုးကွဲပေါင်း ၃၀ ထက်မနည်းရှိသည်ဟု ခန့်မှန်းရသည်။ မြန်မာနိုင်ငံ၌မူ၊ သရက်ကျီးပေါင်း၊ မန်ကျည်းကျီးပေါင်း၊ ဆီးကျီးပေါင်း၊ ထနောင်းကျီးပေါင်းစသည်ဖြင့် မှီခိုခံရသော သစ်ပင်ကိုလိုက်၍ အမည်အမျိုးမျိုးမှည့်ခေါ်လေ့ရှိကြသည်။

သရက်ကျီးပေါင်းစသော ကျီးပေါင်းအချို့ကို မြန်မာတောသူတောင်သားများ တခါတရံ ဆေးတံလုပ်လေ့ရှိသည်။ ထို့မှတပါး၊ ကျီးပေါင်းတို့သည် ငယ်ရွယ်သောချုံပင်များသာဖြစ်သဖြင့်၊ ယင်းတို့ကိုမယ်မယ်ရရအသုံးချ၍မရပေ။ သို့ရာတွင်သာမန်အပင်တို့ကဲ့သို့ မြေတွင်မပေါက်ဘဲ အပင်မြင့်ပေါ်၌ပေါက်သောကြောင့် သာမန်အပင်များထက်မြင့်မြတ်သည်ဟူ၍ကား၊ ကမ္ဘာ့အရပ်ရပ်မှာပင် ယုံကြည်ယူဆလေ့ရှိကြပေသည်။ ကျီးပေါင်းများမှ ပီယဆေး ဖေါ်နိုင်သည်ဟူ၍ မြန်မာနိုင်ငံ၌ပြောလေ့ပြောထရှိခြင်းမှာ၊ ထိုယူဆချက်ကြောင့် ဖြစ်ဟန်တူ၏။ အင်္ဂလန်၊ အမေရိကန်၊ ဥရောပစသောအနောက်တိုင်းများတွင်လည်း မစ္စယ်တိုးဟုသောကျီးပေါင်းတမျိုးမှာ ရှေးခေတ်မှစ၍အလွန်ထင်ရှားခဲ့ရုံမက၊ ထိုအပင်များကိုယခုခေတ်တိုင်အောင် ပွဲလမ်းသဘင်အခမ်းအနားများတွင် အထူးသဖြင့် ခရစ္စမတ်ပွဲတော်အခါတွင်၊ ထုံးတမ်းဓလေ့အရ အမြတ်တနိုးသုံးစွဲလာခဲ့ကြပေသည်။ မြေသို့မခသေးသော မစ္စယ်တိုးပင်သည် ချမ်းသာသုခကိုပေးသည်ဟူ၍ရင်း၊ ဘေးအန္တရာယ်ကင်းဝေးစေသည်ဟူ၍ရင်း၊ လာဘ်လာဘရွှင်လန်းစေသည်ဟူ၍ရင်း၊ ယုံကြည်ကြသည်။ မစ္စယ်တိုးပင်သည် သမပိုင်းဒေသ၌ ပန်းသီးပင်များပေါ်တွင် အများဆုံးပေါက်သည်။ အခြားအပင်များပေါ်တွင်လည်းပေါက်နိုင်၏။ သို့သော်ဝက်သစ်ချပင်ပေါ်၌ အတွေ့ရရှားပါးသဖြင့်၊ ဝက်သစ်ချမှရသော မစ္စယ်တိုးကို သာ၍ပင်မြင့်မြတ်သေးသည်ဟု ယူဆကြသည်။ မြန်မာနိုင်ငံ၌ မုတ္တမနယ်ရှိ မြင့်မားသော တောတောင်ဒေသများတွင် မစ္စယ်တိုးကိုတွေ့ခဲ့ရဘူးသည်။ မစ္စယ်တိုးနှင့်စပ်လျဉ်း၍ အနောက်နိုင်ငံများ၌ရှိခဲ့သည့် ထူးဆန်းသော အလေ့အထတခုမှာ၊ ခရစ္စမတ်ပွဲတော်အခါတွင်မစ္စယ်တိုးပင်ဆွဲချိတ်ထားသည့်နေရာအောက်သို့ ဝင်မိသောအမျိုးသမီးတဦးဦးကိုနမ်းခဲ့သော်အပြစ်မရှိဟူသတတ်။

ဤသို့လျှင်ကျီးပေါင်းတို့ကို မြင့်မြတ်သည်ဟုယူဆကြလင့်ကစား၊ ထိုအပင်တို့သည် မှီခိုတွယ်ကပ်ရာပင်မကို နှိပ်စက်တတ်သည့်သဘောရှိသောကြောင့်၊ ကပ်ပါးလျှပ်ပါးလူစားမျိုးကို ကျီးပေါင်းနှင့်နှိုင်းပြလေ့ရှိကြသည်။

**ကျီးသဲလေးထပ် ဆရာတော်။** ။ကျီးသဲလေးထပ်ဆရာတော်မှာ ဇိနတ္ထပကာသနီ၊ စွယ်စုံကျော်ထင်အဖြေ၊ ကဗျာသာရတ္ထသင်္ဂဟကျမ်း၊ မင်္ဂလတ္ထဒီပနီနိဿျ၊ မဟာဝင်ဝတ္ထု၊ ကျီးသဲမေတ္တာစာ စသော ကျမ်းပြုဆရာတော်ဖြစ်သည်။ (ကျမ်းပြုဆရာတော်များ — ရှု။)

ဘွဲ့တော်မှာ အသျှင်မုနိန္ဒာဘိဇ ဖြစ်၍ ရွှေတောင်မြို့ ကျီးသဲရွာ လေးထပ်ကျောင်းကြီးတွင် သီတင်းသုံးတော်မူခဲ့သည်။ သက္ကရာဇ် ၁၁၇၉ ခုသီတင်းကျွတ်လပြည့်ကျော် ၈ ရက်ကြာသပတေးနေ့တွင် ရွှေတောင်မြို့ ကျီးသဲရွာ ရှမ်းတန်းကလေးရပ်၌ ဖွားမြင်တော်မူသည်။ ငယ်မည်မှာ ဦးကင်းဖြစ်သည်။

ငယ်ရွယ်စဉ်ကစ၍ ပိဋကတ်အခြေပြုစာတို့ကို သင်ကြားတတ်မြောက်ခဲ့လျက် ၁၉ နှစ်နှင့် ၆ လအရွယ်တွင် ရဟန်းအဖြစ်သို့ရောက်ပြီးနောက် မန္တလေးရတနာပုံနေပြည်တော်သို့တက်ကာ တံဆိပ်တော်အထပ်ထပ်ရတော်မူသော မောင်းထောင်သာသနာပိုင်ဆရာတော်၊ မိတ္ထီလာဆရာတော်၊ ခင်မကန်ဆရာတော်၊ ရွှေတိုက်ဝန်ဆရာတော်၊ စသော ဆရာတော်ကြီးတို့ထံ၌ ပိဋကတ်ကျမ်း၊ လောကီကျမ်းများကို သင်ကြားတတ်မြောက်တော်မူသည်။

ထိုနောက်ရွှေတောင်မြို့သို့ပြန်လာ၍ မင်းကြီးမဟာမင်းလှမင်းခေါင်ကျော် နော်ရထာဘွဲ့ခံဝန်ကြီးဦးမှုံဆောက်လုပ်လှူဒါန်းသော ကျီးသဲရွာအရှေ့ဖက်ရှိ လေးထပ်ကျောင်းကြီးတွင် သီတင်းသုံးယင်း စာပေကျမ်းဂန်များကို ပြုစုတော်မူသည်။

ဆရာတော်ကြီးသည် သက္ကရာဇ် ၁၂၅၆ ခုနှစ် သက်တော် ၇၇ နှစ် ဝါတော် ၅၇ ဝါမြောက်တွင် ဘဝနတ်ထံ ပျံလွန်တော်မူလေသည်။

ဆရာတော်ကြီး ပြုစုခဲ့သော စာပေ ကျမ်းဂန်တို့ကားများလှ၏။ ဇာတိရပ်ရွာတွင် သီတင်းသုံးသောကျောင်းအမည်ကိုလိုက်၍ မြန်မာ့ဂန္ထဝင်တွင် ကျီးသဲလေးထပ်ဆရာတော်ဟူ၍ထင်ရှားကျော်စောပေသည်။

**ကျူတန်လူမျိုး။** ။တျူတန်လူမျိုး — ရှု။

**ကျူဒါဘုရင်များ။** ။တျူဒါဘုရင်များ — ရှု။

**ကျူနီးဖေါင်းစာ။** ။ကျူနီးဖေါင်းဆိုသည်မှာ မြားဦးသဏ္ဌာန်ရှိသော ရှေးအခါက ရေးထိုးသည့် ကမ္ပည်းစာတမျိုးဖြစ်သည်။ ထိုစာမျိုးကို ဆူမီးယားရီးယန်းလူမျိုးတို့က စတင်တီထွင်ရေးသားကြ၍၊ မက်ဆိုပိုတေးမီးယားနယ်ရှိ တိုင်းဂရစ်နှင့်ယူဖရေးတီးမြစ်ဝှမ်းဒေသတွင် ရှေးအကျဆုံးသော ကျူနီးဖေါင်းအရေးအသားမျိုးကို တွေ့ရ၏။




ရှေးနှစ် ပေါင်း ၄၀၀၀ ကျော်ကဗက်ဗီလုံးလူမျိုး များ ရွံ့စေးပေါ်တွင် ရေးသားခဲ့သည့်ကျူနီးဖေါင်း အက္ခရာများ

အရုပ်ဖြင့် သရုပ်ဖေါ် ရေးနည်းမှ တဖြည်းဖြည်း ကျူနီးဖေါင်းရေးနည်းကို ထွင်ယူကြ၏။ ကျူနီးဖေါင်းအက္ခရာများမှာ ရွံ့ပြားပေါ်တွင် ကညစ်ဖြင့်ရေးသား၍၊ ရွံ့ပြားကို မီးဖုတ်ပြီးလျှင် ကမ္ပည်းစာများကို အဓွန့်ရှည်စွာတည်တံ့အောင်ပြုထားခြင်းဖြစ်သည်။ ကျူနီးဖေါင်းအရေးအသားများကို အဓိပ္ပါယ်ဖေါ်၍ ဘာသာပြန်ရန်အလွန်ခဲယဉ်း၏။ အကြောင်းမှာ လက္ခဏာအမှတ်အသား တခုသည် အဓိပ္ပါယ်အမျိုးမျိုး ပေါက် နိုင်သော ကြောင့် ဖြစ်၏။ လက္ခဏာများသည် အတူယှဉ်တွဲထားသော အမှတ်အသားကို လိုက်၍ အဓိပ္ပါယ်အမျိုးမျိုးပြောင်းနိုင်၏။ ၁၈၀၀ ပြည့်နှစ်ခန့်တွင် ဂျီအက် (ဖ) ဂရိုတီဖင်းဆိုသူ ဂျာမန်လူမျိုး တဦးသည် ထိုကျူနီးဖေါင်း အရေးအသားများကို ကြိုးစား၍ဘာသာပြန်ခဲ့ရာ၊ ၁၈၅၀ ပြည့်နှစ်နောက်ပိုင်းတွင် ပြီးဆုံးအောင်မြင်လေသည်။ ထိုအက္ခရာများကို ဖတ်နိုင်ခြင်းအားဖြင့် ကျွန်ုပ်တို့သိနိုင်ပြီးသော ရှေးဟောင်းသမိုင်းများကို အထောက်အပံ့များစွာပေးလေသည်။ ကျူနီးဖေါင်း အရေးအသားများတွင် ဆူမီးယားရီးယန်းလူမျိုးတို့အက္ခရာများသည် ရှေးအကျဆုံး ဖြစ်သည့်အပြင်၊ အရှုပ်ထွေးဆုံးလည်းဖြစ်သည်။ အက်ကေးဒီးယန်းဆူမီးယားရီးယန်းလူမျိုးတို့၏ ကျူနီးဖေါင်းအက္ခရာစာလုံးရေပေါင်းမှာ ၆၀၀ နီးပါးခန့်ရှိလေသည်။

**ကျူးဂါးဒင်းဥယျာဉ်။** ။အင်္ဂလန်ပြည် ဆာရီနယ်အတွင်းရှိ ကျူးရွာတွင် ကျူးဂါးဒင်းခေါ် ကမ္ဘာကျော်ဘုရင့်ရုက္ခဗေဒဥယျာဉ်ရှိ၏။ ကမ္ဘာ့အရပ်ရပ်သို့ လှည့်လည်သူမှန်သမျှ ထိုနေရာသို့ရောက်လျှင် ကျူးဂါးဒင်းသို့သွားရောက်မကြည့်သူ မရှိချေ။ သို့ဖြစ်ရာ ကျူးဂါးဒင်းသည် ကြည့်ရှုသူများနှင့် အမြဲစည်ကားလျက်ရှိလေသည်။

တတိယဂျော့ဘုရင်၏မယ်တော်သည် ကျူးနန်းတော်နှင့်ဆက်စပ်လျက်ရှိသော မြေ ၉ ဧကခန့်တွင် ဝီလျံ အိုက်တန်ဆိုသူအား ဥယျာဉ်ငယ်တခုပြုစုပျိုးထောင်စေခဲ့ရာ နောင်တဖြည်းဖြည်းပြုပြင်မွမ်းမံခြင်းဖြင့် မူလ ၉ ဧကမျှကျယ်သောဥယျာဉ်ငယ်မှာ ဧက ၃၀ အထိကျယ်ပြန့်လာလေသည်။ ထိုပြင်ကမ္ဘာ့အရပ်ရပ်မှအပင်အမျိုးမျိုးကို လိုလေသေးမရှိရအောင် စုဆောင်းရှာဖွေလျက် အမျိုးမျိုးကြံဖန်ကာ စိုက်ပျိုးထားခဲ့သဖြင့် အံ့ဩဖွယ်ကောင်းလှသည်။

အထူးသဖြင့် ကျူးဂါးဒင်းသည် ဥယျာဉ်ပြုစုစိုက်ပျိုးရေးနှင့် စီးပွားဖြစ်စိုက်ပျိုးရေးဆိုင်ရာတို့၏ သုတေသနဌာနကြီးသဖွယ်ဖြစ်လာသည်။ ဂရင်းနစ် နက္ခတ်မျှော်စင်သည် နက္ခတ္တဗေဒပညာအတွက် အကျိုးဆောင်ခဲ့သကဲ့သို့ ကျူးဂါးဒင်းသည်လည်း ရုက္ခဗေဒပညာအတွက် အကျိုးဆောင်ခဲ့သည်ဟုဆိုကြသည်။ ကျူးဂါးဒင်းတွင် မျိုးပွားပြုစုပျိုးထောင်ပေးခဲ့၍ နယ်ပယ်သစ်များသို့ ယူဆောင်စိုက်ပျိုးစေခဲ့သော စီးပွားဖြစ်အပင်များမှာ ပေါင်မုံ့သီးပင်၊ နာနတ်ပင်၊ ငှက်ပျောပင်၊ လက်ဖက်ပင်၊ ကာဖီပင်၊ ကိုကိုးပင်၊ ကော်ဖတ်ပင်၊ လျှော်ထွက်အပင်များ၊ ဆိုးဆေးထွက်အပင်များ၊ ကွီနိုင်ပင် စသည်တို့ဖြစ်လေသည်။

ကျူးဂါးဒင်းမှတဆင့် ၁၈၆၀ ပြည့်နှစ်တွင် တောင်အမေရိကတိုက်မှ ကွီနိုင်ရရှိသော ဆင်ကိုနာပင်ကို အိန္ဒိယသို့၎င်း၊ ကော်ဖတ်ပင်ကို ၁၈၇၅ ခုနှစ်တွင် မလ္လာယုကျွန်းဆွယ်သို့၎င်း၊ ယူဆောင်စိုက်ပျိုးခဲ့သည်။

ဥယျာဉ်အတွင်း၌ သီးပင်၊ ပွင့်ပင်၊ ရွက်လှပင်၊ ရှားစောင်းပင်၊ နွယ်ပင်၊ ကျောက်ပန်းပင်၊ သစ်ခွပင်မှစ၍ အပင်မျိုးပေါင်း ၄၀,၀၀၀ ကျော်ကိုအမျိုးအစား ခွဲခြား၍ စိုက်ပျိုးထားလေသည်။သို့ဖြစ်၍ ရာသီလိုက်ပွင့်သော ပန်းပင်များပင် ကြည့်ရှု၍မကုန်နိုင်အောင်များလှသည်။ ရာသီဥတု၊ မြေမျိုးစသည့် မတူကွဲပြားသော အရပ်ဒေသများမှ ယူဆောင်ခဲ့သောအပင်များကို မှန်အမိုးအကာအိမ်များအတွင်း မူလယူဆောင်ခဲ့ရာဒေသ၏ ရာသီဥတုမြေမျိုးစသည်တို့နှင့်တူညီအောင် ဖန်တီး၍ပြုစုစိုက်ပျိုးထားသဖြင့် ရာသီအလိုက်ပွင့်သီးလျက်ရှိလေသည်။ ထိုအိမ်များအပြင် စာကြည့်တိုက်၊ ပြတိုက်များနှင့် ရုက္ခဗေဒဆိုင်ရာ လက်တွေ့စမ်းသပ်ခန်းလည်းရှိ၏။ ကမ္ဘာ့အရပ်ရပ်မှ အပင်အမျိုးမျိုးကို ရှာဖွေစုဆောင်း၍ တာရှည်ခံစေရန် ဆေးစိမ်၍ပြတိုက်တွင်ထားသည်။ ဆေးစိမ်ထားသောအပင်အမျိုးပေါင်း ငါးသန်းကျော်မျှရှိ၍ ထိုအပင်သေပြတိုက်သည် ကမ္ဘာပေါ်တွင်အကြီးဆုံးဖြစ်သည်ဟုဆိုကြသည်။ ဝိတိုရိယဘုရင်မကြီးသည် ကျူးဂါးဒင်းကိုတိုင်းသူပြည်သားတို့အား ၁၈၄၀ ပြည့်နှစ်တွင် လွှဲအပ်ခဲ့လေသည်။

**ကျူးနစ်ပြည်**။ ။တျူးနစ်ပြည် — ရှု။

**ကျူးပစ်နှင့်ဆိုက်ကီး**။ ။ဗီးနပ်ခေါ် အချစ်နတ်သမီး၏ ရင်နှစ်သားချစ်ဖြစ်၍၊ မိခင်၏အနားတွင် လေးမြားတို့ဖြင့် အမြဲခစားကာ ကစားလျက်ရှိသူကား ကျူးပစ်နတ်သားပင်ဖြစ်၏။ နတ်လောကတွင် ကျူးပစ်ဖူးစာရေးနတ်ကလေးအား နတ်ပြောင်နတ်ရုပ်နတ်ပျော်ကလေးအဖြစ် အပြစ်ကိုဗွေမယူကြဘဲ ချစ်ခင်ကြလေသည်။ ထိုနတ်ရုပ်ကလေး၏



ရေခြား၊ မြေခြား၊ ရာသီခြားဒေသများမှယူဆောင်လာသောအပင်အမျိုးမျိုးကိုထည့်သွင်းစိုက်ပျိုးထားရာမှန်အမိုးအကာအိမ်



လန်ဒန်မြို့တွင်စိုက်ထူထားသောကျူးပစ်နတ်သား၏ရုပ်တု

မြားချက်ထိသူမှန်သမျှ အသက်ပင်မသေသော်လည်း ချစ်စိတ်ကြောင့်ဒုက္ခအရောက်ကြီးရောက်ကြရ၍ အချစ်ကြောင့် အပျော်ကြီးလည်းပျော်ကြရ၏။ နတ်လူမဟူ သက်ရှိသူမှန်သမျှအား အနည်းနှင့်အများ ချစ်ဒုက္ခပေးတတ်သော ထိုနတ်ကလေးကိုယ်တိုင်ပင်လည်း ချစ်ဒုက္ခ ခံစားရခြင်းမှ မကင်းခဲ့ချေ။

ကျူးပစ်နတ်သားကလေးနှင့် ဆိုက်ကီးမင်းသမီးကလေးတို့၏ အဖြစ်အပျက်ကား များစွာစိတ်ဝင်စားဖွယ်ကောင်းလေသည်။ ရှေးအခါတုန်းက ရှင်ဘုရင်တပါး၌ သမီးတော်သုံးပါးရှိရာတွင် အကြီးနှစ်ပါးမှာ အထိုက်အလျောက် အိမ်ထောင်ဖက်ပြည့်ကြသော်လည်း အချောဆုံးဖြစ်၍ အထွေးဆုံးသမီးဖြစ်သူ ဆိုက်ကီးမင်းသမီးကလေးမှာမူ နတ်တမျှ အလှလွန်သဖြင့်၊ လူသားမင်းသားတို့သည် သူ၏မေတ္တာပန်းကို ဆင်မြန်းရန်မဝံ့ကြချေ။ထို့ကြောင့် ဖူးစာရှင် ကင်းရရုံမျှမက အလှလွန်သည့်အတွက်ကြောင့်ပင် အချစ်နတ်သမီး ဗီးနပ်၏ငြိုငြင်မှု ချစ်မုန်းမာန် ဒဏ်ကို ပင် ခံနေရရှာသည်။

ဗီးနပ်သည် ဆိုက်ကီးကိုစိတ်ဒုက္ခရောက်စေလိုသဖြင့် သားမောင်ကျူးပစ်အား ဆိုက်ကီးမင်းသမီးကလေးကို စိတ်သဘောအယုတ်ဆုံးနှင့် ရုပ်အဆိုးဆုံးသူတဦးနှင့် ဖူးစာမျှပေးရန်အမိန့်ပေးလိုက်သည်။ မယ်တော်မိန့်ခွန်းကို မသွေဖီဝံ့သောကျူးပစ်သည် အမိန့်တော်အတိုင်း ဆောင်ရွက်ရန် ဆိုက်ကီးထံရောက်ခဲ့၏။ သို့သော် ဆိုက်ကီး မင်းသမီးကလေးကို မြင်လျှင်မြင်ခြင်း စုံမက်ချစ်ခင်လှသောကြောင့် အမိန့်တော်ကိုမေ့ကာ သူကိုယ်တိုင်ချစ်စိတ်ဝင်မိသဖြင့် လူသူမနီးသောလုံခြုံသည့် တောသာခေါင်တခုသို့ ခေါ်ဆောင်သွားလေသည်။ ထိုအခါမှစ၍ ကျူးပစ်နတ်သားကလေးသည် ညဥ့်အချိန်မှသာလျှင်လာရောက်၍ ဆိုက်ကီးနှင့်အတူနေပြီးလျှင် မိမိအားမည်သူမည်ဝါဖြစ်ကြောင်း ဘယ်သောအခါမျှမမေးရန် တားမြစ်ထားလေသည်။ ယင်းသို့နေ့စဉ်နေ့တိုင်း ကျူးပစ်လာနေသည်ကို မနာလိုသောဆိုက်ကီး၏ အစ်မဖြစ်သူများက ကျူးပစ်သည်လူမဟုတ်ဘဲ တိရစ္ဆာန်ဖြစ်သည်ဟုပြောကာ ညီမငယ်အားစုံစမ်းရန်တိုက်တွန်း၏။ ဤကဲ့သို့အတန်တန် တိုက်တွန်းချက်ကို နားယောင်မိရှာသောဆိုက်ကီးသည် ကျူးပစ်နတ်သားကလေး အိပ်နေစဉ် မီးထွန်း၍ထကြည့်လေသည်။ ကျူးပစ်၏ သားနားသောရုပ်ရည်ကို မြင်ရသော မင်းသမီးကလေးမှာ များစွာနှစ်ထောင်းအားရလှသဖြင့် မေ့မောနေစဉ် မီးခွက်မှဆီပူစက်



ကျိုးပဲ့ပျက်စီးနေသောဆိုက်ကီးမင်းသမီး၏ကျောက်ရုပ်

သည် ကျူးပစ်နတ်သားကလေးအပေါ်သို့ ကျသွားလေသည်။ နတ်သားကလေးလည်း ဆိုက်ကီးအားအပြစ်တင်ကာ ရုတ်တရက်ပျောက်ကွယ်သွားလေသည်။

အမှုလွန်ပြီးမှနောင်တရသော ဆိုက်ကီးမင်းသမီးကလေးသည် ကျူးပစ် နတ်သားကလေး ပျောက်သွားသော

ကြောင့် ခြေရာထပ်မျှ ဒရစပ် ရှာသော်လည်း အမောသာ လျှင် အဖတ်တင်လေသည်။ ယင်းသို့စိတ်နှလုံးမချမ်းမြေ့ဘဲ လိုက်ရှာယင်းပင် ဗီးနပ်၏နန်းတော်သို့ရောက်သွား၏။ ဗီးနပ်လည်း ယခင်ကမလိုမုန်းထားစိတ်အရင်းခံရှိသဖြင့် ဆိုက်ကီးကလေးအား သာမန်လူသားတို့မစွမ်းဆောင်နိုင်သော ကြီးလေးသည့်အလုပ်တာဝန်ကို တခုပြီးတခု ထမ်းဆောင်စေသည်။

ယင်းသို့အားဖြင့် မယ်တော်ဗီးနပ်က ကျူးပစ်နှင့်ဆိုက်ကီးတို့၏ချစ်ခြင်းကိုခွဲသော်လည်း ဖူးစာဖက်မှန်ရကား နောက်ဆုံး၌ကျူးပစ် နတ်သားကလေးနှင့် ဆိုက်ကီး မင်းသမီးကလေးတို့မှာ နတ်ဘုရင်ဂျူပီတာ၏ ကူညီစီမံပေးချက်အရ ပြန်လည်တွေ့ဆုံ၍ လက်ထပ်လိုက်ကြ၏။ ရောမလူမျိုးတို့သည် 'အချစ်သည်မျက်စိမရှိ' ဟူသောစကားနှင့် အညီ မျက်စိကိုအဝတ်ဖြင့်စည်းထား၍ လေးနှင့်မြားကိုကိုင်ထားသော ကျူးပစ်၏ပုံများကို ထုလုပ်ကြလေသည်။ သက်ရှိနတ်လူသတ္တဝါမှန်သမျှတို့သည် ကျူးပစ်နတ်သားကလေး၏ မြားချက်ဖြင့် မည်သူမျှမလွတ်ကင်းကြပေ။ ဂရိလူမျိုးတို့ကမူ ကျူးပစ်နတ်သားကလေးအား အီးရော့ အချစ်နတ်သားကလေးဟူ၍ကိုးကွယ်ကြလေသည်။

**ကျူးဗားကျွန်း။** ။ကျူးဗားကျွန်းမှာအနောက်အိန္ဒိယကျွန်းစုများ ထဲတွင် အကြီးဆုံးနှင့် လူဦးရေ အများဆုံးဖြစ်၏။ ကျွန်း၏ပုံသဏ္ဍာန်မှာ ငှက်၏လျှာကဲ့သို့ ခပ်ကွေးကွေးဖြစ်၏။ ကျူးဗားကျွန်းသည် မက္ကဆီကိုပင်လယ်ကွေ့ အဝင်ဝအလယ်တွင်ရှိသဖြင့် အဝကို ဝင်ပေါက်နှစ်ပေါက်ဖြစ်အောင် အညီအမျှပိုင်းခြားထားသကဲ့သို့ တည်ရှိနေလေသည်။ ထိုကျွန်းသည် ဖလော်ရီဒါပြည်နယ် ကီးဝက်မှမိုင် ၁၀၀ ခန့်ကွာ၍ ယုကတန်ကျွန်းဆွယ်မှ မိုင် ၁၃၀ ဝေးသည်။ တောင်ဖက် ၇၅ မိုင်အကွာတွင် ဂျမေးကားကျွန်းနှင့် အရှေ့ဖက်မိုင် ၅၀ ခန့်အကွာတွင် ဟေးတီးကျွန်းရှိလေသည်။

ကျူးဗားကျွန်းသည် အလျားမိုင် ၇၃၀ နှင့် အနံပျမ်းမျှမိုင် ၅၀ ရှိ၏။ အိုင်းအော့ပိုင်းအမည်ရှိသော ကျွန်းကလေးကိုထည့်သွင်း ရေတွက်မည်ဆိုလျှင် ကျူးဗားကျွန်း၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၃၄၆,၇၄၇ ရှိလေသည်။ လူဦးရေမှာ ၁၉၅၂ ခုနှစ်တွင် ၅,၅၂၃,၀၀၀ ဖြစ်၏။ ကျွန်း၏ကမ်းရိုးတန်းတလျှောက်တွင် ကျွန်းငယ်ကလေးများ၊ ပင်လယ်ကွေ့များ၊ ကျောက်ခက်တန်းများ ပေါများလှ၍ကမ်းရိုးတန်း၏အလျားမှာ ၂၂၀၀ မိုင်ရှိလေသည်။

ပင်လယ်ကမ်းရိုးတန်းမှာ အကွေ့အကောက် များပြားလှသဖြင့် သင်္ဘောဆိပ်ကောင်းများရှိ၏။ ဆိပ်ကမ်းများတွင်ရှိသည့် ဟာဗားနားမြို့၊ ဆီယင်ဖွေးဂိုးမြို့နှင့်ဆန်တီယာဂိုဒီ ကျူးဗားမြို့တို့မှာ ကြီးကျယ်သောသင်္ဘောဆိပ်မြို့ကြီးများဖြစ်ကြသည်။ ဂွမ်တာနာမိုဆိပ်ကမ်းကို ရေတပ်စခန်းပြုလုပ်ရန် အမေရိကန်ပြည်ထောင်စုသို့ငှါးထားလေသည်။



ကျူးဗားကျွန်း၏စီးပွားရေးတွင်အရာရောက်လှသောဆေးစိုက်ခင်းကြီးများ

ကျူးဗားကျွန်း၏ မြေမျက်နှာပြင်မှာ မညီညာလှချေ။ မြောက်ဖက်ကမ်းခြေပိုင်းတွင် မြေပြင်သည် အရှေ့ဖက်သို့ တဖြည်းဖြည်းမြင့်တက်သွားရာ၊ ကိပ်မေစီအင့်စွန်းတွင် ပေ ၆၀၀ ခန့်မြင့်လေသည်။ တောင်ဖက်ကမ်းခြေ၌ကား မြေမှာနိမ့်၍သဲဆန်လေသည်။ ကျွန်း၏အရှေ့ဖက်တွင်ဆီယယ်ရာမာအက်စတြာတောင်တန်းကြီးသည် ကိပ်ဒီကရုမှ ဆန်တိယာဂိုမြို့အထိဆန့်တန်းလျက်တည်ရှိသည်။

ကျူးဗားကျွန်းတွင် မြစ်ချောင်း ပေါများသော်လည်း တိုတောင်းသောကြောင့် ရေကြောင်းသွားလာမှုအတွက် အသုံးမဝင်လှချေ။ အိုရီရိန်းတေးနယ်တွင်ရှိသော ကော်တို မြစ်သာလျှင်မိုင် ၂၅၀ ရှည်၍ ၅၅ မိုင်အထိလှေသင်္ဘော အငယ်စားများ ဆန်တက်သွားလာနိုင်သည်။

ကျူးဗားကျွန်း၏ထူးခြားချက်တခုမှာ မြေအောက်ဂူနှင့် ဥမင်လိုဏ်ခေါင်းများ ပေါများလှခြင်းပင်ဖြစ်၏။ ဥမင်လိုဏ်ခေါင်းများသည် မြေအောက်ရှိထုံးကျောက်များရှိရာနေရာများတွင် ဖြစ်ပေါ်လျက်ရှိကြရာ အချို့မြစ်ငယ်ချောင်းငယ်များသည် ထိုမြေအောက်ဥမင်များမှ စတင်ဖြစ်ပေါ်ကြ၍ အချို့မြစ်များသည် ယင်းတို့ကို ဖြတ်သန်းစီးဆင်းကြလေသည်။

ကျူးဗားကျွန်းတွင် ခြောက်သွေ့သောရာသီနှင့် စိုစွတ်သောရာသီဟူ၍ ရာသီဥတုနှစ်မျိုးရှိ၏။ ခြောက်သွေ့သောရာသီမှာ နိုဝင်ဘာလမှဧပြီလအထိဖြစ်၍ စိုစွတ်သောရာသီမှာ မေလမှအောက်တိုဘာလ အထိဖြစ်သည်။ ပင်လယ်မှ လေရသောကြောင့် အပူသက်သာ၏။ အတွင်းပိုင်းများမှာ သာ၍အေး၏။ လေမုန်တိုင်းများလည်း မကြာခဏကျရောက်တတ်လေသည်။

ကျူးဗားကျွန်းကို ၁၄၉၂ ခုအောက်တိုဘာလ ၂၇ ရက်နေ့တွင် ခရစ္စတိုဖါကိုလံဗပ်သည် အမေရိကတိုက်သို့ပဌမဆုံးအကြိမ်ရောက်ရှိစဉ်က စတင်တွေ့ရှိခဲ့လေသည်။ ထိုနောက် ၁၅၁၁ ခုနှစ်မှစ၍ ထိုကျွန်းကိုစပိန်က ကိုလိုနီနယ်အဖြစ်တည်ထောင်အုပ်ချုပ်လာခဲ့ကြရာ၊ ၁၈၉၈ ခုနှစ်အထိကြာမြင့်ခဲ့၏။ ထိုနောက်စပိန်နှင့်အမေရိကန်ပြည်ထောင်စုတို့ စစ်မက်ဖြစ်ပွားကြသည်တွင် ကျူးဗားကျွန်းကို စပိန်ကလက်လွှတ်ရပြီးလျှင် စစ်ပြေငြိမ်းရေးစာချုပ်အရ အမေရိကန်ပြည်ထောင်စု စစ်ဖက်ဌာနမှ ယာယီသိမ်းပိုက်လေသည်။ ၁၉၀၂ ခုနှစ်တွင် ကျူးဗားသမတနိုင်ငံကိုတည်ထောင်လိုက်ကြလေသည်။

ကျူးဗားကျွန်းမှာ လယ်ယာစိုက်ပျိုးသော နိုင်ငံဖြစ်၍ ထိုကျွန်းရှိလူဦးရေတဝက်ခန့်မှာ စိုက်ပျိုးရေးဖြင့် အသက်မွေးမှုကြသည်။ ကျွန်း၏တဝက်ခန့်မှာ သစ်တောများဖုံးလွှမ်းလျက်ရှိ၏။ နိုင်ငံခြားသို့ တင်ပို့ရသော ထွက်ကုန်များ၏ ၉၀ ရာခိုင်နှုန်းမှာ လယ်ယာကိုင်းကျွန်းနှင့် သစ်တောများမှရရှိသောပစ္စည်းများဖြစ်သည်။ ကျူးဗားကျွန်းတွင် ကြံပင်၊ ဆေးရွက်၊ ငှက်ပျော၊ ကာဖီစသည်တို့ကိုစိုက်ပျိုးကြ၏။ ထွက်ကုန်၏ ၈၀ ရာခိုင်နှုန်းမှာ သကြားဖြစ်၍ ကမ္ဘာပေါ်တွင် ဒုတိယသကြားအထွက်ဆုံးသော နိုင်ငံဖြစ်သည့်ပြင်၊ ပဌမတန်းဆေးရွက်များထွက်သော နိုင်ငံလည်းဖြစ်လေသည်။ ကျူးဗားကျွန်းမှ သံ၊ ကြေးနီ၊ ကရိုမီယမ်၊ မန်ဂနိစသော သတ္တုများထွက်သည်။ သကြားလုပ်ငန်း၊ အရက်ချက်လုပ်ငန်း၊ ဆေးလိပ်၊ စီးကရက်၊ ဆပ်ပြာ၊ ဦးထုပ်နှင့်ဖိနပ်လုပ်ငန်းများလည်း ထွန်းကား၍ ကျွန်း၏လူဦးရေ ရာခိုင်နှုန်း ၂၀ လောက်မှာ ထိုလုပ်ငန်းများတွင် ဝင်ရောက်လုပ်ကိုင်ကြလေသည်။

စပိန်လူမျိုးတို့ကြီးစိုးစဉ်က တိုင်းဦးသား လူမျိုးများအား လွန်စွာနှိပ်စက်သဖြင့် အမျိုးပျောက်လုနီးပါးဖြစ်ခဲ့သည်။ ထို့ကြောင့်လယ်ယာစိုက်ပျိုးရေးကို ချဲ့ထွင်လုပ်ကိုင်ကြသောအခါ အာဖရိကတိုက်မှ နီးဂရိုးကပ္ပလီလူမျိုးတို့ကို အလုပ်ကြမ်းများ၌အသုံးပြုရန် ခေါ်ယူရလေသည်။

ကျူးဗားကျွန်း၏လူဦးရေ ၇၅ ရာခိုင်နှုန်းမှာလူဖြူများဖြစ်၍ ၂၄ ရာခိုင်နှုန်းမှာ နီးဂရိုးကပ္ပလီလူမဲများဖြစ်ပြီးလျှင် ၁ ရာခိုင်နှုန်းမှာ တရုပ်လူမျိုးများဖြစ်လေသည်။

ဟာဗားနားမြို့သည် ကျူးဗားကျွန်း၏ မြို့တော်ဖြစ်၍ အကြီးဆုံးမြို့လည်းဖြစ်သည်။ ထိုမြို့၏လူဦးရေမှာ ၆၇,၁၇၆ ယောက်ဖြစ်၍တက္ကသိုလ်ကျောင်းတခုရှိ၏။ အခြားမြို့ကြီးများမှာ သင်္ဘောဆိပ်မြို့များဖြစ်သော ဆန်တီယာဂိုဒီကျူးဗားနှင့် ဆီယင်ဖွေးဂိုးတို့ဖြစ်လေသည်။

**ကျူးရီး, အမ်** (ခရစ် ၁၈၆၇ – ၁၉၃၄)။ ။မာရီကျူးရီးကို ၁၈၆၇ ခုနိုဝင်ဘာလ ၇ ရက်နေ့တွင် ပိုလန်နိုင်ငံ ဝါဆောမြို့၌ဖွားမြင်သည်။ ပိုလန်လူမျိုးမိဖများမှ မွေးဖွားခဲ့သူဖြစ်၍၊ သူ၏ဖခင်မှာ ဝါဆောမြို့ကောလိပ်ကျောင်းမှ ရူပဗေဒပါမောက္ခ လာဒစ္စလော့စကလိုဒေါ့စကားဆိုသူဖြစ်ပေသည်။

အသက်အရွယ်ငယ်စဉ်ကပင် မာရီသည် ဖခင်၏လက်တွေ့စမ်းသပ်ခန်းထဲတွင်သာ အချိန်ဖြုန်းလေ့ရှိသည်။ ဤသို့ဖြင့် ကြီးပြင်းလာသည့်အခါ ဖခင်၏အလုပ်တွင်စိတ်ဝင်စားလာပြီးလျှင် ဖခင်ထံတွင်အခြေခံသိပ္ပံပညာရပ်များကို သင်ကြားခဲ့၏။ ဉာဏ်ပညာထက်မြက်သည့်အလျောက် ဆရာကြီး၏ တပည့်များက မာရီအား ပါမောက္ခကလေးဟူ၍ အမည်ပေးခဲ့ကြသည်။ မာရီသည်အသက် ၁၆ နှစ်အရွယ်တွင် သင်္ချာနှင့်သိပ္ပံ ပညာရပ်များ၌ ထူးချွန်သဖြင့် ရွှေတံဆိပ်ဆုရခဲ့ဘူး၏။

ရုရှားနိုင်ငံတွင် ကလေးထိန်း ဆရာမအလုပ်ကို ခေတ္တလုပ်ကိုင်ခဲ့ပြီးနောက် မာရီကျူးရီးသည် တော်လှန်ရေး

ကျောင်းသားအဖွဲ့တွင် ပါဝင်ခဲ့သဖြင့် ဝါဆောမြို့မှ 'ပါရစ်မြို့တော်သို့ တိတ်တဆိတ်ထွက်ပြေးခဲ့ရသည်။ ထိုနောက်မာရီသည် ပညာဆက်လက်သင်ကြားခွင့်ရရှိသဖြင့် ကြိုးကြိုးပမ်းပမ်းသင်ယူခဲ့သည်တွင် သိပ္ပံဘွဲ့ကိုရရှိခဲ့လေသည်။

ထိုနောက်ပါမောက္ခပီယဲကျူးရီးနှင့် မာရီတို့သည် တဦးကိုတဦးမေတ္တာသက်ဝင်ချစ်ခင်ခဲ့ကြရာ ၁၈၉၅ ခုနှစ်တွင် ထိမ်းမြားလက်ထပ်လိုက်ကြသည်။ ပီယဲကျူးရီးမှာ ထိုစဉ်က ပါရစ်မြို့ရှိ ရူပဗေဒနှင့်ဓါတုဗေဒပညာရပ်များကို သင်ကြားပို့ချသော မျူနီစီပယ်ကျောင်း အထွေထွေ ရူပဗေဒ ပါမောက္ခဖြစ်သည်။ ဝါသနာတူညီလှသောဇနီးမောင်နှံတို့သည်သိပ္ပံပညာပြဿနာများကို ဆွေးနွေးတိုင်ပင်လျက် သုတေသနလုပ်ငန်းများကို ဆောင်ရွက်ခဲ့ကြသည်။ ၁၈၉၆ ခုနှစ်တွင် အမ် ဗက္ကရယ်ဆိုသူသည် အလွန်အလေးချိန်စီးသော ယူရေနီယမ်သတ္တုတွင် ရေဒီယိုသတ္တိရှိကြောင်း စုံစမ်းရှာဖွေတွေ့ရှိခဲ့လေသည်။

မေရီနှင့် ပီယဲတို့သည် အမ်ဗက္ကရယ် ရှာဖွေတွေ့ရှိခဲ့သော ရေဒီယိုသတ္တိတွင် များစွာ စိတ်ဝင်စား လာကြ၍ အခြားဒြပ်စင်များတွင်လည်း ထိုရေဒီယိုသတ္တိ ရှိမည်ဟုယုံကြည်သဖြင့် စူးစမ်းရှာဖွေကြည့်ရာတွင် သိုရီယမ်သတ္တုတွင်လည်း ရေဒီယိုသတ္တိရှိကြောင်းတွေ့ရှိခဲ့သည်။ ၁၈၉၈ ခုဇွန်လတွင် သူတို့သည် ပစ်ချဗလင်းကတ္တရာမှ ရေဒီယို သတ္တိရှိသော ဒြပ်စင်တခုတွေ့ရှိခဲ့လေသည်။ ယင်းကိုမာရီသည်သူ၏ဇာတိချက်ကြွေ ပိုလန်ပြည်ကို ဂုဏ်ပြုသောအနေဖြင့် ပိုလိုနီယမ်ဟုမှည့်ခေါ်ခဲ့၏။ ထိုနှစ်တွင်ပင် ဂျီဗီးမွန့်ဆိုသူနှင့်အတူ ရေဒီယမ်ကိုတွေ့ရှိပြန်သည်။ သူတို့သည် ပိုလိုနီယမ်နှင့်ရေဒီယမ်တို့ကို ပစ်ချဗလင်းကတ္တရာမှ ပင်ပန်းကြီးစွာထုတ်ယူရရှိခဲ့ကြသည်။ ရေဒီယမ်မှာ ယခုအခါ ကင်ဆာနှင့်အခြားရောဂါများကို ကုသရာတွင် အသုံးပြုရသော ထူးဆန်းသည့်ဒြပ်စင်တခုဖြစ်ပေသည်။

၁၉၀၃ ခုနှစ်တွင် အင်္ဂလန်ပြည်တော်ဝင် အသင်းက ကျူးရီးဇနီးမောင်နှံတို့အား အကြီးဆုံး သိပ္ပံဂုဏ်ထူးဖြစ်သော ဒေဗီတံဆိပ်ဖြင့်ချီးမြှင့်ခဲ့သည်။ ထိုနှစ်၌ပင် ရူပဗေဒပညာရပ်အတွက် အမ် ဗက္ကရယ်နှင့် တွဲဖက်၍ နိုဗဲဆုကို ရရှိခဲ့၏။

၁၉၀၄ ခုနှစ်တွင်ပီယဲကျူးရီးသည် ဆော်ဗွန်းတက္ကသိုလ်၌ ရူပဗေဒပါမောက္ခရာထူးကိုရလေသည်။ သို့ရာတွင် ၁၉၀၆ ခုဧပြီလ ၁၉ ရက်နေ့တွင် ပါမောက္ခပီယဲကျူးရီးသည် ပါရစ်မြို့တော်၌ ကုန်တင်ရထား မတော်တဆ ကြိတ်မိသဖြင့် အနိစ္စရောက်သွားလေသည်။

မာရီကျူးရီးလည်း ခင်ပွန်းသည်၏ ပါမောက္ခရာထူးကို ဆက်ခံရရှိခဲ့လေသည်။ သူသည်ရေဒီယမ်နှင့်စပ်လျဉ်း၍ သုတေသနလုပ်ငန်းများဆက်လက်လုပ်ကိုင်ခဲ့ရာ ရေဒီယမ်ကို ပဌမဆုံး သန့်သန့် ထုတ်ယူနိုင်ခဲ့၍၊ ရေဒီယမ်၏အက်တမ်အလေးဆနှင့် ရုပ်ဂုဏ်များကိုစူးစမ်းတွေ့ရှိလာပြန်၏။ ထိုကြောင့် ၁၉၁၁ ခုနှစ်တွင်ဓါတုဗေဒပညာရပ်အတွက် နိုဗဲဆုဖြင့် ဒုတိယအကြိမ်ချီးမြှင့်ခြင်းခံရပြန်သည်။ နိုဗဲဆုကို နှစ်ကြိမ်ရခဲ့သူများတွင် ပဌမဆုံးပုဂ္ဂိုလ်ထူးဖြစ်ပေသည်။

သူတို့ဇနီးမောင်နှံ တွေ့ရှိခဲ့သော ရေဒီယမ်ဒြပ်စင်နှင့်စပ်လျဉ်း၍၊ သုတေသနလုပ်ငန်းများ မကြာခဏဆောင်ရွက်ခဲ့ရာတွင် ယင်းဒြပ်စင်၏ ရေဒီယိုသတ္တိဒဏ်ကို ခံရဖန်များသဖြင့် သွေးအားနည်းသော ရောဂါရရှိပြီး မဒမ်ကျူးရီးသည် ၁၉၃၄ ခုဇူလိုင် ၄ ရက်နေ့တွင်ကွယ်လွန်အနိစ္စရောက်သွားလေသည်။ သူ့တွင်သမီးနှစ်ယောက်ကျန်ခဲ့ရာ အကြီးအိုင်ရင်းကျူးရီးနှင့် သူ၏ခင်ပွန်းသည် ဖရက်ဒရစ်ဇောလျိုးတို့သည် မိဖများ၏ သုတေသနလုပ်ငန်းကိုဆက်လက်လုပ်ကိုင်ခဲ့ရာ ၁၉၃၅ ခုနှစ်တွင်ဓါတုဗေဒပညာအတွက် နိုဗဲဆုရရှိခဲ့လေသည်။

သမီးအငယ် အီဗကျူးရီးသည် သူ့မိခင်အတ္ထုပ္ပတ္တိကိုရေးသားထုတ်ဝေခဲ့သည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်းက လစ်ဗီးယား၊ ရုရှား၊ မြန်မာနိုင်ငံနှင့်တရုပ်နိုင်ငံစစ်မျက်နှာများသို့ စစ်သတင်းထောက်အဖြစ် ရောက်ခဲ့ဘူးလေသည်။ (ရေဒီယမ် — လည်းရှု။)



နိုဗဲဆုကိုနှစ်ကြိမ်တိုင်တိုင်ရရှိခဲ့သူရူပဗေဒပါရဂူမာရီကျူးရီး

**ကျူးရင်းမြို့**။ ။တျူးရင်းမြို့ — ရှု။

**ကျေး**။ ။ကြက်တူရွေး — ရှု။



ကျေးကျွန်စံနစ်ဖျက်သိမ်းသဖြင့်ရွှင်မြူးနေကြသောကပ္ပလီမိသားတစု

**ကျေးကျွန်စံနစ်။** ။ကမ္ဘာပေါ်တွင် ကိုယ်ပိုင်ကျေးကျွန်များထားရှိသည့်စံနစ်သည် ရှေးပဝေဏီ အခါကာလကပင် ပေါ်ပေါက်ခဲ့သည်။ ကမ္ဘာဦးလူတို့သည် ရေကြည်ရာမြက်နုရာ ရှာဖွေယင်း အုပ်စုတခုနှင့်တခု အမြဲတစေယှဉ်ပြိုင်တိုက်ခိုက် လေ့ရှိကြသည်။ ပဌမသော် နိုင်သည့်အုပ်စုကရှုံးသည့်အုပ်စုကို တယောက်မကျန် သတ်ဖြတ်ပစ်လေ့ရှိသည်။ လူတို့သည် ရှာဖွေစားသောက်နေထိုင်သောဘဝမှထွန်ယက်စိုက်ပျိုး နေထိုင်တတ်သော အဆင့်အတန်း သို့ရောက်ရှိလာသောအခါ တိုက်ပွဲတွင် အရှုံးရသူတို့ကို သတ်ပစ်မည့်အစား မိမိတို့လုပ်ငန်းများတွင် ခိုင်းစေရန် ကျွန်အဖြစ် ထားကြသည်။ ကျေးကျွန်စံနစ်သည် ယခုခေတ်မျက်စိတွင် ယဉ်ကျေးမှုနှင့် ဆန့်ကျင်သော စံနစ်တခု ဖြစ်ငြားသော်လည်း ကမ္ဘာဦးလူတို့အဖို့ ကျေးကျွန်စံနစ် ပေါ်ပေါက်လာခြင်းကား လူ့ယဉ်ကျေးမှု တဆင့်တက်လာသည်ဟုဆိုရပေမည်။

ကျေးကျွန်ဖြစ်လာရသည့် အခြားအကြောင်းရပ်များမှာ ကြွေးမြီများ မပေးဆပ်နိုင်၍ငင်း၊ ကြီးကျယ်သော ပြစ်မှုတစုံတရာကို ကျူးလွန်မိ၍ငင်း၊ မိမိ၏ လွတ်လပ်မှုကိုလောင်းတမ်းကစားခြင်းဖြင့် ဆုံးပါး၍ငင်း ဖြစ်သည်။ ရှေးဂျာမန်လူမျိုးတို့တွင် လောင်းတမ်းကစားရာ၌ ရှုံး၍ ကျွန်အဖြစ်ခံရသူများကို တွေ့ရသည်။ ဘုရားဟောဇာတ်နိပါတ်များတွင်လည်း အလောင်းအစား ကစားမှုများတွင် ရှုံး၍ ကျွန်ခံရပုံများ၊ ကြွေးငွေ မပေးဆပ်နိုင်၍ ကျွန်ခံရပုံများနှင့် ပုစ္ဆာပြဿနာကို မဖြေနိုင်၍ ကျွန်ဖြစ်ရပုံများကို တွေ့ရလေသည်။

ကျွန်များမွေးမြူ ထားရှိခြင်းစံနစ်မှာ ရှေးဦးခေတ် အီဂျစ်နိုင်ငံ၊ ဗက်ဗီလုံးနိုင်ငံ၊ ဂရိနိုင်ငံ၊ အိန္ဒိယနိုင်ငံနှင့် တရုပ်နိုင်ငံများတွင် အထူးဖွံ့ဖြိုးခဲ့သည်။ အီဂျစ်နိုင်ငံတွင် ပိရမစ်ခေါ် ဘုရင့်သင်္ချိုင်းဂူကြီးများကို ကျွန်ပေါင်းများစွာတို့ လုပ်ဆောင်ခဲ့ရသည်။ ဗက်ဗီလုံးနိုင်ငံမှ ဘုရင်ဟမ္မူရာဗီ၏ ဓမ္မသတ်ကျမ်းသည် ကျေးကျွန်များကို အသိအမှတ်ပြုသည့်ပြင် ကျွန်ကျင့်ဝတ် သခင်ကျင့်ဝတ် များကို သတ်မှတ်ပေးခဲ့သည်။ ဂရိနိုင်ငံမှ ပညာရှိကြီး ပလေးတိုးက ဂရိအမျိုးသား အချင်းချင်း ကျွန်မပြုရဟုဆိုသည်။ ထို့ပြင် ကျွန်ကျင့်ဝတ် သခင်ကျင့်ဝတ် များကို ပြဋ္ဌာန်းညွှန်ကြားခဲ့သည်။ ဟီဗြူလူမျိုးတို့သည် မိုးဇက်၏ ဓမ္မသတ်ကျမ်းအရ မိမိတို့လူမျိုးကျွန်များကို ၆ နှစ်လျှင်တကြိမ်ကျ လွတ်လပ်ခွင့်ပေးသည်။ လူမျိုးခြား ကျွန်များကိုမူ အနှစ်တရာလျှင် ၂ ကြိမ်ကျလွှတ်လေ့ရှိသည်။

အိန္ဒိယနိုင်ငံတွင် ဂေါတမ မြတ်စွာဘုရား မပွင့်မီကပင် ကျေးကျွန်ထား၍ ခိုင်းစေသော စံနစ်ရှိခဲ့သည်။ ပိဋကတ်ကျမ်းဂန် များအရ အန္တောဇာတ အိမ်ပေါက်ကျွန်၊ ဓနက္ကီတ ငွေဝယ်ကျွန်၊ သာမံဒါသဗျုဂတ ကိုယ်တိုင်ကျွန်ခံသောကျွန်၊ ကရမရာနီထ သုံ့ရကျွန် ဟူ၍ ၄ မျိုးဖေါ်ပြပါရှိသည်။ မနုကျယ် ဓမ္မသတ်တွင် 'အစဉ်ကျွန်ရိုး၊ သားပေါက်၊ မြေးလတ်၊ အောက်ကလက်၊ ကျွန်ဆက်၊ ကျွန်ပင်၊ ကျွန်စဉ်' ဟုကျွန် ၇ မျိုးကို ပြဆိုသည်။

အခြားဓမ္မသတ်ကျမ်းများတွင် 'ဟီနကုလ ဓနက္ကီတကျွန်၊ ၎င်းသား သားပေါက်၊ ၎င်းသားမြေးလတ်၊ ၎င်းသားအောက်ကလက်၊ ၎င်းသားကျွန်ပင်၊ ၎င်းသားကျွန်ရိုး၊ ၎င်းသားကျွန်စင်၊ ၎င်းသားသန္တက' ဟူ၍ ကျွန်ခုနစ်မျိုး ပြဆိုသည်။ ထိုမှတပါး ကျွန်ခုနစ်ရပ်၊ ကျွန်ရှစ်ရပ်၊ ကျွန်ကိုးရပ်စသည်ဖြင့် ဋီကာများ၌ ဖေါ်ပြပါရှိသည်။ တဖန် ကျွန် ၉ ရပ်မှ တရပ်လျှင် ၇ မျိုး ၄ မျိုး စသည်ဖြင့် ပွားများလာရာစုစုပေါင်း ကျွန် ၆၇ မျိုး ရှိကြောင်းပြဆိုမြန်သည်။ ပြဆိုခဲ့သော သာမန်ကျွန်များမှတပါး ဘုရားကျွန်၊ သင်္ဃာကျွန်နှင့် ပုဏ္ဏားကျွန်များလည်း ရှိသေးသည်။ မြန်မာနိုင်ငံတွင် ရှေးအခါက ကျေးကျွန်များကို အဆောင်အယောင်အဖြစ်ထားရှိခြင်း၊ ကျေးကျွန်များ မွေးမြူခိုင်းစေခြင်းတို့မှာ အိန္ဒိယယဉ်ကျေးမှုမှ ရရှိဟန်တူသည်။ သိင်္ဂါလောဝါဒသုတ်တွင် ကျွန်ကျင့်ဝတ် ၅ ပါး၊ သခင်ကျင့်ဝတ် ၅ ပါး ဟုပြဋ္ဌာန်းထားသည်။

ဥရောပတိုက်၌ ၅ ရာစုနှစ်နှင့် ၆ ရာစုနှစ်များတွင် ကိုယ်ပိုင်ကျေးကျွန် ထားသည့်စံနစ် ခေတ်မှိန်သွားပြီးနောက် မြေကျွန်ထားရှိသည့် စံနစ်တမျိုး ပေါ်ပေါက်လာသည်။ မြေကျွန်များမှာ မြေရှင်ကြီးများ၏ လယ်မြေများတွင် လုပ်ကိုင်ပေးရခြင်း၊ မြေရှင်ကြီးများအတွက် စစ်တိုက်ပေးရခြင်း စသောအမှုတို့ကို ပြုရလေသည်။ (ကံကျေးချစံနစ်—ရှု။) ကာလကြာလတ်သော် မြေကျွန်စံနစ်မှာလည်း တဖြည်းဖြည်း မှေးမှိန်၍လာခဲ့သည်။ အင်္ဂလန် ပြည်တွင် ၁၃၈၁ ခုနှစ် တောင်သူလယ်သမားများ ပုန်ကန်ထကြွမှုကြီး ပေါ်ပေါက်ပြီးနောက် မြေကျွန်စံနစ် ပျောက်ပျက် သွားသည်။ ဂျာမနီနိုင်ငံတွင် ၁၉ ရာစု အစပိုင်းတွင်၎င်း၊ ရုရှားနိုင်ငံတွင် ၁၉ ရာစု အလယ်လောက်တွင်၎င်း၊ ပပျောက်သွားလေသည်။

၁၅ ရာစုနှစ်တွင် ပေါ်တူဂီလူမျိုးများက အာဖရိက တိုက်သားများကို ကျွန်အဖြစ် ဖမ်းဆီးခေါ်ဆောင် လာသည်မှ အစပြု၍ ကျေးကျွန်စံနစ် အသက်တဖန် ပြန်ဝင်လာခဲ့သည်။ အမေရိကတိုက် အနောက်အိန္ဒိယကျွန်းစုနှင့် ဩစတြေးလီးယား တိုက်များတွင် လယ်ယာကိုင်းကျွန်းများ လုပ်ကိုင်ရန်နှင့် သတ္တုတွင်းများ တူးဖေါ်ရန်အတွက် လုပ်သားပေါင်း မြောက်မြားစွာ လိုလေရာ ကျွန်အရောင်းအဝယ်စံနစ် ဖွံ့ဖြိုးလာခဲ့လေသည်။ နီးဂရိုးခေါ် ကပ္ပလီလူမျိုးများမှာ ဥရောပတိုက်သားများနှင့် အာရပ်လူမျိုး ကျွန်ကုန်သည်များ လက်ထဲတွင် အဆင့်ဆင့် ရောင်းစားခြင်းကို ခံခဲ့ကြရ၏။ (ကပ္ပလီလူမျိုး—ရှု။) ထိုစဉ်အခါက အစိုးရများသည် ကျွန်ကုန်ကူးခြင်း လုပ်ငန်းကို အားပေးအားမြှောက် ပြုလုပ်ခဲ့ကြသည်။ ၁၈ ရာစုနှစ် ကုန်ဆုံးခါနီးတွင် ကျွန်ကုန်ကူးခြင်းကို လူအများ စက်ဆုပ်ရွံရှာလာကြသည်။ ကျွန်များ လွတ်မြောက်ရေးအတွက် ရှေ့ဆောင်လှုံ့ဆော်သည့် ပုဂ္ဂိုလ်များ ပေါ်ထွက်လာကြသည်။ ကျေးကျွန်စံနစ်ဆိုးရွားကြောင်း စာအုပ် စာတမ်းများလည်း ပေါ်ထွက်လာခဲ့လေသည်။ ဥရောပတိုက်တွင် ကျွန်ကုန်ကူးခြင်း လုပ်ငန်းကို ပဌမဆုံးပိတ်ပင်လိုက်သော နိုင်ငံမှာ ဒိန်းမတ်နိုင်ငံဖြစ်သည်။ အင်္ဂလန်နိုင်ငံတွင် ကျေးကျွန်စံနစ်ကို အပြင်းအထန် ကန့်ကွက်ရှုံ့ချသူတို့မှာ 'ကွိတ်ကာ' အသင်းဝင်များ ဖြစ်ကြသည်။ ၁၈၀၇ ခုနှစ်တွင် ဝီလျံဝီလဗာဖို့ ဆိုသူပုဂ္ဂိုလ်ကြီး၏ ကြိုးပမ်းချက်အရ ဗြိတိသျှပါလီမန်မှ ကျွန်ကုန်ကူးခြင်း လုပ်ငန်းကို ပိတ်ပင်လိုက်သည်။ သို့သော် ၁၈၃၃ ခုနှစ်ရောက်မှ ဗြိတိသျှအင်ပိုင်ယာအတွင်းတွင် ကျေးကျွန်စံနစ်ကို လုံးဝပယ်ဖျက်လိုက်လေသည်။

အင်္ဂလိပ်လူမျိုးတို့၏ စံနမူနာကိုလိုက်၍ ၁၈၄၈ ခုနှစ်တွင် ပြင်သစ်အင်ပိုင်ယာအတွင်း ကျေးကျွန်စံနစ်ကို ပယ်ဖျက်ခဲ့သည်။ ၁၈၆၃ ခုနှစ်တွင် ဟော်လန်ပြည်၌၎င်း၊ ၁၈၇၈ ခုနှစ်တွင် ပေါ်တူဂီနိုင်ငံ၌၎င်း၊ အသီးအသီး ပယ်ဖျက်ပိတ်ပင်ခဲ့ကြသည်။ အမေရိကန် ပြည်ထောင်စုနိုင်ငံသည် ၁၈၀၈ ခုနှစ်ကပင် အလားတူ ပိတ်ပင်မှုကို ပြုလုပ်ခဲ့သော်လည်း ဝါဂွမ်းစိုက်ပျိုးခြင်းဖြင့် စီးပွားလမ်းဖြောင့်နေသော အမေရိကန် တောင်ပိုင်းသားများကမူ ကျွန်များကို မလွှတ်လိုကြပေ။ အမေရိကန် တောင်ပိုင်းနှင့် မြောက်ပိုင်း ပြည်တွင်းစစ်



၁၉ ရာစုနှစ်ဗရာဇီးနိုင်ငံတွင်ကပ္ပလီများအားစေခိုင်းအသုံးချရန်အတွက် အရောင်းအဝယ်ပြုရာကျွန်းဈေး၏ ရှုခင်းတရပ်

ဖြစ်ကြရသည့် အကြောင်းရင်းများတွင် ကျွန်ပြဿနာမှာ အကြောင်းရပ်တခုဖြစ်သည်။ (လင်ကွန်း၊ အေ — ရှု) ၁၈၆၃ ခုနှစ်ဆန်းတရက်နေ့တွင် သမတလင်ကွန်း ထုတ်ပြန်ကျေညာသော ကျေးကျွန်များလွတ်မြောက်ရေး ကျေညာစာတမ်းမှာ သမိုင်းထိုးလောက်သော ကျေညာစာတမ်းကြီး ဖြစ်ပေသည်။ ပြည်တွင်းစစ်ကြီး ပြီးဆုံးပြီးနောက် ၁၈၆၅ ခုနှစ်တွင် အခြေခံ အုပ်ချုပ်ရေး ဥပဒေကို ပြင်ဆင်လိုက်သောအခါ အမေရိကန် နိုင်ငံတဝှန်းလုံး၌ ကျေးကျွန်စံနစ်ကို တားမြစ်ပိတ်ပင်လိုက်တော့သည်။

တရုပ်နိုင်ငံတွင် ရှေးအထက်ကျော်ကာလ်မှ စ၍ ကျေးကျွန်များထားခြင်း စံနစ်ဖွံ့ဖြိုးလာခဲ့ရာ တရုပ်အမျိုးသားအစိုးရ လက်ထက်မှစ၍ အပြင်းအထန် နှိပ်ကွပ်ခဲ့သည်။ ခရစ်နှစ် ၂၀ ရာစုအထိ၌ပင် ကျွန်ကုန်ကူးခြင်း၊ ကျွန်မွေးမြူခြင်း အလုပ်များသည် အာရေဗျကျွန်းဆွယ်၊ အက်ဗီဆီးနီယားပြည်နှင့် အခြားအုပ်ချုပ်မှုနှင့် ကင်းကွာသောအစွန်အဖျားဒေသများတွင် ရှိနေသေးသည်။ ၁၉၃၅ ခုနှစ်တွင် အက်ဗီဆီးနီယားနိုင်ငံကို ဣတလီက ဝင်ရောက်သိမ်းပိုက်လိုက်သောအခါမှအက်ဗီဆီးနီယားနိုင်ငံတွင်ကျေးကျွန်စံနစ် ကွယ်ပျောက်ခဲ့သည်။ မြန်မာနိုင်ငံ မြောက်ဖက် အစွန်အဖျားဖြစ်၍ အုပ်ချုပ်ရေး ကင်းကွာသော ဟူးကောင်းတောင်ကြားဒေသနှင့် တြိဂံ နယ်မြေများတွင် ကျေးကျွန်များရှိခဲ့လေရာ ၁၉၂၇ ခုနှစ်နှင့် ၁၉၂၈ ခုနှစ်အတွင်း ဘုရင်ခံဆာ ဆပင်ဆာ ဟားကုတ်ဗတ္တလာနှင့် ဆာ ချား အင်းနစ်ဟိုလက်ယက် တွင် ကျွန်ပေါင်း ၈,၀၀၀ ခန့်ကို လျော်ကြေးငွေ ၅ သိန်းကျော်ပေး၍ လွတ်လပ်ခွင့် ပေးခဲ့သည်။ အမှန်စင်စစ် ယင်းဒေသများတွင် ထိုအချိန်အခါက အုပ်ချုပ်မှုလုံးဝမရှိဘဲ နယ်ခြားစစ်တပ်များက တနှစ်လျှင် ၁ ကြိမ် ၂ ကြိမ်မျှ ကင်းလှည့်လည်မှုသာရှိသဖြင့် ကျွန်များလွတ်လပ်မှု ဤမျှကြန့်ကြာခဲ့ရသည်။ ထိုကြောင့် ၁၉၃၀-၃၁ ခုနှစ်တွင် ကချင်တောင်တန်းသား များဆိုင်ရာ စည်းမျဉ်းဥပဒေကို ပြဋ္ဌာန်းခဲ့ပြီးနောက် ထိုဒေသများကို အုပ်ချုပ်မှုစည်းပိုင်းယဲသို့ သွတ်သွင်းခဲ့သည်။

နိုင်ငံပေါင်းချုပ် အသင်းကြီးသည် ကျေးကျွန်စံနစ်တိုက်ဖျက်ရန် စုံစမ်းရေးအဖွဲ့များကို ဖွဲ့စည်း၍ပင်း၊ ၁၉၂၆ ခုနှစ်တွင် ညီလာခံသဘင်ကြီး ကျင်းပ၍ပင်း၊ အနည်းနည်းအဖုံဖုံ ကြိုးစားခဲ့သည်။ ယခုအခါ ထိုလုပ်ငန်းရပ်များကို ကုလသမဂ္ဂအဖွဲ့ကြီးက ဆက်လက်ဆောင်ရွက်လျက်ရှိသည်။ ၁၉၄၈ ခု ဒီဇင်ဘာလ ၈ ရက်နေ့တွင် ကုလသမဂ္ဂအဖွဲ့ကြီးက လူ့အခွင့်အရေး ကျေညာစာတမ်းကြီးကို လက်ခံခဲ့သည်။ ထိုကျေညာစာတမ်း၏ အပိုဒ် ၄ တွင် မည်သူ့အားမျှ ကျွန်အဖြစ်ထားရှိခြင်း၊ ကျွန်သဖွယ် ခိုင်းစေခြင်းများကို မပြုလုပ်ရ။ ယိုပြင် ကျွန်မွေးမြူခြင်းစံနစ်နှင့် ကျွန်ကုန်ကူးခြင်း လုပ်ငန်းများကို မည်သည့်အသွင်နှင့်ရှိစေကာမူ ပိတ်ပင်ရမည် ဟုပါရှိသည်။ ဤကျေညာချက်ကို အခြေခံပြု၍ ကုလသမဂ္ဂအဖွဲ့ဝင်နိုင်ငံများသည် ကျေးကျွန်စံနစ်ပပျောက်ရေးကို မိမိတို့၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေများတွင် ထည့်သွင်း၍ပင်း၊ အက်ဥပဒေများ ပြဋ္ဌာန်း၍ပင်း၊ ဆောင်ရွက်နေကြ၏။

ဤမျှလှုပ်ရှားတိုးတက်နေသော ခေတ်ကြီး၌ပင် ကမ္ဘာ့အရှေ့အလယ်ပိုင်း ဒေသများတွင် ကျွန်ပေါင်း ၁ သန်းခန့်၊ အာရေဗျနိုင်ငံတွင် ၅ သိန်းနှင့် အီသီအိုးပီးယားနိုင်ငံတွင် ကျွန်များ ရှိသေးကြောင်း သိရသည်။ ပည်သို့ပင်ဖြစ်စေ၊ ကမ္ဘာ့ကုလသမဂ္ဂအဖွဲ့ကြီးသည် ကျေးကျွန်စံနစ်ကို အမြစ်မှတွန်းလှန်ဖြိုဖျက်ရန်ကြိုးစားလျက်ရှိလေသည်။

**ကျေးငှက်များ။မြန်မာနိုင်ငံ။** ။မြန် မာ နိုင် ငံကျေးငှက်များ — ရှု။

**ကျေးရွာသာယာမှု။** ။မြို့ကြီးပြကြီးများသည် စီးပွားရေးလုပ်ငန်းများအတွက် အထူးသင့်လျော်သော်လည်း စိမ်းလန်းစိုပြေသော သဘာဝ၏ သာယာမှုများကိုမူ ကျေးလက်တောရွာ များတွင်သာ တွေ့နိုင်ပေသည်။ တောတောင်ရေမြေ၊ ထွေထွေစိမ့်စမ်း၊ တောလမ်းတောင်လမ်း အံ့မခန်းသော သဘာဝ လောကကြီး၏ ရှုခင်းများကို လူတိုင်းပင်ရှုလိုမြင်လိုကြသည်။ အထူးသဖြင့် စက်ရုံ အလုပ်ရုံများ၊ ယာဉ်ရထားများဖြင့် ပြည့်နှက်လျက်ရှိသော မြို့ကြီးပြကြီးတွင် နေထိုင်သူတို့သည် တောသူတောင်သား များထက်ဩကာသ လောကကြီး၏ သဘာဝအလှကို ကြည့်ရှုခံစားလိုကြပေသည်။ မြို့ကြီးပြကြီးများတွင် ပန်းခြံများ၊ ရေကူးကန်များ၊ တိရစ္ဆာန်ရုံများ ထားရှိခြင်းမှာ တောလက်ကျေးရွာများသို့ မသွားနိုင် သူများအဖို့ အပန်းဖြေနိုင်ရန် သဘာဝကိုတု၍ ပြုပြင်စီရင်ထားခြင်းများဖြစ်သည်။

တသွင်သွင် စီးကျနေသော စမ်းချောင်းကလေးများ၊ စိမ်းလန်းသော တောတန်းကလေးများ၊ တောတွင်းပျော်ကျေးငှက် တိရစ္ဆာန်များ၊သဘာဝ မြက်ခင်းကလေးများ၊ တောင်ပူစာ ကလေးကို ကွေ့၍ဖေါက်ထားသော လှည်းလမ်းကလေးများ၊ ခင်တန်းမြင့်ပေါ်တွင် ထန်းညိုပင်အကြားမှ ငေါ်းငေါ်းစွင့်စွင့် တည်ရှိနေသော စေတီများတို့သည် တွေ့မြင်ရသူ အပေါင်းတို့၏ စိတ်နှလုံးကိုနှစ်သိမ့်ကြည်နူး ရွှင်မြူးငြိမ်းအေး စေပေသည်။ ထိုကြောင့် မြို့ကြီးပြကြီးများမှ ပင်ပန်းနွမ်းနယ် ငြီးငွေ့ဖွယ်ရာတို့နှင့် နေ့စဉ် တွေ့ကြုံနေကြရသူများသည် မကြာခဏ ကျေးလက် တောရွာများသို့ သွားရောက်ကာ သဘာဝ၏ သာယာမှုကို သိမ်းကျုံးခံစားယင်း စိတ်သောကများကို ဖြေဖျောက်လေ့ရှိကြသည်။

ကျေးလက်တောရွာမှ သာယာမှုများကို အချိန်မရွေး ကြည့်ရှုခံစား နိုင်ကြခြင်းအလို့ငှာ ကျေးလက်တောရွာရှိ သဘာဝ ပတ်ဝန်းကျင်များကို ထိန်းသိမ်းစောင့်ရှောက်ရန် လိုပေသည်။ ထိုသို့ စောင့်ရှောက်ရာ၌ သဘာဝအတိုင်း ပေါက်ရောက်ဖြစ်ထွန်းနေသောရုပ်ဝတ္ထုများကို နဂိုအတိုင်း မပျောက်မပျက်၊ မချွတ်ယွင်းရအောင် ထိန်းသိမ်းစောင့် ရှောက်ခြင်းနှင့် ပိုမိုလှပ တင့်တယ်စေရန် လူတို့ ပြုပြင်စီမံမှု များလည်းပါဝင်သည်။ ပမာအားဖြင့်တောတွင်း၌ သစ်ပင် များ ပြုန်းတီးမသွားစေရန် တောမီးမလောင်စေရအောင် တင်ကြိုကာကွယ်ခြင်း၊ သစ်ပင်များကို စည်းမဲ့ ကမ်းမဲ့ မခုတ်လှဲ စေခြင်းတို့ဖြစ်သည်။ ကျေးငှက်တိရစ္ဆာန်များ ပျော်ပါးမြူးတူး နိုင်စေရန်အတွက် သစ်သီးဝလံ ပင်များ၊ ရေအိုင်များတို့ကို မပျက်စီးရအောင် ထိန်းသိမ်းရန် လိုသည့် အပြင် အရမ်းမဲ့ အမဲလိုက်ခြင်း ငှက်ပစ်ခြင်း များကို လည်း တားမြစ်ပိတ်ပင် ရပေမည်။ တခါတရံ သဘာဝ ရုပ်ဝတ္ထု များကို နဂိုအတိုင်း ထိန်းသိမ်းထားရုံနှင့် မဖြစ်နိုင်ရကား လူတို့၏ ပြုပြင်စီမံမှုများကို ဖြည့်စွက်ရပေသည်။ ဥဒါဟရုဏ် လူသွားလမ်းအနီး ကုန်းမြင့်ပေါ်ရှိ ကျောက်တုံးကြီးတခုမှာ မိုးရေ တိုက်စားသဖြင့် ခြေရင်းများပေါ်၍ ယိမ်းယိုင်နေ ခဲ့လျှင်ထိုကျောက်တုံးကြီးကို အဝေးသို့ ဖယ်ရှားပစ်သင့် ပေသည်။ တောတွင်း၌ သစ်ပင်ပန်းပင်တို့သည် အချို့နေရာ တွင် အလွန်ထူထပ်စွာ ပေါက်ရောက်၍ အချို့နေရာတွင် အလွန်ကျဲစွာ ပေါက်ရောက်နေတတ်ပေရာ လူတို့က မျက် စိပသာဒနှင့် ကိုက်ညီအောင် ခုတ်ထွင်ပြုပြင် ပေးရပေမည်။ တောပန်း အချို့တို့မှာ သဘာဝအတိုင်း ပစ်ထားချေက အမျိုးဗီဇပင် သုဉ်းရမည့် အခြေမျိုးသို့ ရောက်ရှိနေလျှင် လူ၏ အကူအညီဖြင့် အမျိုးဖြန့်ပေးရန် လိုပေသည်။ ထိုမှ တပါး တောတွင်း၌ သွားလာမှု လွယ်ကူစေရန် လမ်းများ ဖေါက်လုပ်ခြင်း၊ တန်တားများခင်းခြင်း၊ လမ်းများ မပျက် စီးစေရန် ရေမြောင်းများ တူးပေးခြင်း အစရှိသော လုပ် ငန်းများကိုလည်းလုပ်ပေးသင့်ပေသည်။

အင်္ဂလန်နိုင်ငံတွင် သမိုင်းဝင် သဘာဝအလှ စုဝေးရာ ဒေသများ သာယာမှု ပြုစုစောင့်ရှောက်ရန် အမျိုးသား ဘဏ္ဍာထိန်းအဖွဲ့နှင့် အင်္ဂလန်နိုင်ငံ ကျေးလက် တောရွာ ထိန်းသိမ်းရေး ကောင်စီတို့သည် တောလက် ကျေးရွာရှိ မြေနေရာ အမြောက်အမြားကို ဝယ်ယူ၍ လူအများအတွက် သာယာသော ရှုခင်းများအဖြစ် ပြုပြင်စီရင် ထားကြသည်။ ထိုအဖွဲ့များနှင့် အခြားအလားတူ အဖွဲ့များသည် ကျေး ရွာသာယာမှုကို ထိန်းသိမ်းစောင့်ရှောက်ရုံမျှမက လူအများ အား အဆိုပါ ထိန်းသိမ်းမှု ပညာရပ်များကို သင်ကြားပေး ခြင်းနှင့် ထိုလုပ်ငန်းများတွင် စိတ်ပါဝင်စား လာအောင် ဝါဒ ဖြန့်ခြင်းကိုပါ ပြုလုပ်ပေးလေသည်။ ပမာအားဖြင့် တောတွင်းသို့ ပျော်ပွဲစား ထွက်သူတို့အား မီးကြွင်းမီးကျန် များ မထားခဲ့ရန်၎င်း၊ အမှိုက်သရိုက် ပုလင်းကွဲပန်းကန်ကွဲ များကို အရမ်းမဲ့ မပစ်ခဲ့ရန်၎င်း၊ တောပန်း၊ တောင်ပန်း များကို မဖျက်ဆီးရန်၎င်း တိုက်တွန်းနှိုးဆော်ကြသည်။

ထိုမှတပါး ယင်းအသင်းများက ကြီးမှူး၍ အခါအား လျော်စွာ ပန်းရိုင်းများ စုဆောင်းခြင်း၊ ပန်းရိုင်းပြိုင်ပွဲများ ကျင်းပခြင်းစသော လုပ်ငန်းများကိုလည်း ပြုလုပ်ပေးလေ သည်။ အခြား နိုင်ငံကြီး များတွင်လည်း အလားတူ အသင်း များရှိကြသည်။

မြန်မာနိုင်ငံတွင် ကျေးလက်တောရွာများ ထိန်းသိမ်း စောင့်ရှောက်ရန်အတွက် သီးခြားအဖွဲ့အစည်းများ မရှိသေး သော်လည်း မြန်မာနိုင်ငံ သစ်တောဥပဒေများတွင် တော တွင်းတိရစ္ဆာန်နှင့် သစ်ပင်ဝါးပင်များကို အရမ်းမဲ့ မဖျက်ဆီး နိုင်စေရန် ကန့်သတ်ချက်များ ထားရှိပေသည်။ မြန်မာ နိုင်ငံအတွင်းရှိ အချို့ကျေးလက်တောရွာများနှင့် ပင်လယ် ရေချိုးဆိပ် ဒေသများကို ဒေသန္တရ အဖွဲ့အစည်းများက သော်၎င်း၊ လူမှုဝန်ထမ်းအဖွဲ့အစည်းများကသော်၎င်း စံနစ် တကျ ထိန်းသိမ်းစောင့်ရှောက် သွားပါက မြန်မာနိုင်ငံ အတွင်းတွင် ကျေးရွာ၏ သဘာဝအလှ သာယာမှုများကို ယခုထက် ဆတက်ထမ်းပိုး တိုး၍ခံစား နိုင်ကြပေလိမ့်မည်။

**ကျော်စွာမင်းများ။** ။မြန်မာနိုင်ငံသမိုင်းတွင် ကျော်စွာ ဘွဲ့ခံ မင်းများ ပေါ်ထွန်းခဲ့ရာ ပုဂံမင်း ဆက်တွင် တပါး၊ ပင်းယမင်းဆက်တွင် နှစ်ပါး၊ ပေါင်း ၃ ပါးတို့မှာ ထင်ရှား သော မင်းများဖြစ်၍ အောက်တွင် သက္ကရာဇ်စဉ်အလိုက် ဖေါ်ပြထားလေသည်။

**ကျော်စွာ (သက္ကရာဇ် ၆၄၇–၆၆၀)။** ။ဤမင်းသည် ပုဂံမင်း ၅၅ ဆက်တွင် ၅၃ ဆက်မြောက် မင်းဖြစ်သည်။ နရသီဟပတေ့ တရုပ်ပြေးမင်း၏ သားတော်အငယ်ဖြစ်၍ မင်းသားဘဝက ဒလမြို့ကို စားရသဖြင့် ဒလစား ကျော်စွာ ဟုတွင်သည်။ သက္ကရာဇ် ၆၄၇ ခုနှစ်တွင် သီဟသူမင်း ကကုန်သဖြင့် ထီးနန်းဆက်ခံသည်။ (နရသီဟပတေ့မင်း— လည်းရှု။)

ကျော်စွာမင်းလက်ထက် ရခိုင်မဥ္စဝတီ၊ ပဲခူး၊ မုတ္တမ၊ ယိုး ဒယား၊ လင်းဇင်း၊ လဝိုက်၊ ယွန်းပြည်၊ ဂုံပြည်၊ လူးပြည်၊ မိုင်းမျဉ်း စသောပြည်နယ်များက ထောင်ထား ခြားနား ကြသည်။ သံလွင်မြစ် အနောက်ဖက် ဒေသများ၊ စောလုံ ရှမ်းကိုးပြည်နှင့် ပုသိမ် ၃၂ မြို့တို့သည်သာ ကျော်စွာမင်း၏ ပိုင်ဆိုင်သော နယ်များဖြစ်ကြသည်။

ထိုမင်း၏ မိဖုရားများကား ကျစွာမင်းကြီး၏ မြေးတော် စောခင်ထွတ်၊ ပုသိမ်စား ဥဇနာ၏ နှမ ဖွားစောရှင် နှင့် တရုပ်ပြေးမင်း၏ သမီးတော် မင်းစောဦးတို့ ဖြစ်သည်။

ကျော်စွာမင်းလက်ထက် ခမည်းတော် သူကောင်းပြုခဲ့သော သိင်္ခဗိုလ်၏ သား ၃ ဦး ဖြစ်သည့် မြင်စိုင်းမြို့စား အသင်္ခယာ၊ မက္ခရာမြို့စား ရာဇသင်္ကြံ၊ ပင်လယ်မြို့စား သီဟသူ မည်သော ရှမ်းညီနောင် ၃ ဦးတို့ တန်ခိုး ကြီးမား လာကြသည်။ ထိုအခိုက်တွင် ကျော်စွာမင်းက မိဖုရားစောကို အတိုင်အပင် မရှိသဖြင့် မိဖုရားစောက စိတ်နာ၍ ရန်ငြိုးဖွဲ့လေသည်။ သက္ကရာဇ် ၆၆၀ ပြည့်တွင် ရှမ်းညီနောင် ၃ ဦးတို့သည် မိဖုရားစော၏ အကူအညီဖြင့် မင်းကြီးကို မြင်စိုင်းမြို့သို့ လှည့်ပတ်ခေါ်ဆောင်ပြီးလျှင် နန်းချကာ သင်္ကန်းဝတ်စေကြသည်။

၆၆၂ ခုနှစ်တွင် တရုပ်စစ်သည်များ ချီတက်လာသဖြင့် ရှမ်းညီနောင်တို့က ကျော်စွာကို လုပ်ကြံလေသည်။ ၎င်းမင်း လွန်သော် သားတော် စောနစ်ပုဂံထီးနန်းကို ဆက်ခံသည်။

**ကျော်စွာ (၇၀၄-၇၁၂)။** ။၎င်းမင်းသည် ပင်းယမင်း ၆ ဆက်တွင် ၃ ဆက်မြောက် မင်းဖြစ်သည်။ တစီးရှင် သီဟသူ၏သားတော်ဖြစ်၍ မင်းသားဘဝက ပင်လယ်မြို့ကို စားရသည်။ ပင်လယ်မြို့မှ ဆင်ဖြူငါးစီးရသောကြောင့် ငါးစီးရှင်ကျော်စွာဟု ခေါ်တွင်သည်။ သက္ကရာဇ် ၇၀၄ ခုနှစ်တွင် နောင်တော် ဥဇနာမင်းက ထီးနန်းကို လွှဲအပ်ပေးသဖြင့် နန်းတက်ရသည်။ ထိုမင်းသည် ပညာရှိများနှင့် သူရဲကောင်းများကိုချီးမြှင့် မြှောက်စားတော်မူလေ့ရှိသည်။ ထိုမင်းလက်ထက် မြင်းစီးသူရဲကောင်းများ ပေါ်ထွက်ခဲ့သည်။ မင်းကြီးကိုယ်တိုင်ကလည်း မြင်းစီးခြင်း ကာကခြင်းများကို ဝါသနာ ထုံလေသည်။ 'တာဝတိံသာ နတ်ရွာလော၊ နတ်ရွာလော' အစချီသည့် မြင်စိုင်းမြို့ဖွဲ့ ကာချင်းကို မင်းကြီးကိုယ်တိုင် သီဆို၍ ကာကတော် မူကြောင်းနှင့် သမိုင်း အလာရှိသည်။ ထိုကာချင်းတွင် မြင်စိုင်းမြို့ကြီး သာယာပုံ၊ မင်းကြီး၌ ခြွေရံသင်းပင်း၊ ဆင်မြင်းဗိုလ်ပါ ပေါများပုံ၊ တရုပ်စစ်သည်တို့ကို မြန်မာသူရဲကောင်းများက တွန်းလှန်တိုက်ထုတ် လိုက်ပုံများကို သီကုံး ဖွဲ့နွဲ့ထားသည်မှာ ဇာတိမာန် တက်စရာပင် ဖြစ်သည်။

ကျော်စွာမင်းတွင် ခင်ညို အမည်ရှိသော ကျွန်ယုံတော် တဦးရှိသည်။ ကျော်စွာ မင်းသားဘဝက ညီတော် စစ်ကိုင်းစား အသင်္ခယာ စောယွမ်းကို လုပ်ကြံရန် ခင်ညိုအား စေခိုင်းဘူးသည်။ သို့ရာတွင် ခင်ညိုမှာ ထမင်းရှင်၏ ကျေးဇူးကို သိတတ်သူ ဖြစ်သဖြင့် လုပ်ကြံခွင့် ရသော်လည်း မလုပ်ကြံဘဲ ပြန်ခဲ့သည်။ အကျိုးအကြောင်းကို ပြန်လည် လျှောက်တင်သောအခါ ကျော်စွာက အမျက်မထွက်ဘဲ ဆုလပ်များပင် ပေးသေးသည်။ ကျော်စွာမင်းသည် ပင်းယမြို့ အနောက်တောင်ထောင့် အရပ်၌ လေးမျက်နှာဘုရား တည်တော်မူသည်။ ဘုရား မပြီးမီ ဝေဒနာ ကျရောက်၍ သက္ကရာဇ် ၇၁၂ ခုနှစ်တွင် နတ်ပြည်စံလွန်သည်။

**ကျော်စွာ (၇၁၂-၇၂၁)။** ။၎င်းမင်းသည် ငါးစီးရှင် ကျော်စွာ၏သားဖြစ်၍ ပင်းယမင်းဆက်တွင် ၄ ဆက်မြောက် မင်းဖြစ်သည်။ သက္ကရာဇ် ၇၁၂ ခုနှစ်တွင် ခမည်းတော် လွန်သဖြင့် ထီးနန်း ဆက်ခံရသည်။ ၎င်းမင်းကို ၄ စီးရှင် ကျော်စွာဟုလည်း ခေါ်ကြသည်။ မင်းကြီး၏ မိဖုရားများကား သရက် မင်းရှင်စော၏ သမီး စောဥမ္မာနှင့် စိုးမင်း ကိုယ်တော်ကြီး၏ သမီး ရှင်စောကြီးတို့ ဖြစ်ကြသည်။ မင်းကြီးသည် တူးရွှင်းတောင်ခြေ၌ ဥမင်ဘုရားကို တည်တော်မူခဲ့သည်။

သက္ကရာဇ် ၇၂၁ ခုနှစ်တွင် တောင်ငူစား သင်္ခပါ ခြားနား၍ ရမည်းသင်း၊ ပက်ပိုင်၊ ပြကောင်၊ တောင်ညို၊ တမြင်ဆန်း တည်းဟူသော ရေလွှဲ ငါးခရိုင်ကို ထိုး၍ သို့ပန်းယူသည်။ ထိုနှစ်တွင် ကျော်စွာမင်း နတ်ပြည် စံလွန်တော်မူ၍ ညီတော် နရသူကထီးနန်းဆက်ခံသည်။

**ကျော်ရင်။ဦး (မီးပုံးပျံ)။** ။မြန်မာ နိုင်ငံတွင် ၁၉၂၉ ခုနှစ်က အလွန်ထူးချွန် ရဲရင့်သည့် မြန်မာသူရဲကောင်း တဦး ပေါ်ထွန်းခဲ့သည်။ ထိုပုဂ္ဂိုလ်မှာ မိမိကိုယ်တိုင်ကြံစည်ပြုလုပ်သော မီးပုံးပျံကို မြန်မာနိုင်ငံ အရပ်ရပ်တွင် စီးနင်းလိုက်ပါယင်း ဘားဂျမ်း အမျိုးမျိုးကစားကာ အသက်ဆံဖျား စွန့်စားပြခဲ့သဖြင့် (မီးပုံးပျံ) ဦးကျော်ရင်ဟုကျော်ကြားခဲ့သူဖြစ်သည်။

ဦးကျော်ရင်သည် အဖဦးရွှေဘွား အမိဒေါ်မန်းရယ်တို့၏ ပဌမ သားဖြစ်၍၊ ၁၈၇၃ ခုနှစ်တွင် ထားဝယ်နယ် ပန်းတလဲရွာ၌ ဖွားမြင်သည်။ ငယ်စဉ်က ဂျမ်းဘား နပန်း အပြေးပြိုင် စသော ကျန်းမာရေး ကစားခုန်စားမှုများကို လိုက်စားခဲ့သဖြင့်၊ အသက် ကြီးရင့်သည့်တိုင်အောင် ပေါ့ပါးသည်။ ထူးထူးခြားခြား စွန့်စား ကြံစည်လိုစိတ် ရှိ၍ မဖြစ်မနေ ကြိုးစားမည်ဟူသောဇွဲမျိုး ရှိသည်။

သူသည် မြန်မာစာမျှသာ သင်ကြားခဲ့ရ၍၊ ၁၉၂၉ ခုနှစ်တွင် ပထမအကြိမ် မီးပုံးပျံစီးစဉ်က ထားဝယ်မြို့ အစိုးရအထက်တန်းကျောင်း၌ ပုံဆွဲဆရာအဖြစ် အမှုထမ်းလျက်ရှိသည်။ ထိုစဉ်က ဦးကျော်ရင်သည် အသက် ၆၀ တွင်းသို့ ရောက်နေပြီ ဖြစ်သည်ကတကြောင်း၊ အင်ဂျင်နီယာစသော ခေတ်ပညာမျိုး တတ်မြောက်ခြင်း မရှိသည်က တကြောင်း တို့ကြောင့် ဆိုင်ရာအာဏာပိုင်များ ထံမှ မီးပုံးပျံ စီးပြခွင့် ရရန် ခက်ခဲစွာ ကြိုးစားခဲ့ရသည်။

ဦးကျော်ရင်၏ မီးပုံးပျံမှာ ပိတ်ဖြူဖြင့် ချုပ်လုပ်ထားသည်။ လုံးပတ် အတောင် ၁၀၀၊ အမြင့် အတောင် ၃၀ ခန့်ရှိ၍၊ ရေနံချေးမှိုင်းဖြင့် တက်ရသည်။ လေငြိမ်၍ မှိုင်းကောင်းစွာ ဝလျှင် အမြင့် ၂ မိုင်ခန့် အထိတက်နိုင်၏။ ဦးကျော်ရင်က မီးပုံးပျံ အောက်ဖက်ကြိုးတန်း အဆုံးရှိ

သံဘားတန်းပေါ်၌ ဂျွမ်းအမျိုးမျိုး ထိုးပြီး လိုက်ပါလေ့ရှိသည်။ တကြိမ်တွင် ၁၉၃၀ ပြည့်နှစ်အတွင်း ရန်ကုန်မြို့ ကန်တော်ကြီး အလယ်ကျွန်း (ယခု ဗိုလ်ချုပ်အောင်ဆန်းပန်းခြံ)၌မီးပုံးပျံ စီးပြစဉ် သစ်ပင်နှင့်ရိုက်မိကာ လမ်းပေါ်သို့ ကျရာမှ ခြေထောက်နှင့် မေးစေ့တွင် ဒဏ်ရာရသွားဘူးသည်။ သို့သော် ဦးကျော်ရင်သည် ထိုအန္တရာယ်မျှကို အမှုမထားဘဲ ဒဏ်ရာပျောက်ပြန်သော် စီးမြဲစီးပြန်သည်။ ဦးကျော်ရင်၏ စွန့်စားမှုမှာ အသက်အန္တရာယ်နှင့် နီးလှသည့်အတိုင်း၊ သူသည် အကြိမ်ပေါင်း များစွာပင် အသက်ဘေးမှ သီသီကလေးလွတ်မြောက်ခဲ့ရပေသည်။

ဦးကျော်ရင်သည် ၁၉၂၉ ခုနှစ်မှ ၁၉၃၉ ခုနှစ်အထိ အသက်အားဖြင့် ၅၆ နှစ်မှ ၆၆ နှစ်အထိ မီးပုံးပျံ ၅ လုံးဖြင့် မြန်မာနိုင်ငံ အရပ်ရပ်၌ ၅၅ ကြိမ်တိုင်တိုင် စွန့်စွန့်စားစား စီးပြခဲ့သည်။ များသောအားဖြင့် ဘုရားရန်ပုံငွေ စာသင်ကျောင်းရန်ပုံငွေ စသည်တို့အတွက် အလှူပွဲများသာဖြစ်သည်။ သူ၏ စွန့်စားမှုကြောင့် ဆုအမျိုးမျိုး တံဆိပ်အမျိုးမျိုး ချီးမြှင့်ခြင်းခံခဲ့ရသည်။

ဦးကျော်ရင်သည် သူ၏အစွမ်းသတ္တိကို ကမ္ဘာလှည့်ပြရန် ကြိုးစားခဲ့ဘူး၏။ သို့သော် နိုင်ငံခြား အစိုးရများထံမှ မီးပုံးပျံ စီးပြခွင့် ရရှိရေး မလွယ်ကူမှုကြောင့် ထိုအကြံ အထမမြောက်ခဲ့ချေ။

ဦးကျော်ရင်သည် နောက်ဆုံးအကြိမ် မီးပုံးပျံ စီးပြသည့် ၁၉၃၉ ခုနှစ်မှာပင် ထားဝယ်မြို့၌ ကွယ်လွန်ခဲ့လေသည်။




မီးပုံးပျံစီး မြန်မာသူရဲကောင်း ဦးကျော်ရင်

**ကျော်ရွှေ့၊ဦး။** ။မြန်မာ သဘင်လောကတွင် ထင်ရှားသော လူရွှင်တော်များအနက် ဦးကျော်ရွှေ့သည် တဦးအပါအဝင်ဖြစ်သည်။ သူသည် မြန်မာနိုင်ငံ အထက်ပိုင်းတွင် မွေးဖွား၍ ဇာတ်သဘင် နယ်ထဲသို့ မြေဝိုင်းဗုံရှည်ခေတ်က မြေဝိုင်းလူပျက် အဖြစ် စတင် ဝင်ရောက်ခဲ့သည်။ ထိုနောက်နာမည်ကြီးသော ဆရာပု ရုပ်သေးစင်တွင် ရုပ်သေး လူရွှင်တော် အဖြစ်ပါဝင်ခဲ့၏။

ဦးကျော်ရွှေ့နှင့် တွဲဖက် အသုံးတော်ခံသူမှာ လူရွှင်တော်စန္ဒရော် ဖြစ်၏။ စန္ဒရော်၏ ရုပ်သေးရုပ်မှာ ကြက်တောင်စည်းနှင့် ဖြစ်၍ ကျော်ရွှေ့၏ ရုပ်သေးရုပ်မှာ နာမည်နှင့်လိုက်အောင် မျက်နှာရွှဲ့၍ နားပန်ဆံနှင့် ထုလုပ်ထားသည်။ ဆရာပုစင်တွင် သူတို့ ၂ ဦးအပြင် မင်းသားကြီး ပိဋကတ်ဆရာမောင် လည်းပါသည်။ ဆရာပုစင်သည် ရန်ကုန်မြို့သို့ဆင်း၍ ကပြလေ့ရှိရာ ဇာတ်စင်နေရာမှာ ရွှေးက မှုံတီကုန်းဟုခေါ်သော စစ်ကဲ မောင်ထော်လေးလမ်း ခရစ်ယန် ဘုရားရှိခိုးကျောင်းနှင့် မျက်နှာချင်းဆိုင် နေရာ ကွက်လပ်ဖြစ်သည်။

ဦးကျော်ရွှေ့၏ ပျက်လုံးများမှာ ယဉ်ယဉ်နှင့် အဓိပ္ပါယ်ပါလှ၍ ပရိသတ်များ တသောသော ရယ်ရအောင် စွမ်းဆောင် နိုင်လေသည်။ ညတညတွင် ဦးကျော်ရွှေ့နှင့် ဦးစန္ဒရော် လူရွှင်တော် ၂ ဦးတို့ ပျက်လုံး ထုတ်ပုံမှာ အောက်ပါအတိုင်း ဖြစ်သည်။

'ရွှေတိဂုံ တည်သူများ မင်းသိရဲလား' ဟုသီချင်းသွားဖြင့် ဆင့်ကာဆင့်ကာ ပထမလူက မေးလိုက်သည်။ ဆိုင်းကလည်း သီချင်းသွားအလိုက် တီးပေးသည်။ ထိုအခါ ဒုတိယလူက 'မသိလို့ မောင်ရယ် မောင်ရယ် မေးပါရတယ်' ဟုသီချင်းကို ဆိုင်းချက်နှင့်ဆင့်ကာဆင့်ကာ ဆို၍ဖြေသည်။

ထိုသို့ အပြန်အလှန် သီဆိုနေကြပြီးနောက် ပထမလူက ဒုတိယလူ၏ ကုပ်ကို နှိမ်၊ ကျောကို ထုထောင်းပြီး လျှင် 'မသေမခြင်းမှတ်ထား၊ပုရန်တည်တယ်၊' ဟုပြောလိုက်သည်။

ဦးကျော်ရှိ့သည် စကားဝှက်ဖြင့် ပျက်လုံးများကို ထွင်၍လည်း ပျက်တတ်သည်။ 'အထိုင်မတော် တံမြက်စည်း' ဆိုသော စကားဝှက်ကို 'အထိုင်မတတ်တော့ မပေါ်ဘူးလား၊ တံမြက်စည်းက မလှဲဘူးလား။' 'ပေါ်လှဲ ပဲလှော်' ဟုအဓိပ္ပါယ်ဖွင့်လိုက်ရာ ပရိသတ်များ နှစ်သက်ရယ်မောကြသည်။ သူသည် ဇဝနပဋိဘာန် ဉာဏ်ထက်မြက်သူ တဦးဖြစ်သည့်အလျောက် ဟာသ ပျက်လုံးများကို နိုင်နင်းသည်သာမက ဇာတ်ကွက် ဇာတ်လမ်း အဆင်ပြေသွားစေရန် စကားဖန် ထိုးတတ်သူလည်း ဖြစ်သည်။ ထိုကြောင့် သူ့အား လူကြိုက်များသည်။

ဦးကျော်ရှိ့သည် ရုပ်သေး လူရွှင်တော် အဖြစ်မျှ အသုံးတော် ခံရသည်ကို မကျေနပ် နိုင်သဖြင့် ရုပ်သေးစင်မှ ထွက်ပြီးသော် ဦးစိန်ကတုံး ဇာတ်အဖွဲ့တွင် ဝင်ရောက်၍ ဇာတ်ခုံပေါ်သို့ လူကိုယ်တိုင် တက်ရောက် ဖြေဖျော်ခဲ့သည်။ ထိုနောက် ဦးဖိုးစိန် ဇာတ်အဖွဲ့သို့ ကူးပြောင်း၍ ကပြ အသုံးတော်ခံသည်။ ဦးကျော်ရှိ့မှာ မြန်မာ ဘုရင်လက်ထက်ကို မှီလိုက်သော သဘင်သည်ကြီး တဦးဖြစ်ပေသည်။ (စိန်ကတုံး။ ဦး၊ ဖိုးစိန်။ ဦး၊ မြန်မာသဘင် — လည်းရှု။)

# မြန်မာစာပေသမိုင်းတွင် မမေ့ထိုက်သူများ

**ကျော်အောင်စံထား ဆရာတော်များ ဟူ၍ မြန်မာစာပေလောကတွင် ထင်ရှားသည့် ပုဂ္ဂိုလ်များသည် ဗဟုသုတတွင် ရင်း၊ သတ်ညွှန်းတွင်ရင်း၊ အားထားရာပညာရှင်များဖြစ်သဖြင့် သူတို့၏အတ္ထုပ္ပတ္တိများကိုသိသင့်ပေသည်။**

**ကျော်အောင်စံထား ဆရာတော်များ။** ။ကျော်အောင်စံထားအမည်ဖြင့် ဆရာတော် ၄ ပါး ပေါ်ထွန်းခဲ့ကြောင်းကို ဟင်္သာတမြို့ မြစ်ကွေ့ဆရာတော် အသျှင်ပညာဝံသ၏ မှတ်တမ်းအရသိရသည်။ ထိုဆရာတော်တို့မှာ(၁)ပဌမကျော်အောင်စံထား အသျှင်ဥာဏဝရ (၂) ဒုတိယကျော်အောင်စံထား အသျှင်ဂုဏာစာရ (၃) တတိယကျော်အောင်စံထား အသျှင်ဝရနှင့် (၄) စတုတ္ထကျော်အောင်စံထား အသျှင်ကဝိန္ဒတို့ဖြစ်ကြ၏။ ထိုဆရာတော်များအနက် အဘိဓမ္မတ္ထ သင်္ဂဟဂဏ္ဌိကျမ်းနှင့် မာဂဓအဘိဓာန် စာကိုယ်နိသျတို့ကို ပြုစုခဲ့သော ပဌမကျော်အောင် စံထားဆရာတော်နှင့် မာဂဓအဘိဓာန် ဋီကာနိသျ ဟောင်း နှင့် ဝေါဟာရတ္ထပကာသနီကျမ်းတို့ကို ပြုစုခဲ့သော ဒုတိယကျော်အောင်စံထား ဆရာတော်တို့သာ ထင်ရှား၍ ကျန်ဆရာတော်နှစ်ပါးတို့၏အကြောင်းကိုမူ ကောင်းစွာမသိရချေ။

### ကျော်အောင်စံထားဆရာတော်၊ပဌမ။

ပဌမကျော်အောင်စံထားဟူ၍ ထင်ရှားသော ဆရာတော်ကား၊သက္ကရာဇ် ၁၀၆၇ ခုနှစ်၊ ပုခန်းကြီးမြို့စီရင်စု ပိုက်သင်ရွာတွင် အဖဦးရွှေအောင်၊ အမိဒေါ်ကြူတတ်တို့မှ ဖွားမြင်သည်။ ငယ်မည်မှာ မောင်ပန်းအောင်ဖြစ်၏။ အင်္ဂါသားတည်း။

အသက် ၆ နှစ်အရွယ်တွင် မိဖများက ပုခန်းကြီးမြို့တောင်ဖက်၊ နောင်ဘရွာ နိဗ္ဗာန်ကျောင်းဆရာ ဓမ္မနန္ဒာလင်္ကာရမဟာထေရ်၏တပည့် ပိဋကတ်ဗေဒင်တတ်လှသော အသျှင်စန္ဒမဉ္ဇူသာ ထံတွင်အပ်နှံသည်။ ကျောင်းနေသူငယ်အဖြစ်နှင့်ပင် မဟာနိပါတ်၊ ဇာတ်ကြီးဆယ်ဘွဲ့တို့ကို ကုန်အောင်သင်အံလေ့ကျက်ခဲ့ရသည်။ ထိုနောက်သာမဏေပြုရာ၊ ၃ နှစ်အတွင်း သာမဏေတို့သင်ရိုးကုန်သဖြင့် သာမဏေကျော်ဟုထင်ရှားသည်။ သာမဏေဘွဲ့မှာ ရှင်ဥာဏဝရဖြစ်သည်။

သက္ကရာဇ် ၁၀၈၅ ခုနှစ်တွင် ဆရာရင်းဖြစ်သော အသျှင်စန္ဒမဉ္ဇူသာ ပျံလွန်တော်မူသဖြင့်၊ အဝမြို့တော်သို့တက်၍၊ မင်းဆရာတော်ဖြစ်သော အောင်မြေစံလွှတ် မိုးထိဆရာတော်ထံ တပည့်ခံသည်။ အသက် ၁၉ နှစ်တွင် ပဌမကျော်ဘွဲ့ရသည်။

ပဌမကျော်ဘွဲ့ရပြီးနောက် နေရင်းရွာသို့ပြန်၍၊ ပုခန်းစည်သူရှင်ဘုရား အနောက်မျက်နှာရှိ မတောင့်တကျောင်းတွင် စာပေကျမ်းဂန်ပို့ချသည်။ ထိုစဉ်အတွင်း ဆရာတော်သည် မင်း၏တံဆိပ်တော်နာမံတော်ကို ဖွင့်ပြရာဖြစ်သော ရာဇာဓိ ရာဇာ နာမတ္ထ ပကာ သနီ ကျမ်း ကို ပြုစု သည်။ ရာဇလက်ာရကျမ်း၊ ကစ္စာယန သာရနိသျသစ်အကျယ်၊ ကမ္မဝါစာဂဏ္ဌိကျမ်း၊ ဒုဋ္ဌက္ခရဂဏ္ဌိ ကျမ်း၊ စက္ကက်ဝိနိစ္ဆယ၊ မဟာနမက္ကာရပါဌ်နိသျ၊ အဌသာလိနီဂဏ္ဌိပဒ္ဓကျမ်း၊ ပါတိမောက္ခလိယတန ကျမ်းများကိုပြုစုတော်မူသည်။ အဘိဓမ္မတ္ထသင်္ဂဟ အဌကထာ ကို လည်း မြန် မာ ဘာ သာ ဖြင့် အဖွင့်ဂဏ္ဌိကို စီရင်တော်မူသည်။

ထိုနောက် အဝ မြို့ သို့ပြန် ၍၊ ဟံသာဝတီရောက် မင်းကကပ်လှူ သော ကျောင်း ဆောင် ယယ် ပေါင်း ၁၀၀ ရှိသည့် ကျော်အောင်စံထားကျောင်းတွင် သီတင်းသုံးသည်။ ကျော်အောင်စံထားဟု ကမ္ပည်းတပ်ထားသောကျောင်းတွင်ပဌမ

ဦးဆုံး သီတင်းသုံးသည်ဖြစ်၍ ကျောင်းကိုအစွဲပြုလျက် ပဌမ ကျော်အောင်စံထား ဆရာတော်ဟု တွင်သည်။ ယင်းကျောင်းတွင် သီတင်းသုံး၍ တပည့်တပန်း တို့အား စာပေပို့ချရာ၊ တပည့်များထဲတွင် နောင်အခါ ဒုတိယ ကျော်အောင်စံထားအမည်နှင့် ထင်ရှားမည့် အသျှင် ဂုဏာစာရနှင့် ကဝိလက္ခဏာ သတ်ပုံကျမ်းပြုဆရာအဖြစ်နှင့် ကျော်ကြားလတ္တံ့သော စိန္တကျော်သူဦးဩတို့ပါဝင်ကြသည်။ (စိန္တကျော်သူဦးဩ။ — ရှု။)

ဆရာတော်သည် သက်တော် ၄၁ နှစ်တွင် ခက်ခဲနက်နဲသော အဘိဓာန်ပ္ပဒီပိကာ အမည်ရှိသော မာဂဓဘာသာ အဘိဓာန်ကျမ်း၏ နိသျကိုပြုစုသည်။ ယင်းအဘိဓာန်နိသျ ပြီးစီးသည်နှင့် ၁၁၀၈ ခုနှစ်တွင်၊ ယိုသစ်စထန်းရည်အုန်းရည်တို့ကို ရဟန်းတို့သောက်သင့်မသောက်သင့် ပလိုင်းဆရာတော်အရှင်သုဇာတနှင့် အငြင်းအခုံရှိသဖြင့်၊ သုရာဝိနိစ္ဆယနှင့် အနုသုရာဝိနိစ္ဆယကျမ်းများကို ရေးသားစီရင်သည်။

ထိုနောက်တိုင်းပြည် မငြိမ်မသက်ရှိသည်နှင့် ဆရာတော်သည် အရညဝါသီ တောမှီခိုအောင်း သီတင်းသုံးလိုကြောင်းဖြင့် ဘုရင်မင်းမြတ်ထံ စာသွင်းရာ ၃ ကြိမ် ၃ ခါမြောက်မှ အခွင့်ရ၏။ ရလျှင်ရခြင်းပင် အလုံမြို့ကျေးလက် ညောင်ကန်ရွာသို့ကြွသွား၍ ညောင်ကန်ရွာ အနောက်တိုက်ခေါ်သည့်ကျောင်းတိုက်၏တံတိုင်း၏အရှေ့ဖက်တွင်ဝါးကျောင်းဆောက်၍ သီတင်းသုံးတော်မူသည်။

ပဌမကျော်အောင်စံထား ဆရာတော်သည် အလောင်းမင်းတရားကြီး မြန်မာနိုင်ငံတော်ကို အသစ်တည်ထောင်ကာ၊ ကုန်းဘောင်ရွှေမြို့တော်တွင် ကြငှန်းဖွင့်သော သက္ကရာဇ် ၁၁၁၅ ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်။

### ကျော်အောင်စံထားဆရာတော်၊ဒုတိယ။

မြန်မာသက္ကရာဇ် ၁၀၆၀ ကျော်ခန့်တွင် မြန်မာ စာပေလောက၌ ထူးခြားသောပုဂ္ဂိုလ် ၄ ဦးပေါ်ပေါက်ခဲ့သည်။ ယင်းပုဂ္ဂိုလ်တို့မှာ (၁) ဝန်ကြီးပဒေသရာဇာ (၂) ရာဇဝင်ဆရာဦးကုလား (၃) အသျှင်ဥက္ကံသမာလာနှင့် (၄) ဒုတိယကျော်အောင်စံထား ဆရာတော်တို့ဖြစ်သည်။

ဒုတိယကျော်အောင်စံထား ဟူသောအမည်ဖြင့် ကျော်ကြားခဲ့သောဆရာတော်ကား မြန်မာစာပေ ပြန်လည်ထူထောင်သည့် ညောင်ရမ်းခေတ် သက္ကရာဇ် ၁၀၁၀ ပြည့်နှစ်တွင် ဇေင်ရိုင်းရွာ၌ ဖွားမြင်သည်။ ထိုပုဂ္ဂိုလ်၏ငယ်မည်၊ မိဖအမည်နှင့် ငယ်ဆရာ အမည်တို့ကိုကား မသိရချေ။ သို့သော် ပဌမကျော်အောင်စံထား ဆရာတော်၏တပည့်ဖြစ်ကြောင်းကိုမူ သိရှိမှတ်သားရပေသည်။ ရှင်ဘွဲ့မှာဂုဏာစာရဖြစ်သည်။

ရတနာပူရ အင်းဝရွှေပြည် တတိယနန်းတည် ဆင်ဖြူရှင်မင်းလက်ထက် သူကောင်းပြုခံရသော အရွှတ်ဝန်မင်းသည် ရွှေမြို့တော် အရှေ့မျက်နှာ ကြေးနီချောင်း အနီးတွင် ကျောင်းဆောက်၍ အသျှင်ဂုဏာစာရအား လှူဒါန်းသည်။ ထိုအခါမှစ၍ အသျှင်ဂုဏာစာရသည် ကြေးနီချောင်း(ဝါ) ကြေးနီကျောင်းဆရာတော်ဟုထင်ရှားသည်။

သက္ကရာဇ် ၁၁၁၅ ခုနှစ်တွင် ဆရာဖြစ်သော ပဌမ ကျော်အောင်စံထားဆရာတော် ပျံလွန်တော်မူသည်တွင်၊ သက်တော် ၃၅ နှစ် မျှသာရှိသေးသောတပည့် ကြေးနီကျောင်းဆရာတော် အသျှင်ဂုဏာစာရသည် ကျော်အောင်စံထားကျောင်းတွင် ဒုတိယဆက်ခံ သီတင်းသုံးရလေသည်။ ထိုမှစ၍ဒုတိယကျော်အောင်စံထားဆရာတော်ဟု ထင်ရှားခဲ့၏။

ဒုတိယ ကျော်အောင်စံထား ဆရာတော်သည် ရှေးပညာရှိတို့ အပင့်အရစ်၊ သဝေ၊နိဂ္ဂဟိတ် သတ်ပုံသတ်ညွှန်းတို့ လွယ်ကူစေရန်၊ ပျို့ကဗျာလင်္ကာ ချေင်းတို့တွင် ကာရန်စောင့်၍ရှင်း၊ ခွဲထားပြု၍ရှင်း၊ စပ်ဆိုခဲ့သမျှကို မပြည့်စုံသည်ကိုဖြည့်စွက်၍ရှင်း၊ ရှိပြီးဝေါဟာရများကို စစ်ဆေးဝေဖန်၍ ယူသင့်သည်ကိုယူ၊ ပယ်သင့်သည်ကိုပယ်၊ သန့်စင်သင့်သည်ကိုသန့်စင်၊ စည်းပြုသင့်သည်ကိုစည်းပြု၍ရှင်း ဝေါဟာရတ္ထပကာသနီကျမ်းကြီးကို ပြုစုတော်မူရာ သက္ကရာဇ် ၁၁၃၁ ခု ကဆုန်လပြည့်ကျော် ၄ ရက်တွင် ကိုကျမ်းကြီးသည် ပြီးစီးအောင်မြင်ခဲ့၏။ မြန်မာဘာသာဗေဒပညာကို လေ့လာလိုက်စားသူတိုင်း လက်မလွှတ်ထိုက်သည့်ကျမ်းကြီးဖြစ်သည်။ ဝေါဟာရတ္ထပကာသနီကျမ်း ကဲ့သို့သောကျမ်းမျိုးကား မြန်မာ့ဂန္ထဝင်တွင် တစောင်တည်းသာ ထွက်ပေါ်ခဲ့ဘူးသည်ဟုဆိုရပေမည်။

စတုရင်္ဂဗလ အမတ်ကြီး ပြုစုခဲ့သော မာဂဓအဘိဓာန်ဋီကာပါဌ်ကိုလည်း စာသင်သားတို့အကျိုးစီးပွား အလို့ငှာ ဆရာတော်သည် မာဂဓအဘိဓာန်ဋီကာပါဌ်နိသျ အဖြစ်ဖြင့် ပြုစုတော်မူရာ သက္ကရာဇ် ၁၁၄၇ ခုနှစ်ပြီး၏။ ထို့မျှမကသေး၊ သက်တော် ၇၁ နှစ် သက္ကရာဇ် ၁၁၅၁ ခုနှစ်တွင် ဝုတ္တောဒယဆန်းကျမ်းနိသျနံ့ကျယ်ကြီးကိုလည်း ရေးသားပြုစုတော်မူလေသည်။

ပိဋကတ်သမိုင်းစာတမ်းအရ၊ ဒုတိယကျော်အောင်စံထားဆရာတော်သည်၊ အထက်ဖေါ်ပြပါကျမ်း ၃ ကျမ်းသာ ပြုစုခဲ့ကြောင်းသိရ၏။ ဆရာတော်သည်မည်သည့်ခုနှစ်တွင် ပျံလွန်တော်မူကြောင်းကိုကားမသိရချေ။

**ကျောခရိုးရှိသတ္တဝါ။** ။ကမ္ဘာ၌ ရှိရှိသမျှသော သက်ရှိသတ္တဝါ အားလုံးကို အကြမ်းအားဖြင့် အမြင့်တန်းစား သတ္တဝါမျိုးနှင့် အနိမ့်တန်းစား သတ္တဝါမျိုးဟူ၍ အပိုင်းကြီး နှစ်ပိုင်းခွဲထားသည်။ အမြင့်တန်းစား သတ္တဝါမျိုးတွင် ကျောခရိုးရှိသတ္တဝါများ အားလုံးပါရှိသည်။ အမည်

အားဖြင့်ပင် အဆိုပါ သတ္တဝါမျိုး၌ လှုပ်ရှားနိုင်သော အဆစ်များဖြင့် ဆက်လျက်ရှိသည့် ကျောရိုးပါရှိကြောင်း သိသာနိုင်ပေသည်။ များသောအားဖြင့် ဦးခေါင်းခွံလည်း ပါရှိတတ်၏။ ဒုတိယ အပိုင်းဖြစ်သော အနိမ့်တန်းစား သတ္တဝါတို့မှာ ကျောရိုးမဲ့ သတ္တဝါမျိုးဖြစ်၍၊ ယင်းတို့၌ ကျောရိုးရော ဦးထိပ်ခွံပါ မပါကြပေ။

အမြင့်တန်းစား သတ္တဝါမျိုးတွင် တဖန် မျိုးပေါင်းများအဖြစ်ဖြင့် အဆင့်ဆင့် ခွဲထားပြန်သည်။ ပဌမမျိုးပေါင်းတွင် နို့တိုက်သတ္တဝါများ ပါဝင်၍ ဤမျိုးပေါင်းတွင်လူသည် ထိပ်တန်းကလိုက်သည်။ နို့တိုက်သတ္တဝါတို့မှာ နွေးသော သွေးရှိ၍ လေကို အဆုတ်ဖြင့် ရှုရှိုက်ကြသည်။ အရေးအကြီးဆုံး အချက်မှာ ဤသတ္တဝါမျိုးသည် သားငယ်များအား မိမိတို့ ရင်၌ဖြစ်သော နို့ရည်ကို တိုက်ကျွေးခြင်းဖြင့် မွေးမြူပြုစုတတ်သောအချက်ပင်ဖြစ်၏။

ကျောရိုးရှိ သတ္တဝါများတွင် ငှက်များက ဒုတိယလိုက်သည်။ ယင်းတို့သည်လည်း သွေးနွေးသတ္တဝါများပင်ဖြစ်၍၊ လေကိုရှုရှိုက်ကြ၏။ သို့သော် ပဌမမျိုးပေါင်းစုနှင့် ကွာခြားချက်မှာ နို့တိုက်သတ္တဝါများ ကိုယ်ပေါ်၌ ဆံပင်ကဲ့သို့သော အမွေးအမှင်များ ဖုံးလွှမ်းလျက်ရှိ၍၊ ငှက်များ၌မူ ငှက်မွေးကဲ့သို့သော အမွေးအတောင်များဖြင့် ဖုံးလွှမ်းနေခြင်း ပင်ဖြစ်သည်။ တဖန် ငှက်တို့သည် ဥမှ ပေါက်ဖွားလာကြ၍၊ ယင်းတို့ကို ငယ်စဉ်က မိခင်ငှက်မများက ကျွေးမွေးပြုစု စောင့်ရှောက်သော်လည်း၊ နို့တိုက်သတ္တဝါတို့ကဲ့သို့ နို့တိုက်နိုင် ခြင်း မရှိချေ။

တတိယမျိုးပေါင်းမှာ တွားသွား ကောင် များ ဖြစ်ကြသည်။ ယင်းတို့၏ ကိုယ်တွင် အကြေးများ ဖုံးလွှမ်းလျက်ရှိ၍၊ တွားသွား တတ် သည့် သွေး အေး သတ္တဝါမျိုး ဖြစ်သည်။ ငှက်များအလားတူ ဥများကို အုကြသော်လည်း၊ ငှက်တို့ကဲ့သို့ ပေါက်ခါစ သားငယ်များကို ဂရုစိုက် စောင့်ရှောက်ခြင်း မရှိကြပေ။ ဥများ အုပြီးလျှင် ပစ်ထားတတ်ကြသည်။ သို့သော် တွားသွားကောင် ပေါက်စကလေးများသည် ဥမှပေါက်လာသည်နှင့် တပြိုင်နက် မိမိတို့၏ အစာကို မိမိတို့ဘာသာ ရှာဖွေစားသောက် နိုင်ကြသည်။ မြွေနှင့် ဖွတ်၊ ပုတတ်၊ ပုတ်သင် စသည်တို့မှာ တွားသွားကောင်များဖြစ်ကြသည်။

စတုတ္ထမျိုးပေါင်းဖြစ်သော ကျောရိုးရှိ သတ္တဝါမျိုးမှာ ကုန်း ရေ နှစ်ဌာနတွင် ကြီးပြင်းလာသော ဖါး များဖြစ်ကြသည်။ ယင်းတို့သည် ပဌမအရွယ်ကို ဖါးလောင်းအဖြစ်ဖြင့် ရေထဲ၌ ကုန်လွန်စေပြီးသော်၊ ကျန်အရွယ်ကို ကုန်းပေါ်၌ လေရှူသတ္တဝါအဖြစ်ဖြင့် ကုန်ဆုံးစေလေသည်။

ကျောရိုးရှိသတ္တဝါများအနက် အနိမ့်ဆုံး အတန်းစားဖြစ်သော ပဉ္စမမျိုးပေါင်းမှာ ရေထဲ၌ နေထိုင်ကျက်စားသည့် ငါးများပင်ဖြစ်သည်။ ယင်းတို့သည် သွေးအေးသတ္တဝါများဖြစ်၍၊ ပါးဟက်ဖြင့် အသက်ရှူကြသည်။ များသောအားဖြင့် ကိုယ်ပေါ်တွင် အကြေးများ ဖုံးလွှမ်းလျက်ရှိတတ်သည်။

ပါဏဗေဒ ပါရဂူအချို့က အမြင့်တန်းစား ကျောရိုးရှိသတ္တဝါများသည် တီကောင် အစရှိသည့် အနိမ့်တန်းစားသတ္တဝါများမှ တဖြည်းဖြည်း ဆင့်ကဲ ဖြစ်လာကြသည်ဟု ယူဆကြသည်။ သို့သော် ကျောရိုးရှိသတ္တဝါများ ဆင့်ကဲဖြစ်လာကြပုံနှင့် စပ်လျဉ်း၍၊ ပါဏဗေဒ ပါရဂူကြီးများ ယူဆပုံချင်း မတူကြချေ။ (နို့တိုက်သတ္တဝါ။ ငှက်။ တွားသွားကောင်။ ငါး—လည်းရှု။)

**ကျိုတိုမြို့။** ။ဤမြို့သည် ဂျပန်ယဉ်ကျေးမှု စတင်ထွန်းကားရာ မြို့ဖြစ်သည်။ 'အရှေ့ဖျား ရောမမြို့တော်' ဟု



ဂျပန်ဘုရင်တို့၏ နေပြည်တော်ဟောင်း ကျိုတိုမြို့မှ ယွန်းထည်လုပ်ငန်း

လည်းတွင်သည်။ ဂျပန်နိုင်ငံတွင် စတုတ္ထအကြီးဆုံး မြို့ကြီး ဖြစ်၍ ၇၉၄ ခုနှစ်မှ ၁၈၆၈ ခုနှစ်တိုင် မင်းနေပြည်တော် ဖြစ်ခဲ့သည်။ ကမ္ဘာပေါ်၌ အလှဆုံးသော မြို့ကြီးတမြို့ လည်းဖြစ်၏။

ကျိုတိုမြို့သည် ဟွန်းရှူးကျွန်း ဗီဝါအိုင် အနီးတွင် ရှိသည်။ စိမ်းစို မြင့်မားသော တောင်ကုန်းများ အနားသတ်ထားသည့် သာယာလှပသော လွင်ပြင်ပေါ်တွင် မြို့ တည်ရှိသည်။ ရှေးဟောင်းအနုပညာ၏ လက်ရာဖြစ်သော အဆောက်အအုံကြီးများ၊ လှပသော ပန်းဥယျာဉ်များ၊ ဘုံအဆင့်ဆင့်ရှိသော စေတီပုထိုးများ၊ ကျောင်းကန် တန်ဆောင်းကြီးများဖြင့် သိုက်မြိုက်တင့်တယ်လှသော မြို့ကြီး ဖြစ်သည်။ အဆောက်အအုံနှင့် လမ်းများ တည်ဆောက်ထားပုံမှာ တရုပ်ဆန်သည်။ လမ်းမကြီးများမှာ ဖြူးဖြောင့် ကျယ်ဝန်းပြီး တခုနှင့်တခု ထောင့်မှန်ကျကျ ဖြတ်လျက်ရှိလေသည်။

ကျိုတိုမှာ သာသနာရေး အချက်အခြာ မြို့ဖြစ်သည်။ ဗုဒ္ဓအယူဝါဒီ ဘုရားကျောင်း ၈၇၈ ခုရှိ၍၊ ရှင်တို အယူဝါဒီ ဆင်းတု ၈၂ ခုရှိသည်။ တန်ဆောင်း ကျောင်းကြီးများမှာ ကြီးမားခန့်ညားသော သစ်ပင်ကြီးများ အကြား၌ မြေခုံအဆင့်ဆင့်နှင့် တင့်တယ်စွာ တည်ရှိကြသည်။ ယင်းတို့အနက် ဘုရားကျောင်း တခုမှာ ကမ္ဘာပေါ်၌ အကြီးဆုံးသော သစ်အဆောက်အအုံကြီး ဖြစ်သည်။ အခြား အဓိကရ အဆောက်အအုံမှာ ဂျပန်မင်းများ စံပျော်ခဲ့သော နန်းတော်ကြီးနှင့် နီဂျိုရဲတိုက်ကြီး ဖြစ်သည်။ ထိုရဲတိုက်ကြီးမှာ ၁၇ ရာစုနှစ်၊ စံပြဗိသုကာလက်ရာဖြစ်သည်။



အမေရိကန်နိုင်ငံ၊ ဝိုင်အိုမင်းပြည်နယ်ရှိ ဂရင်းမြစ်အတွင်းတွင် အံ့ဩဖွယ်ရာတည်ရှိနေသော တီးကက်တယ်ရော့ခေါ် ကျောက်တောင်

ကျိုတိုမြို့တွင် တက္ကသိုလ် နှစ်ခုရှိသည်။ ခေတ်မီ စက်ရုံ အလုပ်ရုံများ မရှိချေ။ ပိုးထည်၊ ကြွေထည်၊ ယွန်းထည်၊ ပန်းထိမ်၊ ပန်းပုစသော လက်မှု လုပ်ငန်း များကိုသာလုပ်ကိုင်ကြသည်။ ထိုလုပ်ငန်းများတွင် အခြား ဂျပန်မြို့များက ကျိုတိုမြို့ကိုမယှဉ်နိုင်ကြချေ။ (ဂျပန်အနုပညာ—ရှု။)

ကျိုတို ဆင်ခြေဖုံးတွင် လက်ဖက်ပင် အကြီးအကျယ် စိုက်ပျိုးသည်။ ကျိုတို လက်ဖက်ခြောက်မှာ ဂျပန်နိုင်ငံတွင် အကောင်းဆုံးဖြစ်၏။ သို့သော် ပြည်ပသို့ မတင်ပို့ဘဲ နိုင်ငံတွင်း၌သာသုံးစွဲလေသည်။

နှစ်ပေါင်း တထောင်ကျော် မင်းနေပြည်တော် ဖြစ်ခဲ့ရာမှ မေဂျီ ဘုရင်လက်ထက်တွင် တိုကျိုသို့ မြို့တော်ပြောင်း လိုက်သည်။ သို့ပင်ငြားလည်း ဂျပန်မင်းများသည် ကျိုတို နန်းတော်ကြီး၌ သာသျှင် ဘိသိက်ခံလေ့ရှိကြသည်။

ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျပန်မြို့ကြီးများ အနက် ကျိုတိုတမြို့သာလျှင် မဟာမိတ်တို့၏ ဗုံးကြဲတိုက်ခိုက်ခြင်းမှ လွတ်ကင်းခဲ့သည်။ ကျိုတို လူဦးရေမှာ ၁၉၅၀ ပြည့်နှစ် သန်ကောင်စာရင်းအရ ၁,၁၀၁,၈၅၄ ဖြစ်၏။

**ကျိုအိုး**။ ။ဖွိုင်လာအိုး — ရှု။

**ကျောက်**။ ။ဘူမိဗေဒတွင် ကျောက်ကို အမျိုးခွဲခြား ထားပုံမှာ မီးသင့်ကျောက် ခေါ် အပူကြောင့် ဖြစ်သောကျောက်၊ အနည်ကျကျောက် ခေါ် ရေစီးတွင် အနည်အနှစ် ထိုင်၍ ဖြစ်လာသောကျောက် နှင့် အသွင်ပြောင်းကျောက်ခေါ် ဖိအား၊ အပူနှင့် ဓါတ်ပြောင်းလဲမှုကြောင့် ဖြစ်လာသည့် ကျောက်ဟူ၍ သုံးမျိုးဖြစ်သည်။ အများအားဖြင့်ကျောက်ဖြစ်ရုပ်ကြွင်းများကို အနည်ကျ ကျောက်များတွင် တွေ့ရသည်။ အနည်ကျ ကျောက်ဖြစ်ရန် ပစ္စည်းများသည် ကုန်းပေါ်မှ ပင်လယ်နှင့် မြစ်များသို့ မျောပါသွား၍ ရေအောက်တွင် မြေဖြူ၊ ထုံးကျောက် သို့မဟုတ် သဲကျောက် အဖြစ်ဖြင့် တည်ရှိကြသည်။ (ကျောက်ဖြစ်ရုပ်ကြွင်း—ရှု။)

ကျောက်ပွ၊ နှမ်းဖတ်ကျောက်၊ မီးတောင်ချော်နက်နှင့် အော့ဗဆစ်ဒီယန်ကျောက် တို့သည် မီးတောင် ပေါက်ကွဲမှုကြောင့်၎င်း၊ သို့မဟုတ် ကမ္ဘာမြေလွှာ အတွင်းရှိ အပူကြောင့်၎င်း၊ ဖြစ်ပေါ်လာရသည့် မီးသင့်ကျောက် များ ဖြစ်သည်။ စကျင်ကျောက်သည် အသွင်ပြောင်း ကျောက်

များတွင် ခရစ္စတယ် အသွင်ဖြင့် တွေ့ရသော ကျောက်မျိုး ဖြစ်သည်။ ဤကျောက်သည် ထုံးကျောက်မှ တဆင့်ဖြစ်လာ၏။ အသွင်ပြောင်းကျောက် တမျိုးဖြစ်သည့် သင်ပုန်းကျောက်သည် ယှေ့လကျောက် မဖြစ်၍ ကွဲ့ကျောက် (ကျောက်သလင်း) မှာမူကား သဲကျောက်တမျိုး ဖြစ်သည်။ (ကျောက်ပွ၊ ကျောက်သလင်း၊ နှမ်းဖတ်ကျောက်၊ စကျင်ကျောက်၊ သင်ပုန်းကျောက်—လည်းရှု။)

**ကျောက်ကတ္တရာ။** ။ကျောက်ကတ္တရာ ဆိုသည်မှာ ကျောက်ရောစွဲနေသော ကတ္တရာမျိုး ဖြစ်သည်။ ကျောက်ကတ္တရာတွင် သဲကျောက်နှင့် ထုံးကျောက်တို့သည် သဘာဝအလျောက် ကတ္တရာနှင့် မြဲမြံစွာရောနေကြ၏။ တခါတရံကျောက်ကတ္တရာကို ဗစ်တျူမီနပ်ကျောက် (ဗစ်တျူမင်ပါသောကျောက်) ဟူ၍လည်း ခေါ်လေ့ရှိ၏။ ကျောက် ကတ္တရာသည် ရိုးရိုး ကတ္တရာ ကဲ့သို့ပင် လမ်းခင်းရန်အတွက် အသုံးဝင်၏။ ကျောက်ကတ္တရာကို ကမ္ဘာအနှံ့အပြား၌ ရရှိ၏။ အများဆုံး ရနိုင်သော ဒေသများမှာ အမေရိကန် ပြည်ထောင်စု၊ စစ္စလီကျွန်း၊ အယ်လဆက်နယ်၊ ဣတလီနိုင်ငံ၊ ပြင်သစ်နိုင်ငံ၊ ဗဲလဂျီယမ်နိုင်ငံ၊ ဆွစ်ဇာလန်နိုင်ငံတို့ဖြစ်ကြသည်။ (ကတ္တရာ—ရှု။)

**ကျောက်ကပ်။** ။ကျောက်ကပ်သည် ကျောရိုးရှိ သတ္တဝါတို့၏ ကိုယ်တွင်း အင်္ဂါတခု ဖြစ်၍ ကျောရိုး သို့မဟုတ် ကျောက်ကုန်းရိုး၏ ခါးပိုင်း တဖက်တချက်တွင် ကပ်လျက်တည်ရှိသည်။ လူတို့တွင် ကျောက်ကပ်တို့သည် ပဲနောက်စေ့ သဏ္ဌာန်ရှိ၏။ ပမာဏအားဖြင့် အလျား ၄½ လက်မ အကျယ် ၂½ လက်မရှိပြီးလျှင် ၁½ လက်မ ခန့်ထုသည်။ အလေးချိန်အားဖြင့် ၆ ကျပ်သားခန့်ရှိ၏။

လက်ျာဖက်ရှိ ကျောက်ကပ်နှင့် လက်ဝဲဖက်ရှိ ကျောက်ကပ်တို့သည် တခုနှင့်တခု ခပ်ကွေးကွေး ဆိုင်၍ နေ၏။ လက်ျာဖက် ကျောက်ကပ်သည် အထက်၌ အသည်းရှိနေသဖြင့် လက်ဝဲဖက် ကျောက်ကပ်ထက် အနည်းငယ် အောက်ကျ၍နေသည်။ ဩသြတခေါ် သွေးကြောမ မှလာသော သွေးလွှတ်ကြောသည် ကျောက်ကပ်ထဲသို့ ခွက်နေသော နေရာတွင် ဝင်၏။ သွေးပြန်ကြောသည်လည်း ဤနေရာမှ စ၍ထွက်သည်။ နဗ်ကြောနှင့် ဆီးကြောတို့သည် ကျောက်ကပ်တွင်းသို့ ဝင်သောအခါ ကတော့သဏ္ဌာန် ကား၍သွားသည်။ ထိုကားနေသော အပိုင်းကို ကျောက်ကပ်ခွက် ဟု ခေါ်သည်။

ကျောက်ကပ်သားမှာ အတွင်းအပြင် မတူချေ။ အပြင်သားသည် ညို၍ ချောမွတ်၏။ အတွင်းသားကား ဖြော့သော အဆင်းရှိပြီး အတွင်းဖက်သို့ ချွန်း၍ အမြှောင်းမြှောင်း ပေါ်နေသည်။ ကျောက်ကပ် တခုလုံး၌ အလွန်သေးငယ်မှုန်မွှားသော ပြွန်ကလေးများ ပြည့်လျက် ရှိ၏။ ထိုပြွန်ကလေးများသည် အပြင်လွှာ၌ တည့်တည့်တန်းလျက် စီနေ၏။ အတွင်းလွှာ၌ကား ခွေလျက် တည်နေကြသည်။




ကျောက်ကပ်၏ပုံအနေအထား
ဝဲဖက်ကျောက်ကပ်ပုံမှာအတွင်းသားကိုပြ၍ ယာဖက်ပုံမှာမူအပြင်မှမြင်ရဟန်ဖြစ်သည်။

ကျောက်ကပ်၏ ကိစ္စမှာ သွေးထဲမှ ကျင်ငယ်ရည်ကို စစ်ထုတ်ယူ၍ ဆီးကြောမှ တဆင့် ဆီးအိတ်သို့ ပို့ပေးရန် ဖြစ်သည်။ ကျောက်ကပ်အတွင်းရှိ သွေးကြောတွင် ဆဲများ စီတန်းလျက်ရှိရာ ဤဆဲများသည် ဖြတ်သန်းသွားသော သွေးကြောများမှ ဆီးကို စစ်ထုတ် ပေးလေသည်။ လူကောင်း တယောက်တွင် ပျမ်းမျှခြင်းအားဖြင့် တနေ့လျှင် ကျပ် ၈၀ သားခန့် (၃ ပိုင့်မှ ၄ ပိုင့်အထိ) ဆီးသွား၏။ ထိုဆီးထဲတွင် ကိုယ်တွင်း၌ မလိုအပ်သော အညစ်အကြေးများ ပါသွားသည်။ ထိုကြောင့် ကျောက်ကပ်၏ကိစ္စ ပျက်ပြားအောင် နှောင့်ယှက်မှု ဟူသမျှသည် ကိုယ်တွင်း၌ အဆိပ်အတောက် ဖြစ်စေမည့် အညစ်အကြေးများကို စုဝေးစေရာ ရောက်သည့်အပြင် အသက်၏ အန္တရာယ်ကိုပင် ဖြစ်စေရာ ရောက်သည်။ ဥဒါဟရဏ် ဆောင်ရသော် ဗရိုက်ရောဂါခေါ် ကျောက်ကပ်ရောင်ရောဂါ ဖြစ်သောအခါ ကျောက်

ကပ်သည် မိမိ၏ ကိစ္စကို ကောင်းမွန်စွာ မဆောင်ရွက် နိုင်တော့ချေ။ ထိုအခါ ယူရီးယားခေါ် အဆိပ်တမျိုးသည် သွားရိုးသွားစဉ်အတိုင်း ဆီးနှင့် ပါမသွားဘဲ သွေးတွင် စုရုံးလာပြီးလျှင် လူ၏ အသက်အန္တရာယ်ကို ဖြစ်စေတတ်သည်။ တခါတရံလည်း ကျောက်ကပ်တွင် ကျောက်တည်၍ ဆီးကြောင်း ပိတ်သွားသဖြင့် ဆီးမသွား နိုင်ဘဲ ဖြစ်တတ်သည်။ ထိုအခါမျိုးတွင် ကျောက်ကို လျင်မြန်စွာ ခွဲထုတ်မပစ်နိုင်က မကြာမီ သေဆုံးသွားတတ်သည်။ လူတို့တွင် ဖြစ်တတ်သည့် ရောဂါ အားလုံးလိုလိုပင် ကျောက်ကပ်ကို အနည်းနှင့်အများ ထိခိုက်ပျက်ပြား စေတတ်သည်။ ထို့ကြောင့် ရောဂါ တခုခုဖြစ်၍ ဆရာဝန်ထံ သွားရောက်ပြသသည့်အခါ ဆီးကိုချက်၍ ဓါတ်ခွဲကြည့်လေ့ရှိသည်။

**ကျောက်ကြီးမြို့။** ။ကျောက်ကြီးမြို့သည် တောင်ငူခရိုင် ရွှေကျင်နယ်တွင်ပါဝင်၍ ကျောက်ကြီးမြို့နယ်၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ စစ်တောင်းမြစ်အတွင်းသို့ စီးဆင်းသောကျောက်ကြီးချောင်း ကမ်းနဖူးပေါ်တွင် တည်ရှိသည်။ ချောင်းသည် မြို့ကိုပတ်၍ စီးဆင်းသည်။ မြို့တည်နေပုံမှာ ချောင်းကို အရှေ့အနောက် ခွ၍ တည်သည်။ မြို့အကျယ် အဝန်းမှာ အလျား ၂ မိုင် အနံ ½ မိုင်ခန့်ရှိ၍ မြို့နယ်မှာမူ စတုရန်းမိုင် ၁၂၁၇ ကျယ်ဝန်း၏။ မြို့ပေါ်တွင်လူနေအိမ်ခြေ ၄၀၀ ခန့်ရှိ၍ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၁၄၀၉ ယောက်ခန့်ရှိသည်။ ကရင်လူမျိုးမှာ အများစုဖြစ်သည်။

အသက်မွေးဝမ်းကျောင်းမှုအတွက် လုပ်ကိုင်သောလုပ်ငန်းများကား လယ်နှင့်ကိုင်းများဖြစ်သည်။ သို့သော်စပါးကို ကျောက်ကြီးမြို့နယ်စစ်တောင်းမြစ်ဝှမ်းတလျှောက်တွင် ၁၀ မိုင်ခန့်မျှသာ စိုက်ပျိုးသည်။ လမ်းခင်းကျောက်တူး လုပ်ငန်းလည်းရှိသည်။ ထို့ပြင် မြို့၏မြောက်ဖက် ၂၄ မိုင်ကွာရှိ ထင်ရှားသောမုံးရွာကြီး၌ ကွမ်းသီးလုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်ကြသည်။ နာမည်ကျော် တောင်ငူကွမ်းသီးမှာ မုံးရွာမှ ထွက်သောကွမ်းသီးဖြစ်သည်။

မြို့ပေါ်၌မြို့ပိုင်ရုံး၊ ရဲဌာန၊ အလယ်တန်းကျောင်း၊ ဆေးရုံများရှိသည်။ ပြည်တော်သာစီမံကိန်းအရမြို့အရှေ့ဖက်နှင့် အနောက်ဖက်ကို ဆက်သွယ်ဆောက်လုပ်ထားသော ဈေးတန်တားကြီးခေါ် တန်တားကြီး ရှိသည်။ မြို့အရှေ့ဖက် တမိုင်ခန့်အကွာ တောင်ပေါ်၌ ခြေတော်ရာဘုရားခေါ် ထင်ရှားသောစေတီတဆူရှိသည်။ မြို့အနောက်ပိုင်းကား ပို၍စည်ကားသည်။

နှစ်စဉ်ကျင်းပလေ့ရှိသော ပွဲတော်ကား ရှင်ဉပဂုတ်ဖေါင်တော် မျှောပွဲဖြစ်သည်။ ထိုပွဲတော်ကို နှစ်စဉ်တော်သလင်းလပြည့်နေ့တွင်ကျင်းပရာ လှေပြိုင်ပွဲ၊ ရေကူးပြိုင်ပွဲနှင့် ဝမ်းဘဲဖမ်းပွဲများပါကျင်းပကြသည်။



ကျောက်ကြီးမြို့၏အရှေ့ပိုင်းနှင့်အနောက်ပိုင်းကိုဆက်သွယ်ထားသောမြို့လည်တန်တား

**ကျောက်ကြီးရောဂါ။** ။ကျောက်ကြီးရောဂါသည် ကူးစက်တတ်သော ရောဂါဖြစ်သည်။ ကျောက်ကြီးကို ကျကျောက်ဟူ၍လည်း ခေါ်ဆိုတတ်ကြသည်။ ကလေးလူကြီး မရွေး ကျောက်ကြီးရောဂါဖြစ်တတ်သည်။ ထိုရောဂါသည် လူကိုသေစေနိုင်သည်။ မသေသော်လည်း ကျိုးကန်းစေနိုင်သည်။ ရုပ်ပျက်ဆင်းပျက်လည်းဖြစ်စေတတ်သည်။ ကျောက်ကြီးရောဂါဖြစ်ရခြင်းမှာ ခန္ဓာကိုယ်တွင်းသို့ ဗိုင်းရပ်ပိုးများ ဝင်ရောက်သောကြောင့်ဖြစ်သည်။ ရောဂါဖြစ်နေသူ၏ ထွက်သက်လေတွင်၎င်း၊ ကျောက်ဖုများ ကျောက်ဖေးများတွင်၎င်း၊ ရောဂါမျိုးစေ့ပိုး များစွာ ပါရှိ၏။ ကျောက်ဖေးကွာချိန်၌ ကျောက်ဖေးမှုန်များသည် လေနှင့်လွင့်စင်ပြီးလျှင် ရောက်လေရာ၌ လူများကိုရောဂါကူးစက်စေနိုင်သည်။

ကျောက်ကြီးရောဂါ ဖြစ်စေသော ဗိုင်းရပ်ပိုးများသည် အလွန်သေးငယ်သော်လည်း အသက်ပြင်းသောကြောင့်၊ ကျောက်ပေါက်သူ၏ အထည်အဝတ်များ အသုံးအဆောင်ပစ္စည်းများ စသည်တို့တွင် လပေါင်းများစွာ အသက်ရှင်၍ နေနိုင်ကြသည်။ ရောဂါမျိုးစေ့ဝင်ပြီးနောက် ၇ ရက်မှ ၁၅

ရက်အတွင်း လူနာသည် စ၍ဖျား၏။ ချမ်းစိမ့်စိမ့်ဖြစ်ခြင်း၊ အော့အန်ခြင်း၊ ခေါင်းကိုက်ခြင်း၊ ခါးကိုက်ခြင်း၊ အသားအရေ တောင့်တင်းခြင်း အစရှိသည့် လက္ခဏာများပေါ်လာ၏။ ကျောက်လုံးများထွက်ခါနီးတွင် အသားထဲ၌ ခဲလုံးကလေးများဝင်နေသကဲ့သို့ နာကျင်တတ်၏။

၃ ရက်ဆက်ဖျားပြီး သောအခါ ကျောက်ဖုကလေးများသည် လက်ဖျား၊ ခြေဖျား၊ မျက်နှာတို့တွင် ပဌမပေါ်လာ၏။ ထိုနောက်အခြားနေရာများ၌ ပေါ်လာ၏။ အဖုများမှာဝိုင်း၍ နီပြီးမာနေ၏။ ကျောက်ဖုများသည် ၄ ရက်ခန့်ကြာသောအခါ ရေကြည်တည်၍ ဖေါင်းကြွလာ၏။ ထိုနောက်အဖုများမှာ ထိပ်ပြား၍ အလယ်၌မဲနက်လာ၏။ ကျောက်လုံးအံတွင်းရှိရေကြည်သည် နောက် ၇ ရက် ၈ ရက်ကြာသောအခါ ပြည်ဖြစ်လာ၏။ ထိုနောက် ၁ ရက် ၂ ရက်မျှကြာသောအခါ ကျောက်လုံးများ ညှိုး၍ခြောက်လာ၏။ ထိုနောက်အဖေးဖြစ်ပြီးလျှင် ရက်ပေါင်း ၂၀ ခန့်အကြာတွင်ကွာကျ၏။ ကျောက်ဖေးကွာကျသောနေရာများတွင် ကျောက်ပေါက်မာများ ကျန်ခဲ့သည်။ ကျောက်လုံးများထွက်ပေါ်သည်မှစ၍ ကျောက်ဖေးများကွာကျသည်အထိ အများအားဖြင့်တလခန့်ကြာ၏။

ကျောက်ကြီးတခါ ပေါက်ပြီးလျှင် များသောအားဖြင့် တသက်တာတွင် နောက်ထပ်ကျောက်ပေါက်ခဲ၏။ သို့သော် ကျောက်ပေါက်မာ ရှိသောလူ၌ နောက်ထပ်ကျောက်ပေါက်သည်လည်း ရှိတတ်သည်။ လူတဦးတည်း၌ ၃ ကြိမ်ကျောက်ပေါက်သည်ကို တွေ့ရှိဘူးကြောင်း စာဆိုလည်း ရှိပေသည်။ ကျောက်လုံးများမထွက်မီ စဖျားသည့်အချိန်မှ အနာဖေးကွာကျ၍ အသားချောမွတ်သွားသည့်အချိန်ထိ ကျောက်ရောဂါသည် အခြားလူများသို့ ကူးစက်နိုင်သည်။ ထိုကြောင့် ကျောက်ပေါက်သည့်လူနာကို သီးသန့်ခွဲခြား၍ ထားရန်မှာ အရေးကြီးပေသည်။ ဥပဒေကလည်း လူနာကို သီးသန့်ခွဲခြားထားရန်ပညတ်ထား၏။

ကျောက်ကြီးရောဂါအတွက် မုချပျောက်ကင်းစေသောဆေးဟူ၍ မရှိသေးပေ။ လူနာကို ကြည့်ရှုပြုစုခြင်းသည် အရေးအကြီးဆုံးဖြစ်ပေသည်။ လူနာကိုကျောက်ပေါက်ဘူးသူ သို့မဟုတ်မကြာသေးမီက ကျောက်ဆေးထိုးထားသူသာလျှင် ပြုစုသင့်သည်။ လူနာလုံးဝပျောက်ကင်းသောအခါဖြစ်စေ၊ သေဆုံးလျှင်ဖြစ်စေ၊ လူနာ၏အဝတ်အစားများကို မီးရှို့ပစ်သင့်၏။ အဖိုးတန်ပစ္စည်းများကိုမူ ရေနွေးပြုတ်ခြင်း၊ နေပူလှန်းခြင်း၊ ပိုးသေဆေးဖျန်းပက်ခြင်းများ ပြုလုပ်ရမည်။




ကျောက်ကြီးရောဂါကိုအချိန်မှီကာကွယ်ရန် နိုင်ငံတော်အစိုးရကပြည်သူလူထုအား ဤသို့သောနံရံကပ်ကြော်ငြာများဖြင့်သတိပေးလေ့ရှိ၏။



တောတောင်စိမ့်စမ်းတို့တွင် လှပသောအရွက်များဖြင့် ဝေဝေဆာဆာတန်ဆာဆင်ကြသော ကျောက်ခက်ပင်အမျိုးမျိုး

ကျောက်ဆေးထိုးခြင်းသည် ကျောက်ကြီးရောဂါ မဖြစ်အောင် ကာကွယ်ခြင်းဖြစ်သည်။ ရှေးအခါက မြန်မာနိုင်ငံတွင် မြန်မာနည်းဖြင့် ကျောက်ထိုးပေးခဲ့ကြသည်။ ထိုနည်းမှာ ကျောက်ပေါက်သူ၏အနာမှ ပြည်ကိုဖြစ်စေ ကျောက်ဖေးများကို အမှုန့်ကြိတ်၍ဖြစ်စေ၊ ကျောက်မပေါက်သေးသော ကလေးများကို ထိုးပေးခြင်းဖြစ်၏။ ကံကောင်းလျှင် ကျောက်လုံးအနည်းငယ်သာထွက်၍ ရောဂါပျောက်ကင်းသွား၏။ ထိုသွင်းသောကျောက်ရည်ကို ချင့်ချိန်တိုင်းတာခြင်းမပြုနိုင်သဖြင့် မကြာခဏ ကျောက်လုံးအထွက်များ၍ သေဆုံးကြရသည်။ ယခုအခါ မြန်မာနည်းထက်ပို၍ စိတ်ချရသောနည်းဖြင့် ကျောက်ထိုးပေးနေပြီဖြစ်ရာ ဤနည်းကို ကုလားကျောက် သို့မဟုတ် နွားကျောက်ထိုးခြင်း ဟူ၍ခေါ်ကြသည်။ ဤနည်းဖြင့် အသုံးပြုသော ကျောက်ရည်ကို ကျောက်ကြီးရောဂါဖြစ်သော နွားကလေးတို့မှရရှိကြ၏။ (ကျောက်ဆေးထိုးခြင်း—ရှု။)

မြန်မာနိုင်ငံတော်အစိုးရသည် ကျန်းမာရေးစီမံကိန်းများပြုလုပ်ကာ ကျောက်ကြီးရောဂါကာကွယ်ရန်အတွက် ကျောက်ထိုးဆရာသင်တန်းများ ဖွင့်လှစ်၍၎င်း၊ ကျောက်ထိုးဌာနများ အပ်ချုပ်ထားရှိ၍၎င်း၊ ရောဂါကာကွယ်ရန် အသိဉာဏ်ပေးသည့် စာတမ်းများ ရုပ်ရှင်များ ဝေငှပြသ၍၎င်း ဆောင်ရွက်လျက်ရှိပေသည်။

**ကျောက်ခက်ပင်မျိုး။** ။တောတောင် စိမ့်စမ်း ဂနိုင်တို့၌ အရွက်အလက် ဝေဝေဆာဆာနှင့် ထူထပ်စွာ ပေါက်လေ့ရှိသော ကျောက်ခက်ပင်တို့သည် ယင်းတို့၏ လှပသောအရွက်များဖြင့် ပေါက်ရောက်ရာ အရပ်ဒေသများကို တန်ဆာဆင်ကြ ငြားသော်လည်း အပွင့်ပွင့်သော အပင်များ မဟုတ်ချေ။

အန္ဒေးဓါတ်၊ ရေ၊ အရိပ်အာဝါသ စသည်တို့မှာ ကျောက်ခက်ပင်များ ကောင်းမွန်စွာ တိုးတက် ကြီးထွားမှုအတွက် လိုအပ်ပေသည်။ အချို့သော ကျောက်ခက်ပင်မျိုးသည် စိုစွတ်သည့် တောင်ခြေ ချိုင့်ဝှမ်းတို့၌ ပေါက်ရောက်၏။ အချို့မှာ အရိပ်အာဝါသ ကင်းမဲ့သည့် လယ်ကွင်း ခေါင်ခေါင်တွင် ပေါက်တတ်၏။ ရေထဲတွင် ပေါက်နိုင်သော ကျောက်ခက်ပင်မျိုးကိုမူ အမေရိကန်ပြည်ထောင်စု ဖလော်ရီဒါပြည်နယ် တောင်ပိုင်း၌ တွေ့မြင်နိုင်ပေသည်။

ကျောက်ခက်ပင် အမျိုးပေါင်း မြောက်မြားစွာ ရှိသည့်အနက် ကျွန်ုပ်တို့ လေ့လာရန် အတွေ့လွယ်နိုင်ဆုံးသော အပင်မှာ ဥရင်ကောက်ပင် ဖြစ်၏။ ဥရင်ကောက်ပင်သည် စိုစွတ်သောနေရာများ၌ပေါက်တတ်သည်။

စိမ်းလန်း လှပသော အရွက်များ ရှိ၍ အမြင့်တတောင်နီးပါး အထိကြီးနိုင်သည်။ မြေကြီးမှ ထွက်ခါစတွင် အညွန့်သည် လိပ်လျက်ရှိ၍ နောက်မှ တဖြည်းဖြည်း

ပြန့်လာသည်။ ပင်စည်မှာ အမှန်အားဖြင့် မြေကြီးအောက်တွင် ကပ်လျက်ရှိ၍ ရိုင်းဇုမ် ဟုခေါ်သည်။ အရွက်များမှာလည်း ရိုးရိုးအရွက်နှင့် မတူဘဲ အလက်ကလေးများနှင့်တူ၏။ အလက်များ ရင့်လာသောအခါ အောက်ဖက်၌ အညိုရောင် အစက်များ ပေါ်လာသည်။ မှန်ဘီလူးဖြင့် သေချာစွာကြည့်လျှင် အစက်တခု၌ ညိုသော အရာဝတ္ထုကလေး အများအပြား ပါဝင်သည်ကို တွေ့ရသည်။ ထိုအရာဝတ္ထု တခု၌ အလက်နှင့် တွယ်ကပ်ထားသော အတံ တခုရှိသည်။ မျိုးမှုန်များ ဖြစ်ပေါ်ရာ နေရာဖြစ်သောကြောင့် ရုက္ခဗေဒပါရဂူများက ယင်းတို့ကို စပိုရန်းဂျီးယား တနည်း 'မျိုးမှုန်အိမ်' ဟုခေါ်ကြသည်။ မျိုးမှုန်များ မှည့်သောအခါ မျိုးမှုန်အိမ်သည် ပေါက်ကွဲ၍ မျိုးမှုန်များကို ပြင်ပသို့ လွင့်စင်သွားစေသည်။ သေးငယ်လှသော ဤမျိုးမှုန်များကို လေကလည်း သယ်ယူ ပေးသောကြောင့် ဝေးလံသော ဒေသများသို့ ရောက်ရှိပေတော့သည်။ မျိုးမှုန်သည် အပင်သစ်ကို ပေါ်ပေါက်စေမည့် သေးငယ်လှသော အစေ့ကလေးပင်ဖြစ်၏။ အပင်တပင်၌ မျိုးမှုန် သန်းပေါင်းများစွာ ဖြစ်ထွန်းသော်လည်း အားလုံးမှ အပင် ပေါက်လာသည် မဟုတ်၊ အားလုံးမှသာ ပေါက်လာမည် ဆိုပါက မြေတပြင်လုံး ကျောက်ခက်ပင်တို့နှင့် ပြည့်နှက်ကျပ်တည်း၍ နေပေလိမ့်မည်။ များသောအားဖြင့် မသင့်လျော်သော အရပ်ဒေသတို့တွင်ကျရောက်၍ ပျက်စီးကြရ၏။ စိုစွတ်ထိုင်းမှိုင်း အရိပ်အာဝါသ ကောင်းသောနေရာတွင် ကျရောက်မှသာ တိုးတက်ကြီးထွားနိုင်သည်။

## ကျောက်ခက်ပင်ပေါက်လာပုံ

အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း သင့်လျော်သော ဒေသတွင် မျိုးမှုန်သည် အခြေစိုက် ပေါက်ရောက်သည်။ ရှေးဦးစွာ ညောင်ရွက် ပုံသဏ္ဌာန်ကဲ့သို့ ဖြစ်လာ၍ အမွေးသိမ်များဖြင့် မြေကြီးကို ခိုင်မြဲစွာ တွယ်ကပ် ထား၏။ ယင်းကို ပရိုသဲလပ် ဟုခေါ်သည်။ ပရိုသဲလပ်၏ အောက်ဖက်တွင် မျိုးစေ့ အိမ်ကလေးများ ရှိသည်။ ယင်းတို့မှာ အလွန်သေးငယ်၍ မှန်ဘီလူးဖြင့် အသေအချာကြည့်မှမြင်ရသည်။ မျိုးစေ့အိမ် အချို့တွင် ဖို မျိုးစေ့များရှိ၍ အချို့တွင် မမျိုးစေ့များရှိ၏။ အချိန်ရောက်သောအခါ ဖို မျိုးစေ့တို့သည် မ မျိုးစေ့များ ရှိရာသို့ ရွေ့လျား ပူးပေါင်းမှုကြောင့် မျိုးစေ့များအောင်လာသည်။

အောင်သောမျိုးစေ့မှ မကြာမီ အပင်သစ် ထွက်လာတော့သည်။ များသောအားဖြင့် ပရိုသဲလပ် တခုမှ တပင်သာ ပေါက်တတ်၏။ အပင်သစ်သည် အစာ ရမှုအတွက် ပရိုသဲလပ် အပေါ်၌ မှီခိုရ၏။ တစတစနှင့် အပင်ကြီးလာ၍ ယင်းမှ အမြစ်သည် မြေဆီလွှာသို့ သက်ဆင်းပြီးသော် အရွက်ကလေး တခုသည် အလင်း ကျရာဖက်သို့ ထိုးထွက်လာသည်။ ထိုအချိန်မှစ၍ ပရိုသဲလပ် အပေါ်၌ မမှီခိုတော့ဘဲ မိမိအစာကို မိမိဖါသာ ရယူနိုင်တော့သည်။ ပရိုသဲလပ်သည် ညှိုးနွမ်း၍ သေလေတော့၏။ အပင်လည်း ဆက်လက် ကြီးထွားလာပြီးလျှင် မျိုးပွားခြင်းကို ဆက်လက် ဆောင်ရွက်သည်။

များစွာသော ကျောက်ခက်ပင်တို့မှာ မြေငုပ်ပင်စည်ရှိ၍ မျိုးမှုန်တို့သည် လုပသော အလက်များ အောက်ဖက်၌ ဖြစ်ပေါ်သည်။ တခါတရံ မျိုးမှုန်အိမ်များကို အလက်ကြောများပေါ်တွင် တွေ့နိုင်၍ တခါတရံ အလက်စောင်း များပေါ်တွင်တွေ့ရ၏။

ရှဥ့်မတက်၊ အဖိုးကြီးမုတ်ဆိတ် စသည် တို့မှာလည်း ကျောက်ခက်ပင်များပင် ဖြစ်ကြ၏။ သို့သော် မြေပေါ်တွင် ပေါက်လေ့မရှိဘဲ သစ်ပင်များ ပေါ်တွင်သာ ပေါက်လေ့ရှိသည်။ သမပိုင်းတို့၌ ကျောက်ခက်ပင် မျိုးပေါင်း မြောက်မြားစွာကို တွေ့နိုင်သော်လည်း တကယ့် ကျောက်ခက်ပင် အစစ်ကိုမူ အပူပိုင်း ဒေသများ၌သာ တွေ့မြင်နိုင်သည်။ စိုစွတ် ထိုင်းမှိုင်းသော ထိုဒေသများ၌ တန်ဆာဆင်မှုကို ဖန်တီးပေးသကဲ့သို့ ရှိ၏။ သစ်ပင်တမျှ ကြီးမားသော ကျောက်ခက်ပင်များလည်း ရှိကြ၏။ ယင်းတို့၏ ပင်စည်သည် ကြီးမား၍ မွေးညှင်းများဖြင့် ဖုံးလွှမ်းနေသည်။ အဖျားမှ ကြီးမားသော အလက်များ ထိုးထွက်နေ၏။ အကိုင်း ဟူ၍ကား မရှိပေ။ အလက်သည် ၁၅ ပေ၊ ပေ ၂၀ ခန့်မျှရှည်၍ ရွက်မြှာ များသဖွယ် ဘေး၌ ပြတ်လျက်ရှိ၏။ အပူပိုင်းတောများတွင်အလှဆုံးအပင်များပင်တည်း။

ကျောက်ခက်ပင်သည် တန်ဆာဆင်မှုအတွက် သက်သက်လောက်သာ ဖြစ်သည်။ အပွင့်ပွင့်သော အပင်များလောက် အသုံးမကျပေ။ ဥရင်ကောက်ပင်ကို တို့စရာအဖြစ် မြန်မာနိုင်ငံတွင် စားသုံးကြသည်။ ကျောက်ခက်ဖိုပင်ကို တုတ်ကောင် ကျဆေးအဖြစ်လည်း အသုံးပြုကြသည်။ ဖိလစ်ပိုင်ကျွန်း၌ ကျောက်ခက်ပင်များမှ မြွေဆေး၊ ဝမ်းနာပျောက်ဆေး စသည်တို့ကို ဖော်စပ်ကြသော်လည်း တကယ်စွမ်းသော ဆေးများကား မဟုတ်ကြပေ။

ကျောက်ခက်ပင်မှ ခြည်မျှင်ကို တောင်း၊ ဦးထုပ်၊ အဝတ်အထည် ရက်လုပ်ရာတွင် အသုံးပြု၏။ ဖိလစ်ပိုင်ကျွန်း၌ စီးကရက် ဗူးများပင် လုပ်ကြသည်။ ကျောက်ခက်ပင် တမျိုး၏ လျှော်သည် ကြိုးကျစ်ရာတွင် အလွန်အသုံးကျ၏။ ရေငန်နှင့် ထိသော်လည်း မဆွေး မမြည့်သောကြောင့် အလွန် အ ဖိုးတန်သည်။

အမှန်အားဖြင့်ကား ကျောက်ခက်ပင်များကို အိမ်များတွင် အလှအပ တန်ဆာဆင်ရန် အတွက်သာ စိုက်ကြပေသည်။ (မျိုးစေ့မျိုးမှုန် — လည်းရှု။)



**ဂူနေ ရှေးလူများ အမဲလိုက်ရန် ဟန်ပြင်နေကြပုံ**

ကျောက်ခေတ်သုံးကျောက်လက်နက်တို့မှာ ယခုခေတ်အမြင်နှင့်ကြည့်လျှင် ရယ်ဖွယ်ရာဖြစ်ပေသည်။ သို့သော် အဆောက်အအုံဖြင့် မနေတတ်ကြသေးသော ဂူနေရှေးလူများအဖို့ ထိုကျောက်လက်နက်များသည် အသက်မွေးမှုကို များစွာ ထောက်ပံ့ခဲ့ပေသည်။

**ကျောက်ခေတ်**။ ။လွန်ခဲ့သည့် နှစ်ပေါင်း သိန်းသောင်းများစွာက ဤကမ္ဘာတွင် နေထိုင်ခဲ့ကြသော ရှေးလူများသည် ကြေးနီ၊ သံ အစရှိသည့် သတ္တုများကို အသုံးမပြုတတ်ကြသေးချေ။ ကျောက်ဖြင့် ပြုလုပ်သော လက်နက်များနှင့်သာ ခုတ်ထစ် ဖြတ်တောက်ကြသည်။ သို့ဖြစ်၍ ထိုကျောက်ဖြင့် ပြုလုပ်သော လက်နက်များ သုံးခဲ့သည့် အချိန်ကာလကို သမိုင်းဆရာများက ကျောက်ခေတ်ဟု ခေါ်ကြသည်။

ကျောက်ခေတ်သည် နှစ်ပေါင်း မည်မျှကြာအောင် ထွန်းကားခဲ့သည်ကို အတိအကျ မခန့်မှန်းနိုင်ချေ။ နှစ်ပေါင်းများစွာ ကြာသည်ဟူ၍ သာမန်အားဖြင့် ပြောဆိုနိုင်ပေသည်။ သို့ရာတွင် ကျောက်ခေတ်သည် ဥရောပတိုက်တွင် သာမဟုတ်၊ အာရှတိုက်နှင့် အာဖရိကတိုက် များတွင်လည်း ပေါ်ပေါက် ထွန်းကားခဲ့သည်ဟု ကျွန်ုပ်တို့သိရ၏။ အရပ်ရပ်တွင် ကျောက်ခေတ် ထွန်းကားခဲ့သော်လည်း တနိုင်ငံ၏ ကျောက်ခေတ်နှင့် တနိုင်ငံ၏ ကျောက်ခေတ်သည် တပြိုင်တည်း မထွန်းကားခဲ့ချေ။ ပမာအားဖြင့် ဥရောပတိုက်တွင် ကျောက်ခေတ် ကုန်ဆုံးသွားသောအခါ အာရှတိုက်နှင့် အာဖရိကတိုက်တို့တွင် ကျောက်ခေတ် ထွန်းကားစ ဖြစ်ပေမည်။ သို့ဖြစ်၍ အချို့ဒေသ၌ ကျောက်ခေတ် ကုန်ဆုံးခဲ့သည်မှာ နှစ်ပေါင်း သိန်းသောင်း ကြာမြင့်လှပြီ ဖြစ်သော်လည်းအချို့ဒေသများတွင် မကြာသေးမီကမှကျောက်ခေတ်ကုန်ဆုံးခဲ့သည်ဟုသိရ၏။

ရှေးခေတ် ကမ္ဘာ့သမိုင်းကို စူးစမ်းလေ့လာသူ သိပ္ပံပညာရှိကြီးများကကျောက်ခေတ်ကို ကျောက်ခေတ်ဟောင်းနှင့် ကျောက်ခေတ်သစ် ဟူ၍ ကျောက်ခေတ်နှစ်ခေတ် ပိုင်းခြားသတ်မှတ်ကာမှည့်ခေါ် ရှင်းလင်းထားလေသည်။

လူများသည် ပဌမတွင် ကျောက်တုံး ကျောက်ခဲကလေးများဖြင့် ငှက်များ၊ တိရစ္ဆာန် အငယ်စားများကို ပစ်ခတ်ရာမှ ခပ်ကြီးကြီး ကျောက်တုံးများကိုမူ အခွံမာသီးများ ထုရိုက်ခွဲတတ်လာသည်ဟု တွေးဆရပေမည်။ ထိုနောက် သွားလာရာ၌ ချွန်ထက်သော ကျောက်စောင်း ကျောက်ပဲ့ကလေးများနှင့် အမှတ်မထင် တိုက်မိ၍ ရှရာမှ ဓါးသဖွယ် အသုံးပြုရန်သိလာဟန်တူသည်။ ဤနည်းမျိုးဖြင့် ကျောက်တုံး ကျောက်ခဲကို လက်နက်သဖွယ် သုံးတတ်လာပေမည်။

ဤသို့ဖြင့် နှစ်ပေါင်း ထောင်သောင်းများစွာ ကြာသောအခါ လူများသည် လက်ရှိ ကျောက်လက်နက်များကို နဂိုပုံပန်းမှ ကျောက်ကိုထုရိုက်ခြင်းအားဖြင့် လှ၍ လိုသလို ပြုပြင်ပြီး သုံးတတ်လာပေမည်။ ထိုသို့ ပြုပြင်ထားသော ကျောက်လက်နက်များကို အသုံးပြုလာကြသည့် ခေတ်ကို ကျောက်ခေတ်ဟောင်း ဟူ၍ခေါ် ဆိုကြ၏။

ဤသို့ ကျောက်တုံး ကျောက်ခဲကို အလှအလှ ကွာကျအောင် ထုရိုက်၍၊ ဓါး၊ လှံ၊ ပုဆိန်သွားနှင့် မြားသွားများအဖြစ် အကြမ်းစား အသုံးပြုခဲ့သည်မှာ နှစ်ပေါင်း တသိန်းငါးသောင်းမျှ ကြာကောင်း ကြာခဲ့ပေမည်။ ဤကာလအတွင်းတွင် ကျောက်လက်နက်တို့သည် ရှေးကထက် များစွာပိုမို၍ ချောမွတ်သေသပ် လာပြီးလျှင် ကျောက်လက်နက်သစ် များထွင်ကာ၊ တိရစ္ဆာန်အရိုးများချိုများကို ဖြတ်တောက် ထွင်းဖေါက် နိုင်သောအဆင့်သို့ ရောက်လာကြသည်။ ဤမှ တဆင့်တက်၍ အရိုးများ၊ ချိုများကိုကျောက်

လက်နက်များနှင့်အတူ အသုံးပြုလာကြစဉ် ငါးများချိတ် အကြမ်းစား၊ အမြီး တပ်ထားသော မြားတံများ လုပ်တတ်လာလေသည်။ (ယဉ်ကျေးခြင်း — ရှု။) သို့ရာတွင် လူများသည် နေထိုင်ရန် အဆောက်အအုံများကို မဆောက်လုပ်တတ်ကြသေးဘဲ ကျောက်ဂူများ ထဲတွင်သာ နေထိုင်ကြ၏။ သို့ဖြစ်ရာ ထိုလူများကို ဂူနေရှေးလူများဟု ခေါ်၍ ထိုခေတ်ကို ဂူနေခေတ်ဟု ခေါ်ကြသည်။ (ဂူနေရှေးလူများ — ရှု။)

ဂူနေခေတ် ကုန်ဆုံး၍ ကျောက်ခေတ်သစ်သို့ ကူးပြောင်းလာသောအခါ၊ ကျောက်လက်နက်များသည် ရှေးကထက် အဆများစွာ သေသပ်ကောင်းမွန်လာ၍ အသုံးပြုရာတွင် ယခုခေတ် သံလက်နက် နီးပါးမျှ ခရီးရောက်လေသည်။ လူများသည် ကျောက်လက်နက် များကို ကျွမ်းကျင်စွာ အသုံးပြုတတ် လာကြသဖြင့် သားရဲ တိရစ္ဆာန်များကို ရှေးကကဲ့သို့ မကြောက်ကြတော့ချေ။ ဆင်များ ကိုပင် လှံများဖြင့် ဝိုင်းဝန်းသတ်ဖြတ်ပြီးလျှင် စားသောက်ကြ၏။ ထိုလူများအနက် ဉာဏ်ကောင်းသော သူများသည် မြေတွင်းကြီးများ တူးပြီးလျှင် ကျားများကို ထောင်ကြ၏။ အချို့လည်း မြစ်နားချောင်းနားသို့ သွားပြီးလျှင် ငါးများကို မှိန်းနှင့် ထိုး၍ဖြစ်စေ၊ ငါးများချိတ်နှင့် မျှား၍ဖြစ်စေ၊ ဖမ်းယူကြ၏။

ဤသို့ဖြင့် ကျောက်ခေတ်က လူများသည် မုဆိုးများ တံငါများ အဖြစ် အသက်မွေးကြ၏။ ရံဖန်ရံခါ အစားအစာကို လောက်ငစွာ ဂူတွင်း၌ သိုမှီးထား၍ အားလပ်သောအခါ မိမိတို့နေထိုင်သော ဂူများ၏နံရံလွှတ် များပေါ်တွင် မိမိတို့ လိုက်လံ ပစ်ခတ် သတ်ဖြတ်ကြသော ဆင်များ၊ ပြောင်များ၏ ပုံတို့ကို ရေးဆွဲကြသည်။ အချို့လည်း ဆေးရောင်စုံ အရုပ်များ ကိုပင် ရေးဆွဲခဲ့ကြ၏။ ဤသည်ကို ထောက်၍ ပန်းချီဆေးရေးခြင်းအတတ်သည် ကျောက်ခေတ်ကစ၍ ပေါ်ပေါက်ခဲ့ကြောင်းကို သိနိုင်ပေသည်။

ဗြိတိသျှကျွန်းစု၊ အာဖရိကတိုက် မြောက်ပိုင်း၊ တောင်အမေရိကတိုက်၊ အိန္ဒိယနိုင်ငံ သိန္ဒု မြစ်ဝှမ်းနှင့် ပစိဖိတ်သမုဒ္ဒရာအတွင်းရှိကျွန်းများတွင် ကျောက်ခေတ်ကလူများ အသုံးပြုခဲ့သော လက်နက်များ ပစ္စည်းများ၊ အဆောက်အအုံများ ကို ယခုထက် တိုင် တွေ့နိုင် ပေသေး သည်။ (ကျောက်တုရိုင် — လည်းရှု။)

မြန်မာ နိုင်ငံတွင် လည်း ကျောက် ခေတ်က အသုံးပြုခဲ့သော ကျောက်လက်နက်များ၊ ကျောက်ပစ္စည်း များကို တွေ့ရသည်။ အထူးသဖြင့် ရေနံချောင်း၊ မကွေး၊ သရက်၊ မြင်းခြံ စသော ခရိုင်များတွင် တွေ့ရ၏။ ထိုလက်နက်နှင့် ပစ္စည်းများထဲတွင် ကျောက်ဖြင့်ပြုလုပ်ထားသော တူးရွင်း၊ ပုဆိန်၊ ပဲခွပ်၊ စူး၊ ဆောက်၊ သပ်၊ ထယ်သွားနှင့်



**အမေရိကန်ပြည်ထောင်စု အိုကလဟိုးမားပြည်နယ်မှ တူးဖော်တွေ့ရှိသော ကျောက်ခေတ်သုံး လှံသွားနှင့်မြားသွားများပုံ**

ကျောက်ဘီးများ ပါဝင်သည်။ ကျောက်လက်နက်များမှာ ယခုခေတ်သုံး သံလက် နက် များ နှင့် ပုံပန်း သဏ္ဌာန် ချင်း များစွာတူလှသည်။ မြန်မာနိုင်ငံ၌ ကျောက်ခေတ်သုံး အသုံးအဆောင် ပစ္စည်း မြောက်မြားစွာ မတွေ့ရှိရ သေးသည်မှာ ယခုတိုင်အောင် နှံ့နှံ့စပ်စပ် တူးဖော်ရှာဖွေခြင်း မပြုရသေး၍ ဖြစ်သည်။ မြန်မာနိုင်ငံ အရပ်ရပ်မှ တွေ့ရှိရသော ကျောက်လက်နက်နှင့် ကျောက်ခေတ် လူသုံးပစ္စည်းများကို ကာလကတ္တား ပြတိုက်နှင့် လန်ဒန်မြို့ ဗြိတိသျှ ပြတိုက်တွင် တွေ့မြင်နိုင်ပေသည်။

**ကျောက်ခတ်သံငှက်။** ။ငှက်ကျား — ရှု။

**ကျောက်ချဉ်။** ။ကျောက်ချဉ်သည် အရောင်ကင်း၍ ရှစ်မြှောင့် ခရစ္စတယ်ကလေးများအဖြစ် ဖွဲ့စည်းနေသော အခဲဖြစ်သည်။ ထိုအခဲတွင် ရေ ၄၅ ရာခိုင်နှုန်းခန့် ပါဝင်၏။ အလျူမီနီယမ် ဆာလဖိတ် (ဓါတ်ဆား) နှင့် ပိုတက်ဆီယမ် ဆာလဖိတ် (ဓါတ်ဆား) သို့မဟုတ် အမ်မိုးနီးယမ်း ဆာလဖိတ် (ဓါတ်ဆား) နှစ်မျိုးကို အညီအမျှ ရောစပ်ကာ အရည်ဖျော်၍ လုပ်လျှင် ရှစ်မြှောင့် ခရစ္စတယ် ကျောက်ချဉ်ခဲကလေးများဖြစ်လာသည်။

ကျောက်ချဉ်ကို သယံဇာတ အဖြစ်ဖြင့် တူးဖေါ် ရရှိနိုင်သည်။ သို့သော် ကျောက်မီးသွေးမှ ဓါတ်ငွေ့ကို ထုတ်ယူရာတွင် ကျောက်ချဉ်ကို ဘေးထွက်ပစ္စည်း အနေဖြင့် အမြောက်အမြား ရရှိနိုင်သည်။ ရှေးခေတ်အခါက လူများသည် ကျောက်ချဉ်ပါသော ကျောက်တုံးကို မီးဖုတ်၍ ကျောက်ချဉ်ကို ထုတ်ယူကြသည်။ အလယ်ခေတ်လောက်က ဥရောပနိုင်ငံများ၌ အသုံးပြုသော ကျောက်ချဉ်ကို ဥရောပ အရှေ့ဖက်ရှိ မွတ်စလင် နိုင်ငံများမှ ရရှိသည်။ ၁၅ ရာစုနှစ်သို့ ရောက်သောအခါမှ ကျောက်ချဉ် တွင်းများကို ဣတလီနိုင်ငံ တောင်ပိုင်းတွင် တွေ့ရှိကြလေသည်။

ကျောက်ချဉ်၏ ထူးခြားသော အချက်တရပ်မှာ ကျုံ့စေချုပ်စေတတ်သော သတ္တိဖြစ်၏။ ဥဒါဟရဏ် ကျောက်ချဉ်တခဲကို နှုတ်ခမ်းတွင် ပွတ်တိုက်ကြည့်လျှင် နှုတ်ခမ်းသည် ကျုံ့ယုံ့တင်းမာသွားသည်ကို တွေ့ရမည်။ ကျောက်ချဉ်ကို ဆေးဝါးအဖြစ်ဖြင့်အမျိုးမျိုး အသုံးပြုနိုင်ရာ သွေးတိတ်အောင်ပြုခြင်း၊ အနာစိမ်းများ ကုသခြင်း တို့အတွက် ကောင်း၏။ ထိုပြင် အထည်အလိပ်များ ဆေးဆိုးရာတွင်လည်း ဆေးရောင်ကို ချုပ်ရန်အတွက် အသုံးဝင်သည်။ သို့ရာတွင် ဤသို့ ချုပ်ဆေးအဖြစ်ဖြင့် အသုံးပြုသော ကျောက်ချဉ်၌ သံဓါတ်မပါအောင် သတိပြုရသည်။ သားရေနယ်ရာ၌၎င်း၊ စက္ကူလုပ်ငန်းတွင် စက္ကူကို မင်အစုတ်နည်းအောင်ပြုလုပ်ရာ၌၎င်း၊ နောက်ကျိသောရေကို ကြည်လင်အောင် ပြုလုပ်ရာ၌၎င်း၊ ကျောက်ချဉ်ကို အသုံးပြုကြ၏။ ရေကိုကြည်လင်စေရန် ရေတိုင်ကီများတွင် တခါတရံ ကျောက်ချဉ် သက်သက်ကိုဖြစ်စေ၊ ထုံးဖြင့် ရော၍ဖြစ်စေ အသုံးပြုတတ်ကြသည်။ ကျောက်ချဉ်သည်ဆေးဝါးဖက်တွင်အသုံးဝင်သော်လည်း တန်ရုံထက်လွန်၍ စားသုံးမိလျှင် ဥပဒ်ပေးတတ်သည်။ ကျောက်ချဉ်ကို မီးဖုတ်ကြည့်လျှင် ရေသည်အငွေ့ဖြစ်သွား၍ အမှုန့်သာ ကျန်သည်။



ဖူးပွင့်စုံဝေဆာ၍ပဏ္ဏာတင့်နေသောကျောက်ခွဲပင်

**ကျောက်ချဉ်ပန်းပင်။** ။ကြွေပန်းပင် — ရှု။

**ကျောက်ခွဲပင်။** ။ကျောက်ခွဲပင်သည် 'ဆက်စီဖရာဂေးစီး' မျိုးရင်းတွင် ပါဝင်သည်။ ဆက်စီဖရိတ်မှာ လက်တင်ဘာသာ စကားဖြစ်၍ ကျောက်ခွဲပင်ဟု အဓိပ္ပါယ်ရသည်။ အမည်နှင့် လိုက်အောင် ထိုအပင်များသည် ကျောက်မြေ ကျောက်ခဲများရှိသော နေရာများတွင်သာ ပေါက်ရောက်လေ့ရှိပြီး အမြစ်များသည် မြေကြီးမှ ရေနှင့် ဓါတ်သတ္တုများ ရရှိရေးအတွက် ကျောက်မြေများကို ခွဲဖေါက်ကာ စွဲမြဲစွာ ပေါက်ရောက်တတ်သည်။ ထို့ကြောင့် ကျောက်ခွဲပင်များသည် အပင်လောကတွင် အတော်အတန် ထင်ရှားသည်။ ယင်းတို့ကို စိုက်ပျိုးရန် လွယ်ကူသည်။ အချို့ကျောက်ခွဲပန်းမျိုးမှာ အလွန်လှပသောကြောင့် ဥယျာဉ်ခြံမြေများတွင်စိုက်ပျိုးကြ၏။

ကျောက်ခွဲပင်များ ပေါက်ရောက်ပုံမှာ ထူးဆန်းသည်။ အချို့မှာ တောင်များပေါ်တွင် ရေညှိ ကမ္ဗလာ ခင်းသကဲ့သို့ စိုစိုပြည်ပြည် စု၍ပေါက်ကြသည်။ အချို့မှာ တပင်စီ ခပ်ခွာခွာပေါက်သည်။ ရွက်လွှာကလေးများမှာ မဲ့ပြာရောင်ရှိ၍ နူးညံ့သည်။ အပွင့်ကလေးများမှာ အဖြူ အနီ ပန်းရောင်နှင့် မရမ်းစေ့ရောင် စသည်ဖြင့် အရောင်ကွဲ အမျိုးမျိုးရှိသည်။ ပွင့်ရာတွင် အုံလိုက်စု၍ ပွင့်ညှာခိုင် အဖျားတွင် ပွင့်ကြသည်။ အလွန်လှပသော တောင်ကျောက်ခွဲပန်းရိုင်းတမျိုး၏ အဝါရောင် အပွင့်ကလေးများတွင် အနီစက်ကလေးများ ပါရှိသည်။ အချို့အမျိုးမှာ အပွင့် သီးခြားမပွင့်ကြဘဲ ပင်စည်ဘေးရှိ ဖူးထွက်သော သစ်ဖုလုံးကလေးများမှ ထွက်၍ပွင့်ကြသည်။

**ကျောက်ဂွမ်း။** ။ခရစ္စတယ် ပုံရှိ၍ အမျှင်များ ပါရှိသော ကျောက်မျိုးကို ကျောက်ဂွမ်း ဟုခေါ်သည်။ ဤကျောက်မျိုးမှ ကျောက်သားများကိုဖယ်ရှား၍ အမျှင်များကို ထုတ်ယူပြီးလျှင် သိုးမွေးကဲ့သို့ ရက်ယူနိုင်သည်။ ကျောက်ဂွမ်း

တွင် မီးခံနိုင်သော သတ္တိရှိခြင်းကြောင့် မီးကာ ပစ္စည်းများ ပြုလုပ်ရာ၌ဖြစ်စေ၊ မီးခံ ပစ္စည်းများ ပြုလုပ်ရာ၌ဖြစ်စေ၊ အသုံးပြုသည်။ သိပ္ပံ ဝေါဟာရ အလိုအားဖြင့် ကျောက်ဂွမ်းကို အက်စဗက်စတော့ ဟုခေါ်သည်။ ဤစကားမှာ ဂရိ ဝေါဟာရဖြစ်၍ 'မီးမငြိနိုင်' ဟုအဓိပ္ပါယ်ရသည်။ ကျောက်ဂွမ်းတွင် မီးခံခြင်းနှင့် သိုးမွေးကဲ့သို့ ရက်ယူနိုင်ခြင်း ဂုဏ်တို့ ရှိကြောင်းကို အလွန်ရှေးကျသော ခေတ်ကပင် လူတို့သိရှိခဲ့ကြသည်။ ရှားလမိန်း ဘုရင်ထံ၌ ကျောက်ဂွမ်းဖြင့် ရက်လုပ်ထားသည့် စားပွဲခင်း ရှိသည်ဟူ၍၎င်း၊ ထိုစားပွဲခင်းကို သန့်ရှင်း စင်ကြယ်အောင် လုပ်လိုတိုင်း မီးမြှိုက်ပေးရသည် ဟူ၍၎င်း ပြောစမှတ်ရှိခဲ့လေသည်။

ကျောက်ဂွမ်းမှ အမျှင်များကို အထည်ကဲ့သို့ ရက်လုပ်ခဲ့သော ပဌမဆုံး နိုင်ငံ ကား ဣတလီ နိုင်ငံ ဖြစ်သည်။ ကျောက်ဂွမ်းမှ အထည်များ မပြုလုပ်ယူမီ ပဌမဆုံး ကျောက်ကို ကြိတ်စက်များတွင် ထည့်၍ ကြိတ်ပြီးလျှင် အမျှင်များကိုထုတ်ယူသည်။ အမျှင် ကောင်း ကောင်း ရအောင် အမျိုးမျိုး အဖုံဖုံ ပြုပြင်ပေးရသည်။ တခါတရံ ခြည်မျှင်များ ဖြင့် ဖြစ်စေ၊ ကြေးနီ သို့မဟုတ် ကြေးဝါ နန်းကြိုး များ ဖြင့် ဖြစ်စေ၊ ပူး၍ အမျှင်များ ဖြစ်အောင် ကျစ်ယူသည်။ ထိုအမျှင်များမှ တဖန် အထည်များ ရက်ယူကြသည်။ ကျောက်ဂွမ်းထည်ကို အသုံးလိုက်၍ အမျိုးမျိုး ပြုလုပ်နိုင်သည်။ ကမ္ဘာပေါ်တွင် တနှစ်တနှစ်လျှင် အသုံးပြုလျက်ရှိသော ကျောက်ဂွမ်း တန်ချိန် ၃၅၇,၀၀၀ အနက် ၇၇ ရာခိုင်နှုန်းကို ကနေဒါတနိုင်ငံတည်းမှပင် အများအပြား ရရှိလေသည်။ ထိုကြောင့် ကျောက်ဂွမ်းသည် ကနေဒါနိုင်ငံ၏ ဝင်ငွေကောင်းလှသော ထွက်ကုန်တရပ် ဖြစ်ပေသည်။ ကျောက်ဂွမ်းအသင့် အတင့်ထွက်ကြသောအခြားနိုင်ငံများမှာ ရိုးဒီးရှားယား၊ ရုရှ၊ တောင်အာဖရိက ပြည်ထောင်စု၊ ဣတလီနှင့် အမေရိကန်ပြည်ထောင်စုတို့ဖြစ်ကြသည်။

ရေနွေးငွေ့ ပိုက်များတွင် သုံးရန် အပူကာ ပစ္စည်းများကို ဂရက်ဖိုက် (ခဲနက်) အမဲဆီ တို့ဖြင့် ကျောက်ဂွမ်းကို ရောစပ် စီမံယူကြသည်။ ဇာတ်ရုံတွင်အသုံးပြုသည့် မီးခံ ကန့်လန့်ကာများမှာ ကျောက်ဂွမ်းပြားများ ဖြစ်သည်။ ဤမီးခံ ကျောက်ဂွမ်းပြားများသည် အပြင်အပမှ အနှောင့်အယှက်ပေးမည့် မလိုလားအပ်သောအသံများကို အသင့်အတင့် သက်သာရာရစေရန် တားဆီးထားနိုင်သည့်ပြင် ရာသီဥတုကြောင့်ဖြစ်ပေါ်သော စိုထိုင်းမှုကိုလည်း ကာကွယ်ပေးနိုင်ကြောင်းစမ်းသပ်သုံးစွဲသဖြင့်သိရသည်။



ကျောက်ဂွမ်းသတ္တိ
ကျောက်ဂွမ်းဝတ်စုံဝတ် ဆင်၍ မီးသတ်ရန်အသင့်ရှိကြသော မီးသတ်ရဲဘော်များ



ပဉ္စမသံဂါယနာသမိုင်းဝင် ပိဋကတ်ကျောက်စာတော်များ

သာသနာဒါယကာ၊ ရတနာပုံမြို့တည်နန်းတည် မင်းတုန်းဘုရင်မင်းတရားကြီးသည် မန္တလေးမြို့ကုသိုလ်တော်ဘုရားအတွင်းတွင် အမြော်အမြင်ကြီးစွာဖြင့် ဤသို့ကျောက်စာတော်များ စိုက်ထူလှူဒါန်းခဲ့သည်။

**ကျောက်စာ။** ။ရှေးလူများသည် အကြောင်းအရာ တခုခုကို ပျောက်ပျက်မသွားရအောင် မှတ်သားထားလိုလျှင် ကျောက်တိုင် ကျောက်တုံးများတွင် ရေးထိုး၍ ထားတတ်ကြသည်။ ထိုသို့ရေးမှတ်ထားခြင်းမျိုးကိုကမ္ပည်းကျောက်စာ ရေးထိုးသည်ဟူ၍၎င်း၊ ကျောက်ထက်အက္ခရာ တင်သည်ဟူ၍၎င်း ခေါ်ကြသည်။ ကျောက်စာများကို လေ့လာခြင်းဖြင့် ကျောက်စာ ရေးထိုးသောခေတ်က ယုံကြည်မှု အယူဝါဒများ၊ ယဉ်ကျေးမှု အနုပညာများနှင့် လူမှုဆက်ဆံရေးများကို မှန်းဆ အကဲခတ်နိုင်ရကား ကျောက်စာများသည် နိုင်ငံသမိုင်းကို များစွာ အထောက်အကူ ပေးနိုင်လေသည်။

ကမ္ဘာပေါ်တွင် ကျောက်စာ ရေးထိုးခြင်းဓလေ့ ပေါ်ပေါက်သည်မှာ ဘီစီ ၃၆၀၀ ခန့်ကပင် ဖြစ်ဟန်တူသည်။ ရှေးဦးစွာ ကျောက်စာရေးထိုးသော လူမျိုးမှာ အီဂျစ်လူမျိုးဖြစ်သည်။ အီဂျစ်ပြည်သားများသည် ဟိုင်ယာရိုဂလစ် ခေါ် ရုပ်ပုံစာ အမှတ်အသားဖြင့် ဘုရင်သင်္ချိုင်းများ၊ အထိမ်းအမှတ် အဆောက်အအုံများတွင် ရေးထိုးထားခဲ့ကြသည်။ ထိုနောက် နှစ်ပေါင်း ၂၀၀ ခန့် ကြာသော အခါ ဗက်ဗီလုံး နိုင်ငံနှင့် အခြား မြေထဲပင်လယ် ဒေသများတွင် စာရေးစာဖတ် ပညာများ တတ်မြောက်တိုးတက်လာခဲ့ရာ ထိုအရပ်ဒေသ များတွင်လည်း ကျောက်စာရေးထိုးသော ဓလေ့များ ပေါ်ပေါက်လာ လေသည်။ အီဂျစ်နိုင်ငံ၊ စပိန်နိုင်ငံနှင့် မြေထဲပင်လယ် အရှေ့ပိုင်း နိုင်ငံများတွင် တွေ့ရှိရသော ရုပ်ပုံစာ အမှတ်အသား အမျိုးပေါင်း ၃၀၀ကျော်တို့မှာတနိုင်ငံနှင့်တနိုင်ငံများစွာတူညီလေသည်။

အီဂျစ်နိုင်ငံ၌ ဘီစီ ၃၄၀၀ မှ ၂၇၀၀ အထိ နှစ်အမည်များကို ရေးမှတ်ထားခဲ့သော ကျောက်တုံးတခုကို တွေ့ရှိသဖြင့် ယခုအခါ စစ္စလီကျွန်း ပါလာမို ပြတိုက်တွင် ထားရှိသည်။ ထိုကျောက်တုံးကို ပါလာမိုကျောက်စာ ဟုခေါ်တွင်လျက်ရှိသည်။

ထိုမှတပါး ဗက်ဗီလုံး နိုင်ငံတွင် ဘီစီ ၂၀၀၀ ကျော်က စိုက်ထူခဲ့သော ဟမ္မူရာဗီဘုရင်၏ ဥပဒေစု ကျောက်စာတိုင်ကြီး သည်၎င်း၊ အဆီးရီးယား နိုင်ငံတွင် ဘီစီ ၇၀၀ ခန့်က ဆင်နာကရစ် ဘုရင် စိုက်ထူခဲ့သော ကျောက်စာတိုင်သည်၎င်း၊ ဘီစီ ၂၀၀ ခန့်က အီဂျစ်နိုင်ငံတွင် စိုက်ထူခဲ့သော ရိုဇက်တာ ကျောက်စာတိုင်သည်၎င်း ထင်ရှားသော

ကျောက်စာ ဟောင်းများ ဖြစ်ပေသည်။ ရိုဇက်တာ ကျောက်စာတိုင်မှာ ဟိုင်ယာရိုဂလစ်ဖစ် ခေါ် ရုပ်ပုံစာရေးနည်း၊ ဒီမိုတစ်ရေးနည်း၊ ဂရိရေးနည်း ဟူ၍ ၃ မျိုး ရေးထိုးထားလေသည်။ ပြင်သစ်လူမျိုး ရှမ်ပိုလီယန် ဆိုသူသည် ထိုကျောက်စာတွင် ပါရှိသော ရှေးအီဂျစ်စကားကို အနက်ဖေါ်ရာတွင် အနှစ် ၂၀ တိုင်တိုင်ကြာမှ အောင်မြင်လေသည်။ ထိုကျောက်စာကို ယခုအခါ ဗြိတိသျှပြတိုက်တွင် တွေ့မြင်နိုင်သည်။

အမေရိကတွင်လည်း ရှေးဟောင်းကျောက်စာများကို တွေ့ရှိရသည်။ မြောက်အမေရိကတိုက် မက္ကဆီကိုနိုင်ငံ တောင်ပိုင်းတွင် နေထိုင်ခဲ့ကြသော 'မာယာ' ခေါ် လူမျိုးတမျိုးသည် ဘီစီ ၆၀၀ ကျော်ကပင် ကျောက်စာရေးထိုးခြင်း ပြုလုပ်ခဲ့ကြသည်။ သူတို့ အသုံးပြုသော မှတ်သားနည်းမှာလည်း ရုပ်ပုံရေးထိုးမှတ်သားနည်း ပင်ဖြစ်သည်။

အိန္ဒိယနိုင်ငံတွင် ကျောက်စာရေးထိုးခြင်း ပေါ်ပေါက်သည့်ခေတ်မှာ ရှေးအီဂျစ်နိုင်ငံ ဗက်ဗီလုံးနိုင်ငံများ၏ ယဉ်ကျေးမှုခေတ်နှင့် တခေတ်တည်း မှာပင်ဖြစ်သည်။ သိန္ဓုမြစ်ဝှမ်း မိုဟန်ဂျိဒါရို ဟာရပ်ပ အရပ်များမှ တူးဖေါ်တွေ့ရှိရသော အချို့ကျောက်စာတို့ကို ယခုတိုင် အနက်ဖေါ်၍ မရရှိသေးချေ။ အိန္ဒိယနိုင်ငံ၌ အခြားထင်ရှားသော ကျောက်စာများမှာ ဘီစီ ၂၅၀ ခန့်က စိုက်ထူခဲ့သော သီရိဓမ္မာသောက ကျောက်စာများပင်ဖြစ်သည်။ သီရိဓမ္မာသောက မင်းတရားကြီးသည် ဗုဒ္ဓမြတ်စွာနှင့် စပ်လျဉ်းသည့် ထင်ရှားသော နေရာများတွင် အထိမ်းအမှတ် ကျောက်စာတိုင်များ စိုက်ထူခဲ့သည်သာမက မြတ်စွာဘုရားသခင်၏ ဆုံးမသြဝါဒများကိုလည်း နိုင်ငံတော်အတွင်း အနှံ့အပြားနေရာများ၌ ကျောက်ထက်တွင် ရေးထိုးစေခဲ့သည်။ သီရိဓမ္မာသောက ကျောက်စာများကို ဗြာဟ္မီ အက္ခရာ၊ ခရော့ရှတီ အက္ခရာများဖြင့် ရေးထိုးခဲ့လေသည်။

တရုပ်နိုင်ငံတွင် ဘီစီ ၂၀၀၀ ခန့် ရှန်မင်းများ လက်ထက်ကပင် စာပေရေးသားမှုကို တတ်မြောက်ကြသော်လည်း ကျောက်ထက်တွင် ရေးထိုးလေ့မရှိဘဲ ဆင်စွယ်၊ လိပ်ခွံ၊ အရိုးများနှင့် ဝါးများအပေါ်တွင်သာ ရေးမှတ်လေ့ ရှိလေသည်။ ခရစ်သက္ကရာဇ် ၂၀၀ ခန့်တွင်မှ တရုပ် စာကောင်းပေကောင်းများကို ကျောက်ပြားများပေါ်တွင် ရေးထိုး၍ ထိုမှတဆင့် စက္ကူဖြင့် ကူးယူသော စံနစ်ကိုအသုံးပြုကြသည်။

မြန်မာနိုင်ငံတွင် ကျောက်စာရေးထိုးခြင်း အလေ့အထမှာ သရေခေတ္တရာ ခေတ်ကပင် စတင်ပေါ်ပေါက်ခဲ့လေသည်။ သရေခေတ္တရာ မြို့ဟောင်းနေရာမှ တူးဖေါ်ရရှိသောကျောက်အရိုးအိုးများတွင် ပျူဘုရင် ဘွဲ့များနှင့် ထိုမင်းများ၏ နတ်ရွာစံ သက္ကရာဇ်များ ရေးထိုးထားသည်ကို တွေ့ရသည်။ ပုဂံခေတ် မြန်မာလူမျိုးတို့သည် အထူးသဖြင့် ဘုရားတည် ကျောင်းဆောက် စသော ကုသိုလ်ကောင်းမှုများ ပြုပြီးသည့်အခါ အလှူပစ္စည်း စာရင်းနှင့်တကွ ဆုတောင်းစာ၊ ကျိန်စာများကို ကျောက်ထက်တွင် ရေးထိုးသောအားဖြင့် မှတ်တမ်းတင်ကြလေသည်။

မြန်မာနိုင်ငံ အရပ်ရပ်တွင် ပျူစာ၊ မွန်စာ၊ မြန်မာစာ၊ ပါဠိစာ၊ သက္ကတစာ စသည်တို့ဖြင့် ရေးထိုးထားသော ကျောက်စာအများ တွေ့ရှိရသည်။ ထိုပြင် ဒူးဂဏန်း ကြေးဂဏန်းများဖြင့် ရေးသားထားသော ကျောက်စာများလည်း ရှိသေးသည်။ မြန်မာနိုင်ငံအတွင်း တွေ့ရှိရသော ကျောက်စာများအနက် ပုဂံမြို့မှ မြစေတီ ကျောက်စာမှာ အထူးအရေးပါ အရာရောက်သော ကျောက်စာတခုဖြစ်သည်။ ထိုကျောက်စာမှာ အကြောင်းအရာ တမျိုးတည်းကို ကျောက်တိုင် ၄ မျက်နှာတွင် မြန်မာ၊ မွန်၊ ပါဠိ၊ ပျူ တည်းဟူသော ဘာသာကြီး ၄ မျိုးဖြင့် အသီးအသီး ရေးထိုးထားခဲ့လေသည်။ မြစေတီ ကျောက်စာကို လေ့လာခြင်းအားဖြင့် ပုဂံခေတ်၌ သုံးနှုန်းသော ဘာသာစကားများကို သိရှိနိုင်သည့်အပြင် မြန်မာနိုင်ငံ၏ သမိုင်းအတွက် သက္ကရာဇ် အထောက်အထားများကိုလည်း တိကျစွာသိနိုင်ပေသည်။ (မြစေတီကျောက်စာ — ရှု။)



**ရိုဇက်တာကျောက်စာတိုင်**

ဟိုင်ယာရိုဂလစ်ဖစ်ရုပ်ပုံစာရေးနည်း၊ ဒီမိုတစ်ရေးနည်း၊ ဂရိရေးနည်း ၃ မျိုးဖြင့် ရေးထိုးထားရာ၊ ပြင်သစ်လူမျိုး ရှမ်ပိုလီယန်သည် အနှစ် ၂၀ တိတိကြိုးစား၍ အနက်ပြန်ဆိုခဲ့ရသည်။

ကမ္ဘာ့ကျောက်စာများ သမိုင်းတွင် ပဥ္စမ သံဂါယနာ တင် မင်းတုန်းမင်းတရားကြီး၏ ရေးထိုးခဲ့သော ပိဋကတ်ကျောက်စာများသည်လည်း အရေးကြီးသော အခန်းတခု အဖြစ် ပါဝင်ပေသည်။ ပဥ္စမ သံဂါယနာ တင်ပြီးနောက် မင်းတုန်းမင်းတရားကြီးသည် ပိဋကတ်တော်များ အစွန့်ရှည်စွာ တည်စေအံ့သောငှာ ဝိနည်း ပိဋကတ်တော်ကို ကျောက်ချပ်ရေ ၁၁၁ ပေါ်တွင်၎င်း၊ အဘိဓမ္မာပိဋကတ်တော်ကို ကျောက်ချပ်ရေ ၂၀၈ ပေါ်တွင်၎င်း၊ သုတ္တန်ပိဋကတ်တော်ကို ကျောက်ချပ်ရေ ၄၁၀ ပေါ်တွင်၎င်း၊အသီးအသီး ရေးထိုးကာ ကျောက်ထက်အက္ခရာ တင်တော်မူခဲ့သည်။ ကျောက်ချပ်ရေ စုစုပေါင်း ၇၂၉ ချပ်ရှိ၍ ကမ္ဗည်းရေးထိုးရာ၌ ၇ နှစ်နှင့် ၅ လ ကျော်မျှ ကြာလေသည်။ ထိုပိဋကတ် ကျောက်စာတိုင်များကို ကုသိုလ်တော်စေတီ မဟာရံအတွင်း လိုဏ်ဂူပြာသာဒ်များဖြင့် တည်ထားကိုးကွယ်တော်မူခဲ့သည်။

မြန်မာနိုင်ငံတွင် ကျောက်စာရေးထိုးခြင်း ဓလေ့မှာ ယခုတိုင် ထင်ရှားလျက် ရှိသေးသည်။ သို့ရာတွင် ယခုခေတ်ရေးထိုးသောကျောက်စာများမှာများသောအားဖြင့်မြန်မာဘာသာ သက်သက်ဖြင့်ဖြစ်၍ ရေးထိုးပုံမှာလည်း ယခင်ခေတ် ကျောက်စာများ ရေးထိုးပုံနှင့် မတူပေ။ ရှေးခေတ်က မန်ကျည်းစေ့ အက္ခရာဖြင့် ရေးထိုးကြသော်လည်း နှောင်းခေတ်များ၌မူ အက္ခရာဝန်းဖြင့်သာ ရေးထိုးလေ့ရှိကြလေသည်။

**ကျောက်စုန်းတောက်ခြင်း နှင့် ပိုးစုန်းတောက်ခြင်း။**

။နေသည်၎င်း၊ ရေနံဆီမီးသည်၎င်း၊ လျှပ်စစ်မီးသည်၎င်း၊ အလင်းရောင်ကို အသီးသီး ပေးကြ၏။ ထိုပစ္စည်းတို့သည် အလင်းတခုတည်း ကိုသာမဟုတ်ဘဲ အပူကိုလည်း တပါတည်း ထုတ်ပေးကြသည်။ သို့ရာတွင် ပိုးစုန်းကြူးနှင့် ညကြည့်နာရီများကို ကြည့်မည်ဆိုလျှင် အပူကို မပေးဘဲ အလင်း တခုတည်းကိုသာ ပေးတတ်သည့် ပစ္စည်းများလည်း ရှိကြောင်းကို သတိမူမိကြ ပေလိမ့်မည်။

ကယ်လဆီယမ် ဆာလဖိုက် (ဒ) စထရွန်ရှီယမ် ဆာလဖိုက် (ဒ) နှင့် ဗေရီယမ် ဆာလဖိုက် (ဒ) စသော တွင်းထွက်သတ္တုများကို အလင်းရောင်၌ ပဌမ ခံယူစေပြီးနောက် မှောင်ထဲ၌ ထားလျှင် လင်းလျက်နေတတ်သည်။ ထိုပစ္စည်းများနှင့်အလားတူ လင်းသည့် ဗက်တီးရီးယား၊ ပိုးစုန်းကြူး၊ တီစုန်း ကင်းစုန်း တို့ကဲ့သို့သော ကုန်းသတ္တဝါ၊ ရေသတ္တဝါများလည်း အများပင်ရှိသည်။ ဤအလင်းမျိုး ဖြစ်ပေါ်လာပုံအကြောင်းမှန်ကို အတိအကျ မသိရသေးချေ။ သို့ရာတွင် အထက်ပါ ပစ္စည်းတို့၏ လင်းပုံမှာ ဖေါ့စဖေါရပ်ခေါ်ဒြပ်စင်ကို အမှောင်ထဲ၌ ထားလျှင် စိမ်းလဲ့လဲ့ အပြာရောင်ဖြင့် လင်းပုံမျိုးအတိုင်း ဖြစ်သဖြင့် ထိုအလင်းမျိုးကို ဖေါ့စဖေါရက်စင်း (ကျောက်စုန်းတောက်ခြင်း) ဟူ၍ ယေဘုယျအားဖြင့် ခေါ်စမှတ်ပြုကြ၏။

တဖန် ပစ္စည်းတခုမှ မီးဖိုသော အလိုအလျောက် ထုတ်ပေးသည့် အလင်းမျိုးကို လူမီနက်စင်း (ပိုးစုန်းတောက်ခြင်း) ဟူ၍လည်း ခေါ်ပြန်ရာ ဤဖေါ့စဖေါရက်စင်းနှင့် လူမီနက်စင်း ဟူသော ဝေါဟာရ နှစ်ရပ်လုံးကို အရောရောအနှောနှော သုံးစွဲလေ့ ရှိကြသည်။ သို့ရာတွင် ထိုဝေါဟာရတို့၏ အဓိပ္ပါယ်ချင်းမှာ မတူပေ။ အတိအကျ ပြောရလျှင် ဖေါ့စဖေါရက်စင်းမှာ အထက်တွင် ဖေါ်ပြခဲ့သောတွင်းထွက်သတ္တုတို့ကဲ့သို့ အလင်းရောင်ကိုဖြစ်စေ၊ အခြား အလင်းဓါတ်ရောင်ခြည် တမျိုးမျိုး ကိုဖြစ်စေ ပဌမ ခံယူပြီးနောက်မှ အမှောင်ထဲ၌ အပူရှိန် ကင်းစွာဖြင့် ဆက်လက်၍ လင်းနိုင်သော သတ္တိကိုသာ ဆိုလိုပေသည်။ ပိုးစုန်းကြူးကဲ့သို့ သက်ရှိသတ္တဝါတို့၏ ကိုယ်မှ ထွက်သောအလင်းမှာမူ ထိုအလင်းနှင့် ခြားနား၍ ထိုအလင်းကို အမှန်စင်စစ် လူမီနက်စင်း ဟူ၍ခေါ်ရသည်။

ပိုးစုန်းကြူးမှ အလင်းရောင်ပေးသော အစိတ်အပိုင်းတွင် လူဆီဖါရင်နှင့် လူဆီဖါရေ့ ဟုခေါ်သော ပစ္စည်းနှစ်မျိုး ပါဝင်သည်။ လူဆီဖါရင်သည် လေနှင့်ရေ ရှိသောနေရာတွင် အောက်ဆီဂျင်နှင့် ပေါင်းစပ်ပြီးနောက် အလင်းရောင်ကို ဖန်တီးထုတ်ပေးသည်။ လူဆီဖါရေ့ကမူ အင်ဇိုင်း တမျိုးဖြစ်၍ အလင်းရောင်ဖြစ်ပေါ်ရေးအတွက် အားပေးသည်။

တခါတရံ ပင်လယ်ပြင်၌ အစုလိုက် အအုပ်လိုက် ဖြစ်စေ၊ တကောင်ချင်းဖြစ်စေ၊ အလင်းရောင် ထွက်နေသည့် ငါးနှင့် အခြားရေသတ္တဝါများကို တွေ့ရတတ်ရာ၊ ထိုသို့ အလင်းရောင်ထွက်ခြင်းမှာ ထိုသတ္တဝါတို့ ကိုယ်ပေါ်တွင် ကပ်နေသော အလင်းရောင် ပေးနိုင်သည့် ဗက်တီးရီးယား များကြောင့်ဖြစ်သည်။ အဆိုပါ ဗက်တီးရီးယားများကို ရေထဲ၌ အတွေ့ရများ၍ ဤကဲ့သို့ ကိုယ်ပိုင် အလင်းရောင် ပေးနိုင်သည့် ဗက်တီးရီးယားပေါင်းမှာ အားလုံး ၂၀ မျိုးခန့်ရှိသည်ဟုသိရသည်။

**ကျောက်ဆေးထိုးခြင်း။**

။၁၇၆၀ ခုနှစ်၊ နွေရာသီတညနေခင်းတွင် အင်္ဂလန်နိုင်ငံ ဗရစ္စတိုမြို့ အနီးရှိ ဆေးရုံတရုံ၌ နွားနို့သည်မကလေး တယောက်သည် မိမိ၏ရောဂါကို ပြသလို၍ ဆရာဝန်ထံသို့ ရောက်လာလေသည်။ ဆရာဝန်က နွားနို့သည်မ၏ရောဂါမှာ ကျောက်ကြီးရောဂါဖြစ်ကြောင်း ပြောလေသည်။ နွားနို့သည်မကလေးမှာ ထိုသို့ပြောသည်ကို မကျေနပ်နိုင်ဘဲ၊ 'အိုရှင်၊ ကျမ နွားကျောက် ပေါက်ပြီးပါပြီ။ ကျောက်ကြီးရောဂါ မဖြစ်နိုင်ပါဘူး' ဟုပြောဆို၍ ထွက်သွားလေသည်။

ထိုအချိန်၌ ဆရာဝန်၏ အနားတွင် အက်ဒွပ် ဂျန္နား ဆိုသူ ၁၉ နှစ်အရွယ် ဆေးကျောင်းသား တယောက်ရှိလေသည်။ ထိုသူတဦးတည်းသာလျှင် နွားနို့သည်မ၏ စကားကို ဂရုတစိုက် မှတ်သားလိုက်လေသည်။ အက်ဒွပ် ဂျန္နားကား ဆေးပညာကို ပြီးမြောက်အောင် သင်ကြားလျက်နေစဉ် ထိုစကားကို သတိရနေသည်။ နွားနို့သည်မ၏ စကားမှန်ပါက လူများကို နွားကျောက် ပေါက်အောင်လုပ်ပြီးလျှင် ကျောက်ကြီးရောဂါကို ကာကွယ်ပေးနိုင်မည်ဟု တွေးထင်မိလေသည်။ ထိုကြောင့် နွားနို့သည်မ၏ စကား မှန်မမှန်ကို စုံစမ်းရန်သန္နိဋ္ဌာန်ချခဲ့လေသည်။

ဂျန္နားသည် ၁၇၇၃ ခုနှစ်တွင် ဆေးပညာကို သင်ယူတတ်မြောက်ပြီးဖြစ်၍ ဗာကလေးမြို့သို့ ပြန်လာပြီးနောက်၊ ဆေးဆရာ အဖြစ်ဖြင့် အသက်မွေးမှုလေသည်။ သူသည် အားလပ်ချိန်များတွင် နွားကျောက်အကြောင်းကို စံနစ်တကျ လေ့လာသည်။ ထိုသို့ လေ့လာရာတွင် နွား ကျောက် ပေါက်ဘူးသူသည် ကျောက်ကြီးရောဂါ မဖြစ်နိုင်ဟုဆိုသော နို့သည်မ၏ အယူအဆမှာ အကယ်ပင် မှန်ကန်ကြောင်းကိုသိလေသည်။ ဂျန္နားကား နှစ်ပေါင်း ၂၀ တိုင်အောင် နွားကျောက်အကြောင်းကို လေ့လာပြီးမှ ကျောက်ကြီးရောဂါကာကွယ်နိုင်သည့် ကျောက်ဆေးထိုးနည်းကို သိရှိခြင်းဖြစ်လေသည်။ (ဂျန္နား, အီး၊ — ရှု။)

၁၇၉၆ ခု မေလ ၁၄ ရက်နေ့တွင် ဂျန္နားသည် အသက် ၈ နှစ် အရွယ် ရှိဂျိမ်း ဖစ်ခေါ် သူငယ် ကလေးကို နွားကျောက် ရည်နှင့်စမ်း၍ ကျောက်ဆေး ထိုးပေးလေသည်။ ကျောက်ဆေး ထိုး ပေး သော နေရာ၌ နွားကျောက်အဖုများပေါက်လာသည်။ ထိုနောက် ကလေးကို ကျောက်ကြီးမှ ပြည်များဖြင့်ထပ်၍ ထိုးပေးပြန်သည်။ သူ ထင်မှတ်ခဲ့သည့် အတိုင်းပင် ထိုကလေးတွင် ကျောက်ကြီးရောဂါမဖြစ်ကြောင်းကို တွေ့ရသည်။ ထိုအချိန်မှစ၍ ကျောက်ကြီးရောဂါကို ကာကွယ်ရန် ကျောက် ဆေး ထိုး ခြင်း မှာ ခေတ်စားလာလေသည်။

ဂျန္နားသည် နွားကျောက်မှ ထုတ်ယူရရှိသော နွားကျောက်ရည်ကို 'ဗက်ဆင်း' ဟုအမည်ပေးခဲ့၍၊ ကျောက်ဆေးထိုးခြင်းကို 'ဗက်ဆင်းနေးရှင်း' ဟုခေါ်ခဲ့သည်။ ဗက်ဆင်း ဆိုသောစကားမှာ လက်တင် အလိုအားဖြင့် နွားဟု အဓိပ္ပါယ်ရသည့် 'ဗက်ကာ' ခေါ် ဝေါဟာရကို အစွဲပြုပြီး မှည့်ခေါ်ထားခြင်းဖြစ်သည်။ ကျောက်ဆေးထိုးခြင်းအလေ့အထသည် ချက်ခြင်းပင် ဥရောပတိုက်နှင့် အမေရိကတိုက်တို့သို့ ပျံ့နှံ့သွားလေသည်။ မျှားမကြာမီ နိုင်ငံ အနှံ့အပြားတွင် ကျောက်ကြီးရောဂါကို ယခင်ကလောက် စိုးရိမ်စရာ မရှိအောင် တိုက်ခိုက် နှိမ်နင်း နိုင်ကြလေသည်။ ကျောက်ဆေးထိုးခြင်းသည် ကျောက်ကြီးရောဂါ ကာကွယ်ရေးအတွက် အလွန်ထိရောက်သဖြင့် ယဉ်ကျေးသော တိုင်းပြည်ဟူသရွေ့၌ ကျောက်ဆေးမထိုးဘဲမနေရ ဟူသောဥပဒေကို ထုတ်ပြန်ထားကြလေသည်။



ပဌမဆုံးအကြိမ်နွားကျောက်ရည်နှင့်စမ်း၍ကျောက်ဆေးထိုးပေးနေဟန်



ကျောက်ဆည်မြို့၏ စိမ်းလန်းစိုပြည်သောရှုခင်းတရပ်

ကျောက်ဆေးကို ၁ ကြိမ်ထိုးရုံဖြင့် ကျောက်ကြီးရောဂါကို နှစ်ပေါင်းများစွာ ကာကွယ်နိုင်သော်လည်း တသက်လုံး အတွက် လုံလောက်ပြီဟု မယူဆသင့်ပေ။ အနည်းဆုံး ၇ နှစ်လျှင် ၁ ကြိမ်ထပ်ကာ ထိုးပေးမှသာ ထိုရောဂါကို အမြဲတမ်း ကာကွယ်ပေးရာရောက်လေသည်။ ကျောက်ဆေးထိုးခြင်းသည် ကျောက်ကြီးရောဂါ မဖြစ်အောင် ကာကွယ်ပေးခြင်း ဖြစ်သည်။ ကျောက်ကြီးရောဂါ ဖြစ်သည်တိုင် အောင်လည်း အသက်ဘေး အန္တရာယ်အတွက် စိုးရိမ်စရာ မရှိချေ။ (ဗိဇမျိုး — လည်းရှု။)

**ကျောက် ဆည် ခရိုင်**။ ။ကျောက် ဆည် ခရိုင် သည် မန္တလေးတိုင်းအတွင်း မိုးခေါင်ရေရှား ရပ်ဝန်း၌ လုံးလုံးလျားလျား တည်ရှိသည်။ မြောက်ဖက်တွင် မန္တလေးခရိုင်နှင့် မြစ်ငယ်မြစ်၊ အရှေ့ဖက်တွင် ရှမ်းပြည်နယ်၊ အနောက်ဖက်တွင် မြင်းခြံခရိုင်နှင့်စစ်ကိုင်းခရိုင်၊ တောင်ဖက်တွင် မိတ္ထီလာခရိုင် တို့ဖြင့် နယ်နိမိတ် ပိုင်းခြားသတ်မှတ်လျက် ရှိသည်။ ထိုခရိုင်၌ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်မြို့နယ်၊ မြစ်သားမြို့နယ်ဟူ၍ မြို့နယ် ၃ ခုပါဝင်သည်။

မိုးပါးသော ဒေသတွင် တည်ရှိသဖြင့် တနှစ်အတွင်း ပျမ်းမျှမိုးရေချိန်မှာ လက်မ ၃၀ ခန့်သာရှိသည်။ သို့သော် ရှေးမြန်မာ ဘုရင်များ တူးဖေါ်သွယ်ဖေါက်ခဲ့သော ဆည်မြောင်းများ ရှိသဖြင့် မိုးနည်းပါးစေကာမူ ကောင်းစွာ လယ်ယာ လုပ်ကိုင်စိုက်ပျိုးနိုင်သည်။

အနော်ရထာ မင်းသည် ထိုခရိုင်တွင် ဆည်မြောင်းနှင့် ရေလွှဲပေါက် ၉ ခုကို တည်ဆောက်ခဲ့ပြီးလျှင် လယ်တွင်း ၁၁ ရွာကို ပြုစုတော်မူသည်။ လယ်တွင်း ၁၁ ရွာမှာ ပင်လယ်၊ မြစ်မနား၊ မြစ်သား၊ မြင်းခုံတိုင်၊ ယမုံး၊ ပနံ၊ မက္ခရာ၊ တပြက်သာ၊ သင်တောင်၊ တမုတ်ဆိုးနှင့် ခံလူးရွာများ ဖြစ်ကြသည်။ ထိုကြောင့် ကျောက်ဆည်ခရိုင်ကို ရှေးအခါက လယ်တွင်း ၉ ခရိုင်ဟူ၍၎င်း၊ ရေလွှဲ ၉ ခရိုင်ဟူ၍၎င်း ခေါ်ဆိုကြောင်း မြန်မာ ရာဇဝင်များအရ သိရသည်။ လယ်တွင်း ၉ ခရိုင်တွင် စောလှမြို့၊ ပင်လယ်မြို့၊ မြစ်သားမြို့၊ ပျဉ်းမနားမြို့၊ပန်းလောင်မြစ် ၄ ခရိုင်ပါဝင်၍ မြောင်လှမြို့၊ မြင်းခုံတိုင်မြို့၊ ပနံမြို့၊ မက္ခရာမြို့နှင့် မြင်စိုင်းမြို့၊ ဇော်ဂျီမြစ် ၅ ခရိုင် ပါဝင်သည်။ မြန်မာနိုင်ငံသမိုင်းတွင် ဤလယ်တွင်း ၉ ခရိုင်ကို စိုးပိုင်ရသော မင်းများမှာ အလုံးအရင်းနှင့် အားအင် ပြည့်ဝမှုများ ရရှိသဖြင့် ထိုနယ်များကို မြန်မာမင်း အဆက်ဆက်တို့ ပြုစု စောင့်ရှောက်ခဲ့ကြသည်။ ယခုအခါ ရှေးက ဖေါက်လုပ်ခဲ့သော ဆည်မြောင်း အဟောင်းများနှင့် နောက်ထပ်ဖေါက်သော ဆည်မြောင်းများကို ခေတ်မှီစံနစ် တို့ဖြင့် ပြုပြင် စီရင်ထားသည်။ ထိုကြောင့် လယ်ယာ ကေပေါင်း ၁၇၆,၀၀၀ ခန့်မျှစိုက်ပျိုးနိုင်သည်။

ကျောက်ဆည်ခရိုင်သည် ရှမ်းတောင်တန်းများနှင့်ပြိုင်၍ တောင်နှင့်မြောက် တန်းနေသော မြေညီရပ်ဖြစ်၏။မြောက်ဖက်၌မူ တောင်ထူထပ်သော ရဲယမန်းနယ်ရှိသည်။ ရှမ်းပြည်မှ စီးဆင်းလာသော ပန်းလောင်မြစ်နှင့် ဇော်ဂျီမြစ်တို့သည် ကျောက်ဆည်ခရိုင်ကို ဖြတ်၍ စီးဆင်းသဖြင့် လယ်ယာကိုင်းကျွန်းများအား ရေသွင်းဖြည့်တင်း ပေးနိုင်သည့်ပြင်၊ သစ်ဖေါင်များ မျှောရန် အတွက် လည်း အသုံးဝင်လေသည်။

ခရိုင်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၁၂၄၅ ရှိ၍ ၁၉၄၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၁၅၂,၅၀၀ ရှိ၏။ လူဦးရေ ၃ ပုံ ၂ ပုံမှာ လယ်ယာ စိုက်ပျိုးခြင်းဖြင့် အသက်မွေးကြ၏။ ဆည်ရေသောက် လယ်များတွင် စပါးအစိုက်များ၍ အဖြစ်ထွန်းဆုံး အပိုင်းမှာ ဇော်ဂျီမြစ်နှင့် စမုန်မြစ်အကြားရှိ ဒေသများဖြစ်လေသည်။ မိုးပါးသော



ကျောက်ဆည်မြို့တွင်နှစ်စဉ်စည်ကားစွာကျင်းပလေ့ရှိသောဆင်ပွဲ

ဒေသပင် ဖြစ်လင့်ကစား ဆည်မြောင်းများမှ ရေကို အချိန်မရွေး ရရှိသဖြင့် အသီးအနှံများကို ၂ သီးထပ်၍ စိုက်ပျိုးကြသောကြောင့် ခြောက်သွေ့ခြင်း မရှိဘဲ အမြဲစိမ်းလန်းစိုပြည်လျက်ရှိသော ခရိုင်တခုဖြစ်သည်။

ကျောက်ဆည် ခရိုင်တွင် နေထိုင်ကြသော သူများမှာ အများအားဖြင့် မြန်မာများ ဖြစ်ကြ၍ တောင်ကုန်း ဒေသများ၌သာ ဓနု လူမျိုးများ နေထိုင်ကြသည်။

ရန်ကုန်မန္တလေးမီးရထားလမ်းသည်၎င်း၊ရန်ကုန်မန္တလေး လမ်းမကြီး သည်၎င်း၊ ကျောက်ဆည် ခရိုင်ကို ဖြတ်သန်းသွားသဖြင့် မြို့ငယ် ရွာငယ်များသို့ အလွယ်တကူ သွားရောက်နိုင်သည်။

တောင်ကုန်း ဒေသများ၌ သစ်တောထူထပ်၍ တောင်မြင့်ပိုင်းများ တွင် ထင်းရှူးပင်နှင့် ဝက်သစ်ချပင်များကို တွေ့ရသည်။ တောင်အောက်ပိုင်းတွင် ပျဉ်းကတိုး၊ ကျွန်းစသော သစ်ပင်ကြီးများကို တွေ့ရ၏။

ကျောက်ဆည်ခရိုင်၏ အဓိက ထွက်ကုန်မှာ ဆန်စပါးနှင့် နှမ်းများ ဖြစ်၏။ အရှေ့ တောင်ရိုးတန်း တလျှောက်တွင် နေထိုင်သူများမှာ ကျောက်များ တူးဖေါ်ခြင်း၊ ထုံးဖုတ်ခြင်း၊ မီးသွေးဖုတ်ခြင်း၊ ထင်းဝါးခုတ်၍ ရောင်းချခြင်းများဖြင့် အသက်မွေးမှုနေထိုင်ကြသည်။

ကျောက်ဆည်ခရိုင်မှ သရက်သီးများလည်း ထွက်သည်။ အထူးသဖြင့် 'အောင်ဒင်သရက်' နှင့် 'စံရသရက်' များမှာ ရှေးက ဘုရင်မင်းများသို့ ဆက်ရသော သရက်များဖြစ်၍ တော်ဝင်သရက်ဟု ယခုတိုင်ထင်ရှားသည်။အောင်ဒင်သရက် စံရသရက်ဟု ခေါ်တွင်ခြင်းမှာ ရှေးက အောင်ဒင်ဆိုသူနှင့် စံရဆိုသူတို့က စတင် စိုက်ပျိုးခဲ့သောကြောင့် ဖြစ်သည်။

ထိုခရိုင်တွင် ရှေးအစဉ်အလာ ယုံကြည်စွဲလမ်းမှု တခုရှိသည်မှာ ဤလယ်တွင်းနယ်များအတွင်း လူကိုးယောက်တိတိ ခရီး သွားလာခြင်းပြုလျှင် ဘေးဥပဒ်ရောက်တတ်သည်ဟူ၍ဖြစ်သည်။

**ကျောက်ဆည်မြို့။** ။ကျောက်ဆည်မြို့သည် ဇော်ဂျီမြစ်၏ လက်ျာဖက် ကမ်းနဖူးတွင်တည်ရှိ၍ ကျောက်ဆည်ခရိုင်ဝန်ရုံးစိုက်ရာ မြို့ဖြစ်သည်။ ရန်ကုန်မန္တလေး မီးရထားလမ်းတွင် ထင်ရှားသောမြို့တ မြို့ဖြစ်၍ မီးရထားလမ်း အတိုင်းမန္တလေးမြို့မှ ၂၇ မိုင်၊ ရန်ကုန်မှ ၃၅၈ မိုင် ဝေးလေသည်။



ကျောက်ဆည်ခရိုင်၏အသက်သွေးကြောဖြစ်သည့်ဆည်တခု

မြို့၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၁.၀၅ သာရှိသော်လည်း မြို့ကွက်အနေအထားမှာ စံနစ်တကျ ရှိပေသည်။ ကျောက်ဆည်မြို့မှာ အမြင့် ၉၇၅ ပေ မြင့်သော ရွှေသာလျောင်း တောင်ခြေတွင် တည်သည်။ ထိုတောင်ထိပ်တွင် ပုဂံ အနော်ရထာမင်း တည်ထား ကိုးကွယ်ခဲ့သော စေတီ

တော် တည်ရှိ၍ တောင်ခြေရင်းတွင်မူ ရွှေမုဋ္ဌောစေတီတော် တည်ရှိသည်။

အနော်ရထာမင်း လက်ထက်တော်က ဆည်မြောင်း တည်ဆောက်ရာတွင် ကျောက်များဖြင့် တုတ်ခတ် ဆောက်လုပ်ရသောကြောင့် ကျောက်ဆည်မြို့ဟု ခေါ်တွင်သည်။ ဆည်ကြီးတွင် ရေလွှဲပေါက်များ တပ်ဆင်ထားသဖြင့် မြို့ပတ်ဝန်းကျင်ရှိ လယ်မြေများအတွက် လိုသမျှ ရေကို ထုတ်ဝေဖြန့်ဖြူးပေးနိုင်သည်။

ကျောက်ဆည်မြို့သည် ကျောက်ဆည်ခရိုင်တွင် လူဦးရေအများဆုံး မြို့ဖြစ်၍ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ဂ၆၆ဂ ယောက်ရှိလေသည်။ မြို့၏ သန့်ရှင်းစည်ပင်ရေးကိုဆောင်ရွက်ရန် အတွက် ၁ဂဂဂ ခု နှစ်မှစ၍ မျူနီစီပယ်အဖွဲ့ကို တည်ထောင်ခဲ့၏။

ကျောက်ဆည် မြို့ပေါ်တွင် နှစ်စဉ်နှစ်တိုင်း သီတင်းကျွတ်လ၌ 'ဆင်ပွဲ' ဟုခေါ်သော ပွဲတော် ကျင်းပလေ့ရှိသည်။ ဤပွဲတော် ဖြစ်ပေါ်လာပုံမှာ ပုဂံ အနော်ရထာမင်းက လယ်တွင်း ၉ ခရိုင် နယ်များအား နှစ်စဉ်နှစ်တိုင်း မိမိတည်ထားခဲ့သော ရွှေသာလျှောင်း တောင်ပေါ်ရှိစေတီတော်သို့ ဖူးမြော်ကန်တော့ရန် လာကြရမည်ဟု အမိန့်ပေးခဲ့သည်မှစ၍ အစဉ်အလာ ဖြစ်ခဲ့လေသည်။

သီတင်းကျွတ် လဆန်း ၁၄ ရက်နေ့တွင် ကျောက်ဆည်မြို့အနီးအပါး ကျေးရွာများမှ ဆင်ရုပ်ကြီးများ ပြုလုပ်လျက် ကခုန်တီးမှုတ်ကာထိုဆင်ရုပ်များဖြင့် မြို့တွင်းသို့ လှည့်လည်ကြသည်။ ရှေးအခါက တကယ့်ဆင်များနှင့် လှည့်လည်ကြသည်။ ထိုနောက် ရွှေသာလျှောင်း စေတီတော်ကို ဖူးမြော် ကန်တော့ကြပြီးမှ လူစုခွဲကြသည်။ လူငယ်လူရွယ်အများပင် ပါဝင်ဆင်နွှဲ ပျော်ရွှင်ကြသော ပွဲတော်ကြီး တခုဖြစ်လေသည်။

**ကျောက်တုရိုင်။** ။စတုန်းဟင့်ခေါ် ကျောက်တုရိုင်သည် အင်္ဂလန်နိုင်ငံ၊ အိမ်းစဗာရီအရပ်၊ ဆော့စဗာရီ လွင်ပြင်တွင်ရှိသည်။ ဗြိတိသျှကျွန်းစုတွင် အထင်ရှားဆုံးသော ရှေးဟောင်းအမွေအနှစ် တရပ်ဖြစ်သော်လည်း၊ မည်သည့်ခေတ်က မည်သည့်အတွက် မည်သူက ပြုလုပ်ခဲ့ကြောင်းကိုမူ အတိအကျမသိရချေ။

အချို့က ကျောက်တုရိုင်မှာ ဒရူးအစ်ခေါ် ရှေးရသေ့ကြီးများ နေနတ်ပူဇော်ပွဲ ကျင်းပရာဖြစ်၍၊ ဘီစီ ၁၇ဝဝ ခန့်က ပြုလုပ်ခဲ့သည်ဟု ဆိုသည်။ သို့သော် လုံလောက်သော သက်သေအထောက်အထားမတွေ့ရချေ။ ထိုထက်ပို၍ ယုတ္တိတန်သော အချက်မှာ ကျောက်ခေတ်သစ်က အရေးပါသော သင်္ချိုင်းနေရာ ဖြစ်တန်ရာသည် ဟူသည့်အချက် ဖြစ်သည်။ အကြောင်းမူ ထိုခေတ်က လက်ရာနှင့် တူသောကြောင့် ဖြစ်သည်။

ကျောက် တုရိုင်ကို မြောင်း ပတ် လည် ဝိုင်း ရံလျက်ရှိသည်။ ကျောက်တုရိုင်တွင် မြေကြီးထဲ ၄½ ပေနက်အောင် စိုက်ထူထားသော ကျောက်တုံးကြီးများဖြင့်၊ တခုနှင့် တခု



ဗြိတိန်နိုင်ငံ၏အထင်ရှားဆုံးရှေးဟောင်းအမွေအနှစ်ကျန်ရစ်သည့်ကျောက်တုရိုင်

အကြား ၉ ပေကွာခြားသော ဗဟိုတူစက်ဝိုင်း ၂ ထပ်ရှိသည်။ အပြင်စက်ဝိုင်းမှာ အချင်းပေ ၁၀၀ ခန့်ရှိ၍၊ သဲကျောက်တုံးကြီး ၃၀ မျှစိုက်ထားခဲ့သော်လည်း၊ ၁၆ တုံးသာ ထောင်လျက်ရှိသည်။ ကျန်ကျောက်တုံးများမှာ လဲကျလျက်ရှိသည်။ ကျောက်တုံးကြီးများအထက်တွင် ထိပ်စီးကျောက်တုံးကြီးများကို ကန့်လန့်ဖြတ်ကာ၊ တခုနှင့်တခု ဆက်လျက်တင်ထားသည်။

အတွင်းဝိုင်းမှာ ကျောက်ပြာတုံးများဖြစ်၍၊ ၉ ခုမျှသာ ထောင်လျက်ရှိပြီးလျှင် ကျန် ၁၁ ခုမှာ လဲပြိုနေသည်။ ထိပ်စီးကျောက်တုံးများမရှိချေ။

စက်ဝိုင်း ၂ ထပ်အတွင်း ကျောက်တုံးများကို မြင်းခွာ ၂ ထပ်ပုံ စိုက်ထူထားပြန်သည်။ ကျောက်တုံးများ ပြိုလဲကုန်သဖြင့် မြင်းခွာပုံ အတိအကျ မရှိတော့ချေ။ အပြင်မြင်းခွာပုံတွင် ထိပ်စီးကျောက်တုံးများ ကန့်လန့်တင်ထားသည်။ သို့သော် ဆက်လျက်မရှိပေ။ အတွင်းမြင်းခွာပုံ၌မူ ထိပ်စီးကျောက်တုံးများမရှိချေ။

ကျောက်တုရိုင်တွင် ပါဝင်သည့် ကျောက်တုံးကြီးအချို့မှာ ၂၆ တန်ကျော်လေး၍ ၂၂ ပေကျော် မြင့်သည်။ ကျောက်ပြာတုံးများ၊ သဲကျောက်တုံးများမှာ ကျောက်တုရိုင် ရှိရာဒေသမှ မထွက်ချေ။ သဲကျောက်တုံးများကို ၁၄ မိုင်ကွာ ဒေသ၌သာ ရရှိသည်။ ကျောက်ပြာတုံးများကား မိုင် ၂၀၀ ကျော်ဝေးသော ဝေလပြည်၌ထွက်သည်။ စက်မှုလက်မှု မထွန်းကားသေးသော ထိုခေတ်အခါက၊ ကျောက်တုရိုင်ကို တည်ဆောက်ခဲ့ရသောလုပ်ငန်းမှာသေးငယ်လွယ်ကူသော ကိစ္စမဟုတ်ကြောင်း ခန့်မှန်းနိုင်ပေသည်။

ဆာ စဲစီ ချပ်၏ ကောင်းမှုကြောင့် ၁၉၁၈ ခုနှစ်မှစ၍၊ ကျောက်တုရိုင်မှာပြည်သူပိုင်ဖြစ်ခဲ့လေသည်။

**ကျောက်တူးလုပ်ငန်း။** ။ကျောက်တူးလုပ်ငန်းသည် အဆောက်အအုံများ ဆောက်လုပ်ရန်နှင့် လမ်းများခင်းရန် ကျောက်အမျိုးမျိုးကို မြေလွှာအောက်မှ တူးဖော်ယူသည့် လုပ်ငန်းဖြစ်သည်။ တူးဖော်သည့် ကျောက်များမှာ စကျင်ကျောက်၊ နှမ်းဖတ်ကျောက်၊ ထုံးကျောက်၊ သဲကျောက် စသည်တို့ ဖြစ်ကြ၏။ အချို့သော ကျောက်ကျင်းကြီးများမှာ တခါတရံ ပေ ရာပေါင်းများစွာ ကျယ်၍ ပေ ၁၀၀ ကျော် အောင်ပင် နက်တတ်သည်။

ကျောက်များကို တူးဖော်နည်းမှာ နှစ်နည်းရှိ၏။ တနည်းမှာ အဆောက်အအုံများတွင် အသုံးပြုရန်အတွက် ကျောက်တုံးကြီးများကို အစိုင်အခဲလိုက် တူးဖော်နည်း ဖြစ်၍၊ ဤနည်းတွင် ကျောက်သားကို ထိခိုက် ကျိုးပဲ့စေခြင်း အလျင်းမရှိအောင် တူးဖော်ယူကြရသည်။ ကျောက် အမျိုးအစားကို လိုက်၍လည်း နည်းအမျိုးမျိုးကို အသုံးပြုကြရပေသည်။ အခြားတနည်းမှာ ကျောက်သား များကို အကြေရရှိအောင် တူးဖော်နည်းဖြစ်၍၊ ဤနည်းဖြင့် တူးဖော်ရရှိသော ကျောက်အကြေများကို လမ်းများ ခင်းရန်အတွက်၎င်း၊ ကန်ကရစ် ပြုလုပ်ရန်အတွက်၎င်း၊ ကျောက်ကို အကြေပြုလုပ်ပြီးမှ အသုံးပြုရသော အခြားလုပ်ငန်းများအတွက်၎င်း၊ အသုံးပြုကြသည်။

ကျောက်များကို စတင်တူးဖော်သောအခါ အပေါ်ယံမြေလွှာ သို့မဟုတ် အသုံးမဝင်သည့်ကျောက်လွှာများကို သင့်တော်သော နည်းများဖြင့် ရှေးဦးစွာဖယ်ရှားပစ်ရသည်။ အပေါ်ယံမြေလွှာကို ဖယ်ရှားရသော အကြောင်းမှာ၊ အများအားဖြင့် ထိုကျောက်လွှာမျိုးတွင် ကွဲကြောင်း အက်ကြောင်းများ ဖြစ်အောင် စားနေတတ်သောကြောင့်ဖြစ်သည်။ တခါတရံတွင်လည်း ရာသီဥတု၏ဒဏ်ကြောင့် အရောင်များ လွင့်ပြီးလျှင် ကျောက်သားမှာ ကြေပျက်လျက်နေတတ်သည်။ ထို့ကြောင့်ကျောက်ကောင်းကိုရလိုသော် အဆိုပါ ကျောက်များကို ပဌမ ဖယ်ရှားပစ်



ဣတလီနိုင်ငံတောင်ခြေတခုမှကျောက်တူးလုပ်ငန်း

ရသည်။ အဆောက်အအုံ များအတွက် အသုံးလိုသော ကျောက်တုံးများကို တူးဖော်ရာတွင် 'ဖေါက်ခွဲနည်း' နှင့် 'မြောင်းဖေါက်နည်း' ဟူ၍ နည်းနှစ်မျိုးရှိသည်။ အစိတ်စိတ် အမွှာမွှာ ကြေမွ မသွားတတ်သော ကျောက်မျိုးကို ဖေါက်ခွဲနည်းဖြင့် တူးယူကြ၍၊ အခြားကျောက်မျိုးကိုမူ မြောင်းဖေါက်နည်းဖြင့် တူးဖေါ်ယူလေ့ ရှိကြသည်။ ဖေါက်ခွဲနည်းကို သုံးသောအခါ၊ တူးဖေါ်လိုသည့် ကျောက်တုံးတလျှောက် လွန်သွားနှင့် အပေါက်များ ထွင်းဖေါက်ပြီးနောက် ထိုအပေါက်များတွင် ယမ်းထည့်၍ ဖေါက်ခွဲရသည်။ ဤသို့ တူးယူရာတွင် အများအားဖြင့် အတုံးကြီးများ ရရှိအောင် ပဌမ တူးယူလေ့ရှိ၍၊ ထိုအတုံးကြီးများမှ တဖန် အတုံးငယ်များ ခွဲယူလေ့ ရှိကြသည်။ အတုံးငယ်များ ခွဲယူရာ၌ အတုံးကြီးများ ခွဲသည့်နည်း အတိုင်းပင် အပေါက်ငယ်များ ဖေါက်၍ ယမ်းများဖြင့် ဖေါက်ခွဲ ယူလေ့ရှိ၏။ တခါတရံ မြောင်းဖေါက်စက်သည် သံလမ်းပေါ်၌ ခုတ်မောင်းသည့် စက်ကလေးဖြစ်၍၊ စက်နံဘေးတွင် ဆောက်ရှည်ကြီးများ တပ်ဆင်ထားသည်။ မြောင်းဖေါက်လိုသည့် နေရာတွင် ရှေးဦးစွာ သံလမ်းတိုကလေးကို ခင်းပေးရသည်။ ထိုနောက် မြောင်းဖေါက်စက်သည် သံလမ်းပေါ်၌ ရှေ့တိုးနောက်ငင် ခုတ်မောင်းယင်း အထက်အောက်တုန်ကာ ထိုးဖေါက်နေသည့် ဆောက်ရှည်ကြီးများဖြင့် မြောင်းကို တဖြည်းဖြည်း ဖေါက်သွားသည်။ မြောင်းများကို ဤသို့ ပတ်ပတ်လည် ဖေါက်ပြီးသောအခါ၊ အောက်ဖက်မှ ဖေါက်ခွဲနည်း နှင့်ဖြစ်စေ၊ သပ်နှင့်စို ရိုက်နည်း နှင့်ဖြစ်စေ၊ ကျောက်တုံးကြီးကို ဖြတ်တောက်ဖဲ့ထုတ်ရသည်။

ကြီးမားသော ကျောက်တုံးများကို တဖန် သယ်ယူပို့ဆောင်ရာ၌ လွယ်ကူစေရန် အနံ ၃၊ ၄ ပေ၊ ပြက် ၃ ပေမှ ၅ ပေ၊ အလျား ၆ ပေမှ ၁၂ ပေ အထိရှိသော အတုံးငယ်များကို၊ ကုန်တင်ကုန်ချ မောင်းများဖြင့် သယ်ယူပြီး သော်၊ လော်ရီများဖြင့် တဆင့် ကျောက်တုံးများကို အလိုရှိသောပုံအတိုင်း ရအောင် ဖြတ်တောက်ခွဲစိတ် အချောကိုင်အရောင်တင်ပေးသည့် ကျောက်အချောကိုင် စက်များ ရှိရာသို့ ပို့ဆောင်ပေးရသည်။



ပြုပြင်ပြီးကျောက်တုံးများကို ရထားတွဲပေါ်သို့တင်ဆောင်နေစဉ်

လမ်းခင်း ကျောက်များ တူးဖေါ်ရာတွင် စရိတ် အသက်သာဆုံး ဖြစ်စေရန် ဒိုင်းနမိုက် (ယမ်းဘီလူး) များဖြင့် ဖြစ်သလိုပင် ဖြိုခွဲယူလေ့ ရှိကြသည်။ ဤကျောက်မျိုးကိုကျောက်ကျင်းများမှ တူးဖေါ်ယူမည့်အစား၊ သယ်ယူရာ၌ လွယ်ကူစေရန် တခါတရံ ကျောက်တောင်နံဘေးမှ ဖြိုယူတတ်ကြသည်။ ဤကျောက်များကို ကျောက်ကြိတ် စက်ရုံများသို့ ပို့ဆောင်ပေးရ၍ ကျောက်ကြိတ်စက်ရုံမှ တဖန်အလိုရှိသလို ထပ်မံကြိတ်ချေ ပေးပြန်လေသည်။

မြန်မာနိုင်ငံ၌လည်း ကျောက်တူး လုပ်ငန်းများရှိရာ ထင်ရှားသော ကျောက်တူးရာဌာနများမှာ သထုံခရိုင်၌ မုပ္ပလင်၊ မြိတ်ခရိုင်၌ ပထော်နှင့်ပထက်၊ မန္တလေးခရိုင်၌ ရန်ကင်းတောင်နှင့် မန္တလေးတောင်၊ ကျောက်ဆည်ခရိုင်၌ အင်ဒိုင်းတောင်နှင့် ပတ္တာတောင်တို့ဖြစ်သည်။ ထိုကျောက်တူးဌာနတို့၌ တွေ့ရသော ကျောက်များမှာ လမ်းခင်းရန်အတွက် ကောင်းသောကျောက်မျိုးများဖြစ်၍ ထိုကျောက်များကို ဒိုင်းနမိုက်ဖြင့် ဖေါက်ခွဲယူကြသည်။ အဆောက်အအုံ ဆောက်လုပ်ရန်ကောင်းသော ကျောက်များကို မြစ်ကြီးနားခရိုင်၊ ရွှေဘိုခရိုင်၊ ပခုက္ကူခရိုင်၊ ရှမ်းပြည်မှ ဇီးပြင်ကြီး အရပ်တို့တွင် တွေ့ရသည်။ ထိုကျောက်များကို

တိုက်အိမ်ဆောက်လုပ်ရန်ထက် တန်တားမျာ်း ဆောက်လုပ်ရန်အတွက် အတူးများကြသည်။ မန္တလေးမြို့မြောက်ဖက်မိုင် ၂၀ ဝေးသော စကျင်တောင်မှ ရသည့်ကျောက်သည် ကျောက်ရုပ်များ ထုလုပ်ရန် ကောင်းမွန်သဖြင့် ထိုကျောက်ကို တူးယူ၍ စစ်ကိုင်း၊ မန္တလေး မြို့များသို့ ပို့ပြီးလျှင် ဘုရားရုပ်တုတော်များ ထုလုပ်ကြသည်။

**ကျောက်တော်ကြီးဘုရား (မန္တလေး)။** ။ကျောက်တော်ကြီးဘုရားမှာ ပဉ္စမ သံဂါယနာတင် မင်းတုန်းမင်းတရားကြီး၏ ကောင်းမှုတော် ဖြစ်၍ မန္တလေးမြို့၊ မန္တလေး တောင်ခြေရင်း သုဓမ္မာ စရပ်များ အနီးတွင် တည်ရှိသည်။ ကျောက်တော်ကြီးဘုရားမှာ ထက်ဝယ်ဖွဲ့ခွေနေတော်မူသည့် ရုပ်ပွားတော် ဖြစ်၍ မဟာသကျ မာရဇိန်ဟုဘွဲ့တော်ရှိသည်။ သို့သော် စကျင်တောင်မှ ရသောကျောက်ကို အစွဲပြုသဖြင့် ကျောက်တော်ကြီးဘုရား ဟုလူအများက ခေါ်ဝေါ်သမုတ်ကြသည်။



မန္တလေးမြို့ရှိမဟာသကျမာရဇိန်ကျောက်တော်ကြီးဘုရား

မန္တလေးမြို့မှ မြောက်ဖက် မိုင် ၂၀ ခန့် ဝေးကွာ သောစကျင်တောင်မှ ထိုရုပ်ပွားတော် ထုလုပ်မည့်ကျောက်ကို ၁၂၂၆ ခုနှစ် ဝါခေါင်လတွင် တူးဖော် ရရှိလေသည်။ ရှေးဦးစွာ ကျောက်ကို ရုပ်ပွားတော်သဏ္ဌာန် အကြမ်းဆတ်ထုလောင်းစေပြီးသော် ဖေါင်ဖွဲ့ထားသော သမ္ဗန်တော်ကြီး ၂ စင်းပေါ်၌ တင်၍ မန္တလေးနေပြည်တော်သို့ ပင့်ဆောင်ခဲ့သည်။ ခရီးလမ်းတလျှောက် သမ္ဗန်တော်တွင် အတီးအမှုတ် အကအခုန်တို့ဖြင့် ပွဲသဘင် ဆင်ယင်ကျင်းပလျက်မြို့တော်သို့ စုန်ဆင်း ခဲ့သည်။ ဝါခေါင်လပြည့်ကျော် ၂ ရက်နေ့တွင် ဖေါင်တော်ကို မြနန်းစကြာမီးသင်္ဘောဖြင့် မန္တလေးအနောက်ပြင် အီကင်း ရွာဆိပ်သို့ ရောက်သည်အထိ ပင့်ဆောင်စေခဲ့သည်။ ထိုမှ ခံကုန်းရွာမြောက်၊ ရွှေတချောင်းမြောင်းကို ချိုး၍ မြောင်းတွင်းသို့ သွင်းဆောင်ခဲ့ပြီးနောက်မန္တလေးတောင်သို့ ဒလိမ့်တုံး၊ ကြိုးလွန်များဖြင့် စွတ်ဖါးပေါ်တင်ကာ ပို့ဆောင်သည်။ ကျောက်တော်ကြီးဘုရားရုပ်ပွါးတော် ကိန်းဝပ်အံ့သော နေရာသို့အရောက် အစုအမှုထမ်းပေါင်း ၁၂,၀၀၀ ကျော်တို့ကို အိမ်ရှေ့မင်း၊ ဝန်ကြီး အတွင်းဝန်စသော ပုဂ္ဂိုလ်များက ကြပ်မ၍ ပင့်ဆောင်စေခဲ့သည်။ ယင်းနှစ် တန်ဆောင်မုန်းလဆန်း ၂ ရက်နေ့တွင် ရုပ်ပွါးတော်မှာ ပလ္လင်ပေါ်သို့ ရောက်ရှိလေသည်။ မင်းမှူးမတ်တို့က ကျောက်တော်ကြီးဘုရား မဟာရံတံတိုင်းပြင်ပတွင် စရပ်ပေါင်း ၃၃ ဆောင်ကိုဆောက်လုပ်လှူဒါန်းကြသည်။

ကျောက်တော်ကြီး ရုပ်ပွားတော်ကို ကျောက်ဆတ်ပညာသည် အကျော်တို့အား ဆက်လက်၍ ထုလုပ် ချောမောစေပြီးနောက် ၁၂၂၇ ခု ကဆုန်လပြည့်ကျော် ၇ ရက်နေ့တွင် အခမ်းအနားကြီးစွာဖြင့် မင်းတုန်းမင်းတရားကြီးကိုယ်တော်တိုင် မျက်ရေးတော်ကို စတင်ရေးသားလျက် မျက်နှာတော် ဖွင့်လေသည်။

ရုပ်ပွားတော်၏ အရွယ်ပမာဏမှာ ထက်ဝယ်တော်အပြန့် ၁၂ တောင်။ အဝန်း ၂၈ တောင် ၂ မိုက် ၄ သစ်။ ခါးတော်အဝန်း ၁၀ တောင် ၂ မိုက် ၄ သစ်။ ရင်ပွင့်တော် ပခုန်းစွန်း ဝဲယာ အကျယ် ၈ တောင်။ အဝန်း အတောင် ၂၀။ ဦးခေါင်းတော်အဝန်း ၁၃ တောင်။ စမ္ဗခဏ်မှ ရောင်လျှံတော်မျှားအထိ ဥဏှာတော် အမြင့် ၁၇ တောင် ၁ မိုက် ၄ သစ်၊ ဖြစ်လေသည်။



အမရပူရမြို့ရှိမဟာသကျရံသီကျောက်တော်ကြီးဘုရား

ဒုတိယ မဟာရာဇဝင်တော်ကြီးတွင်ကား ‘သက္ကရာဇ် ၁၂၁၁ ခုနှစ် နယုန်လဆန်း ၁၄ ရက်နေ့ကစ၍၊ ရတနာပူရ အင်းဝမြို့တွင် မဟာသကျရံသီ ကျောက်တော်ကြီးဘုရား ကိန်းဝပ်တော်မူသည့် အုတ်ပြာသာဒ် ပြိုပျက် သည် ကို၊ ကျောက်မော်မြို့စား ဝန်ကြီး သတိုးမင်းကြီး မဟာမင်းလှသီဟသူ၊ ပန်းပဲဝန်အတွင်းဝန် သတိုးမင်းကြီး မဟာမင်းလှကျော်သူတို့ကို၊ လေ့အမှုထမ်း လူ ၃၀၀၀ ပေးအပ်၍ ပင့်ဆောင်စေရာ၊ သုံးရက်နှင့် မုတ္တမတံခါးပြင်၊ ဘုရားပင့် ဆောင် ရန် ဘောင်ပေါ် သို့ ရောက်ကြောင်း လျှောက်ထား၍၊ ၎င်းနှစ်ဝါဆိုလပြည့်ကျော် ၆ ရက်နေ့တွင်၊ ဆရာတော်သံဃာတော်တို့ ကို၊ သမ္ဗန် တော်များတွင် တင်ဆောင်၍၊ ရွှေဦး ရွှေဖျား ကြွသွားနှင့်စေပြီးလျှင် ဘဝရှင်မင်းတရားကြီး ဘုရား၊ ဘောင်တော် လှေတော် သမ္ဗန်တော်များနှင့် မင်းညီမင်းသား မှူးတော်မတ်တော်တို့ ခြံရံ၍ ထွက်တော်မူကြီး ထွက်တော်မူပြီး လျှင်၊ ဘုရား တင် ဘောင် ပြာသာဒ် ကို မီးသဘော်တော် နှင့် ဆွဲစေ၍၊ ရွှေမြို့ တော်တောင်မျက်နှာ၊ တောင် သမန် အနီး အထက် တည်ထား ဆောက်လုပ်တော် မူသည့် အုတ်ပြာသာဒ် အတွင်း၊ ပင့်ဆောင် ကိုးကွယ် တော်မူ၏’ ဟုစုံလင်စွာဖော်ပြမှတ်သားပါရှိလေသည်။

ကျောက်တော်ကြီးဘုရားသည် ထက်ဝယ်ဖွဲ့ခွေ နေတော်မူသော ရုပ်ပွားတော် ဖြစ်၍၊ ဌပနာ ပဇ္ဇည်းများမှာ ရွှေဆင်းတု ၁၂ ဆူ၊ ငွေဆင်းတု ၃၅၈ ဆူ ဖြစ်သည်။

ထူးခြားချက်မှာ ကျောက်တော်ကြီးဘုရား၏ လက်ျာနှင့် လက်ဝဲဖက်တွင် အသီတိသာဝကရဟန္တာ ရှစ်ကျိပ်တို့၏ရုပ်တုတော်များက ဝန်းရံလျက်ရှိခြင်းပင်ဖြစ်ပေသည်။

**ကျောက်တော်ကြီးဘုရား (အမရပူရ)။** ။ကျောက်တော်ကြီး ဘုရား သည် ပုဂံမင်း တရား ၏ ကောင်းမှုတော် ဖြစ်၍ အမရပူရမြို့မှ တောင်ဖက် ၃ မိုင်ခန့် ကွာဝေးသော တောင်သမန် အနောက်တောင် ရွာနှစ်ရွာအကြားတွင် တည်ရှိ၏။ မဟာသကျရံသီ ဟူသောဘွဲ့တော်ဖြင့် ထင်ရှားတော်မူလေသည်။

မဟာမင်းထင်စည်သူ ရေးသည့် မဟာသကျရံသီ ကျောက်တော်ကြီးကျောက်စာအရ၊ ကျောက်တော်ကို စဉ့်ကူးမြို့အပင်၊ စုံမြို့စီရင်စု စကျင်တောင်မှ ပင့်ဆောင်ပြီးလျှင်၊ ရောဝတီမြစ် စဉ် အတိုင်း ပင့်ဆောင် ကာ၊ ရွှေကြက်ယက် ရွှေကြက်ကျ ဘုရားနှစ်ဆူအကြား ခရီးဖြင့် ဝင်တော်မူ၍ တောင် သမန် အင်း အနီး ယခု တည်ရှိသော အရပ်သို့ ပင့်ဆောင်သည်ဟု သိရသည်။

ဘုရားအတွင်း ဖိနပ်တော်နှင့်ကပ်လျက်ရှိသော တနင်္ဂနွေ ထောင့်၌ မဟာသကျရံသီ ဟူသောစာတမ်း ရေးထားသည့် ကျောက်ပြားတချပ်ရှိ၍ ဘုရား၏ တနင်္ဂနွေထောင့် တံတိုင်းအနီး၌မူ မဟာသကျရံသီ ဘုရားသမိုင်း ရေးထားသော ကျောက်ပြားတချပ်ရှိ၏။ တံတိုင်းမြောက်ဖက်တွင်၊ အရှေ့အနောက် အတောင် ၂၀၊ တောင်မြောက် ၁၀ တောင် ရှိသော ခြေတော်ရာ တိုက်ပျက်ရှိ၏။ ခြေတော်ရာမှာ ဘုရား၏ အရုဏ်ခံ တနင်္ဂနွေထောင့်သို့ ပင့်ဆောင်ထားပြီးဖြစ်၏။ ဘုရားအရုဏ်ခံ အတွင်း ကျောဖက်တွင် ရဟန္တာရုပ်တုတော် ၈၈ ဆူရှိ၏။

ကျောက်တော်ကြီးဘုရားမှာ ပုဂံပြည်ရှိ အာနန္ဒာဘုရား ပုံသဏ္ဌာန်ပင် ဖြစ်၍ မြန်မာဗိသုကာများ၏ လက်ရာစစ်ဖြစ်၏။ စိတ်ဝင်စားဖွယ် ကောင်းသည်ကား၊ မုတ် ၄ မုတ်

တို့တွင် ရေးခြယ်ထားသော ပန်းချီကားများ ဖြစ်လေသည်။ ထိုပန်းချီကားများသည် စစ်ကိုင်း၊ အမရပူရ၊ အင်းဝ၊ ပုခန်းကြီး၊ ပြည်နှင့် ရန်ကုန်မြို့များရှိ ပုဂံမင်း၏ ကောင်းမှုတော်များဖြစ်သော ပန်းချီကားများဖြစ်သည်။ ထူးခြားချက်မှာ အရှေ့မုတ်တွင် ရေးဆွဲထားသော ကောင်းကင်တမန်ပုံ ၂ ခုပင် ဖြစ်၏။ နက္ခတ်တာရာ ပုံများကိုလည်း တွေ့ရသည်။ ထိုပန်းချီကားများမှာ ထိုခေတ်၏ အဝတ်အစားများကို ဖေါ်ပြထားသော ခေတ်ကြေးမုံများဖြစ်၍ တန်ဖိုးရှိလှပေသည်။

**ကျောက်တော်မြို့။** ။ကျောက်တော်မြို့သည် စစ်တွေခရိုင် မြို့ဟောင်းနယ်တွင်ပါဝင်၍ မြို့ပိုင်ရုံး စိုက်ရာ မြို့ဖြစ်သည်။ ကုလားတန်မြစ်၏ လကျ်ာကမ်းပေါ်တွင်တည်ရှိ၍ မြို့၏အကျယ်အဝန်းမှာ အလျား ၃ မိုင် အနံ ½ မိုင်မျှရှိသည်။

ကျောက်တော်မြို့၏ တဖက်ကမ်း ကုလားတန် မြစ်ကမ်းပါးရှိ ကျောက်တော်တောင်ပေါ်တွင် ကျောက်တော်စေတီ တည်ရှိသည်။ မြတ်စွာဘုရားသခင်သည် ဓညဝတီ ရခိုင်ပြည်သို့ ကြွလာတော်မူခဲ့စဉ် ကျောက်တော်ဘုရား တည်ရှိရာ ကျောက်အတိပြီးသော မောရပဗ္ဗတ တောင်ထက်၌ ရပ်တန့်တော်မူပြီးလျှင် နှစဉ်ဘဝတွင် ထိုဒေသ၌ ပန်းပွတ်သမား ဖြစ်ခဲ့ဘူးကြောင်း၊ ဘုရားသခင် ပရိနိဗ္ဗာန် ပြုတော်မူပြီးနောက် ကျောက်ရိုးတော်ဓါတ်ကို ဤအရပ်၌ ဌာပနာ၍ ကျောက်တော်စေတီဟုတွင်လတ့်ံဟူ၍ ဗျာဒိတ်ထားတော်မူခဲ့ကြောင်းနှင့် ရခိုင်ရာဇဝင်များတွင် ပါရှိ၏။ ထိုကျောက်တော်စေတီကို အစွဲပြု၍ ကျောက်တော်မြို့ဟု ခေါ်တွင်ခြင်း ဖြစ်သည်။

ကျောက်တော်မြို့တွင် ဈေး၊ ဆေးရုံ၊ စာတိုက်နှင့် ကြေးနန်းရုံးများ ရှိသည့်အပြင် အစိုးရအထက် တန်း ကျောင်း တကျောင်း လည်း ရှိသည်။ မြို့ပေါ်၌ ဘုန်းတော်ကြီးကျောင်း ၄ ကျောင်းရှိရာ ယင်းတို့မှာ ရှမ်းရွာကျောင်း၊ မြို့သစ်ကျောင်း၊ သိမ်ကျောင်းနှင့် ကျောက်တော်ကျောင်းများ ဖြစ်ကြသည်။ မြို့သူမြို့သားများသည် ကျောက်တော်မြို့ ပတ်ဝန်းကျင်ရှိ ကန်များမှ သောက်ရေသုံးရေကို ရရှိကြသည်။

ကျောက်တော်မြို့သည် စစ်တွေမြို့မှ ချင်းဝိသေသတိုင်း ပလက်ဝမြို့သို့ သွားရာ မီးသင်္ဘောလမ်းပေါ်တွင် တည်ရှိ၍ တောင်တန်းဒေသမှ ထွက်သော ကုန်များနှင့် ရခိုင်မြေပြန့်ဒေသမှ ထွက်သောကုန်များ ဖလှယ်ရာ ဒေသဖြစ်သည်။ ပလက်ဝ မြို့နယ်မှ ထွက်သော နံ့မည်ကျော် ကုလားတန်ဆေးများကို ကျောက်တော်မြို့တွင် ရောင်းဝယ်ဖေါက်ကားကြသည်။ ကျောက်တော်မြို့ အနီးတဝိုက်ရှိ ရွာကြီးများ၌ ရက်သတ္တတပတ်လျှင် ဈေးနေ့ ၂ နေ့မျှဖွင့်လှစ် လေ့ရှိသည်။

ကျောက်တော်မြို့မှ နှစ်စဉ် စပါးတန်ချိန် ၁၃,၀၀၀ ခန့် ထွက်လေသည်။ ယခုအခါ ပိုလျှံသောစပါးများကို နိုင်ငံတော် ကောက်ပဲသီးနှံရောင်းဝယ်ရေးအဖွဲ့မှ တိုက်ရိုက်ဝယ်ယူလျက်ရှိသည်။ ထိုနယ်တွင် ထင်ရှားသော စပါး ၂ မျိုးမှာ ငကြိန်သီး ခေါ် မီးဒုံးစပါးမျိုးနှင့် လက်ရုံးစပါးခေါ် ငစိန်စပါးမျိုးဖြစ်သည်။ သို့သော် လူကြိုက်အများဆုံး ဆန်မှာ 'ငါးရာဖိုလ်' ဆန်ဖြစ်သည်။

ကျောက်တော်မြို့ တဖက်ကမ်းမှ အရှေ့ဖက် ၅ မိုင်ခန့် အကွာတွင် မန္တလေး မဟာမုနိရုပ်ပွားတော် မူလကိန်းဝပ်တော်မူရာ နေရာဟောင်းတည်ရှိ၍ ထိုနေရာတွင် သဒ္ဒေဦးရဲကျော်သူ လှူဒါန်းထားသော ရုပ်ပွားတော်တဆူ ကိန်းဝပ်တော်မူသည်။ ကျောက်တော်မြို့မှ မဟာမုနိ တန်ဆောင်းသို့သွားရာလမ်းစဉ်ဖြင့် မြို့ဟောင်းမြို့သို့ရောက်နိုင်သည်။

မြို့နယ်လူထုမှာ လယ်ယာကိုင်းကျွန်းပေါ်တွင် အမှီပြု၍ နေထိုင်စားသောက်ကြသည်။ ဆန်စပါး၊ နှမ်း၊ မြေပဲနှင့် ဆေးများကို စိုက်ပျိုးလုပ်ကိုင်ကြသည်။ နှမ်းနှင့် မြေပဲမှ ဆီကိုကြိတ်ယူသည်။ အချို့မှာ သစ်လုပ်ငန်းများကို လုပ်ကိုင်၍ အသက်မွေးကြသည်။

**ကျောက်တန်းမြို့။** ။ကျောက်တန်းမြို့သည် မြန်မာနိုင်ငံအောက်ပိုင်း၊ ဟံသာဝတီခရိုင်၊ ကျောက်တန်း မြို့နယ်၏ ရုံးစိုက်ရာမြို့ဖြစ်၍ မှော်ဝန်းမြစ် ကမ်းပေါ်တွင် တည်ရှိသည်။ သံလျင် ကျိုက်ခေါက် ကုန်း တန်းကြီး၏ တဖက်စွန်းတွင် တည်ရှိ၍ ပင်လယ်ပြင်နှင့် ၁၂ မိုင်ခန့် ကွာဝေးသည်။ မှော်ဝန်းမြစ် ထဲတွင် တန်း၍နေသော ကျောက်တန်းကြီးကို အစွဲပြု၍ ကျောက်တန်းမြို့ဟုခေါ်သည်။

ရှေးအခါက ကျောက်တန်း မြို့သည်၊ ကျောက်တန်း၊ သံလျင်၊ ခရမ်း၊ သုံးခွ မြို့နယ်တို့၏ နယ်ပိုင်ရုံးစိုက်ရာ မြို့ဖြစ်ခဲ့၍ သံလျင် သင်္ဘောဆိပ်အထိ ကျေးရွာပေါင်း ၉၀ ကျော် ပါဝင်ခဲ့သည်။ ထိုနောက်တွင် သံလျင်မြို့ ဘီအိုစီ ကုမ္ပဏီ၏ ဆန္ဒအရ သံလျင်မြို့ကို နယ်ပိုင် ရုံးစိုက်ရာမြို့ လုပ်လိုက်သည်။ လွတ်လပ်ရေး ရပြီးနောက်၊ ကျောက်တန်းမြို့နယ်မှာ တောင်နှင့်မြောက် မိုင် ၂၀၊ အရှေ့နှင့် အနောက် ၃၇ မိုင် ကျယ်ဝန်း၍ စိုက်ပျိုးသော မြေကေ ၁၂၈,၅၀၀ နှင့် မြေလွတ်ကေ ၁၀,၀၀၀ ခန့် ပါဝင်သည်။ ကျေးရွာ ပေါင်း ၆၄ ရွာ ပါဝင်၍ သူကြီးပိုင် ၅၃ ပိုင် ရှိသည်။ ၁၉၅၃ ခုနှစ် သန်းကောင်စာရင်း အရ ကျောက်တန်း မြို့ရှိ လူဦးရေမှာ ၃၇၉၄ ဖြစ်၏။

ကျောက်တန်း မြို့ပေါ်တွင် မြို့ပိုင်ရုံး၊ တရားမနှင့် ရာဇဝတ် တရားသူကြီးရုံး၊ ရဲဌာန၊ စာပို့တိုက်၊ ဆေးရုံ၊ ဈေးရုံးများနှင့်၊ မူလတန်းကျောင်း ၃ ကျောင်း၊ အထက်တန်းကျောင်း ၁ ကျောင်း၊ ရဟန်းတော်ကျောင်း ၂၁

ကျောင်းရှိသည်။မြို့၏အကျယ်အဝန်းမှာ တစ် မိုင် ပတ်လည် ခန့် ရှိသည်။ မြို့နယ်ရှိ လူဦးရေ ရာခိုင်နှုန်း ၉၀ ကျော်မှာ လယ်ယာလုပ်ငန်းကို အမှီပြု၍ အသက်မွေးကြသည်။

ကျောက်တန်းမြို့သည် ၈၀ ကျောက် မြေပေါ်တွင် တည်ရှိ၍ မြောက်ဖက်မှ တောင်ဖက်သို့ ဆင်ခြေလျှော နိမ့်ဆင်းသွားသည်။ ကျောက်တန်းမြို့မှာ တည်စက မှော်ဝန်းမြစ်ကမ်းတွင် ကပ်လျက်ရှိ၍ ထိုနေရာကို ယခုတိုင် ရွာဟောင်းဟု ခေါ်တွင်နေသေးသည်။



ကျောက်တန်းမြို့၏ကျက်သရေဆောင်ရေလယ်ဘုရား

ကျောက်တန်းမြို့တွင် ထင်ရှားသော အဆောက်အအုံများမှာ မြတ်စွာဘုရား၏ ဓါတ်တော် မွေတော်များကို ဌာပနာသွင်း၍ တည်ထားသော ကျောက်တန်း ရေလယ်ဘုရား ဘွဲ့ချီသည့် ကျိုက်မှော်ဝန်း ဘုရားနှင့် တဖက်ကမ်းရှိ ကျိုက်ပြာသာဒ်တနော်၊ ကျိုက်ပြာသာဒ်တန္တိ ဘုရားများ ဖြစ်၏။

မှော်ဝန်းမြစ်ထဲရှိ ကျောက်တန်းများကို ဒိုင်းနမိုက်ဖြင့် ဖေါက်ခွဲ၍ သင်္ဘောများ ခုတ်မောင်းနိုင်ရန် ရေကြောင်းပြုပြင်ထားသည်။ ကျောက်တန်းမြို့၏ ရာသီဥတုမှာ သာယာ၍ ပင်လယ်လေညှင်းရသည်။ သံလျင်မြို့မှ ကုန်းလမ်း ရေလမ်း နှစ်သွယ်ဖြင့် သွားလာနိုင်သည်။ ကျောက်တန်းမြို့တွင် ရေကောင်းရေသန့်ရရှိသည်။ ရန်ကုန်မှလူများသည် ကျောက်တန်းမြို့သို့အလည်အပတ်သွားလေ့ရှိကြသည်။

**ကျောက်ထင်းရှူး။** ။ထင်းရှူး — ရှု။



ကျောက်ပန်းတောင်းမြို့ကိုမြောက်ဖက်မှရှုသော်

**ကျောက်နမ်းဖတ်။**
နမ်းဖတ်ကျောက်—ရှု။

**ကျောက်ပန်းတောင်းမြို့။** ။ကျောက်ပန်းတောင်းမြို့သည် မြန်မာနိုင်ငံအထက်ပိုင်း မြင်းခြံခရိုင်ပုဂံ (ညောင်ဦး)နယ် အတွင်း မြို့အုပ် ရုံးစိုက်ရာမြို့ဖြစ်၏။ မြင်းခြံမြို့မှ ၅၀ မိုင် ဝေး၏။ မြို့မှာ စတုရန်း ၂ မိုင်ခန့် ကျယ်ဝန်း၍ ၁၉၅၃ ခုနှစ် သန်းကောင်စာရင်းအရ လူဦးရေ ၅၄၇၀ ခန့်ရှိသည်။

လူများသည်တောင်သူ

လုပ်ငန်းဖြင့် အဓိက အသက်မွေးမှုကြသည်။ ထိုမြို့နယ်မှ ထန်းလျက်၊ မြေပဲ၊ နှမ်း၊ ဆီ၊ မန်ကျည်းသီး၊ သနပ်ခါးခေါက် များအမျိုးအပြားထွက်လေသည်။

ပုဂံပြည် အနော်ရထာမင်း တည်ခဲ့သော မြို့ဖြစ်၍ အနော်ရထာမင်းသည် နောင်တော် စုက္ကတေးမင်းအား စစ်သည်ဗိုလ်ပါ စုဆောင်းကာ ဤအရပ်မှ တော်လှန်အောင် မြင်ခဲ့လေ၏။ သို့ဖြင့် မမေ့အပ်သော အရပ်ဖြစ်သည့်အတိုင်း မြို့ရွာ တည်ဆောက်ပေးခဲ့သည်။ ကျောက်ပန်းတောင်း မြို့တွင် မြေပြင်မှ ပေ ၆၀၊ ၇၀ ခန့် မြင့်မား၍ ပန်းတောင်း ပုံသဏ္ဌာန်ရှိသော ကျောက်စိုင်ကျောက်တုံးများသဘာဝ အလျောက် စီရရီ ဖြစ်ပေါ်လျက် ရှိသည်။ ထိုကျောက် စိုင်များကို အစွဲပြု၍ ကျောက်ပန်းတောင်း ဟုအမည်တွင် ဟန်တူသည်။ အချို့ကျောက်တုံးများပေါ်တွင် စေတီများ တည်ထား ကိုးကွယ်ထား ကြသည်။ ထင်ရှားသော စေတီ များမှာ မြရွှေဂူနှင့် ရွှေတောင်ဦး ဖြစ်သည်။ မြို့၏ အရှေ့ မြောက်ယွန်းတွင်ရှိသော ပေ ၄၉၈၁ မြင့်သည့် ပုပ္ပါးတောင် နှင့် ခရီး ၈ မိုင်ခန့်သာဝေးသည်။

ပျဉ်းမနားမှ ကျောက်ပန်းတောင်းသို့ မီးရထား လမ်းခွဲ ရှိသည့်ပြင်၊ မြင်းခြံ၊ မိတ္ထီလာ၊ မကွေး မြို့များသို့လည်း မော်တော်ကား လမ်းများဖြင့် ဆက်သွယ်လျက်ရှိလေသည်။

# ပုံနှိပ်လောကတွင် ချထွင်လာသည့် ပညာရပ်တခု

**ကျောက်ပုံနှိပ် အတတ်ထွန်းကားပြန့်ပွားလာခဲ့ရာ ပုံနှိပ်ဖက်တွင် စီးပွားရေး လုပ်ငန်း တရပ်ဖြစ်လာခဲ့ရုံမျှမက ပန်းချီဆရာများ အတွက်လည်း လက်ရာပြသခုမပညာရပ်တခုအဖြစ် အခွင့်အရေးရလာခဲ့ပေသည်။ ယခုအခါတွင်မူ ကျောက်ပုံနှိပ်ဟုခေါ်သော်လည်း ကျောက်ပြားမပါဘဲ အစားထိုးပစ္စည်းများ ထွင်လာနိုင်သည်မှာအံ့သြဖွယ်ဖြစ်ပေသည်။**

**ကျောက်ပုံနှိပ်အတတ်**။ ။လစ်သိုဂရပ်ဖီ ခေါ် ကျောက် ပုံနှိပ် အတတ်မှာ၊ လက်ဦး၌ ကျောက်ပြားသက်သက်ဖြင့် ပုံနှိပ်ယူသော အတတ်ဖြစ်သည်။ သို့ရာတွင် ယခုအခါ ကျောက်ပြားအစား သွပ်ပြား နှင့် အလျူမီနီယမ်ပြား များကိုလည်း အသုံးပြုလျက် ရှိကြပေသည်။ လစ်သိုဂရပ်ဖီ ဟူသော ဝေါဟာရမှာ ဂရိစကားမှ ဆင်းသက်လာ၍၊ ကျောက်ပေါ်၌ ရေးခြင်း ဆွဲခြင်း ဟု အဓိပ္ပါယ်ရသည်။ အလိုရှိသော စာနှင့် ပုံများကို ကျောက်ပြားပေါ်၌ ပဌမ ရေးဆွဲပြီးနောက် စက္ကူပေါ်သို့ ပုံနှိပ်ကူးယူရသဖြင့် လစ်သို ဂရပ်ဖီ သို့မဟုတ် ကျောက်ပုံနှိပ်အတတ် ဟုတွင်လာသည်။ ဤအတတ်သည် စီးပွားရေး လုပ်ငန်းဖြစ်သော ပုံနှိပ်အတတ် လည်း ဖြစ်၍၊ ပန်းချီဆရာများအတွက် ပန်းချီလက်ရာပြ သခုမ ပညာတရပ်လည်း ဖြစ်ပေသည်။ ပုံနှိပ်စာလုံးနှင့် ဗလောက်များတွင် စက္ကူပေါ်၌ မင်ထင်အောင် ရိုက်နှိပ် ပေးရမည့် အစိတ်အပိုင်း များသည် များသောအားဖြင့် ကျန်အစိတ်အပိုင်း များထက် မြင့်ကြွပြီး နေသည်ကို တွေ့ကြရမည်။ (ပုံနှိပ်စာလုံး — ရှု။) သို့ရာတွင် ကျောက် ပုံနှိပ်အတတ်၌ ထူးခြားချက်မှာ၊ ပုံနှိပ်စရာ ကျောက်ပြား သို့မဟုတ် သတ္တုပြား၏ မျက်နှာပြင်သည် တပြင်လုံး ညီညာ ချောမွတ်လျက်ရှိခြင်းဖြစ်သည်။

ကျောက်ပုံနှိပ်အတတ်သည် ဆီနှင့်ရေ ရောစပ်ခြင်း မရှိ သည့် အချက်ပေါ်တွင် မူတည် ပေါ်ပေါက်လာသော အတတ် ဖြစ်၍၊ ဤသို့ ကျောက်ပုံဖြင့် ပုံနှိပ်နိုင်သည့် နည်းကို အလွိုက် စီနီဖဲလဒါး ဆိုသူ ဂျာမနီနိုင်ငံ ဗာဗေး ရီးယားပြည်နယ် မျူးနစ်မြို့သားတဦးက ၁၇၉၆ ခုနှစ်တွင် စတင်တီထွင် ခဲ့လေသည်။ ခါတ်ပုံ ဗလောက်များဖြင့် အဖိုး ချိစွာ ရိုက်နှိပ်နိုင်သည့်နည်း ပေါ်ပေါက်လာ ပြီးနောက် တွင်၊ ဤကျောက်ပုံနှိပ်နည်းသည် ကွယ်ပျောက် တိမ်ကော လုမတတ် ဖြစ်ခဲ့ရဘူး၏။ သို့သော် ယခုအခါ ကမ္ဘာကျော် ပန်းချီဆရာကြီး အများကပင်၊ ဤနည်းကို ပြန်လည် အသက် သွင်းခဲ့ကြ၏။ ပုံနှိပ်လုပ်ငန်းတွင် ဤနည်းကို တဖြည်းဖြည်း အသုံးများလာကြ၏။ ရောင်စုံမြေပုံ နှင့် ရုပ်ပုံများကိုလည်း ကျောက်ပုံနှိပ်နည်းဖြင့် ပုံနှိပ်ယူကြသည်။

ပုံနှိပ်ကျောက် ပြုလုပ်ပုံမှာ အသားပွသော ထုံးကျောက် ပြား တချပ်ကို ရှေးဦးစွာ မျက်နှာပြင် ချောမွတ် ညီညာ လာအောင် ပွတ်တိုက်ပေးရသည်။ ထိုနောက် အဆီပါ သော ကရေယွန် ရောင်စုံ ဆေးတောင့်နှင့် ဖြစ်စေ၊ အမဲ ဆီကဲ မင်နှင့်ဖြစ်စေ၊လိုရာပုံ သို့မဟုတ် စာများကို ကျောက် ပြားပေါ်တွင် ရေးဆွဲပြီးလျှင် တမာစေး၊ သို့မဟုတ် ထနောင်းစေးရည်ဖြင့် ကျောက်ပြားမျက်နှာပြင်ကို သုတ် လိမ်း၍ အခြောက်ခံရသည်။ ထိုနောက် မျက်နှာပြင်ကို ရေဆေးပြီး အဆီကဲ မင်လုံးဖြင့် လှိမ့်သည်။ မင်လုံးလှိမ့်ပြီး မျက်နှာပြင်ကို ထင်ရှူးဆီ အမှုန့်နှင့် ပြင်သစ်မြေဖြူ အမှုန့် ၂ မျိုး ရောစပ်သည့် အမှုန့်ဖြင့် ဖြူး၍ နိုက်ထရစ်အက်ဆစ် နှင့် ကျောက်ချဉ်ရောသည့် ပျော်ဝင်ရည်ဖြင့် မျက်နှာပြင် တခုလုံး သန့်လာစေရန် ဆေးစားရသည်။ ထိုအခါ အက် ဆစ်ရည်သည် ဆေးရေးထားသည့် နေရာများမှအပ၊ ကျန် နေရာ အားလုံးကို စားပစ်လိုက်သည်။ စားပစ်သည် ဆို သော်လည်း နိမ့်ချိုင့်သွားအောင် စားပစ်ခြင်းကားမဟုတ်၊ ချေးစင်၍ ရေနှင့်ထိက ရေစွဲနိုင်အောင် စားခြင်းသာ ဖြစ်၏။ ထိုနောက် ကျောက်ပြားကို ရေဆွတ်ပေးသော အခါ၊ အက်ဆစ် စားသွားသည့် နေရာများတွင် ရေစို

သွား၍ ဆေးရေးထားသည့် နေရာများတွင်မူ ရေမစိုချေ။ ထိုကျောက်ပြား မျက်နှာပြင်ပေါ်တွင် ပုံနှိပ်မင်ကို ဒလိမ့်ဖြင့် လိမ့်ပေးသောအခါ၊ မင်တွင် ဆီပါနေသည့်အတွက် ဆေးရေးထားသည့် နေရာများတွင်သာ စွဲပြီး လျှင်၊ ရေစိုနေသော နေရာများ၌ မစွဲနိုင်ပေ။ ဤသို့ မင်လိမ့် ပြီးနောက် ကျောက်ပြား မျက်နှာပြင်ပေါ်၌ စက္ကူတရွက်ကို ဖိနှိပ်ပေးသောအခါ၊ ဆေးတောင့် သို့မဟုတ် မင်ဖြင့် ရေးထားသည့် မူလပုံအတိုင်း စက္ကူပေါ်တွင် ပုံနှိပ်ပြီးသားရလေသည်။ ကျောက်ပြားတချပ်တွင် မင်ရောင်တမျိုးကိုသာ သုံးနိုင်သည်။ ထိုကြောင့် အရောင်အမျိုးမျိုးနှင့် ပုံနှိပ်လိုသောအခါ၊ ကျောက်ပြားအများကို အသုံးပြုရသည်။

ပုံနှိပ်ကျောက် ပြုလုပ်သည့် ကျောက်ကို ဗာဗေးရီးယားပြည်နယ် ဂျူရာတောင်မှ အများအစား ရရှိသည်။ သို့သော် ထိုကျောက်မျိုးကို လိုသလောက် မရနိုင်ခြင်း၊ ကွဲလွယ်တတ်ခြင်း၊ အချို့သော ခေတ်မှီပုံနှိပ်စက်မျိုး၌ တပ်ဆင်၍ အသုံးမပြုနိုင်ခြင်း စသော အကြောင်းများ ကြောင့် အစားထိုးနိုင်သည့် ပစ္စည်းများကို စမ်းသပ် ရှာဖွေခဲ့ကြရာ နောက်ဆုံးတွင် အစ၌ ဖော်ပြခဲ့သည့်အတိုင်း သွပ်ပြားနှင့်



ကျောက်ပုံနှိပ်စက်ကြီးဖြင့် ဆေးရောင်စုံကြော်ငြာများ မြေပုံများကို ဤသို့ရိုက်နှိပ်ပေးလေသည်။

အလျူမီနီယမ် ပြားများကို တမျိုးတမည် စီမံ၍ အသုံးပြုနိုင်ကြောင်းတွေ့ခဲ့ရသည်။

ပုံနှိပ်ကျောက်ပြား (သို့မဟုတ် သတ္တုပြား) ပေါ်၌ ရုပ်ပုံများ စာများကိုရေးသား ပုံဖော်ရာတွင်၊ ဓါတ်ပုံဗလောက်ပြုလုပ်သည့် နည်းအတိုင်း၊ ဓါတ်ပုံမှတဆင့် ပုံကူးနိုင်သည်။ ထိုနည်းကို ဖိုတို လစ်သိုဂရပ်ဖီ (ဓါတ်ပုံကျောက်ပုံနှိပ်) နည်းဟုခေါ်၏။ ဆီမှိုင်း၊ ဆပ်ပြာ၊ ဖယောင်း၊ ဆီတို့ဖြင့် ဖော်စပ်ထားသော ကရေယွန် ဆေးတောင့် သို့မဟုတ် မင်ဖြင့် မျက်နှာပြင်ပေါ်၌ တိုက်ရိုက်မရေးဘဲ၊ ကော်နှင့်သုတ်လိမ်းထားသော ပုံကူးစက္ကူပေါ်တွင် ပဌမရေးပြီးမှ၊ ထိုစက္ကူကို မျက်နှာပြင်ပေါ်၌ ဖိ၍ ဆွဲခွာ ပေးခြင်းဖြင့်လည်း ပုံကူးပေးနိုင်သည်။ ပုံနှိပ်ကျောက်များဖြင့် ပုံနှိပ်သည့်အခါ အော့ဖဆက် ခေါ် တဆင့်ခံပုံနှိပ် နည်းမျိုးဖြင့်လည်းပုံနှိပ်နိုင်သည်။ အော့ဖဆက် ပုံနှိပ်နည်းတွင် ပုံနှိပ်ကျောက်ပေါ်ရှိ ပုံကို ရော်ဗာဒလိမ့်တုံးပေါ်၌ ပဌမ ထင်စေပြီးမှ၊ ရော်ဗာ ဒလိမ့်တုံးမှ တဆင့် စက္ကူပေါ် သို့ ပုံကိုကူးပြောင်း ပုံနှိပ်ပေးသည်။ပုံနှိပ်ကျောက်ဖြင့် တိုက်ရိုက် ပုံနှိပ်နည်းတွင် စက္ကူ အချောစားကိုသာ အသုံးပြုနိုင်သည်။ သို့သော် တဆင့်ခံ ပုံနှိပ်နည်းဖြင့် ပုံနှိပ်သောအခါ စက္ကူအကြမ်းစားများကိုလည်းအသုံးပြုနိုင်သည်။ ယခုအခါယင်း စက္ကူနှစ်မျိုးလုံးကို အလွယ်တကူဝယ်ယူသုံး စွဲနိုင်ကြသည်။ (ပုံထုထွင်းအတတ် —လည်းရှု။)

**ကျောက်ပျဉ်။** ။ကျောက်ပျဉ်မှာ မြန်မာနိုင်ငံတွင် အမျိုးသမီးများ အမွှေးနံ့သာ လိမ်းကျံရာ၌ နံ့သာသွေးရာကျောက်ချပ်ပြား ဖြစ်သည်။ များသောအားဖြင့် မြန်မာ အမျိုးသမီးများသည် သနပ်ခါးကို လိမ်းကျံခြယ်သလေ့ ရှိကြသဖြင့် သနပ်ခါး အများဆုံး သွေးရာ ကျောက်ပြားဖြစ်၍ သနပ်ခါးကျောက်ပျဉ် ဟုလည်းခေါ်သည်။ သို့ရာတွင် နံ့သာဖြူ၊ ကလမက်၊ တောင်နံကြီး၊ စသော နံ့သာတုံးများကိုလည်း ကျောက်ပျဉ်တွင် တင်၍သွေးလေ့ရှိပေသည်။

ကျောက်ပျဉ်မှာ သာမန် ထီးကျောက်မျိုး ဖြစ်သော ကျောက်ချပ်ပြားကို ဝိုင်းအောင်ဆစ်၍ မျက်နှာပြင် ညီညာအောင် ပြုပြင်ယူရသည်။ ထိုအခါ အဝိုင်း မျက်နှာပြင် ပတ်လည်တွင် ဘေး၌ ဝိုင်းရစ်၍၊ ရေခံတည်ခေါ် ချိုင့်မြောင်းငယ်ကို ထွင်းထုထားသည်။ မျက်နှာပြင်ကို အလည်သို့ အနည်းငယ် မို့သွားစေသည်ကိုလည်း မြင့်မိုရ် ဟုခေါ်၏။ ဤသို့ပြုလုပ်ခြင်းဖြင့် သွေးထားသော သနပ်ခါး၊ နံ့သာမှုန့်၊ နံ့သာရည်များ ဘေးပတ်လည် ရေခံတည်မြောင်းထဲသို့ အလွယ်တကူ လျှောဆင်းနိုင်လေသည်။

ရေခံတည် မြောင်းထဲတွင် သွေးပြီး နံ့သာရည်များကို ထည့်ထားလေ့ရှိလေသည်။ မိမိ သဘောကျသလောက်



မြန်မာအမျိုးသမီးတို့၏သီးခြားယဉ်ကျေးမှုတရပ်
မြန်မာနိုင်ငံတော်အမျိုးသမီးတိုင်း အလှပြုပြင်ခြယ်လှယ်ရာတွင် ကျောက်ပျဉ်နှင့်သနပ်ခါးသည် မရှိလျှင်မဖြစ် အရေးပါလှ၏။

ကျောက်ပျဉ်ကို မြန်မာနိုင်ငံအထက်ပိုင်း စစ်ကိုင်းခရိုင်နှင့် မြန်မာနိုင်ငံ အလယ်ပိုင်း ချောက်မြို့နယ်အတွင်း ရှိ ငွေချို တောင် အနီး မင်းကန် ရွာ များ မှ အများအပြားပြုလုပ်ရောင်းချလေ့ ရှိသည်။ စစ်ကိုင်းနယ်မှထွက်သော ကျောက်ပျဉ်မှာမင်းကန်ရွာမှထွက်သောကျောက်ပျဉ်ထက် ကျောက်သားရင့်သဖြင့် လူကြိုက်များပေသည်။

ပဲခူး ရွှေမော်ဓော စေတီတော်၌ ဌပနာ ပစ္စည်းများတွင် ဟံသာဝတီ ဆင်ဖြူများရှင်၏ သမီးတော် ရာဇဓါတုကလျာ၏ ကျောက်ပျဉ်တခုဆိုသော ကျောက်ပျဉ်ကို တွေ့ရလေသည်။ အင်းဝခေတ်က အမွှေးနံ့သာတို့ကို ကျောက်ပေါ်၌ သွေး၍ လိမ်းကျံလေ့ရှိကြောင်းကို သက္ကရာဇ် ၇၅၅ ခုနှစ်ရေး ဘုရိဒတ် ဇာတ်ပေါင်းပျို့၌၊

'ဤစာသာရ၊ ဂေါသီတကို၊ နား၀နှစ်ဘက်၊ မြကျောက်ထက်၌၊ ဥဘဏ်လက်ကိုထေး၊ ဖြည်းဖြည်းသွေး၍၊ နံ့မွှေးတသုန်၊ လိမ်းလင့်ကုန်'

စသည်ဖြင့် ရေးသား ဖေါ်ပြခဲ့သည်ကို ထောက်၍ သိရလေသည်။

ကျောက်ပျဉ်ဖြင့် သနပ်ခါး အမွှေးနံ့သာ သွေး၍ လိမ်းကျံသောအလေ့မှာ မြန်မာနိုင်ငံ၏ရှေးကျသော သီးခြား ယဉ်ကျေးမှု စရိုက် တရပ်ဖြစ်ခဲ့ပေသည်။ ကျောက်ပျဉ်ပေါ်တွင်အမွှေးနံ့သာကို ရေဖြင့် သွေးကြရ၍ ဘေးပတ်လည် ရေခံတည်မြောင်း၌ ရေများ သွင်းလောင်းထားသည်ကိုရည်၍ 'ရေပတ်လည်ဆောင်၊ အလည်ခေါင်သောင်ထွန်း၊ မိန်းမလှကျွန်း' ဟူ၍ ရင်း၊ 'အနားပတ်လည်၊ ရေကြည်တည်၊ အလည်သောင်ထွန်း၊ နဂါးကျွန်း' ဟူ၍ရင်း၊ ကျောက်ပျဉ်ကို စကားထာ ဝှက်လေ့ရှိကြသည်။

လှချင် ပချင်သော မိန်းကလေးတို့သည် ကျောက်ပျဉ်တွင် နတ်စောင့်သည်ဟုယုံကြည်ကာ သီတင်းကျွတ်လအခါများတွင် ဆီမီးများ ထွန်းညှိပူဇော်၍ 'အလှတိုးအောင် စောင်မတော်မူပါ ကျောက်ပျဉ်စောင့်နတ်မင်း' စသည်ဖြင့် ဆုတောင်းလေ့ ရှိကြသည်။

မြန်မာတို့၏ကျောက်ပျဉ်နှင့်သနပ်ခါးမှာ နိုင်ငံခြားသားများ အဖို့တွင်အမြဲတစေ အထူးအဆန်းဖြစ်ခဲ့လေသည်။

ရေ၏ အကျဲအပျစ်ကို ထားနိုင်သည်။ ကျောက်ပျဉ်၏ အောက်ခြေတွင်လည်း သုံးချောင်းထောက်သဖွယ် ခြေဆင့် တပ်ထားသည်။ ဘေးနခမ်း ပတ်လည်တွင် လှပသေသပ်စွာ ပွတ်တိုက်၍၊ ပန်းရေး ဆေးခြယ် ထားတတ်ကြသည်။ ကျောက်ပျဉ် ချောမွတ်နေလျှင် သွေးရာ၌ ကျောက်အစားနည်း၍ ကျောက်ပျဉ် မျက်နှာကို အနည်းငယ် ကြမ်းလာအောင် သံဆူးဖြင့် ပေါက်ခြစ်၍ ဖြစ်စေ၊ ကျောက်ကြမ်းနှင့် ပွတ်တိုက်၍ဖြစ်စေ ကြမ်းလာအောင်ပြုလုပ်ရသည်။

ကျောက်ပျဉ်များ အရွယ် အစားစားရှိစေကာမူ ပုံသဏ္ဍာန်မှာ တမျိုးတည်းပင်ဖြစ်သည်။ ကျောက်ပျဉ်များကို အဖိုးမတန် လှသော်လည်း မြန်မာ မိန်းမများ၏ မရှိလျှင် မပြီးသည့် အရေးကြီးသော အိမ်ထောင်ပစ္စည်း အသုံးအဆောင်တခု အဖြစ်ထားရှိကြ၍၊ ဗန်းဖြင့် သေသပ်စွာ ဖုံးအုပ်ကာ အကျော်အနင်း လွတ်သော နေရာများ၌ တရိုတသေသီးသန့်သိမ်းဆည်းထားလေ့ရှိသည်။

**ကျောက်ပွ**။ ။ကျောက်ပွသည် သဘာဝအလျောက် ဖြစ်ပေါ်နေသောကျောက်မျိုးမဟုတ်၊ သဏ္ဍာန်အားဖြင့် စပန်းရေမြှုပ်၊ ဖန်တုံး အရိုင်းတို့နှင့် ဆင်တူ၍ အဖြူရောင်မှ အညိုရောင်အထိ အရောင် အမျိုးမျိုးဖြင့် တွေ့မြင်ရတတ်သည်။ မီးတောင် ပေါက်ကွဲရာတွင် ထွက်လာသော ချော်ရည်တို့မှ

အမြုပ်များသည် ပြင်ပ အအေးဓါတ်နှင့် တွေ့သောအခါ ခရစ္စတယ်များမဖြစ်မီ လျင်မြန်စွာခဲသွားကြသည်။ ထိုချော်မြုပ်ခဲသည်ကျောက်ပွဖြစ်လာသည်။ (မီးတောင် — ရှု။)

ကျောက်ပွသည် ပွ၍ ပေါ့ပြီးလျှင် ရေ၌ ပေါလောပေါ်သည်။ အမြုပ်အဖြစ်မှ ရုတ်ခြည်း ခဲရသောကြောင့် မွေးညှင်းပေါက် ကဲ့ သို့သော အပေါက်ငယ်တို့ဖြင့် ပြည့်လျက်ရှိ၏။ လက်၌ ဆီချေးစသော ချေးများတင်လျှင် ဤကျောက်ပွနှင့် ပွတ်၍ ဆေးကြောကြသည်။ ထိုမျှသာမက၊ သစ်သား၊ သတ္တု၊ ဆင်စွယ်၊ စကျင်ကျောက် စသည်တို့ကို အရောင် တင်ရာတွင်လည်း ဤကျောက်ပွနှင့် တိုက်ရသည်။ အမှုန့်ပြု၍ ချေးညှော်ချွတ်သောဆေး၊ သွားတိုက်ဆေးများ အဖြစ်လည်း သုံးရ၏။ အထူးသဖြင့် ဖနပ်ဖူးဆိုမျိုးကို ကျောက်ပွဖြင့်ပွတ်၍ ချောမွတ်ယူကြသည်။

ကျောက်ပွများကို စစ္စလီကျွန်း မြောက်ဖက် မိုင် ၂၀၀ ခန့်ဝေးသော လစ်ပါရီ ကျွန်းများမှ အများအပြား ရရှိ၍ နိုင်ငံခြားသို့ တင်ပို့ကြသည်။ ကျောက်ပွတွေ့ရှိသော အခြားနေရာများမှာ အိုက်စလန်ကျွန်း၊ နယူးဇီလန်ကျွန်း၊ ဟန်ဂေရီနိုင်ငံ၊ အမေရိကန် ပြည်ထောင်စု အတွင်းရှိ နေရာအချို့တို့ဖြစ်ကြသည်။

**ကျောက်ဖြူခရိုင်။** ။ကျောက်ဖြူခရိုင်သည် မြန်မာနိုင်ငံ ရခိုင်တိုင်းတွင်ပါဝင်သော ခရိုင်တခုဖြစ်၏။ ကျောက်ဖြူခရိုင်တွင် ရခိုင်ကမ်းရိုးတန်းတလျှောက် ဟန်းတားပင်လယ်အော် မအီချောင်းအထိ ရှည်လျားသောကမ်းမြောင်ဒေသ



ကျောက်ဖြူမြို့မှ ထင်ရှားသည့် ကျောက်တလုံးဘုရား

အပြင်၊ ထိုကမ်းရိုးတန်း၏ အနောက်ဖက်ရှိ ရမ်းဗြဲကျွန်း၊ မာန်အောင်ကျွန်းနှင့် ကျွန်းငယ်ပေါင်း မြောက်မြားစွာတို့ ပါဝင်လေသည်။

နယ်နိမိတ်အားဖြင့် မြောက်ဖက်တွင် စစ်တွေခရိုင်၊ အရှေ့ဖက်တွင် ရခိုင်ရိုးမတောင်တန်း၊ တောင်ဖက်တွင် သံတွဲခရိုင်၊ အနောက်ဖက်တွင် ဗင်္ဂလားအော်တို့တည်ရှိ၏။

ကျောက်ဖြူခရိုင်၏ မြောက်ပိုင်းနှင့် အရှေ့ပိုင်းမှာ တောတောင်များထူထပ်လျက် တောင်ပိုင်း၌မူ မြစ်ငယ်ချောင်းငယ် များစွာတို့သည် တခုနှင့်တခု ယှဉ်ကပ်စီးဆင်းလျက်ရှိကြလေသည်။ ကမ်းရိုးတန်းနှင့် ရမ်းဗြဲကျွန်းအကြားတွင် ကျွန်းငယ်ကလေးပေါင်း များစွာရှိသဖြင့် အရှေ့မြောက်ဖက်ရှိ ကျောက်ဖြူသင်္ဘောဆိပ်ကမ်းကို သဘာဝအားဖြင့် လုံခြုံစေသည်။

ကျောက်ဖြူခရိုင်သည် အရှေ့ဖက်တွင် မင်းဘူးခရိုင်နှင့် နယ်နိမိတ်ချင်း စပ်လျက်ရှိသော်လည်း ရခိုင်ရိုးမတောင်ကြီး ခြားလျက်ရှိသောကြောင့် ကူးသန်းဆက်သွယ်ရန် အလွန်ခဲခက်၏။ ထိုရိုးမတောင်တန်းကို ဖြတ်ကျော်သည့် တောင်ကြားလမ်း ထွက် ပေါက် ၂ ခုသာရှိရာ ယင်းတို့မှာ ဒလက်နှင့် အမ်းတောင်ကြား လမ်းများဖြစ်ကြ၏။ ဒလက်တောင်ကြားလမ်းမှာ ဖြတ်သန်းရန် အတော်ပင်ခက်ခဲ၏။ အမ်းတောင်ကြားလမ်းမှာမူ ပင်လယ်ပြင်အထက် ပေပေါင်း ၄၆၆၄ အထိမြင့်သော်လည်း နွားလှည်းများပင်ဖြတ်ကျော်နိုင်လေသည်။

ဒလက်မြစ်တွင် ဒလက်ရွာအထိ၊ အမ်းမြစ်တွင် အမ်းမြို့အထိ လှေများဖြင့်ဆန်တက်နိုင်၏။ ကျွန်းများတွင် ချောင်းငယ်မြောင်းငယ်များ ရှိ၍ လှေငယ်များဖြင့် သွားလာနိုင်၏။ ကုန်းလမ်းခရီး၌ကား လမ်းပန်းအဆက်အသွယ်ကောင်းစွာမရှိချေ။ ခရိုင်အတွင်းရှိ တောင်ကုန်းများပေါ်တွင် သစ်တောကြီးများရှိ၍ ပျဉ်းကတိုး၊ ကညင်စသည့် သစ်ကြီးများနှင့် ဝါးတောကြိမ်တောများ ဖြစ်ထွန်းသည်။

ခရိုင် သစ် ဖွင့် စ အခါက ခရိုင်တခုလုံးတွင် တောတောင်ထူထပ်လှသဖြင့် လယ်ယာစိုက် ပျိုးရန် နေရာများစွာမရှိလှချေ။ ဝီရိယကောင်းသူများသာ တောကြီးများကို ခုတ်ထွင်ရှင်းလင်းကာ တာတမံများဆည်ဖို့၍ အသင့်အတင့် စိုက် ပျိုးကြ၏။ ယခုအခါတွင်မူကား တခရိုင် လုံး ခုတ်ထွင်ရှင်းလင်းပြီး လယ်ယာပြုပြင် စိုက်ပျိုးလာခဲ့ကြသဖြင့် မြေပြန့်လွင်ပြင်များတွင် လယ်များအနှံ့အပြားရှိနေပေပြီ။ သို့သော် ခရိုင်နယ်နိမိတ် အကျယ်အဝန်းနှင့်နှိုင်းစာလျှင် လယ်ကွက်များနည်းပါးသည်ဟု ဆိုရပေမည်။ မြေပြန့်လွင်ပြင် ဖြစ်သော မာန်အောင်ကျွန်း၌မူ ဆန်စပါး ကောင်းစွာ ဖြစ်ထွန်းသဖြင့် ကျောက်ဖြူခရိုင်တွင် စပါးအကောင်းဆုံး

နှင့် အများဆုံးထွက်ရာဒေသဖြစ်သည်။ မြေပုံမြို့နယ်၌ မြစ်ရေရောက်ရှိရာ ကမ်းစပ်မြေများကို ခုတ်ထွင်တိုးချဲ့၍ ရေကာဆည်ကြီးများပြုလုပ်ကာ စပါးများ စိုက်ပျိုးလေ့ရှိသည်။ ပြည်တော်သာစီမံကိန်းများအရ ကျောက်ဖြူခရိုင်အတွင်း၌ ဆည်ကတုတ်များ ပြုလုပ်ကာ စပါးစိုက်ပျိုးရေးကို အထူးကြိုးပမ်းလျက်ရှိသဖြင့် ရှေ့နှစ်များတွင် စပါးများ ပိုမိုထွက်ရှိလာမည်ဖြစ်ပေသည်။

မြေအိုးမြေခွက်လုပ်ငန်း၊ ငါးဖမ်းလုပ်ငန်းနှင့် စက္ကူထီးလုပ်ငန်းများ အသင့်အတင့်ရှိ၏။ အခြားထင်ရှားသောလုပ်ငန်းများမှာ ပိုးထည်ချည်ထည်များ ရက်လုပ်ခြင်း၊ ကြံသကာချက်ခြင်း၊ဆားချက်ခြင်းတို့ဖြစ်၏။ ခရိုင်အတွင်း စိုက်ပျိုးရရှိသော သီးနှံများမှာ ဆန်စပါး၊ ကြံ၊ ဝါဂွမ်း၊ ပိုက်ဆံပင်၊ ဆေး၊ ကွမ်း၊ ဓနိ၊ ရေတိ၊ နှမ်း၊ မြေပဲ၊ ကြက်သွန်နှင့် အုန်းများဖြစ်ကြ၏။ ကျောက်ဖြူခရိုင်အတွင်းမှထွက်သော မာန်အောင်ဆေး၊ ဂန်္ဂါဆားနှင့် ရဲကျွန်းကြက်သွန်တို့မှာ ထင်ရှားသောထွက်ကုန်များဖြစ်၍ ရခိုင်တိုင်းအနှံ့အပြားသို့ တင်ပို့ရောင်းချရသည်။

ခရိုင်အတွင်းတွင်ပါဝင်သောမာန်အောင်ကျွန်း၌တောင်နီသို့မဟုတ် မြေနီတောင်ခေါ် နဂါးပွက်တောင် တလုံးရှိ၏။ ထိုတောင်မှာ မီးတောင်ကဲ့သို့ ချော်ရည်မထွက်ဘဲ ရွှံ့များထွက်၏။ ကျောက်ဖြူခရိုင်၌ ရေနံလည်းအနည်းငယ်ရ၏။

ကျောက်ဖြူခရိုင်တွင် ရခိုင်၌ ရှေးအစဉ်အလာအားဖြင့် ထင်ရှားခဲ့သော ရထားပွဲခေါ် ပွဲတော်တခုကျင်းပလေ့ရှိသည်။ ရထားပွဲမှာ မြန်မာပြည်မကြီးတွင် ခေတ်စားလျက်ရှိသော လှည်ပွဲနှင့် သဘောချင်းတူညီသည်။ ရထားပွဲကျင်းပခြင်း၏အလိုကား မိုးကောင်းစေရန်နှင့် သီးနှံစပါးများ ဖွံ့ဖြိုးဖြစ်ထွန်းစေရန်ဖြစ်သည်။

ကျင်းပပုံမှာ ဘီးလေးဘီးတပ်ထားသော ရထားငယ်တခုပေါ်တွင် ဝါး ပင်ပျိုများကို စုစည်းချည်နှောင်၍ စိုက်ထူရသည်။ ရထား၏ ရှေ့နှင့်နောက်ဖက်များတွင် လွန်ကြိုးတချောင်းစီ ချည်ထားရသည်။ လွန်ပွဲများကျင်းပသကဲ့သို့ ရထားကို တဖက်နှင့်တဖက် အနိုင်ဆွဲကြသည်။ ရထားဆွဲသောအခါ အတီးအမှုတ် အကျွေးအမွေးများပါ ပါဝင်သဖြင့် ပိုမိုစည်ကားသိုက်မြိုက်လှပေသည်။

ရထားပွဲသဘင်ကို နှစ်စဉ်တပို့တွဲ လဆန်း ၁၄ ရက်နေ့ညဉ့်မှလပြည့်ကျော်တရက်နေ့ညဉ့်အထိကျင်းပလေ့ရှိသည်။ တတိယညဉ့်ဖြစ်သော နောက်ဆုံးနေ့၌ ရထားကိုမီးရှို့၍ ပွဲအပြီးသတ်လေသည်။

ကျောက်ဖြူမြို့ပေါ်တွင် ယခုအခါ ရထားပွဲသဘင်ကို ဆင်ယင်ခြင်းမပြုလုပ်သော်လည်း ကျောက်ဖြူခရိုင် အတွင်း၌မူ အနှံ့အပြား ပြုလုပ်ကျင်းပမြဲ ကျင်းပလျက်ရှိသေးသည်။

မြန်မာသက္ကရာဇ် ၉၅၀ ခန့်တွင် ရခိုင်ဘုရင် မင်းရာဇာကြီး၏သားတော် မင်းခမောင်းနှင့်အတူ ဟံသာဝတီနေပြည်တော်တွင်ရှိနေသော ရခိုင်စာဆိုတော် ဥက္ကါပျံသည် ရထားသဘင်နှင့်စပ်လျဉ်း၍ မင်းခမောင်းထံသို့ ဆက်သွင်းသောဆယ့်နှစ်ရာသီရတုတွင်၊

> **ရာသီကုံလွဲ၊တပို့ထွေးသည်၊**
> **လွန်းပွေပင်၊ပျော်ရွှင်လုရတ်မြေ။**
> **ရထားသဘင်၊နှစ်စဉ်ငယ်ငင်သည်၊**
> **သောင်းခွင်ဤလုပြည်ထက်။**
> **ရွှင်ပျော်မွေ့လူတို့၌**
> **ရာဇဌာနေ၊မင်းနေပြည်ဝယ်၊**
> **ထိုထိုဇနပုတ်၌၊ ကျူုးသံရိုက်**
> **ထိန့်ထိန့်ဆူ၊ သမုတ္တရာ၊ ယမုန္နာသည်၊**
> **သီဒါချောင်းခြားထူခဲ့။**

စသည်ဖြင့်ဖွဲ့ဆိုထားလေသည်။

ကျောက်ဖြူခရိုင်တွင် ကျောက်ဖြူမြို့နယ်၊ ရမ်းဗြဲမြို့နယ်၊ မြေပုံမြို့နယ်၊ အမ်းမြို့နယ်နှင့် မာန်အောင်မြို့နယ်ဟူ၍ ၅ နယ်ပါဝင်သည်။ ကျောက်ဖြူခရိုင်မှာ ဒီမိုကရေစီ ဒေသန္တရအုပ်ချုပ်ရေးစနစ် စတင်စမ်းသပ်ဆောင်ရွက်မည့် ခရိုင်များအနက် တခုအပါအဝင်ဖြစ်သည်။ ပြည်တော်သာစီမံကိန်းအရ ကျောက်ဖြူခရိုင်အတွင်းတွင် ပြည်တော်သာအနှုန်းခင်းများ စိုက်ပျိုးခြင်း၊ ဆည်မြောင်း၊ ရေကတုတ်များပြုလုပ်ခြင်း၊ မြစ်ကျဉ်းသဲသောင်များကို တူးဖော်ခြင်းစသည်တို့ကို ဆောင်ရွက်လျက်ရှိသည်။

ကျောက်ဖြူခရိုင်သည် စတုရန်းမိုင်ပေါင်း ၄၇၉၃ ခန့်ကျယ်ဝန်း၍ ၁၉၄၁ ခုနှစ်သန်ကောင်စာရင်းအရ လူဦးရေ ၂၅၂,၂၈၁ ရှိလေသည်။

**ကျောက်ဖြူမြို့။** ။ကျောက်ဖြူမြို့သည် မြန်မာနိုင်ငံ ရခိုင်တိုင်း ကျောက်ဖြူခရိုင်ဝန် ရုံးစိုက်ရာမြို့ကြီးဖြစ်၍ ရမ်းဗြဲကျွန်း၏မြောက်ဖက်အစွန်း သံစစ်မြစ်ဝ၌ တည်ရှိသည်။

ထိုမြို့မှာ ရှေးအခါက ရခိုင်ပြည်၌ မထင်ရှားသော တံငါရွာကလေးမျှသာ ဖြစ်ခဲ့၏။ ၁၈၂၄ ခုနှစ်တွင် ရခိုင်ပြည်ကို အင်္ဂလိပ်တို့ သိမ်းပိုက်သောအခါ ကျောက်ဖြူမြို့နေရာတွင် စစ်တပ်များ ချထားခဲ့၏။ ထိုအခါ ကျောက်ဖြူမြို့နယ်မြေသည် စစ်တွေ၊ သံတွဲနှင့် ရမ်းဗြဲခရိုင်များ အတွင်းသို့ ကျရောက်ခဲ့၍ အမ်းမြို့မှာ ခရိုင်ဌာနချုပ် ရုံးစိုက်ရာမြို့ ဖြစ်ခဲ့လေသည်။ သို့ရာတွင် အမ်းမြို့မှာ ကျန်းမာရေးနှင့် မညီညွတ်ခြင်း၊ ပင်လယ်ကမ်းခြေနှင့် ဝေးခြင်းတို့ကြောင့် ယခင်စစ်တပ်များ ချထားခဲ့ဘူးသော ကျောက်ဖြူမြို့သို့ ၁၈၃၈ ခုနှစ်တွင် ရွှေ့ပြောင်းရုံးစိုက်ခဲ့၏။ ရမ်းဗြဲခရိုင်နှင့် အမ်း

ခရိုင်တို့ကိုလည်း ပေါင်း၍ ကျောက်ဖြူခရိုင်ဟု သတ်မှတ်ခဲ့လေသည်။ ကျောက်ဖြူမြို့နယ်တွင် ကျေးရွာပေါင်း ၂၇၀ ကျော်ပါဝင်သည်။

ယခုအခါ ကျောက်ဖြူမြို့မှာ ခရိုင်ဝန်ရုံးစိုက်ရာ စည်ကားသောမြို့ကြီး ဖြစ်လာရုံမျှမက သင်္ဘောဆိပ်မြို့လည်း ဖြစ်လာ၍ ပင်လယ်ကူး သင်္ဘောကြီးများ ဝင်ရောက်ဆိုက်ကပ်ကြ၏။ မြို့ပေါ်တွင် ခရိုင်ဌာနချုပ် ရုံးများအပြင် ဆေးရုံ၊ ရဲဌာန၊ စာပို့တိုက်၊ စာသင်ကျောင်းနှင့် ဈေးများရှိကြ၏။ မြို့စည်ပင်ရေးကို ၁ဂဂ၅ ခုနှစ်မှစ၍ မျူနီစီပယ်အဖွဲ့က စီမံအုပ်ချုပ်လာခဲ့၏။

ကျောက်ဖြူမြို့၏ အရှေ့တောင်ဖက် ၃ မိုင်ခန့်အကွာ စိုင်ချုံရွာအနီးတွင် နဂါးပွက်တောင် ခေါ် ရွှံ့မီးတောင်ရှိသည်။ မြို့၏ အရှေ့တောင်ဖက် ၁ မိုင်ခွဲခန့်အကွာ ကညင်တော ရွာအနီးရှိ စေတီတောင်ပေါ်တွင် လျောင်းတော်မူ ရုပ်ပွားတော် တဆူရှိသည်။ မြို့၏အနောက်တောင်ဖက် ၃ မိုင်ခန့်အကွာ ဂုံးရှိန်ရွာသို့ သွားရာလမ်းခရီး၌ ကျောက်တလုံးဘုရား တည်ရှိသည်။ ဤဘုရားမှာ ကြီးမားသော ကျောက်တုံးကြီးတခုကို ဘုံဆောင်ပြာသာဒ် လိုဏ်ဂူနှင့် ရုပ်တုတော်များပါ အပြီးဖြစ်မြောက်အောင် ထုလုပ်မွန်းမံ ထားခြင်းဖြစ်သည်။ လိုဏ်ဂူတော်နှင့်တကွ ဘုရားရုပ်တုတော်များ၊ ပန်းဆိုင်းများ၊ ဘီလူးရုပ်၊ နတ်ရုပ်စသော အရုပ်ဟန်ပန်တို့သည် ရှေးရခိုင်များ၏ ဗိသုကာပညာနှင့် ကျောက်ဆစ်ပညာများကို သရုပ်ဖေါ် ပြလျက်ရှိသည်၊ ကျောက်တလုံးဘုရား၏ တောင်ဖက် ၂ မိုင်ခန့်အကွာ ဂန့်ဂေါ်တော အရပ်တွင် ဂန့်ဂေါ်တောဘုရားဟု ထင်ရှားသော ရုပ်တုတော် တဆူရှိသည်။ ထိုရုပ်တုတော်ကို ပင်လယ်ထဲမှ ပင့်ဆောင်ရရှိခဲ့သောကြောင့် ပေါ်တော်မူဘုရား ဟုခေါ်ဝေါ် သမုတ်ကာကိုးကွယ်ကြသည်။

စေတီတောင်ဘုရား၊ ကျောက်တလုံးဘုရားနှင့် ဂန့်ဂေါ်တောဘုရားပွဲတော်များကို တန်ခူးလအတွင်းတွင် ကျင်းပလေ့ရှိကြသည်။

၁၉၅၃ ခု နှစ်မှစ၍ ဆရာဖြစ်သင် ကောလိပ်ကျောင်းဖွင့်လှစ်ခဲ့၍ ၁၉၅၄ ခု နှစ် ဇွန်လ ၁ ရက်နေ့တွင် ဥပစာကောလိပ်ကျောင်းကို ဖွင့်လှစ်ခဲ့သည်။ ဤဥပစာကောလိပ်ကျောင်းတွင် အထွေထွေဝိဇ္ဇာ ပညာရပ်များကိုသာမက သချာ်၊ ရူပဗေဒနှင့် ဓာတုဗေဒ သိပ္ပံပညာရပ်များကိုပါ သင်ကြားပို့ချလျက်ရှိသည်။ ကျောက်ဖြူမြို့မှာ ရန်ကုန်မြို့နှင့် ရေလမ်း လေယာဉ်လမ်းများဖြင့် ဆက်သွယ်လျက်ရှိသည်။ မြို့၏အကျယ်အဝန်းမှာ စတုရန်းမိုင် ၁.၂၂ ရှိ၍ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရလူဦးရေ ၇၂၄၁ ယောက်ရှိသည်။

# သဘာဝသမိုင်းအတွက်အမွေအနှစ်များ

လူလောကသည် အဆင့်ဆင့်မည်သို့ပြောင်းလဲဖြစ်ပေါ်လာသည်ကို ကြွင်းကျန်ရစ်သောပစ္စည်းများဖြင့် ခန့်မှန်းသိရှိနိုင်ပေသည်။ ထိုပစ္စည်းများသည် သက်ရှိဖြစ်စေသက်မဲ့ဖြစ်စေ ပုံမပျက်ဘဲ ကျောက်အဖြစ် ဆန်းကြယ်စွာ ကြွင်းကျန်တည်ရှိနေရစ်သဖြင့် ရှေးဟောင်းသဘာဝသမိုင်းကို လေ့လာသူတို့အတွက် အထူးအဖိုးတန်သောအထောက်အပံ့ကြီးများဖြစ်လာပေသည်။

**ကျောက်ဖြစ်ရုပ်ကြွင်း။** ။ရှေးဘူမိဗေဒခေတ်က ရှိခဲ့သော အပင်နှင့် တိရစ္ဆာန်တို့မှ မြေအောက်တွင် နှစ်ပေါင်းများစွာ နစ်မြုပ်၍၊ ကျောက်ရုပ် ကျောက်ပုံအဖြစ် ပုံမပျက်ဘဲ ကျန်ခဲ့သည့် အကြွင်းအကျန်များကို ကျောက်ဖြစ်ရုပ်ကြွင်းဟု ခေါ်သည်။ ကျောက်ဖြစ်ရုပ်ကြွင်း ဖြစ်လာရပုံမှာ ၃ မျိုး ၃ နည်း ရှိသည်။ ပဌမနည်းတွင် သက်ရှိများ၌ ဖွဲ့စည်းပါရှိသော ပစ္စည်းများမှာ မည်သို့မျှ ပျက်စီး၍ မသွားဘဲ ပကတိအတိုင်း ကျန်ရစ်ခဲ့ခြင်း ဖြစ်သည်။ ဤသို့ဖြစ်ပုံနှင့် စပ်လျဉ်း၍ အထင်ရှားဆုံးမှာ ဆိုက်ဗီးရီးယားပြည်တွင် တွေ့ရသည့် ရှေးဆင်ကြီးများ၏ အကြွင်းအကျန်များဖြစ်၏။ ထိုဆင်ကြီးတို့၏ ရုပ်ကလာပ်များကို မြေအောက်၌ နစ်မြုပ်လျက် အလွန်အကျံ အေးမြသော ရာသီကြောင့် ပုပ်သိုးခြင်း မရှိဘဲ ပကတိအတိုင်းတွေ့ရလေသည်။ ထိုဆင်ကြီးများ သေဆုံးခဲ့သည်မှာ နှစ်ပရိစ္ဆေဒ များစွာကြာမြင့်ခဲ့ပြီဖြစ်သော်လည်း၊ အသားများမှာ ယခုတိုင် စားသောက်နိုင်လောက်အောင် လတ်ဆတ် သေးကြောင်းကို တွေ့ရသည်။ သို့သော် အများအားဖြင့်ကား တိရစ္ဆာန်အမျိုးမျိုးတို့၏ အရိုးများကိုသာ ပကတိအတိုင်း တွေ့ရတတ်သည်။

ဒုတိယနည်းမှာ သက်ရှိတို့၏ ပုံသဏ္ဌာန်အတိုင်း ကျောက်ပုံများအဖြစ် ကျန်ရစ်ခဲ့ခြင်းဖြစ်သည်။ ယောက်သွားကဲ့သို့ အခွံရှိသည့် ရေသတ္တဝါများသည် ရေအောက်ရှိ မြေပြင်ပေါ်သို့ ကျရောက်သောအခါ နောက်ကျိနေသော ရွှံ့ရေသည် အခွံထဲသို့ အပြည့် ဝင်ရောက်လာသည်။ အခွံတွင်း၌ ဤသို့ဖြစ်နေစဉ်မှာပင် အခွံပေါ်သို့ ရေမှ အနည်ထိုင်လာပြီးလျှင် ရွှံ့နွံများ တဖြည်းဖြည်း ဖုံးအုပ်လာကာ အချိန်ကြာမြင့်သောအခါ ကျောက်ဖြစ်လာသည်။ အကယ်၍ ကျောက်တွင်းသို့ ရေစိမ့်ဝင်ရောက်နိုင်လျှင် အတွင်းရှိသည့် မူလပစ္စည်းသည် ရေတွင် ပျော်ဝင်ပါရှိ သွားတတ်၍ သက်ရှိတို့၏ ပုံသာလျှင် ထင်ကျန်ရစ်ခဲ့သည်။ ထိုကျောက်ကို ထုခွဲလိုက်သောအခါ အခွံ၏ အပြင်ဖက်ပုံနှင့် အတွင်းဖက်

ပုံသည် ကျောက်တွင်ထင်၍ ကျန်ရစ်ကြောင်းကို တွေ့ရသည်။ တခါတရံ အတွင်းဖက်၌ ရေတွင် ပျော်ဝင်ပါရှိသည့် အင်ဩြဂဲနစ် ပစ္စည်းများသည် အနည်ထိုင် လာကြ၍ မူလ အခွံ၏ပုံကို ရရှိလာကြသည်။ အထက်ပါနည်းဖြင့် ရရှိသော ကျောက်ပုံများသည် သက်ရှိ သို့မဟုတ် သက်ရှိတွင် ဖွဲ့စည်းပါဝင်သည့် အင်္ဂါအစိတ်အပိုင်းတို့၏ အရွယ်နှင့် ပုံသဏ္ဌာန်များကိုသာ သိရှိစေနိုင်၍ ခန္ဓာကိုယ် အတွင်းဖက်ရှိ ဖွဲ့စည်းထားပုံကိုမူ မသိရှိ စေနိုင်ချေ။

နောက်ဆုံးနည်းဖြင့်ဖြစ်သော ကျောက်ဖြစ်ရုပ်ကြွင်းမှာ သက်ရှိ သို့မဟုတ် သက်ရှိ အင်္ဂါအစိတ်အပိုင်းတို့၏ အပြင်ဖက် ပုံသဏ္ဌာန် များကိုသာမဟုတ်၊ မူလ ခန္ဓာအိမ်တွင် ဖွဲ့စည်းပါရှိသည့် ဆဲတို့၏ ဖွဲ့စည်းထားပုံကိုပါ သိရှိစေသောကြောင့် ကျောက်ဖြစ်ရုပ်ကြွင်းများတွင် အကောင်းဆုံးနှင့် အသုံးအဝင်ဆုံး ဖြစ်သည်။ ယင်းတို့သည် စင်စစ်အားဖြင့် ဓါတ်ပြောင်းမှုကြောင့် ဖြစ်ပေါ်လာ ကြလေသည်။ ဤပြောင်းလဲမှုတွင် မူလပစ္စည်း၌ ပါရှိသည့် ဩြဂဲနစ် ပစ္စည်းတို့သည် ခန္ဓာအိမ်မှ ထွက်သွား၍ လစ်လပ်သော နေရာတွင် သဲဓါတ် ထုံးဓါတ်စသော အင်ဩြဂဲနစ် ပစ္စည်းတို့က ဝင်ရောက်ကိန်းအောင်းနေသည်။ ဤနည်းဖြင့် ကျောက်ဖြစ်ရုပ်ကြွင်း ဖြစ်နေသော သစ်သားများတွင် လတ်လတ်ဆတ်ဆတ် ခုတ်လှဲထားသောအပင်များမှာကဲ့သို့ပြင်ပအကြောင်းများ၊ အခေါက်ပုံများ၊ အသက်ရစ်များ၊ တစ်ရှူးများတွင်ရှိသော အမှတ်များနှင့်ဆဲများကိုပင် မြင်ရလေသည်။

ကမ္ဘာပေါ်တွင် ရှိရှိသမျှ ကျောက်များကို နှစ်မျိုးခွဲထားသည်။ တမျိုးမှာအပူကြောင့်ဖြစ်သည့် ကျောက်များဖြစ်၍ မီးသင့်ကျောက်ဟု ခေါ်သည်။ အခြားတမျိုးမှာ ကျောက်ခဲငယ်များအရည်ပျော်ဝင်နေသောပစ္စည်းများ၊ သက်ရှိများမှ စွန့်ပစ်သော ပစ္စည်းများ အနည်ထိုင်ပြီးနောက် ရေ၏ဖိအားကြောင့် ဖြစ်ပေါ်လာသော ကျောက်များဖြစ်၍၊ ယင်းကျောက်မျိုးကို အနည်ကျကျောက်ဟုခေါ်၏။ ဤကျောက် နှစ်မျိုးအနက် ဒုတိယ ကျောက်မျိုး၌သာလျှင် ကျောက်ဖြစ်ရုပ်ကြွင်းများကို တွေ့ကြရသည်။ သက်ရှိပစ္စည်းတို့၏ ရုပ်ကလာပ်များသည် ပုပ်သိုးဆွေးမြည့်၍ တခဏခြင်းတွင်ပင် ပျက်စီးသွားတတ်ကြောင်း ကျွန်ုပ်တို့ သိရသည်။ ထိုသို့ ဆွေးမြည့်ပုပ်သိုး သွားရခြင်းမှာ လေထဲ၌ ရှိသည့် အောက်ဆီဂျင်ကြောင့်ဖြစ်ရာ ကျောက်ဖြစ်ရုပ်ကြွင်းဖြစ်ရန် အသင့်တော်ဆုံးနေရာများမှာ ပင်လယ်များ အိုင်များနှင့် ရွှံ့နွံထူထပ်သော နေရာများ ဖြစ်ကြသည်။ ကျောက်ဖြစ်ရုပ်ကြွင်းဖြစ်ရာ၌ အရိုးကဲ့သို့ အမာခံကိုယ်ထည်ရှိသော သက်ရှိများသာလျှင် လွယ်ကူစွာ ဖြစ်နိုင်သည်။ ထိုကြောင့် အလွန်ပျော့ပျောင်းနူးညံ့သော ကိုယ်ထည်ရှိသည့် ရှေးအကျဆုံး သက်ရှိများကို ကျောက်ဖြစ်ရုပ်ကြွင်း အဖြစ် တွေ့ရခဲ၏။ (ကမ္ဘာဦးတိရစ္ဆာန်များ — ရှု။)

ကျောက်ဖြစ်ရုပ်ကြွင်းများမှ သိပ္ပံကဝိတို့သည် ကမ္ဘာပေါ်၌ ပဌမဆုံး ဆဲ တခုတည်းသာရှိသည့် သက်ရှိများ ပေါ်ပေါက်လာခြင်းနှင့်၊ ထိုသက်ရှိများမှ တဖြည်းဖြည်း ဆင့်ကဲဖြစ်လာသည့် နည်းဖြင့် အဆင့်အတန်း အမြင့်ဆုံး သတ္တဝါများ ဖြစ်လာသည့်လက္ခဏာများကို တွေ့ခဲ့ကြသည်။ ကမ္ဘာပေါ်တွင် သက်ရှိများ စတင်ပေါ်ပေါက်လာသည်မှာ နှစ်သန်းပေါင်း ၁၅၀၀ ထက် မနည်းသော အချိန်အခါက ဖြစ်သည်ဟု ယခုခေတ် သိပ္ပံကဝိကြီးများက ယူဆကြသည်။ ကျောက်ဖြစ်ရုပ်ကြွင်းများမှ ဤနှစ်ကာလ အပိုင်း အခြားအတွင်း၌ ကမ္ဘာပေါ်တွင် အမျိုးမျိုးသော သတ္တဝါတို့သည် သူ့ခေတ်နှင့်သူ ဆိုသလို ကြီးစိုးနေထိုင် ခဲ့ကြကြောင်းကို တွေ့ရသည်။ ဤသို့ တွေ့ ရှိရသည်ကို အခြေတည်၍ သက်ရှိစတင် ပေါ်ပေါက်လာသည့် အချိန်မှ လူဖြစ်လာသည့်အချိန်အထိ ကာလအပိုင်းအခြားကို ခေတ် ငါးခေတ် ပိုင်းခြားပြီးလျှင် ခေတ်တခေတ်စီကို ထိုခေတ်တွင် ကြီးစိုးခဲ့သော သတ္တဝါ အမည်ဖြင့် မှည့်ခေါ်ထားသည်။ ပဌမဆုံးခေတ်မှာ ကျောရိုးမဲ့ သတ္တဝါ ခေတ်ဖြစ်၍ ကာလအပိုင်းအခြားအားဖြင့် သက်ရှိများ စတင် ပေါ်ပေါက်လာသည့် အချိန်မှ လွန်ခဲ့သည့်နှစ် သန်းပေါင်း ၃၂၀ အထိဖြစ်သည်၊ ထိုခေတ်စတွင် ပင်လယ်ကင်းများ၊ ခရုကဲ့သို့သော ရေသတ္တဝါများ၊ ခေါင်းပိုင်း ရင်ပိုင်း နှင့် ဝမ်းပိုင်း အပိုင်း ၃ ပိုင်း ပါဝင်သော ထရိုင်လိုဗိုက်များသာ ကြီးစိုးခဲ့ကြသည်။ ယခုခေတ်တွင် တွေ့မြင်ကြရသော ရေကင်းခေါ် ပီလားမှာထရိုင်

ကျောက်ဖြစ်ရုပ်ကြွင်းဖြစ်ပေါ်လာပုံ

(၁) ရှေးနှစ်ပေါင်းများစွာက ရာသီဥတုပူနွေး၍ မြေပြင်အနှံ့မှုရှုံ့ညွှန်ပျောင်း များနှင့်အပင်ငယ်များထူထပ်နေသဖြင့် တွားသွားကောင်များ လွတ်လပ်စွာကျက်စားနိုင်ကြသည်။ (၂) ကမ္ဘာမြေပြင်လှုပ်ရှားပြောင်းလဲ၍ တောင်နှင့်ချိုင့်ဝှမ်းများပေါ်လာကာ ရေခန်းခြောက်စပြုသဖြင့် အစာရှားပါးလာသောကြောင့် အပင်ငယ်အချို့ကြွင်းကျန်ရာ နွံအိုင်များတလျှောက်၌သာ တွားသွားကောင်တို့ အလုအယက်ကျက်စားကြရသည်။ (၃) ဤသို့စားကျက်လုကြယင်း အချင်းချင်းခိုက်ရန်ဖြစ်ပွားကြသည်။ (၄) ထိုသို့ခိုက်ရန်ဖြစ်ပွားခြင်းကြောင့် တွားသွားကောင်အသီးသီးသေဆုံး၍ ရေသို့ကျခဲ့ရာ၊ ရေအောက်တွင်နုံးမြေများဖုံးအုပ်၍ လေသလပ်မခံရသဖြင့် ယင်းတို့၏အရိုးများမှာ ကျောက်အဖြစ်ပြောင်းလဲသွားလေသည်။ (၅) နုံးမြေဖုံးအုပ်၍ ကုန်းပြင်ဖြစ်လာသောထိုနေရာကို တဖန်မြစ်ချောင်းများဖြတ်သန်းစီးဆင်း၍ ရေအောက် မြေပြင်ကို တိုက်စားရာမှ ယခင်တွားသွားကောင်တို့၏ အရိုးများပြန်၍ ပေါ်လာတတ်သည်။ (၆) ထိုပေါ်လာသောအရိုးများကိုယူ၍ ပြတိုက်တွင်တပ်ဆင်လိုက်သောအခါ ကျွန်ုပ်တို့တွေ့မြင်ရသောကျောက်ဖြစ်ရုပ်ကြွင်းများဖြစ်လာလေသည်။



တွားသွားကောင်ခေတ်မှ ဒိုင်နိုဆောကြီးများ၏ ကျောက်ဖြစ်ရုပ်ကြွင်း
အမေရိကန် သဘာဝသမိုင်းပြတိုက်တွင် ပုံမပျက်တပ်ဆင်ပြသထားသည်ကို တွေ့မြင်ရပုံ

လိုဗိုက် အမျိုးမှ ဆင်းသက် လာခဲ့ကြဟန်တူသည်။ ဒုတိယခေတ်ကို ငါးများ ကြီးစိုးခဲ့ခြင်းကြောင့် 'ငါးခေတ်' ဟူ၍၎င်း၊ တတိယခေတ်ကို ကုန်းနေ ရေသတ္တဝါများ ကြီးစိုးခဲ့ သဖြင့် 'ကုန်းနေရေသတ္တဝါခေတ်' ဟူ၍၎င်း၊ စတုတ္ထခေတ်ကို တွားသွားကောင်များ ကြီးစိုးခဲ့သဖြင့် 'တွားသွားကောင်ခေတ်' ဟူ၍၎င်း၊ ပဥ္စမခေတ်ကို နို့တိုက်သတ္တဝါများ ကြီးစိုးခြင်းကြောင့် 'နို့တိုက်သတ္တဝါခေတ်' ဟူ၍၎င်း၊ ခေါ်ကြသည်။

အထက်တွင် ဖော်ပြထားသည့်အတိုင်း တခေတ်မှ တခေတ်သို့ပြောင်းလဲခဲ့ခြင်းမှာ ကမ္ဘာ၏ပြောင်းလဲမှုနှင့်တကွ သက်ရှိတို့၏ လိုးပန်းမှုများကြောင့် ဖြစ်လေသည်။ ရှေးခေတ်များတွင် နေထိုင်ခဲ့ကြသည့် အလွန်ကြီးမားကြသော ကုန်းနေ ရေသတ္တဝါနှင့် တွားသွားကောင် များမှာ အကြောင်းကြောင်းတို့ကြောင့် ကမ္ဘာပေါ်မှ ကွယ်ပျောက်သွားခဲ့ကြသည်။ ယခုခေတ်တွင် တူးဖော် ရရှိသော ကျောက်ဖြစ်ရုပ်ကြွင်း များအနက် အထူးဆန်းဆုံးမှာ တွားသွားကောင်ခေတ်မှ ဒိုင်နိုဆော နှင့် အစ်သိုင်အိုဆော ခေါ် တိရစ္ဆာန်ကြီးများ ဖြစ်ကြ၏။ ထိုတိရစ္ဆာန်များမှာ တခါတရံ ပေ ၁၀၀ ခန့်ပင် ရှည်သဖြင့် ကမ္ဘာပေါ်၌ ပေါ်ပေါက်ခဲ့သည့် တိရစ္ဆာန်များတွင် အကြီးမားဆုံး ဖြစ်ကြသည်။ ကမ္ဘာအရပ်ရပ်မှ တူးဖော် ရရှိသော ကျောက်ဖြစ် ရုပ်ကြွင်းများကို လေ့လာခြင်းအားဖြင့် ဗြိတိန်ကျွန်း၌ ရှေးအခါက ဆင်များ နေထိုင်ခဲ့သည်ကို၎င်း၊ ဥရောပတိုက်နှင့် အမေရိကတိုက်တို့တွင် တခါက အပူပိုင်း ဒေသ၌ ပေါက်ရောက်တတ်သည့် သစ်တောကြီးများ ပေါက်ရောက်ခဲ့သည်ကို၎င်း၊ဝင်ရိုးစွန်းဒေသများတွင် တခါက ဆင်များနေထိုင်ခဲ့၍ သစ်တောကြီးများ ပေါက်ရောက်ခဲ့သည်ကို၎င်း၊သိရှိကြရသည်။

သက်ရှိတို့သည် ရေမှ စတင်ပေါ်ပေါက် လာကြသဖြင့် ပဌမဆုံးဖြစ်သော ကျောက်ဖြစ်ရုပ်ကြွင်းများမှာ ရေထဲ၌ ဖြစ်ပေါ် ကျန်ရစ်ကြသည်။ ရေထဲ၌ဖြစ်သော ကျောက်ဖြစ်ရုပ်ကြွင်းများသည် အစပဌမ၌ ကျောက်များနှင့်အတူ ရေအောက်တွင် နစ်မြုပ်လျက် ရှိကြသော်လည်း၊ ရေအောက်ရှိ မြေပြင်များသည် တစုံတခုသော အကြောင်းကြောင့်ရေပြင်အထက်သို့ ပေါ်လာပြီးနောက် ရေ၏ တိုက်စားခြင်း ခံရသောအခါ ယင်းတို့ပါ ပေါ်လာကြ ရလေသည်။ ရှေးခေတ်က ဤနည်းဖြင့် မြေပေါ်သို့ ပေါ်ခဲ့သော ကျောက်ဖြစ်ရုပ်ကြွင်းတို့မှာ ပျက်စီးကုန်သဖြင့် ကွယ်ပျောက် ဆုံးပါးသွားသည်။ အချို့မှာလည်း ရေ၏ ဖိအား ကြောင့်ဖြစ်စေ၊ ရေတွင် ပျော်ဝင်၍ ဖြစ်စေ၊ ပျက်စီးကုန်ကြသည်။ ထိုကြောင့် ကျောက်ဖြစ်ရုပ်ကြွင်း မှတ်တမ်းများမှာ ပြည့်စုံသင့်သလောက် မပြည့်စုံချေ။ သို့သော် ခေတ်တခေတ်တွင် နေထိုင်ခဲ့သည့် သတ္တဝါများသည် ထိုခေတ်၏ ရှေးဦးပိုင်းကျသောခေတ်၌ နေထိုင်ခဲ့သည့်သတ္တဝါများမှ တဖြည်းဖြည်း ဆင့်ကဲဖြစ်လာသည့်နည်းဖြင့် ဆင်းသက်လာကြသည်ဟူ၍ ယူဆနိုင်ရန် သက်သေခံ အထောက်အထားများကိုမူကား ကျောက်ဖြစ်ရုပ်ကြွင်း များတွင် လုံလုံလောက်လောက် တွေ့ကြရလေသည်။



ငါးတကောင်၏ကျောက်ဖြစ်ရုပ်ကြွင်း ကျောက်သားတွင်ထင်နေသောကျောက်ခက်ပင် ထရိုင်လိုဗိုက်များ၏ ကျောက်ဖြစ်ရုပ်ကြွင်း

# သိပ္ပံခေတ်တွင် မရှိမဖြစ်သော ကျောက်မီးသွေး

**သိပ္ပံပညာ ထွန်းကားသော ဤခေတ်တွင် မရှိမဖြစ်သော ကျောက်မီးသွေးသည်ကား စက်မှုလုပ်ငန်းတို့တွင် အရေးပါလှ၏။ သစ်ပင် သစ်ဆွေး ဘဝမှ အဆင့်ဆင့် ပြောင်းလဲကာ ကျောက်မီးသွေး ဘဝသို့ ရောက်ရှိလာပုံကား စိတ်ဝင်စားဖွယ်ပင်။ ယင်းမှ ဓါတ်ပစ္စည်း အမျိုးမျိုးလည်း ထုတ်ယူနိုင်သဖြင့် အသွင်ဆိုးသလောက် အဖိုးတန်လှပေ၏။**

**ကျောက်မီးသွေး။** ။ကျောက်မီးသွေးကို ကမ္ဘာ့ထင်းမီးဟု ခေါ်ဆိုနိုင်သည်။ ကမ္ဘာပေါ်တွင် ထင်းမီးအဖြစ်ဖြင့် အသုံးပြုလျက် ရှိကြသော ဝတ္ထုပစ္စည်းများတွင် ကျောက်မီးသွေးသည် လူသိအများဆုံး အထင်ရှားဆုံး ဖြစ်၏။ အပူဓါတ်ကို ပေးရာ၌လည်း ကျောက်မီးသွေးသည် အင်အားကြီးမား၍ တန်ခိုးအကြီးဆုံးသော ပစ္စည်းတခုဖြစ်ပေသည်။

ရှေးပဝေဏီက လူများသည် ကျောက်မီးသွေးကို မတွေ့ကြသေး၊ ယင်း၏ အသုံးဝင်ပုံကိုလည်း မသိကြသေးချေ။ ထို့နောက် အင်္ဂလန်နှင့် စကော့တလန်ပြည်ရှိ လူအချို့သည် ကျောက်မီးသွေးဟူ၍ မသိဘဲ 'ကန့်ကျောက်' တမျိုးဟု ခေါ်ဆိုကြပြီးလျှင် ကျောက်မီးသွေးကို မြေအောက်မှ တူးဖေါ်၍ ထင်းမီးအလို့ငှာ စတင် အသုံးပြု လာကြ၏။ ထိုမှ တစတစ ယင်း၏ အသုံးဝင်ပုံများကို သိ၍လာကြပြီးလျှင် ကျောက်မီးသွေးမှာ ထင်ရှားလာခဲ့၏။ ယခုအခါ၌ အင်္ဂလန်၊ အမေရိကန်၊ ဂျာမနီ၊ ရုရှ၊ ပြင်သစ်၊ ဣတလီ၊ အိန္ဒိယ၊ဂျပန်စသော အရှေ့ဖက် အနောက်ဖက် နိုင်ငံကြီးများရှိ စက်ရုံ အလုပ်ရုံကြီး တိုင်း၌ လိုလိုပင် ကျောက်မီးသွေးကို အကြီးအကျယ် အသုံးပြု နေလေပြီ။ (သတ္တုတွင်းများနှင့် သတ္တုတွင်းလုပ်ငန်း — ရှု။)

## ကျောက်မီးသွေး ဖြစ်ပေါ်လာပုံ

ရှေးပဝေဏီက ကမ္ဘာကြီး၏ နေရာအနှံ့အပြား ရှိ ရွှံ့ညွန်ပျောင်းများနှင့် ရေတိမ်ရာ အရပ်များတွင် အလွန်မြင့်မားသော သစ်တောကြီး များ ပေါက်ရောက် ဖုံးအုပ်လျက် ရှိလေသည်။ အပင်ကြီး များ သေ၍ လဲကျလျှင် အပင်သစ်များ ထပ်ပေါက်ပြန်၏။ ဤသို့ဖြင့် ပဌမ လဲကျသွားသော အပင်တို့၏ အကြွင်း အကျန်များသည် ရေတွင် နစ်မြုပ်၍ ကာလကြာလတ်သော် သဘာဝအလျောက် ဓါတ်ပြောင်းမှုများ ဖြစ်လာသည်။ လက်ဦးတွင် ထိုအကြွင်းအကျန်များသည် ရွှံ့နှံ့ထူထပ်သော စိမ့်မြေများတွင် တွေ့ရသော သစ်ဆွေး မီးသွေးများကဲ့သို့ ဖြစ်လာကြ၏။ (သစ်ဆွေး မီးသွေး — ရှု။) ထို့နောက် အချို့ဒေသများတွင် မြေကြီးသည် အောက်သို့နစ်မြုပ်သွားပြီးသော် ရေအိုင်များ၊ တိမ်သော ပင်လယ်များ၏ အောက်ခင်းပြင်များ ဖြစ်လာသည်။ နှစ်ပရိစ္ဆေဒ အလွန်ကြာလာသောအခါ ထိုအောက်ခင်းပြင်ပေါ်၌ ရွှံ့များ၊ သဲများ အပြင် အချို့ဒေသများတွင် ခရု၊ ကမာ၊သန္တာကောင် မှစ၍ အခွံမာသော ပင်လယ်သတ္တဝါကောင်တို့၏ အခွံများ စုပေါင်းဖုံးအုပ်၍ အပေါ်ယံကျောက်ထပ်ဖြစ်လာသည်။ ထိုကျောက်ထပ်သည် ပေပေါင်း ရာထောင်မက ထူ၏။ အဆိုပါ ရွှံ့များ သဲများနှင့် ကျောက်များ၏ အလွန်လေးလံသော အလေးချိန်သည် ထိုသစ်ရွက်ဆွေး မြေပေါ်တွင် ကာလရှည်ကြာစွာဖိနှိပ်ထား



ကျောက်မီးသွေးကိုလျှပ်စစ်စက်ဖြင့် ဥမင်တွင်းတွင်တူးဖေါ်ယူစဉ်



(အတွင်းပုံ)ကျောက်မီးသွေးများကိုဆေးကြောပြီးနောက် မီးရထားတွဲများဖြင့် အရွယ်အစားခွဲခြားသောစက်ရုံသို့ ပို့ရသည်။
စက်ဆန်ကာမှအရွယ်အစားအလိုက် ကျလာသောကျောက်မီးသွေးတုံးများကို ဤသို့တွေ့နိုင်ပေသည်။

မှုကြောင့် သစ်ဆွေး မီးသွေး ဘဝမှ နောက်ဆုံးတွင် ကျောက်မီးသွေး အဖြစ်သို့ တဖြည်းဖြည်း ပြောင်းလဲသွားလေသည်။ သို့သော် ကျောက်မီးသွေးဖြစ်လာရသော လမ်းစဉ်သည် အလွန်နှေး၍ အလွန်လည်းကြာ၏။ အကောင်းဆုံး ကျောက်မီးသွေးကို ကျောက်မီးသွေးခေတ်က မြေလွှာများမှ ရရှိ၍၊ ထိုကျောက်မီးသွေးခေတ်ကို ရှေးနှစ် သန်းပေါင်း ၂၀၀ မှ ၂၈၀ လောက် ခေတ်ကဟူ၍ ဘူမိဗေဒပါရဂူများက ယူဆကြလေသည်။ (ဘူမိဗေဒ — ရှု။)

ယခင်က ကျောက်မီးသွေး အကြောင်းကို အနည်းငယ်မျှသာ သိကြသေးသဖြင့် အနည်းငယ်မျှသာ တူးဖော် သုံးစွဲခဲ့ကြသည်။ သို့သော် စက်ကရိယာများ ပေါ်ပေါက်ခေတ်စားလာသည့် ၁၈ ရာစု နှစ်မှစ၍ ကျောက်မီးသွေးများကို အကြီးအကျယ် တူးဖော် လုပ်ကိုင်ခဲ့ကြလေသည်။ ကျောက်မီးသွေးမှာ စက်မှုလုပ်ငန်း အရပ်ရပ်၏ အသက်သွေးခဲဖြစ်၍ ကျောက်မီးသွေး တူးဖော်သည့် လုပ်ငန်းမှာ ယခုအခါတွင် ကမ္ဘာ့ထိပ်တန်း လုပ်ငန်းကြီး တရပ်အဖြစ် တည်ရှိလေသည်။

တကမ္ဘာလုံးကို ခြုံ၍ကြည့်လျှင် ကျောက်မီးသွေး အမြောက်အမြား တည်ရှိသည့် ဒေသများမှာ အဓိကအားဖြင့် ဥရောပတိုက်၊ အာရှတိုက်နှင့် မြောက်အမေရိကတိုက်တို့ ဖြစ်ကြ၏။ အာဖရိကတိုက် တောင်ပိုင်း၊ နယူးဇီလန်ကျွန်းနှင့် ဩစတြေးလီးယားတိုက် များ၌လည်း ကျောက်မီးသွေးတွင်းများရှိလေသည်။

ကမ္ဘာတွင် ကျောက်မီးသွေး အကြီးအကျယ်ထွက်သည့် တိုင်းနိုင်ငံများမှာ အမေရိကန် ပြည်ထောင်စု၊ အင်္ဂလန်၊ ဂျာမနီ၊ ပြင်သစ်၊ ဗဲလဂျီယမ်နှင့် ရုရှတို့ ဖြစ်ကြသည်။ အိန္ဒိယ နိုင်ငံတွင်လည်း အထူးသဖြင့် ဗင်္ဂလား ပြည်နယ်၌ ကျောက်မီးသွေးတူးဖော်သည့် လုပ်ငန်းသည် တနေ့တခြား ကြီးကျယ်လာသည်။ ဂျပန် နိုင်ငံ၌ ကျောက်မီးသွေးတွင်းများ အနည်းအကျဉ်းသာ ရှိ၏။ တရုပ်နိုင်ငံ၌မူ ကျောက်မီးသွေး အများအစား ရှိသော်လည်း ခေတ်မီ စက်ကရိယာများ မရှိသည့်အတွက် ထွက်သင့်သလောက် မထွက်ဘဲ ရှိနေ၏။ တကမ္ဘာလုံးမှ တနှစ်လျှင် ကျောက်မီးသွေး တန်ချိန် ၁,၅၀၀,၀၀၀,၀၀၀ ခန့်ထွက်ရာ၊ အမေရိကန် ပြည်ထောင်စု တခုတည်းမှ တန်ချိန် ၃၈၀,၀၀၀,၀၀၀ ခန့်ထွက်၍ ကမ္ဘာတွင် ပဌမ စွဲ၏။ ဂရိတ်ဗြိတိန်ကျွန်းမှ တန်ချိန် ၂၂၆,၀၀၀,၀၀၀ ခန့်ထွက်၍ ဒုတိယ လိုက်ပြီးလျှင် ဂျာမနီက တန်ချိန် ၁၄၅,၀၀၀,၀၀၀ ဖြင့် တတိယလိုက်လေသည်။ တကမ္ဘာ

# ကျောက်မီးသွေး













**ကျောက်မီးသွေးဖြစ်ပေါ်လာပုံ**

(၁) ရှေးပဝေဏီအခါက ကမ္ဘာအနှံ့အပြားတွင်ရွှံ့ညွန်ပျောင်းများထူထပ်၍ သစ်တောကြီးများဖြင့်ဖုံးအုပ်နေသည်။ (၂) ကာလကြာမြင့်၍ အပင်ကြီးများသေသော် ယင်းတို့၏အကြွင်းအကျန်များသည် ရေတွင်မြုပ်၍ နောင်အခါသစ်ဆွေးမီးသွေးအဖြစ်သို့ ပြောင်းလဲသွားသည်။ ထိုအပင်ကြီးများ၏နေရာတွင် နောက်ထပ်ပေါက်ရောက်သော သစ်ပင်များဖြင့်စိုပြည်နေလေသည်။ (၃) သစ်ဆွေးမီးသွေးပြင်ပေါ်မှရွှံ့များ သဲများနှင့် ပင်လယ်သတ္တဝါများ၏ အရိုးများဖုံးအုပ်၍ အပေါ်ယံကျောက်ထပ်ဖြစ်လာသည်။ ထိုအပေါ်ယံကျောက်ထပ်၏ ဖိနှိပ်မှုကြောင့် အောက်ရှိသစ်ဆွေးမီးသွေးပြင်မှာပိုမိုသိပ်သည်းလာကာ တဖြည်းဖြည်းကျောက်မီးသွေးအဖြစ်သို့ပြောင်းလဲလာသည်။ ဤသို့အဆင့်ဆင့်ပြောင်းလဲခြင်းများ အဖန်ဖန်အလဲလဲဖြစ်ပျက်ခြင်းကြောင့် ကျောက်မီးသွေးအလွှာများဖြစ်ပေါ်လာသည်။ (၄) မြေပြင်၏ဖိအားနှင့် ဒလျင်လှုပ်ခြင်းများကြောင့် ကျောက်မီးသွေးအလွှာများမှာ မြင့်မောက်လာလျက် အချို့နေရာများတွင် အပေါ်ယံမြေလွှာနှင့်ပိုမိုနီးကပ်လာသည်။ ယင်းနေရာများကိုစက်ကရိယာများနှင့်တူးဖော်ခြင်းဖြင့်ကျောက်မီးသွေးရရှိလေသည်။

လုံးတွင် မြေအောက်၌ ကျောက်မီးသွေး တန်ချိန် ၄,၀၀၀,၀၀၀,၀၀၀ (ကုဋေ ၄ သိန်း) ခန့်ရှိမည်ဟု ခန့်မှန်းကြ၍ နောက်ထပ် အနည်းဆုံး နှစ်ပေါင်း ၂၅၀၀ အထိ သုံးစွဲရန် လုံလောက်သေးသည်ဟု ဆိုလေသည်။

ကျောက်မီးသွေး အမျိုးမျိုး ရှိရာတွင် ကာဗွန် ရာခိုင်နှုန်း ၉၃ မှ ၉၇ အထိ ပါဝင်သော ကျောက်မီးသွေးသည် အမာဆုံးဖြစ်၍ အကောင်းဆုံး ဖြစ်သည်။ အလတ်စား ကျောက်မီးသွေးတွင် ကာဗွန် ရာခိုင်နှုန်း ၉၀ နီးပါး ပါဝင်၍ အပျော့စားခေါ် အသုံးအများဆုံး ကျောက်မီးသွေးတွင် ကာဗွန် ရာခိုင် နှုန်း ၈၀ အထိ ပါဝင်သည်။ ထို့ထက် တဆင့်လျော့သော အပျော့စား ကျောက်မီးသွေးတွင် ကာဗွန် ရာခိုင်နှုန်း



**ကလေးဝကျောက်မီးသွေးတွင်း**

ကျောက်မီးသွေးနံရံတွင် အပေါက်ယပ်ထွင်း၍ ဖေါက်ခွဲမည့်ဒိုင်းနမိုက်ကို ဤသို့ထိုးသွင်းရသည်။

၆၇ မျှ ပါဝင်၍ သစ်ဆွေး မီးသွေးတွင်မူ ကာဗွန် ရာခိုင်နှုန်း ၅၀ ခန့်သာ ပါဝင်သည်။ (ကာဗွန် — ရှု။)

ကျောက်မီးသွေးကို အိမ်များတွင် ထမင်းဟင်း ချက်ပြုတ်ရန်နှင့် မီးလှုံရန်အတွက် အသုံးပြုကြ၏။ စက်ရုံ အလုပ် ရုံကြီးများတွင် သတ္တုများ ကျိုရန်နှင့် ရေနွေးငွေ့အား အင်ဂျင်စက်များကို ခုတ်မောင်းရန်အတွက် အသုံးပြုကြ၏။ မီးရထား မီးသင်္ဘောစသော ယာဉ်များတွင်လည်း ကျောက်မီးသွေး မပါလျှင်မဖြစ်ချေ။ ကျောက်မီးသွေး၏ အသုံးဝင်ပုံများ ကား များလှပေရာ၊ အမှန်စင်စစ် ကျောက်မီးသွေးသာ မရှိပါက ကမ္ဘာပေါ်ရှိ အဆောက်အအုံ၊ယာဉ်ရထားနှင့် စက်မှုလက်မှု လုပ်ငန်းအရပ်ရပ်တို့သည် ယခုလောက် တိုးတက်ရန် လမ်းမရှိချေ။ ကျောက်မီးသွေးကို 'စိန်နက်' သို့မဟုတ် 'မြေအောင်းနေရောင်' ဟူ၍လည်း ဥရောပတိုက်တွင် ခေါ်ကြ၏။ ကျောက်မီးသွေး တူးဖေါ်သည့် လုပ်ငန်းသည် စက်ကရိယာ လူသူ မြောက်မြားစွာနှင့် လုပ်ကိုင်ရသည့် လုပ်ငန်းကြီး ဖြစ်သည့်အတိုင်း ကျောက်မီးသွေး ထွက်သည့် နေရာများသည် မကြာမီပင် မြို့ကြီး ပြကြီး များ ဖြစ်လာကြလေသည်။ ကျောက်မီးသွေးကို ထင်းမီးအဖြစ်သာ အသုံးပြုကြရသည်မဟုတ်၊ ကျောက်မီးသွေးမှ မီးထွန်းဓါတ်ငွေ့၊ ကုတ်မီးသွေး၊ ကျောက်မီးသွေး ကတ္တရာ စသော ပစ္စည်းများကိုလည်း ထုတ်ယူရနိုင်သည်။ ယခုအခါ ကျောက်မီးသွေး ကို အခြေပြု၍ ဓါတ်ဆီကိုပင် ချက်လုပ် ယူနိုင်ပြီ။ ကျောက်မီးသွေးကတ္တရာမှ တဖန် ရာထောင်မကသော ဓါတ်ပစ္စည်း များ၊ ဆေး ဝင်ပစ္စည်း များကို ပြုလုပ် ထုတ် ယူနိုင် သည်။ (ကုတ် မီး သွေး၊ ကျောက် မီးသွေးကတ္တရာ — ရှု။)

မြန်မာနိုင်ငံ၌ ကျောက်မီးသွေး ထွက်သောနေရာ အများအပြား ရှိသော်လည်း ကျောက် မီး သွေး ကို အကြီး အကျယ် တူးဖေါ် လုပ် ကိုင် ခြင်း မရှိ ခဲ့ ပေ။ အဘယ်ကြောင့်ဆိုသော် ကျောက် မီး သွေး တွင်းများမှာ အသွားရ မလွယ်ကူသောနေရာ များ ၌ ရှိသောကြောင့် တကြောင်း၊ ကျောက် မီး သွေး အထွက်မှာ အလွန်နည်းသော ကြောင့် တကြောင်း၊ ရရှိ သော ကျောက်မီးသွေး အမျိုးအစားမှာ ညံ့သောကြောင့်တကြောင်း ဖြစ်သည်ဟု ဆိုသည်။ ထို့ကြောင့် မြန်မာနိုင်ငံသည် နိုင်ငံခြားမှ ကျောက်မီးသွေးများကို ယခုထက်တိုင် ဝယ်ယူတင်သွင်း၍ သုံးစွဲနေရပေသေးသည်။

မကြာသေးမီက အထက်ချင်းတွင်းခရိုင်၊ ကလေးဝမြို့မှ ၄ မိုင်ကွာတွင်ရှိသော သစ်ခြောက်အရပ်ရှိ ကျောက်မီးသွေးတွင်း၌ ကျောက်မီးသွေး အကောင်းစားတမျိုးကို တွေ့ရလေသည်။ ထိုကျောက်မီးသွေး တွေ့ရသော နေရာ

အကျယ်အဝန်းမှာ အလျား ၅ မိုင်၊ အနံ ၃၇ ပေရှိသည်။ ထိုနေရာမှ ကျောက်မီးသွေး အနည်းငယ်ကို နမူနာအဖြစ် တူးယူပြီးလျှင် ဂျာမနီနိုင်ငံ၊ အမေရိကန်ပြည်ထောင်စု တို့သို့ စမ်းသပ်စစ်ဆေးရန် ပို့ခဲ့လေသည်။ ထိုနိုင်ငံတို့မှ ကျောက်မီးသွေးအကြောင်း နားလည်သော ပညာရှင်များက ထိုကျောက်မီးသွေးမှာ အကောင်းဆုံး အမျိုးအစားထဲမှ ဖြစ်၍ မီးသင်္ဘော၊ မီးရထား၊ စက်ရုံကြီးများတွင် အသုံးပြုရန် အလွန်ကောင်းသည်ဟု ဆိုကြသည်။ အမျိုးအစားမှာ အိန္ဒိယနိုင်ငံမှရသော ကျောက်မီးသွေး အကောင်းစားမျိုးနှင့် ဆင်တူ၍ အာသံပြည်ရှိ ကျောက်မီးသွေး တွင်းများနှင့် သစ်ခြောက် ကျောက်မီးသွေးတွင်းသည် တကြောတည်း ရှိလိမ့်မည်ဟု ထင်မှတ်ကြသည်။

ယခုအထိ ထိုသစ်ခြောက်တွင်း၌ ကျောက်မီးသွေးကြော ၄၇ ကြော ရှာတွေ့ခဲ့သော်လည်း တကြောတည်း၌သာလျှင် ကျောက်မီးသွေး တူးဖော်သော လုပ်ငန်း စတင်ခဲ့ရသေးသည်။ ထိုကျောက်မီးသွေးတွင်းမှ တနေ့လျှင် ကျောက်မီးသွေး တန်ချိန် ၁၀၀ ခန့် ရနိုင်လိမ့်မည်ဟု ခန့်မှန်းချက်ရှိသည်။ ထိုမျှသော ကျောက်မီးသွေးသည် မြန်မာနိုင်ငံအတွက် သုံးလောက်ရုံသာမက နိုင်ငံခြားသို့ပင် တင်ပို့ရောင်းချရန် ပို့လျှံလိမ့်မည်ဟုဆိုသည်။ ယခုအခါ သစ်ခြောက်ကျောက်မီးသွေးတွင်းများကို ၁၉၅၂ ခုနှစ် ပြည်တော်သာ စီမံကိန်းများအရ တူးဖော်လုပ်ကိုင် နေပြီဖြစ်သည်။

**ကျောက်မီးသွေးကတ္တရာ။** ။လမ်းခင်းရာတွင် အသုံးပြုလေ့ရှိသော ကျောက်မီးသွေးကတ္တရာကို လူတိုင်းလိုပင် မြင်ဘူးကြပေမည်။ ထိုကတ္တရာကို ကျောက်မီးသွေးအပျော့မျိုးမှ မီးထွန်းဓါတ်ငွေ့နှင့် ကုတ်မီးသွေး ထုတ်လုပ်သည့် လုပ်ငန်းတွင် ဘေးထွက်ပစ္စည်း အဖြစ်ဖြင့် ရရှိ၏။ ထိုကျောက်မီးသွေး ကတ္တရာတွင် ဩဂဲနစ် ပစ္စည်း အမြောက်အမြား ပါဝင်၍ ထိုပစ္စည်းမှ ပိုးနှိမ်ဆေး၊ ဆီချွတ်ဆေး၊ ဆိုးဆေး၊ ရေမွှေး၊ ဓါတ်မြေဩဇာ စသည်ဖြင့် ပစ္စည်းအမျိုးပေါင်း များစွာကို ပြုလုပ်ယူနိုင်ပေသည်။ အမှန်မှာ ကတ္တရာမှ ပစ္စည်း ၁၂ မျိုး လောက်ကိုသာ မူရင်းအားဖြင့် ရရှိနိုင်လေသည်။ သို့ရာတွင် ဓါတုဗေဒ ပညာရှင်သည် ထိုမူရင်းပစ္စည်းများမှ ထောင်ပေါင်းများစွာသော ဒြပ်ပေါင်းအသစ်များကို ဓါတုဗေဒ နည်းအမျိုးမျိုးဖြင့် ဖော်စပ်ချက်လုပ်နိုင်ပေသည်။

ကျောက်မီးသွေးကတ္တရာတွင် ပါဝင်လျက်ရှိသော ပစ္စည်းအမျိုးမျိုးကို ထုတ်ယူရန်အတွက် ကတ္တရာ တန်ချိန် ၂၀ မျှ ဝင်နိုင်သော သံပေါင်းအိုးကြီးများတွင် ကတ္တရာကို ထည့်၍ အဆင့်ဆင့် ပေါင်းခံနည်းဖြင့် ပေါင်းခံပေးလေ့ရှိသည်။ ထိုကဲ့သို့ ပေါင်းခံလိုက်သောအခါ ဆူမှတ် အနည်းဆုံးဖြစ်သည့် ပဌမဆင့်၌ ဆီအပေါ့စားများကို ရရှိ၏။ ထိုပစ္စည်းများတွင် ဗင်ဇော၊ တော်လျူအောနှင့် ဇိုင်လောခေါ် ပစ္စည်းများ ပါဝင်သည်။ ဗင်ဇောမှ ဗင်ဇင်းအစစ်ကို ပြုလုပ်၍ ထိုပစ္စည်းမှတဖန် အန်နီလင်း နှင့်တကွ ဆိုးဆေးပေါင်း များစွာကို ပြုလုပ်ယူနိုင်လေသည်။ ဗင်ဇောမှ ဗစ်တား အယ်လမန်ဆီ (ဗါဒမ်စါးဆီ) တမျိုးကိုလည်း ပြုလုပ်နိုင်၍ ထိုဆီကို ဆပ်ပြာမွှေးများ ပြုလုပ်ရာတွင် အသုံးပြုလေ့ ရှိကြသည်။ တော်လျူအောမှ ဗင်ဇိုအစ် အက်ဆစ်ကို ပြုလုပ်နိုင်၍၊ ဗင်ဇိုအစ်အက်ဆစ်မှတဖန် အစားအစာများ တွင် မပုပ်မသိုးရအောင် ထည့်ပေးရသော ဆိုဒီယမ် ဗင်ဇိုအိတ် ခေါ် ဓါတ်ဆားတမျိုးကို ပြုလုပ်နိုင်ပေသည်။ တီအင်တီ ခေါ် အလွန်ပြင်းထန်စွာ ပေါက်ကွဲတတ်သည့်ပစ္စည်း၊ ရိုးရိုးသကြားထက် အဆပေါင်း ၃၀၀ မျှ ပို၍ချိုသော ဆက်ကရင်းသကြားနှင့် အမွှေးနံ့သာများ ပြုလုပ်ယူရသော ဗင်ဇောဒီဟိုက် တို့မှာလည်း တော်လျူအောမှ ပြုလုပ်ယူခြင်းပင် ဖြစ်၏။ ဇိုင်လောမှ အရောင်အမျိုးမျိုးရှိသော ဆိုးဆေးပေါင်း များစွာကို ပြုလုပ်ယူနိုင်သည်။ (ဆိုးဆေးများ — ရှု။) ဗင်ဇင်းနှင့် တော်လျူအင်းတို့မှ အန်တီဆက်ပတစ် (အပုပ်နိုင်ဆေး)၊ အန်တီပိုင်ရက်တစ် (အဖျားပျောက်ဆေး)၊ ဟစ်ပနော့တစ် (အိပ်ဆေး) ကို ဖော်ယူနိုင်လေသည်။

ပဌမဆင့်ထက် အပူချိန်မြင့်သော ဒုတိယဆင့်၌ ကာဗော်လစ်ဆီများကိုရ၍ ကာဗော်လစ် အက်ဆစ် (သို့မဟုတ် ဖီနော) မှ ဆိုးဆေး အမျိုးမျိုးအပြင် ပစ်ကရစ် အက်ဆစ်နှင့် ဆယ်လီဆီလစ် အက်ဆစ်များကို ပြုလုပ်ရရှိ၏။ (ကာဗော်လစ် အက်ဆစ် — ရှု။) ဆယ်လီဆီလစ် အက်ဆစ်မှ အပုပ်နိုင်ဆေးနှင့် အကိုက်အခဲ ပျောက်ဆေးများကို ဖော်ယူနိုင်ရာ အက်စပီရင် ခေါင်းကိုက်ပျောက်ဆေးမှာ အဆိုပါ ဆယ်လီဆီလစ် အက်ဆစ်မှ ဖော်ယူသည်။ ဖီနောမှ ဗနီလာခေါ် သစ်ခွ အနံ့အရသာနှင့်တူ၍ ထိုအနံ့အရသာအတွက် အစားထိုး အသုံးပြုလေ့ရှိသော ဓါတ်ပစ္စည်း တမျိုးကိုလည်း ပြုလုပ်နိုင်လေသည်။ ဓါတ်သဘော အားဖြင့် ဖီနောနှင့်တူသော ကရီဆောခေါ် ဓါတ်ပစ္စည်းများကို ဤဒုတိယ ဆင့်မှာပင် ရရှိသည်။ ထိုဓါတ်ပစ္စည်းများကို စင်ကြယ်အောင် မပြုလုပ်ဘဲ ထိုအတိုင်းပင် ရောဂါပိုးနှိမ်ဆေး အဖြစ်ဖြင့်အသုံးပြုနိုင်သည်။ လိုင်ဆော နှင့် ကရီအိုလင် တို့မှာ အဆိုပါ ကရီဆောများကို ရောင်းဝယ်ရာ၌ ခေါ်ဝေါ် အသုံးပြုသည့် ကုန်တံဆိပ်အမည်များ ဖြစ်ကြလေသည်။

တတိယဆင့်တွင် ရရှိသော ပစ္စည်းများ၌ နက်ဖသလင်း၊ ကရီအိုစုတ် များနှင့် ကွင်နိုလင် ခေါ် ပစ္စည်းများ ပါဝင်ကြ၏။ နက်ဖသလင်းမှ မဲနယ်ရောင်၊ အဝါရောင်၊ ကြက်သွေးရောင်၊ ပန်းရောင်နှင့် အစိမ်းရောင် ဆိုးဆေးများ

ကိုင်၊ ဆေးဝင် ပစ္စည်းများကိုင်၊ ပရုတ်လုံးများကိုင်၊ ပြုလုပ်ရရှိနိုင်သည်။ ကရီအိုစုတ်၌ သစ်သားများ မဆွေး မြည့်နိုင် ပိုးမစား စေနိုင်သော သတ္တိရှိသဖြင့် အိမ်တိုင်နှင့် အကာအရံများကို ဤဆီဖြင့် သုတ်လိမ်းပေးရလေသည်။ (ကရီအိုစုတ် — ရှု။) ကွင်နိုလင်သည် အပုပ်နိုင်ဆေး ဖြစ်သည့်အပြင် ယင်းမှ ဆိုးဆေးများလည်း ဖေါ်ယူနိုင်သည်။

စတုတ္ထဆင့် ပေါင်းချေးမှ အန်သရာဆင်း ဆီကိုရ၍ ထိုဆီမှ အထူးသဖြင့် ခြည်ထည်များအတွက် အရေးကြီးသော ဆိုးဆေးများကို ပြုလုပ်နိုင်ပေသည်။ အန်သရာဆင်း ဆီကို ထုတ်ယူပြီးသော ပေါင်းအိုးထဲ၌ မည်းနက်စေး ကပ်သည့် ပစ်ချကတ္တရာသာ ကျန်တော့သည်။ ပစ်ချကတ္တရာ အမာစားကို အလိုရှိလျှင် အန်သရာဆင်းကို အကုန်အစင် ထုတ်ယူရ၍ ပစ်ချကတ္တရာ အပျော့စားကို အလိုရှိသော် ပေါင်းအိုးထဲ၌ အန်သရာဆင်း အနည်းငယ် ကျန်နေအောင် ချန်ထားရ၏။ ပစ်ချကတ္တရာမှာ အမှန်စင်စစ် ကတ္တရာစေးမှ အဖိုးတန် ပစ္စည်းများ ထုတ်ယူပြီးနောက် အကြွင်းအကျန်ပင် ဖြစ်၏။ အကြွင်းအကျန် ဖြစ်သော်လည်း ဤပစ္စည်းကို စွန့်မပစ်ရသေးပေ။ ထိုကတ္တရာချေးမှ အိမ်မိုးရာတွင် အသုံးပြုသော ရေခံစက္ကူများ၊ ခြယ်ဆေးများ၊ သစ်သားမဆွေးမြည့်အောင် သုတ်လိမ်းပေးသည့် ပစ္စည်းများကို ပြုလုပ်နိုင်၏။ ကတ္တရာချေးကို လမ်းခင်းရာတွင်လည်း အသုံးချနိုင်သည်။

ဖီနော၊ ကရီဆော၊ နက်ဖသလင်းနှင့် ကျောက်မီးသွေး ကတ္တရာမှ ရရှိသော အခြားပစ္စည်းတို့မှ ယခုခေတ် ဓါတုဗေဒ ပညာရှင်တို့သည် ပလပ်စတစ် အသုံးအဆောင် အမျိုးမျိုးကို ပြုလုပ်ယူကြသည်။

**ကျောက်မဲမြို့**။ ။ပြည်ထောင်စုမြန်မာနိုင်ငံ ရှမ်းပြည်နယ် မြောက်ပိုင်း၊ သီပေါနယ်တွင် တည်ရှိသော ကျောက်မဲမြို့မှာ ရှမ်းပြည်နယ်မြို့ကြီးများအနက် အရေးပါလှသော မြို့တမြို့ဖြစ်လေသည်။ သီပေါစော်ဘွားပိုင် သီပေါနယ်တွင် ရှိ၍ ကျောက်မဲမြို့မှာ ထိုနယ်တွင် ဒုတိယအကြီးဆုံးမြို့ဖြစ်သည်။ ကျောက်မဲမြို့ဟု ခေါ်တွင်ရခြင်းမှာ မြို့နှင့်အတန်ကွာတွင် ရှမ်းဘာသာအားဖြင့် ကုန်းမဟင်လံ မြန်မာဘာသာအားဖြင့်မည်းနက်သောကျောက်ဟုခေါ်သည့်ကျောက်တောင်တန်းကြီးတခု တည်ရှိသောကြောင့်ဖြစ်သည်။

ကျောက်မဲမြို့၏ အကျယ်အဝန်းရေိယာမှာ စတုရန်း ၂ မိုင်နီးပါးရှိ၏။ လူဦးရေမှာ ၁၀,၀၀၀ ခန့်ရှိလေသည်။ စီးပွားကုန်သွယ်မှု တိုးတက်ဖွံ့ဖြိုးလျက်ရှိသည့်ပြင် လူဦးရေလည်းများပြားတိုးတက်သည်နှင့်အမျှ မြို့မှာ တဖြည်းဖြည်း တိုးချဲ့လျက်ရှိပေရာ၊ ကျောက်မဲနမ်းဆန်း လမ်းတလျှောက်တွင် လူနေအိမ်ခြေများ တိုးတက်လာသည်ကိုတွေ့ရ၏။

ကျောက်မဲမြို့၏ စည်ပင်သာယာရေးကို မြို့မိမြို့ဖများပါဝင်သည့် တောင်းကော်မီတီခေါ် မြို့အုပ်ချုပ်ရေးအဖွဲ့က စီမံခန့်ခွဲလေသည်။ ထိုအဖွဲ့၏ ဉက္ကဋ္ဌမှာ နယ်ဝန်မင်းခေါ် ကျောက်မဲမြို့ပိုင် ဖြစ်၏။ ထိုမြို့ပေါ်ရှိ ရှမ်းပြည်နယ်ဆိုင်ရာ အခြားရုံးများမှာ သီပေါနယ်ဆိုင်ရာနယ်ခြားဝန်ထောက်ရုံး၊ ကျောက်မဲနယ်ဆိုင်ရာ ခရိုင်အင်ဂျင်နီယာရုံး၊ ကျောက်မဲနယ်ဆိုင်ရာ ခရိုင်ပညာရေးမှူးရုံးတို့ဖြစ်ကြသည်။

မြို့မှာ ခေတ်မှီမြို့တမြို့ ဖြစ်သည့်အတိုင်း အထက်တန်းကျောင်း၊ ပြည်သူ့ဆေးရုံ၊ လယ်ယာစိုက်ပျိုးမှု ဉယျာဉ်တို့လည်းရှိ၏။ အမှန်အားဖြင့်ဆိုသော် ကျောက်မဲမြို့ကို ခရိုင်ဝန်ရုံးစိုက်မြို့ ပြုလုပ်ရန် လျာထားပြီးဖြစ်လေသည်။ အထွေထွေအုပ်ချုပ်မှုတွင် မူအားဖြင့် သီပေါစော်ဘွားပင် ဦးစီးလျက်ရှိ၍၊ သဿမေဓခွန်၊ ယစ်မျိုးခွန်၊ ဘိန်းခွန်၊ ဈေးခွန်စသည်တို့ကို ကောက်ခံစည်းကြပ်လျက်ရှိသည်။

ကျောက်မဲမြို့မှာ မန္တလေးလားရှိုး မီးရထားလမ်းပေါ်တွင် အရေးကြီးသော မီးရထားလမ်းမြို့ တမြို့ဖြစ်၏။ သက္ကရာဇ် ၁၂၆၀ ပြည့်နှစ်တွင် မန္တလေးမြို့မှ ကျောက်မဲမြို့သို့ မီးရထားလမ်း စတင်ဖေါက်လုပ်ရာ၊ ၁၂၆၂ ခုနှစ်တွင် ပြီးစီးသည်။ ၇၅ မိုင်ဝေးသောမိုးကုတ်မြို့နှင့်၎င်း၊ ၇၅ မိုင်မျှဝေးသော နမ်းဆန်းမြို့နှင့်၎င်း၊ ၆၃ မိုင်ဝေးသော လားရှိုးမြို့နှင့်၎င်း၊ မော်တော်ကားလမ်း အဆက်အသွယ်များရှိသည်။

အထက်ပါဆက်သွယ်မှု အနေအထားများကို ထောက်ထားခြင်းအားဖြင့် ကျောက်မဲမြို့တည်နေရာမှာ စီးပွားကုန်သွယ်မှုအတွက် အလွန်အရေးပါသော နေရာဖြစ်ကြောင်း ထင်ရှားသည်။ ပြည်ထောင်စုမြန်မာနိုင်ငံတွင် လက်ဖက်အများဆုံးထွက်သော တောင်ပိုင်နယ်မှာ ကျောက်မဲမြို့၏ ကျောထောက်နောက်ခံဒေသဖြစ်သည်။ ထိုမှတပါး မြန်မာပြည်မမှလာသော ကုန်ပစ္စည်းများကိုလည်း ကျောက်မဲမြို့မှ၊ ကျောက်မဲနယ်၊ သီပေါနယ်၊ မိုင်းလုံးနယ်များသို့ ဖြန့်ဖြူးရာ ဗဟိုဒေသလည်းဖြစ်ပေသည်။

မြို့ပတ်ဝန်းကျင်တွင်မူ စပါးစိုက်ပျိုးကြ၏။ မြို့ပေါ်တွင် ထင်ရှားသောစေတီ ၃ ဆူရှိရာ၊ မီးရထားဘူတာရုံအနီး၌ ဘိုးဘိုးအောင်ဘုရား၊ မြို့အရှေ့ဖက်၌ ထုံးဘိုတောင်ဘုရားနှင့် အနောက်ဖက်၌ တောင်ပေါ်ဘုရား ခေါ် စေတီတော်များဖြစ်ကြသည်။ စော်ဘွားကြီးစောကြာဆိုင် ကိုယ်တိုင်စိန်ဖူးတင်လှူသော ပြည်လုံးချမ်းသာစေတီလည်း အထင်အရှားရှိသေးသည်။ ထို့ပြင် တမြို့လုံးကိုးကွယ်သော ကိုးမြို့ရှင် နတ်ကွန်းကန္နားကြီးလည်း ရှိသေးသည်။

မြို့နေလူများစုမှာ ရှမ်းလူမျိုး ဗုဒ္ဓအယူဝါဒီများဖြစ်ကြသည်။ တည်နေရာနှင့် ကျောထောက်နောက်ခံ ထွက်ကုန်များကို အကြောင်းပြု၍ ကျောက်မဲမြို့မှာ တဖြည်းဖြည်းတိုးတက်ကြီးကျယ်လာမည့် မြို့ကြီးတမြို့ဖြစ်ပေသည်။

# လူမျိုးတိုင်းနှစ်သက်တပ်မက်သည့်ရတနာ

**ကျောက်မျက်များသည် လှပသောကြောင့်၎င်း၊ ရှားပါးသောကြောင့်၎င်း၊ တန်ဖိုးထား၍ နှစ်သက် တပ်မက်ကြ ပေသည်။ ထိုပစ္စည်းမျိုးကို ပိုင်ဆိုင်ရခြင်း၌ ဂုဏ်ယူတတ်ကြရာ အချို့ကျောက်မျက်များသည် ပြည်တန်သည်ဟုပင်အဖိုးဖြတ်ကြလေသည်။**

**ကျောက်မျက်။** ။ကျောက်မျက်ဆိုသည်မှာ လူတို့ ပွတ်ပြင်ပြီးနောက် အလှအပ အသုံးအဆောင် အဖြစ်ဖြင့် ဝတ်စားဆင်ယင်ကြသည့် အဖိုးတန် ကျောက်များပင် ဖြစ်လေသည်။ ကျောက်မျက်တို့သည် များသောအားဖြင့် တွင်းထွက်ကျောက်များ ဖြစ်ကြသော်လည်း ကျောက်မျက်အမျိုးတွင် ပါဝင်သော ပုလဲ၊ ပယင်းနှင့် သန္တာတို့မှာမူ တွင်းထွက်ကျောက်မျက်များ မဟုတ်ကြပေ။ ကမ္ဘာပေါ်တွင် အဖိုးတန်ကျောက်အမျိုးပေါင်း ၁၂၀ ခန့်ရှိ၍ ယင်းတို့အနက် ၂၅ မျိုးခန့်သာ အသုံးများသည်။ ကျောက်မျက်ရတနာများ စာရင်းတွင် စိန်၊ ပတ္တမြား၊ မြနှင့် နီလာ ၄ မျိုးသာလျှင် အဖိုးအတန်ဆုံး ဖြစ်ကြ၍ ကျန်ကျောက်စိမ်း၊ ပယင်း၊ မဟူရာ စသည်တို့မှာ အလတ်စား အဖိုးတန်ကျောက်မျက်များ ဖြစ်ကြလေသည်။

ကျောက်မျက်များသည် လူတို့၏ နေထိုင်စားသောက်မှုတို့အတွက် မရှိလျှင်မဖြစ်သောအရာများကား မဟုတ်ကြပေ။ သို့သော် လှပသော ပစ္စည်း၌ နှစ်သက်တပ်မက်ခြင်း၊ ရှားပါးသော ပစ္စည်းကို တန်ဖိုးထား၍ ထိုပစ္စည်းမျိုး ပိုင်ဆိုင်မှု၌ ဂုဏ်ယူတတ်ခြင်းမှာ လူတို့၏ သဘာဝ ဖြစ်သည့်အားလျော်စွာ အရောင်အသွေးအားဖြင့် ပြောင်လက်လှပခြင်း၊ တာရှည်အသုံးခံခြင်း၊ ရှားပါးခြင်း စသောဂုဏ်များနှင့် ပြည့်စုံသည့် ကျောက်မျက်များကို လူတို့သည် ဒေသမရွေး ခေတ်မရွေးဘဲ အလွန်ရှေးကျသော ကာလကပင် မြောက်မြားစွာ တန်ဖိုးထားကာ ထူးထူးခြားခြား ခုံမင်မြတ်နိုး လာခဲ့ကြပေသည်။ ကျောက်မျက်အမျိုးမျိုးရှိသည့်အနက် လူမျိုးအလိုက် အကြိုက်တမျိုးစီ ရှိကြလေသည်။ အနောက်တိုင်းသားတို့က အမာဆုံးနှင့် အတောက်ပဆုံး ဖြစ်သော စိန်ကို ကျောက်မျက်တို့၏ ဘုရင်ဟု ဆိုကြ၏။ တရုပ်လူမျိုးတို့က ကျောက်စိမ်းကို အထူးသဖြင့် နှစ်သက်ကြ၏။ မြန်မာနိုင်ငံနှင့် အိန္ဒိယနိုင်ငံတွင်မူ ရှေးမင်းများလက်ထက်မှစ၍ ပတ္တမြားကို သာလျှင် တော်ဝင်ရတနာအဖြစ်ဖြင့် အစဉ်အဆက် မှတ်ယူ၍ တန်ဖိုး အထူးထားကြလေသည်။



ကျောက်မျက်တို့ဖြင့်ပြီးသောလက်ဝတ်တန်ဆာများ

ကျောက်မျက်တို့၏ ဘုရင်ဟု ခေါ်ဆိုကြသော စိန်များကို ရှေးက ပြည့်ရှင်ဘုရင်များသာ ပိုင်စိုးသုံးစွဲနိုင်ခဲ့ကြသော်လည်း ယခုသော် လူသာမန် အများပင် ပိုင်ဆိုင်ဝတ်ဆင်လျက် ရှိကြလေပြီ။ သို့ရာတွင် တကယ်တမ်း အရည်အသွေး ကောင်းလှသော စိန်များမှာမူ တလုံးလျှင် မြန်မာငွေနှင့်ဆိုသော် တကုဋေကျော်မျှအထိ တန်ဖိုးရှိနိုင်ပေသည်။ (စိန်ရတနာ — ရှု။)

ကမ္ဘာတွင် ပဌမဦးဆုံး စိန်များကို အိန္ဒိယ နိုင်ငံမှ ရရှိသည်ဟုဆို၏။ သို့သော် ယခုအခါ စိန်ထွက် အများဆုံးဒေသကား အာဖရိကတိုက်တောင်ပိုင်း ဖြစ်သည်။ ဗရာဇီး နိုင်ငံမှလည်း တခါက စိန်အမြောက်အမြား တူးဖော် ရရှိခဲ့ဘူးသည်။

ကမ္ဘာကျော် စိန်ကြီးများအနက် ယခုအခါ အကျော်ကြားဆုံးဟု ဆိုရလောက်သော စိန်ကြီးမှာ 'ကိုဟီးနူး' ပင်ဖြစ်၍ ယင်းမှာ ၁၈၅၀ ပြည့်နှစ်တွင် အရှေ့အိန္ဒိယကုမ္ပဏီက ဝိတိုရိယ ဘုရင်မကြီးထံ ဆက်သသော စိန်ကြီး ဖြစ်လေသည်။ ၁၈ ရာစုနှစ်တွင် ရုရှနိုင်ငံ ဒုတိယ ကက်သရင်း

ဘုရင်မ လက်ဝယ်သို့ လက်ဆောင်ပဏ္ဏာအဖြစ် ရောက်ရှိလာသော စိန်ကြီးမှာ 'အောလော့' ဟူ၍ ထင်ရှား၏။ အချို့က ဤစိန်ကြီး ၂ လုံးသည် ၇၇၇ ကာရက်လေး၍ ယနေ့တိုင် အစအန ပျောက်နေသော 'ဂရိတ်မဂို' ခေါ် စိန်ကြီးမှ ခွဲစိတ်ထားသော စိန်များဖြစ်သည်ဟု ဆိုကြသည်။ 'နပိုလီယန်' ခေါ်စိန်ကြီးလည်း အဘယ်ပုံ ဖြစ်ပျက်သွားသည်ကို မသိကြရချေ။ ယနေ့အထိ တူးဖော်ရရှိသော စိန်ကြီးများအနက် အကြီးဆုံးမှာ 'ကာလီနန်' ခေါ် စိန်ပင်ဖြစ်၏။ ထိုစိန်ကြီးကို အာဖရိကတိုက်မှ ၁၉၀၅ ခုနှစ်တွင်တူးဖော်ရရှိ၍ ယင်း၏အလေးချိန်မှာ အရိုင်းအတိုင်း ကာရက်ပေါင်း ၃၀၂၄ မျှစီးလေသည်။

ဒုတိယ အမာဆုံး ကျောက်မျက်မှာ ပတ္တမြားဖြစ်၏။ ပတ္တမြားကို စိန်တို့လောက် ကြီးကြီးမားမား တွေ့ရလေ့မရှိပေ။ ထို့ကြောင့် အရွယ်ချင်း တူပါက ပတ္တမြားသည် စိန်ထက် တန်ဖိုးကြီးတတ်၏။ အရွယ်ကြီး၍ အရည်အသွေးလည်းကောင်း အနာအဆာလည်းလွတ်ကင်းသော ပတ္တမြားတလုံးသည် အဖိုးမဖြတ်နိုင်အောင် တန်ဖိုး ကြီးနိုင်ပေရာ၊ မြန်မာဘုရင်များ လက်ထက်က အလွန်ထင်ရှားခဲ့သော 'ပတ္တမြားငမောက်' မှာ ပြည်တန်သည်ဟုပင် အဆိုရှိလေသည်။ ယခုအခါ အိန္ဒိယနိုင်ငံ မဟာရာဇာ (စော်ဘွား) အချို့၌ မြို့ကြီးများလောက် အဖိုးတန်သည့် ပတ္တမြားရှိသည်ဟု သိရ၏။ ကမ္ဘာပေါ်တွင် အကြီးဆုံး ပတ္တမြားမှာ ကာရက် ၅၀ မျှလေး၍ ထိုပတ္တမြားကိုလည်း အိန္ဒိယ မဟာရာဇာ တဦးက ပိုင်ဆိုင်သည်ဟု သိရသည်။ ဆွီဒင်နိုင်ငံ တတိယ ဂပ်စတားဗပ် ဘုရင်က ရုရှနိုင်ငံ ကက်သရင်း ဘုရင်မသို့လက်ဆောင် ပေးသည်ဟု ယုံကြည်ရသည့် ပတ္တမြားသည် ခို့ဥလောက် ကြီးသည်ဟုဆို၏။ အခြား ကမ္ဘာ့ကျော်ပတ္တမြား တလုံးမှာ အင်္ဂလန်နိုင်ငံ ဆဋမ ဂျော့ဘုရင် နန်းတက်စဉ်က ဆောင်းခဲ့သည့် သရဖူတွင် တပ်ဆင်ပါရှိသော ပတ္တမြားကြီး ဖြစ်၍ ယင်းမှာ အလျား ၂ လက်မ အနံ ၁½ လက်မ ရှိလေသည်။ ကမ္ဘာပေါ်တွင် ပတ္တမြားနှင့် ကျောက်နီ တူးဖော်ရရှိသည့် အရပ်ဒေသများမှာ မြန်မာနိုင်ငံ၊ ယိုးဒယားနိုင်ငံနှင့် သီဟိုဠ်ကျွန်းတို့ ဖြစ်ကြ၍ အကောင်းဆုံး ပတ္တမြားများကိုမူ မြန်မာနိုင်ငံ မိုးကုတ်နယ်မှ ရရှိသည်။

သွေးကဲ့သို့ နီသော ပတ္တမြားနှင့် တောက်ပသော အပြာရောင်ရှိသည့် နီလာမှာ ကျောက်တမျိုး တစားတည်း ဖြစ်ကြောင်း သိရလျှင် ကျွန်ုပ်တို့ အံ့သြကြပေမည်။ သို့သော် နီလာနှင့် ပတ္တမြား ၂ မျိုးလုံးမှာ အလျူမီနီယမ် ပါရှိသော ကုရုန္ဒံခေါ် ကျောက်မျက် အမာမျိုး တမျိုးတည်းပင်ဖြစ်၍ ခြားနားချက်မှာ အရောင်သာ ဖြစ်လေသည်။ ကုရုန္ဒံတွင် အဖြူရောင်ရှိလျှင် 'နီလာဖြူ' ဟူ၍၎င်း၊ အဝါရောင်ရှိလျှင် 'နီလာဝါ' ဟူ၍၎င်း၊ အစိမ်းရောင်ရှိလျှင် 'နီလာစိမ်း' ဟူ၍၎င်း၊ ခရမ်းရောင်ရှိလျှင် 'နီလာခရမ်း' ဟူ၍၎င်း၊ ပြာစိမ်းစိမ်း အရောင်ရှိလျှင် 'နီလာငှက်ခါး' ဟူ၍၎င်း အသီးသီး ခေါ်ကြ၏။ တခါတရံ နီလာဖြူကို မိုက်ကရိုစကုပ် မှန်ဘီလူး အဖြစ်ဖြင့်လည်း အသုံးပြုကြသည်။

နီလာကို ပတ္တမြား ထွက်ရာဖြစ်သော မြန်မာနိုင်ငံ၊ ယိုးဒယားနိုင်ငံနှင့် သီဟိုဠ်ကျွန်းအပြင် မက်ဒါဂက်စကားကျွန်း၊ ဩစတြေးလီးယားတိုက်၊ အမေရိကန် ပြည်ထောင်စုနှင့် ကသ္မီရ ပြည်နယ်များတွင် တူးဖော် ရရှိသော်လည်း အကောင်းဆုံး အမျိုးအစားကိုမူ ယိုးဒယားနိုင်ငံနှင့် သီဟိုဠ်ကျွန်းတို့မှ ရရှိသည်ဟုဆိုသည်။

ယခုအခါ ကျောက်နီနှင့် နီလာများကို ဓါတုဗေဒ နည်းဖြင့်လည်း ချက်ယူ ရောင်းချ နေပြီဖြစ်၍ အလွန်ပေါများစွာ တွေ့နိုင်ပေသည်။ အချို့ ချက်ကျောက်များမှာ တွင်းထွက်ကျောက်နှင့် မခြားအောင် အရည်အသွေး ကောင်းလှသဖြင့် ကျောက်အကြောင်း ကျွမ်းကျင်နားလည် သူများသာ အစစ်နှင့် အတုကို ခွဲခြားနိုင်ပေသည်။ ချက်ကျောက်များကို အများအားဖြင့် နာရီနှင့် သိပ္ပံဖက်ဆိုင်ရာ ကရိယာများတွင် အမြောက်အမြား အသုံးပြုကြ၍ နှစ်စဉ်နှစ်တိုင်း ကျောက်နီ ကာရက်ပေါင်း ၂၀,၀၀၀,၀၀၀ မျှနှင့် နီလာ ကာရက်ပေါင်း ၁၂,၀၀၀,၀၀၀ ကျော်မျှကို ချက်ယူကြလေသည်။



ကျောက်မျက်စာရင်းအဝင်အပါပုလဲရတနာများ

ကျောက်မျက်များသည် လုပ အဖိုးတန် သည်ဟု ဆိုရသော်လည်း သဘာဝတွင် တွေ့ရသော ကျောက်ရိုင်းတုံး

မှာ မည်သို့မျှ တောက်ပြောင် လှပခြင်း မရှိပေ။ ကျောက်ရိုင်းများကို ကျောက်မျိုးနှင့် အရည်အသွေးကို လိုက်၍ သင့်လျော်သော ပုံစံနှင့် အကွက်များ ဖေါ်ပေးမှ အစွမ်းကုန် တောက်ပြောင်လှပလာသည်။ ကျောက်သွေး သမားကောင်း တယောက်သည် ကျောက်သွေးအတတ်တွင် သာကျွမ်းကျင် ရသည်မဟုတ်၊ ကျောက်အကြောင်းကို လည်းနားလည်ရပေသည်။ သို့မှသာ ကျောက်ကို အရည်ရှိသလောက် အရောင်အသွေးထွက်၍ တန်ဖိုးအမြင့်ဆုံး ဖြစ်လာအောင်ပြုပြင် ပေးနိုင်ပေသည်။ ကျောက်သွေးအတတ်ကား အလွန် ရှေးကျသော အတတ်ဖြစ်၍ ထိုအတတ်ကို ရှေး ဆူမာလူမျိုးတို့သည် ဘီစီ ၃၀၀၀ ကျော်လောက်မှစ၍ အသုံးချခဲ့သည်ဟု ဆိုလေသည်။



ကျောက်မျက်ရတနာများအားအဆင်တန်ဆာအမျိုးမျိုးပြုလုပ်ယူကြ၏။

မြတွင် ကြည်လင်စိမ်းမြသော အရောင်ရှိသဖြင့် လူကြိုက်များလေသည်။ အသွေးအရောင်ကောင်း၍ အနာအဆာလွတ်လျှင် မြသည် စိန်လောက်ပင်တန်ဖိုးရှိနိုင်၏။ သို့သော်မာကျောမှုတွင် စိန်နှင့် နီလာ ဥဿဖယားတို့ကို မမှီသဖြင့် ယင်းတို့လောက် အသုံးမဝင်လှပေ။ မြအကောင်းဆုံးအစားကို တောင်အမေရိကတိုက် ကိုလုံဗီးယား နိုင်ငံမှ ရရှိလေသည်။

ပုလဲနှင့် သန္တာမှာ ရေမှရသော ကျောက်မျက်များ ဖြစ်ကြသည်။ ပုလဲကို အများအားဖြင့် ကမာ သို့မဟုတ် မုတ်ကောင်၏ ကိုယ်တွင်းမှ ရ၍ သန္တာကို သန္တာကောင်များရှိသော သန္တာကျောက်တန်းများမှရလေသည်။ (ကမာ — ရှု။) ပယင်းကိုမူ ရေအောက်တွင် နစ်မြုပ်နေတတ်သော ရှေးဟောင်းသစ်ပင် အချို့၏ သစ်စေး အကြွင်းအကျန်များမှ ရရှိ၏။ ပုလဲ၏ တန်ဖိုးမှာ အရွယ် အရောင်အဆင်းနှင့် အချိုးပြေပြစ်မှုတို့ အပေါ်တွင် တည်ရာ တခါက ပါးရှားဘုရင်သည် ပုလဲတလုံးကို ပေါင် ၁၇၀,၀၀၀ အထိ တန်ဖိုးပေး၍ ဝယ်ဘူးသည်ဟု သိရလေသည်။ အကောင်းဆုံးပုလဲမျိုးကို ရနိုင်သည့် ဒေသ များမှာ ပါးရှင်းပင်လယ်ကွေ့နှင့် ပစိဖိတ်သမုဒ္ဒရာ တောင်ပိုင်းရှိ ကျွန်းများဖြစ်ကြသည်။

လူတို့သည် ရှေးပဝေဏီကပင် ကျောက်မျက်များ၌ ထူးခြားသော တန်ခိုးများ ရှိသည်ဟု အယူရှိခဲ့ကြသည်။ ဥဒါဟရုဏ် မြသည် ရောဂါဘယများကို ကုစားကာကွယ် နိုင်သည် ဟူ၍၎င်း၊ ခရမ်းကျောက် (စလင်းစွဲ) သည်အရက်မူး ပြေစေနိုင်သည်ဟူ၍ ၎င်း၊ စိန်သည် အရှူးရောဂါကို ကာကွယ်ပေးနိုင်၍ မင်္ဂလာသတို့သားနှင့် သတို့သမီးကို ပျော်ရွှင် ချမ်း မြေ့ လာဘ်လာဘ ပြည့်ဝစေနိုင်သည် ဟူ၍၎င်း၊ ပတ္တမြားသည် ဘေးရောဂါ အမျိုးမျိုးကို ကာကွယ်နိုင်သည် ဟူ၍၎င်း အမျိုးမျိုး ယုံကြည်ကြ၏။ ပုလဲ၊ သန္တာ၊ နီလာ၊ စိန်၊ ကြောင်၊ မြ၊ ဥဿဖယား၊ ပတ္တမြား၊ ဂေါ်မိတ် ဟူသော ရတနာကိုးပါး စီချယ်သော နဝရတ် လက်စွပ်ကိုလည်း ကျက်သရေမင်္ဂလာနှင့် ပြည့်စုံသည်ဟု ယုံကြည်ကာ ဝတ်ဆင်ကြသည်။ နဝရတ်လက်စွပ်ကို ဝတ်ဆင်သည့် အကျိုးကျေးဇူးများကား အောက်ပါလင်္ကာအတိုင်းဖြစ်သည်။

'ပတ္တမြားဘုန်းတောက်၊ မြကျောက်ချေမ်း၊ စိန်စွမ်းဂုဏ်ရောင်၊ ကြောင်ကားသိဒ္ဓိ၊ မဏိနီလာ၊ မေတ္တာကဲချုပ်၊ ဂေါ်မုတ်ခွန်အား၊ ဥဿဖယားကျန်းမာ၊ သန္တာကြီးကဲ၊ ပုလဲကျက်သရေ၊ ကိုးဂုဏ်ဝေသည်၊ ၊ကိုးထွေနဝရတ်စွမ်းရည်တည်း။'

ယခုခေတ်မှာပင် နေ့နံသင့်သော ကျောက်မျက်များကို ဆောင်ထားလျှင် လာဘ်ကောင်းနိုင်သည်ဟု အချို့က စွဲမြဲယုံကြည်ဆဲဖြစ်သည်။

**ကျောက်သလင်း။** ။ကျောက်သလင်းသည် အတွေ့ရများသော တွင်းထွက်ပစ္စည်းတမျိုးဖြစ်သည်။ မှန်ကွဲမှန်စ

များနှင့် တူသောကြောင့် အလွယ်တကူပင် မှတ်မိနိုင်သည်။ သံကျောက်များ တွင်လည်း သလင်းပွင့်များ အနေနှင့် တွေ့ရတတ်၏။ ကျောက်သလင်းသည် ကမ္ဘာ့မြေလွှာတွင် အများအပြား တွေ့ရသော အောက်ဆီဂျင် ဒြပ်စင် နှင့် ဆီလီကွန်ဒြပ်စင်တို့ ပေါင်းစပ်ဖွဲ့စည်းထားသော ပစ္စည်းဖြစ်သောကြောင့် ဓါတုဗေဒအလိုအားဖြင့် ဆီလီကွန်ဒိုင်အောက်ဆိုက်ဟုခေါ်သည်။ သဲများသည် များသောအားဖြင့် ကျောက်သလင်းများမှ ရေစား၍သော်၎င်း၊ ပဲ့ထွက်၍သော်၎င်း ဖြစ်ပေါ်လာ၏။ (ဆီလီကွန်၊ သဲ — ရှု။)

ကျောက်သလင်းသည် မှန်ကို ခြစ်နိုင်လောက်အောင် မာ၏။ သို့သော် နီလာနှင့်စိန်တို့လောက်ကား မမာချေ။ ကျောက်သလင်းသည် မီးခတ်ကျောက်၊ နဂါးသွဲ့ကျောက်၊ မဟူရာကျောက် စသောကျောက်များတွင် အလွန်သေးသော ခရစ္စတယ်ကလေးများအဖြစ်ဖြင့် ပါဝင်သည်။ (ခရစ္စတယ် — ရှု။) ကျောက်သလင်းသည် အလွန်အသုံးဝင်၏။ ကျောက်သလင်းမှဖြစ်သော သဲနှင့်သဲကျောက်များကို ကော်ပတ်စက္ကူ၊ အရောင်တင်အမှုန့်၊ အပူခံပစ္စည်း၊ ဓါးသွေးကျောက်စသည်တို့ ပြုလုပ်အသုံးပြုကြသည်။ ဝင်ရိုးဗယ်ရင် သေးသေးလိုအပ်သည့် ကရိယာများ အတွက်လည်း အသုံးပြုကြသည်။ မှန်နှင့်မခြားအောင်ကြည်လင်၍ အလင်းပေါက်သည့် သဘာဝကျောက်သလင်းကို ကျောက်မျက်ရတနာအဖြစ်ဖြင့် ဝတ်ဆင်ကြ၍ ရေဒီယို၊ တယ်လီဗစ်ရှင်းနှင့် ရေဒါများတွင် လှိုင်းညှိကရိယာအဖြစ်ဖြင့် အသုံးပြုကြသည်။ အရည်ကျိုပြီးသား ကျောက်သလင်းသည် အပူအအေးကြောင့် ကားထွက်ခြင်း ကျုံ့ဝင်ခြင်း မရှိသလောက်ဖြစ်၏။ သို့ဖြစ်ရကား အပူအအေးကြောင့် အရွယ်မပြောင်းနိုင်သောမှန်များ၊ မှန်ဘီလူးများပြုလုပ်ရာ၌ များစွာအသုံးဝင်သည်။ အပူဒဏ်ကို အလွန်ခံနိုင်သောကြောင့် ရုပ်ရှင်ပြစက် မှန်ဘီလူးများ ပြုလုပ်ရာ၌လည်း အသုံးပြုကြ၏။ (မှန်ဘီလူး — ရှု။)




ကျောက်သလင်းတုံးများကိုအကြမ်းအတိုင်းဤသို့မြင်ရ၏။

ကျောက်သလင်းသည် ရေတွင်ဖြစ်စေ၊ အက်ဆစ်တွင်ဖြစ်စေ ပျော်ဝင်ခြင်းမရှိသောကြောင့် ဓါတ်ခွဲခန်းသုံး ဖန်ကျူများပြုလုပ်ရာ၌လည်း အသုံးပြုကြသည်။

မြန်မာနိုင်ငံတွင် ကျောက်သလင်းကို စေတီတော်စိန်ဖူးများ ပြုလုပ်ရာ၌လည်း အသုံးပြုရာ ဗိုလ်တထောင် ကျိုက်ဒေးအပ် စေတီတော်၌ စိန်ဖူးကို မိုးကုတ်မြို့မှ ရရှိသော ကျောက်သလင်းဖြင့် ပြုလုပ်သည်ဟု သိရသည်။ ထိုစိန်ဖူးကြီးသည် အချိန် ၂ ပိသာ၊ လုံးပတ် ၁၅ လက်မ၊ အချင်း ၅ လက်မ၊ အမြင့် ၁၈ လက်မရှိသည်။ သီဟိုဠ်ကျွန်းရှိ မဟာစေတီတော်မှစိန်ဖူးကိုလည်း မိုးကုတ်ထွက်ကျောက်သလင်းဖြင့်ပြုလုပ်၍လှူဒါန်းထားလေသည်။

ကျောက်သလင်းကိုဂေါ်တံဟုလည်းခေါ်သည်။ ကျောက်သလင်းတွင် အမျိုးပေါင်းများစွာရှိသည်။ အချို့မှာ ၆ ထောင့်ပုံသဏ္ဌာန် ခရစ္စတယ်ကလေးများဖြစ်၍ အချို့က အတုံးလိုက်ရှိတတ်သည်။

ခရမ်းကျောက်သည် အရောင်ရှိသော ကျောက်သလင်းများတွင် အလွန်ထင်ရှား၏။ အခြားအမျိုးများမှာ ထပ်တရာတု၊ စလင်းနီနှင့် စလင်းညို စသည်တို့ဖြစ်သည်။

ကျောက်သလင်းကို မြန်မာနိုင်ငံ၌ မြစ်ကြီးနားခရိုင်၊ ကာမိုင်းမြို့မြောက်ဖက် မိုင် ၂၀ ခန့်တွင် အခြားကျောက်များ နှင့်ရော၍ တွေ့ရသည်။ ဂေါ်မိတ်နှင့်ဂေါ်မုတ်သည် ကျောက်သလင်းနှင့်ရော၍ တွေ့ရတတ်သော ကျောက်မျိုးများဖြစ်သည်။ ဂေါ်မုတ်သည်ဂေါ်မိတ်အနီမျိုးဖြစ်လေသည်။

**ကျိုက်။** ။ယင်းမှာ မွန်စကား 'ကျာ်' ဖြစ်၍ ဘုရား သို့မဟုတ် နတ် ဟု အဓိပ္ပါယ်ရသည်။ မွန်လူမျိုးတို့သည် မိမိတို့ ကိုးကွယ်ရာ၊ အထွတ်အမြတ်ထားရာကို 'ကျာ်' ဟု ရှေးကထည့်၍သုံးကြသည်။ ကျာ်ကို မြန်မာတို့က ကျက်၊ ကျတ်၊ ကျိုက်၊ ကျောက် ဟု အသံပြောင်း၍ သုံးစွဲသည်။ အသရေစောင့်နတ်ကို ကျက်သရေဟူ၍ ကျက် အသံထွက်ဖြင့်၎င်း၊ 'ကျတ်ခေါက်၊ ကျတ်ပွန်၊ ကျတ်သလွန်၊ မွန်တို့ခေါ်ဝေါဟာ၊' 'သံလျင်မြို့မြတ်၊ တောင်မတ်မတ်၊ ကျတ်ခေါက်ဘုရားရှင်၊' 'သီဒါရစ်ပတ်၊ ပင်လယ်ထွတ်၊ ကျတ်ခမီရှင်ပင်၊' ဟူ၍ ကဝိလက္ခဏာသတ်ပုံတွင် စပ်ထုံးပြမှာကဲ့သို့ ကျတ်ခေါက်၊ ကျတ်ပွန်၊ ကျတ်သလွန်၊ ကျတ်ခမီစေတီတော်များတွင်

ကျုတ် အသံထွက် ဖြင့် ၎င်း၊ ကျိုက် ထီးရိုး၊ ကျိုက္ကဆန်၊ ကျိုက္ကလို၊ ကျိုက်သံလန် စသောစေတီများတွင် ကျိုက် အသံထွက်ဖြင့်၎င်း၊ တခါတရံ ကျောက်ဝိုင်းဘုရားမှာကဲ့သို့ ကျောက်အသံထွက်ဖြင့်၎င်း၊ ပြောဆိုနေကြသည်။ မြန်မာ နိုင်ငံအောက်ပိုင်းတွင် ကျိုက်လတ်၊ ကျိုက်ပိ၊ ကျိုက်ထော်၊ ကျိုက်ထို၊ ကျိုက်မရော စသည်ဖြင့် ကျိုက် ပါသော မြို့ရွာ အမည် အများအပြားရှိလေသည်။

**ကျိုက္ခမီခရိုင်**။ ။ကျိုက္ခမီ ခရိုင်သည် မြန်မာနိုင်ငံ အောက်ပိုင်း တနင်္သာရီတိုင်းတွင် ပါဝင်သော ခရိုင်ဖြစ်၍ စတုရန်းမိုင် ၇၀၆၂ ခန့်ကျယ်ဝန်းလေသည်။ မြောက်ဖက်၌ သထုံခရိုင်၊ အရှေ့ဖက်၌ ဒေါနတောင်တန်းနှင့် ယိုးဒယား နိုင်ငံ၊ တောင်ဖက်၌ ဒေါနတောင်၏ တောင်စွယ်ဖြစ်သော မလွဲတောင်နှင့် ထားဝယ်ခရိုင်၊ အနောက်ဖက်၌ မုတ္တမ ကွေ့တို့က ဝိုင်းရံလျက်ရှိသည်။

ကျိုက္ခမီခရိုင်သည် အပူပိုင်း ဒေသအတွင်း ကျရောက်၍ ပူပြင်းသော်လည်း ပင်လယ်ကမ်းခြေ ဖြစ်ခြင်း၊ တောင် ထူထပ်ခြင်း၊ သံလွင်မြစ်၊ ဂျိုင်းမြစ်၊ အတ္တရံမြစ်၊ သောင် ရင်းမြစ်ဝများနှင့် နီးကပ်ခြင်းတို့ကြောင့် ရာသီဥတု မျှတ၍ မြေဩဇာ ကောင်းမွန်သည်။ နှစ်စဉ် ပျမ်းမျှ မိုးရေချိန် လက်မ ၁၅၀ ရှိ၍ ပျမ်းမျှအပူချိန် ဒီဂရီ ၈၀ ရှိသည်။ ခရိုင် အတွင်းတွင် ရေပူစမ်းများရှိသည်။

မြေနိမ့်မြစ်ဝှမ်းများတွင် လယ်ယာစိုက်ပျိုးလုပ်ကိုင်မှုဖြစ် ထွန်း၍ ကုန်းမြင့်တောင်တန်းများတွင် အဖိုးတန်သစ်များ ပေါက်ရောက်သည်။ ခရိုင်၏ အဓိကလုပ်ငန်းမှာ စပါးစိုက် ပျိုးခြင်းဖြစ်၍ ကျွန်းသစ်လုပ်ငန်းလည်း အထူးတွင်ကျယ် သည်။ ဆန်စပါးအပြင် ကြံပင်၊ ဝါဂွမ်း၊ ဟင်းသီးဟင်းရွက်၊ ကွမ်းသီး၊ ဓနိနှင့် သစ်သီးဝလံများကိုလည်း စိုက်ပျိုးသည်။

ခရိုင်အတွင်းရှိ မြစ်များမှာ သံလွင်မြစ်၊ ဂျိုင်းမြစ်၊ အတ္တရံ မြစ်နှင့် သောင်ရင်းမြစ်များ ဖြစ်ကြ၏။ သံလွင်မြစ်သည် တိဗက်ပြည်၌ မြစ်ဖျားခံ၍ ရှမ်းကုန်းပြင်မြင့်ကိုဖြတ်ကာ မော်လမြိုင်မြောက်ဖက်မှ စီးဆင်းလာပြီးလျှင် အရှေ့ဖက်မှ စီးဆင်းလာသော ဂျိုင်းမြစ်၊ အတ္တရံမြစ် တို့နှင့်ပေါင်းကာ မုတ္တမကွေ့ထဲသို့ စီးဝင်သည်။ သံလွင်မြစ်ကြီးမှာ ကျဉ်း မြောင်းသည့်အပြင် ကျောက်ဆောင် ထူထပ်သောကြောင့် ပင်လယ်ဝမှ ၂၈ မိုင်ခန့်အကွာရှိ မော်လမြိုင်မြို့ အထိသာ သင်္ဘောကြီးများ ဆန်တက်သွားလာနိုင်၍ ၇၄ မိုင်ကွာ သံလွင်နှင့်သထုံခရိုင်နယ်စပ်အထိသင်္ဘောငယ်များသွားလာ နိုင်၏။ ကျန်အပိုင်းမှာ သစ်မျှောရန်သာအသုံးဝင်သည်။

လှိုင်းပွဲမြစ်နှင့် ဟောင်သရော မြစ်တို့မှာ ဂျိုင်းရွာတွင် ပေါင်းဆုံလျက် ဂျိုင်းမြစ်ဟူသော အမည်ဖြင့် အနောက် တည့်တည့်သို့ စီးဆင်းပြီးလျှင် မုတ္တမကွေ့ထဲသို့ စီးဝင်၏။ အတ္တရံမြစ်သည် ခရိုင်တောင်ဖက်စွန်း၌ မြစ်ဖျားခံ၍ မော်လမြိုင်မြို့ အနီးတွင် သံလွင်မြစ်ထဲသို့ စီးဝင်သည်။ သောင်ရင်းမြစ်သည် ဒေါနတောင်တွင် မြစ်ဖျားခံခဲ့၍ သံလွင်မြစ်ထဲသို့စီးဝင်သည်။

ခရိုင်အတွင်းရှိ တောင်တန်းများမှာ အရှေ့ဖက် နယ်နိမိတ်ဖြစ်သော ဒေါနတောင်တန်း၊ အနောက်ဖက် ပင်လယ်ကမ်းရိုးတန်း တလျှောက်ရှိ တောင်ညိုတောင်တန်း နှင့် သံလွင်မြစ်တဖက်ကမ်းရှိ မုတ္တမတောင်တန်းတို့ဖြစ်၏။ ဒေါနတောင်တန်းသည် ပေပေါင်း ၅၅၀၀ အထိမြင့်၍ ထို တောင်တန်းတွင် ယိုးဒယားနိုင်ငံဖက်သို့ ဖြတ်သန်းသွား လာနိုင်သော တောင်ကြားလမ်းများရှိသည်။

ခရိုင်အတွင်း လမ်းပန်းဆက်သွယ်ရေးမှာ ကောင်းမွန် သည်ဟု ဆိုရပေမည်။ ဘီလူးကျွန်း အကာအကွယ်ရှိသော မော်လမြိုင်မြို့ ဆိပ်ကမ်းသို့ ပင်လယ်ကူးသင်္ဘောကြီးများ ဝင်ရောက်ဆိုက်ကပ်နိုင်သည်။ မုတ္တမကွေ့အတွင်း မီးသင်္ဘော အသွားအလာ များစွာပွင့်လင်း၍ သံလွင်မြစ် ကြောင်း ၌ ၇၄ မိုင်၊ အတ္တရံမြစ်ကြောင်း၌ ၇၃ မိုင်နှင့် ဂျိုင်း မြစ်ကြောင်း၌ ၄၂ မိုင်အထိ သင်္ဘောငယ်များ သွားလာ နိုင်၏။ ကုန်းလမ်းဖက်တွင်ကား ပဲခူး မုတ္တမကွေ့ ကိုဝိုက်၍ ဖေါက်လုပ်ထားသော မီးရထားလမ်းသည် မော်လမြိုင်မြို့ တဖက်ကမ်း မုတ္တမမြို့သို့ ရောက်၏။ မော်လမြိုင်မှ ရေးမြို့ သွား မီးရထားလမ်းမှာလည်း မိုင် ၉၀ မျှ ရှည်လျား၏။ ထိုမှတပါး ခရိုင်အတွင်းရှိမော်တော်ကားလမ်းများမှာလည်း အသင့်အတင့် ကောင်းမွန်လေသည်။

ကျိုက္ခမီခရိုင်ရှိ မြို့များမှာ မော်လမြိုင်၊ ကျိုက်မရော၊ ချောင်းဆုံ၊ ကျိုက္ခမီ၊ ကော့ကရိတ်၊ မုဒုံ၊ ယေး၊ ကြာအင်း မြို့များဖြစ်၍ မော်လမြိုင်မြို့မှာ တနင်္သာရီ တိုင်းမင်းကြီး နှင့် ကျိုက္ခမီခရိုင်ဝန်တို့ ရုံးစိုက်ရာမြို့ဖြစ်သည်။ (၁၉၅၄ ခုနှစ်တွင် ကော့ကရိတ်နှင့် ကြာအင်းမြို့နယ်များကို ကရင် ပြည်နယ်တွင်းသို့သွတ်သွင်းလိုက်သည်။)

ခရိုင်အတွင်း၌ ၁၉၄၁ ခု သန်ကောင်စာရင်းအရ လူဦး ရေ ၅၉၃,၄၉၀ ယောက်ရှိ၍ လူမျိုးများမှာ မွန်၊ မြန်မာ၊ ကရင်နှင့် နိုင်ငံခြားသားများ ဖြစ်ကြသည်။ ကျေးရွာများ တွင် မြန်မာစာပေအပြင် မွန်အမျိုးသားများသော ကျေး ရွာများ၌ မွန်စာပေနှင့် ကရင်အမျိုးသားများသော ကျေး ရွာများ၌ ကရင်စာပေကို သင်ကြားကြသည်။ လူဦးရေ အားလုံး၏ ၆၃ ရာခိုင်နှုန်းမှာ လယ်ယာစိုက်ပျိုးသူများ ဖြစ်ကြသည်။ ကျွန်းသစ်များစွာထွက်၍ ရှေးအခါက မော်လမြိုင်မြို့တွင် သင်္ဘောများ တည်ဆောက်ခဲ့သည်။ ထွက်ကုန်များမှာ ဆန်စပါး၊ ကျွန်းသစ်၊ ကော်ဖတ် စသည်တို့ ဖြစ်၍ ထိုပစ္စည်းများကို နိုင်ငံခြား တိုင်းပြည်များသို့ သင်္ဘောကြီးများဖြင့်တင်ပို့ရောင်းချကြသည်။

## ကျိုက္ခမီဘုရား



ရေလယ်ကျောက်ဆောင်ပေါ် ကျိုက္ခမီဘုရားကိန်းဝပ်တော်မူရာ အုတ်တိုက်ကျောင်းပြာသာဒ်

**ကျိုက္ခမီဘုရား။** ။ကျိုက္ခမီဘုရားမှာ မြန်မာနိုင်ငံတွင် တန်ခိုးကြီး ရုပ်ပွားတော် တဆူဖြစ်သည်။ တနင်္သာရီတိုင်း ကျိုက္ခမီမြို့၏ အနောက်ဖက် ပင်လယ်ကမ်းခြေမှ တဖါလုံခန့် ဝေးကွာသော ကျွန်းပေါ်တွင် ကိန်းဝပ်တော်မူသည်။

ရုပ်ပွားတော်မှာ မြတ်စွာဘုရားသခင် ထက်ဝယ်ဖွဲ့ခွေ နေတော်မူသည့် ပုံဖြစ်သည်။ ဥဏှိုက်တော် ၂ တောင်ခန့်ရှိ၍ နဂါးမင်းက ပါးပျဉ်းဖြင့် အုပ်မိုးပူဇော်နေဟန် ထုလုပ်ထားသည်။ ရုပ်ပွားတော် စံပယ်တော်မူရာ ကျောက်ဆောင်တွင် ပစ္စယံသဖွယ် အဆင့် ၂ ဆင့်ရှိသည်။ အပေါ်ဆင့်တွင် အရံရုပ်ပွားတော် ၈ ဆူရှိ၍ အောက်အဆင့်တွင် အရံရုပ်ပွားတော် ၁၂ ဆူရှိသည်။

ကျိုက္ခမီဘုရားမှာ သီဟိုဠ်ကျွန်းမှ ဒေဝါနံပိယတိဿ မင်းကြီးက အဓိဋ္ဌာန်ဖြင့် မျှောလိုက်သော ရုပ်ပွားတော် ၄ ဆူအနက် ရုပ်ပွားတော်တဆူ ဖြစ်သည်ဟု သမိုင်းအဆိုရှိသည်။ ဒေဝါနံပိယတိဿ မင်းကြီးသည် မြတ်စွာဘုရားအား မဖူးမြင်လိုက်ရသော ရှင်လူအများတို့ ကြည်ညိုအားထား ကုသိုလ်ပွားစေခြင်းငှာ သိကြားမင်း ဖန်ဆင်းပေးသော ရုပ်ပွားတော် ၄ ဆူကို ပင်လယ်ရေပြင်၌ မျှောတော်မူလေသည်။ ထို ၄ ဆူအနက် ကျောက်လှည်းဘီးခံသော ရုပ်ပွားတော်သည် ကျိုက်ထိုမြို့သို့ရောက်ရှိ၍ ကျိုက်ပေါလော ဘွဲ့အမည်ဖြင့် ထင်ရှားရှိသည်။ ကျွန်းတုံးခံသော ရုပ်ပွားတော်မှာ ရခိုင်ပြည်သို့ ဆိုက်ရောက်သည်ဟုဆို၏။ ပုသိမ်မြို့သို့ ဆိုက်ရောက်သည်ဟုလည်းအဆိုရှိသည်။ သက်န်းတုံးခံသော ရုပ်ပွားတော် ၂ ဆူအနက် တဆူမှာ ထားဝယ်မြို့သို့ရင်း၊ ကျန်တဆူမှာ တံဇောင်းပီမြို့ (ယခုကျိုက္ခမီမြို့) သို့ရင်း အသီးအသီး ဆိုက်ရောက်တော်မူလာလေသည်။ ထားဝယ်မြို့သို့ ရောက်ရှိလာသော ရုပ်ပွားတော်ကို လူအများက ပင့်ဆောင်ကိုးကွယ်ထားရာ ရှင်မုဋ္ဌီး အမည်ဖြင့် အထင်အရှားရှိပေသည်။

တံဇောင်းပီမြို့သို့ ဆိုက်ရောက်လာသော ရုပ်ပွားတော်သည် ရှေးမင်းများက ဆံတော်ဓါတ် ၁၁ ဆူ ဌာပနာ၍ တည်ထားခဲ့သော ကောဒသစေတီတော် တည်ရှိရာ ရေလယ်ကျောက်ဆောင်အနီးသို့ ဆိုက်ရောက်လာလေသည်။ မြို့သူမြို့သား အပေါင်းတို့သည် ရုပ်ပွားတော်မြတ်ကို အမျိုးမျိုးကြိုးစား၍ ပင့်ဆောင်ကြသော်လည်း ရုပ်ပွားတော်သည် ရွှေ့လျားခြင်းမရှိလေ။ နောက်ဆုံး၌ ငါးပါးသီလကို ခါးဝတ်ကဲ့သို့ မြဲမြံအောင် စောင့်ထိန်းသော မုဆိုးမတဦးက အဓိဋ္ဌာန်ပြု၍ ပင့်ဆောင်သောအခါမှ ရုပ်ပွားတော်သည် ကောဒသစေတီ ရင်ပြင်တော်သို့ သာသနာနှစ် ၂၃၇ ခု နတ္တော်လဆန်း ၁၅ ရက်နေ့တွင် ကြွတော်မူလေသည်။

ရုပ်ပွားတော်ကို ရှေးဦးစွာ ဘုရားအရှေ့ဖက်မုတ်တွင် ပင့်ဆောင်ထားသော်လည်း တောင်ဖက်စူးစူးသို့သာ မျက်နှာတော်လှည့်၍ စံနေတော်မူသဖြင့် ရုပ်ပွားတော် မျက်နှာမူသည်နှင့် အလိုက်သင့်စေရန် တောင်ဖက်မုတ်သို့ ပြောင်းရွှေ့ပင့်ဆောင်ထားရလေသည်။ ရုပ်ပွားတော်သည် တောင်ဖက်သို့သာ မျက်နှာမူလျက် စံပယ်တော်မူသည်မှာ

ထားဝယ်မြို့ရှိ ရှင်မုဋ္ဌီးရုပ်ပွားတော်ကို မျှော်ကြည့်ခြင်း ဖြစ်သည်ဟု ပြောဆိုကြသည်။ ထိုသို့ မျှော်ကြည့်သည်ကို အစွဲပြု၍ ဤရုပ်ပွားတော်ကို မွန်ဘာသာဖြင့် ကျိုက်ဟမီ ဟုခေါ်ဝေါ်သမုတ်၏။ မြန်မာဘာသာဖြင့် ဘုရားမျှော် ဟု အဓိပ္ပါယ်ရရှိသည်။ နောင်ကာလကြာသောအခါ ကျိုက်ဟမီမှ ကျိုက္ခမီဟု စကားရွေ့လျောလာခဲ့သည်။ ထိုမျှမကသေး။ ဘုရား၏ဘွဲ့တော်ကို အစွဲပြု၍ တံဇောင်း ပီမြို့ကိုလည်း ကျိုက္ခမီမြို့ဟု ခေါ်တွင်လာခဲ့လေသည်။

ရုပ်ပွားတော်မြတ် ရောက်ရှိ၍ ကာလကြာလတ်သော် ကောဒသစေတီ ပျက်စီးယိုယွင်း သွားသဖြင့် ဌပနာတိုက် ကျောက်တုံးကြီးသာ ကျန်ခဲ့လေသည်။ ထိုနောက် ဝတ်ကျောင်းကြီး ဆောက်လုပ်ကာ ရုပ်ပွားတော်ကို ထိုကျောင်း အတွင်းသို့ ပင့်ဆောင်ကိုးကွယ်ကြသည်။ ကျိုက္ခမီရုပ်ပွားတော် တည်ရှိရာ ဝတ်ကျောင်းပေါ်သို့ လှိုင်းတံပိုးမည်မျှ ပင်ကြီးစေကာမူ ရေမလွှမ်းခြင်းမှာ ဘုရား၏ တန်ခိုးတော်ကြောင့် ဖြစ်သည်ဟု ယုံကြည်ကြသည်။ ဘုရားဝတ်ကျောင်း ပေါ်သို့ မိန်းမများ မတက်ကြရချေ။ တက်ရောက်မိလျှင် လည်း အခါမဲ့ လေပြင်းမုန်တိုင်းကျခြင်း၊ မိုးကြီးသည်းထန် စွာရွာခြင်းများ ဖြစ်တတ်သည်ဟုဆို၏။ ထိုသို့ တက် ရောက်မိသော မိန်းမများတွင်လည်း ဝေဒနာတစုံတခု စွဲကပ် တတ်သည်ဟု စွဲလန်းယုံကြည်ကြသည်။ ထို့ကြောင့် မိန်းမ များသည် ရုပ်ပွားတော်၏ ရှေ့ဖက်တူရူတွင် ဆောက်လုပ် ထားရှိသော အရုဏ်ခံစရပ်ပေါ်မှ သာလျှင် ဖူးမြော် ကြည်ညိုလေ့ရှိကြသည်။

၁၂၈၇ ခုနှစ်ခန့်တွင် ဘုရားကို မီးပူဇော်ရာမှ မီးစတင် လောင်ကျွမ်းသဖြင့် ကျောင်းဆောင်ပြာသာဒ်များ ပျက်စီး ကြလေသည်။ ထိုနောက် ဝံသာနု ခေါင်းဆောင်ကြီး ဦးချစ်လှိုင်ကြီးမှူး၍ အုတ်တိုက်ကျောင်းပြာသာဒ်ကိုအများ ၏ကုသိုလ်ဖြင့် ဆောက်လုပ်လှူဒါန်းခဲ့၏။

ကျိုက္ခမီဘုရားပွဲတော်ကို နှစ်စဉ် သီတင်းကျွတ် လဆန်း ၁၂ ရက်နေ့မှ လပြည့်နေ့အထိ ကျင်းပလေ့ရှိသည်။ ထိုဘုရား သို့ မော်လမြိုင်မြို့မှ မော်တော်ကားဖြင့်ဖြစ်စေ၊ သင်္ဘော ဖြင့်ဖြစ်စေ တိုက်ရိုက်သွားရောက်နိုင်သည်။ သို့မဟုတ် မော်လမြိုင် မြို့မှ ၃၅ မိုင်ခန့် ဝေးသော သံဖြူဇရပ်သို့ မီးရထားဖြင့်သွား၍ ယင်းမှတဆင့် မော်တော်ကားဖြင့် သွားရောက်နိုင်လေသည်။

**ကျိုက္ခမီမြို့**။ ။မြန်မာနိုင်ငံ အောက်ပိုင်း တနင်္သာရီ တိုင်း ကျိုက္ခမီခရိုင်၏ ခရိုင်ဝန်ရုံးစိုက်ရာ မြို့ဟောင်းဖြစ်သော ကျိုက္ခမီမြို့သည် ယခုအခါ ကျိုက္ခမီ နယ်ပိုင်ရုံးစိုက်ရာ မြို့မျှသာဖြစ်၏။ မော်လမြိုင်မြို့ တောင်ဖက် မိုင် ၃၀အကွာ ပင်လယ်ကမ်းခြေမြို့ဖြစ်၍ အနောက်သို့ စွန်းထွက်နေသော အငူကလေး အပေါ်တွင် တည်ရှိသည်။ ရေလမ်းကုန်းလမ်း အဆက်အသွယ်ကောင်းမွန်သည်။ အလျား ၉ ဖါလုံ အနံ ၁ ဖါလုံ ခန့်ရှိသည်။ သံဖြူဇရပ်မှ ကွေ့၍လာရသော မော်တော်ကားလမ်းမှာ ၃၅ မိုင်ခန့် ရှည်သည်။ မြို့ပေါ်တွင် နယ်ပိုင်ဝန်ထောက်ရုံး၊ ရဲဌာန၊ စာပို့တိုက်၊ ဆေးရုံနှင့် အထက်တန်းကျောင်းတို့ရှိသည်။ အဘိဓါန် ကျမ်းပြုဆရာ ယုဒသန် နေထိုင်ခဲ့ဘူး၍ ယုဒသန်၏ ဇနီးမှာ ထိုမြို့၌ပင် ၁၈၂၆ ခုနှစ်၌ ကွယ်လွန်ရာ အုတ်ဂူပြုလုပ်ထား၍ ယခုတိုင် ရှိသေးသည်။

ကျိုက္ခမီမြို့သည် ကျန်းမာရေးအတွက် ပင်လယ်လေညှင်း ခံရန် အလွန်သင့်လျော်သော မြို့ဖြစ်သည်။ ကမ်းခြေအနီး ပင်လယ်တွင်းရှိ ရေလယ်ဘုရားမှာ အရပ်ရပ်မှ လာရောက်ဖူး



ကျိုက္ခမီမြို့ကမ်းခြေကား ကျန်းမာရေး အတွက် ပင်လယ်လေညှင်းခံရန်သင့်လျော်လှသည်။

မြော်ကြသော တန်ခိုးကြီးဘုရား တဆူဖြစ်၍ မြို့ကျက်သရေကိုဆောင်ပေသည်။ (ကျိုက္ခမီဘုရား — ရှု။)

ကျိုက္ခမီနယ်တွင် ကျိုက္ခမီမြို့နယ်၊ မုဒုံမြို့နယ်နှင့် ယေးမြို့နယ်များ ပါဝင်၏။ ကျိုက္ခမီမြို့နယ်မှာ မြို့အနီးရှိ ဝါကရုချောင်းကို အစွဲပြု၍ ရှေးက ဝါကရုမြို့နယ်ဟု တွင်ခဲ့လေသည်။ မြို့နယ်အတွင်း ဆန်စပါး စိုက်ပျိုးလုပ်ကိုင်၍ ကျိုက္ခမီမြို့ ပတ်ဝန်းကျင်နှင့် ပင ရွာ၊ကရုပ်ပို့ရွာတို့တွင် ဆားချက်လုပ်ငန်း တွင်ကျယ်လေသည်။ ကော်ဖတ်ခြံနှင့် အုန်း၊ ကွမ်း သီး စသော သစ်သီးခြံများလည်းရှိသည်။ ကျိုက္ခမီမြို့တွင် အိမ်ခြေ ၁၂၀၀ ခန့်ရှိ၍ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၆၀၀၇ ယောက်ရှိသည်။ ကျိုက္ခမီဟုခေါ်တွင် ခြင်းမှာ ကျို က္ခ မီ ဘုရားကို အစွဲပြု၍ ဖြစ်၏။

မြန် မာ နိုင်ငံ အောက် ပိုင်းကို ဗြိတိသျှတို့ သိမ်း ပိုက်စဉ်က စော စွာ လာ ရောက်အုပ်ချုပ်သူ အိန္ဒိယ ဘုရင်ခံချုပ်ဖြစ် နေသော လော့ အမ်း ဟတ် ကို အစွဲ ပြု ၍ ကျိုက္ခမီမြို့ ကို အင်္ဂလိပ်ဘာသာဖြင့် 'အမ်းဟတ်မြို့' ဟု အမည်မှည့်ခေါ်တွင် သည်။



သံလျင်မြို့တောင်ဖက်ရှိကျိုက်ခေါက်စေတီ

**ကျိုက် ခေါက် စေတီ ။** ထိုစေတီသည် မြန်မာနိုင်ငံရှိ တန်ခိုးကြီးစေတီတော် တဆူဖြစ်၍ သံလျင်မြို့တောင်ဖက်သံလျင်ကျောက်တန်းလမ်းအနီး တောင်ကုန်း ပေါ် တွင် တည်ရှိသည်။ ကျိုက်ခေါက်စေတီမှာ ရှေးဟောင်းစေတီတော် တဆူဖြစ်သည့်ပြင် ရှေးမွန်ဗိသုကာပညာရပ်ကိုသရုပ်ပြ သက်သေခံလျက်ရှိသည်။

- ကျိုက်ခေါက်စေတီ၏ ဥာဏ်တော်မှာ ၁၃၃ ပေ၊ ဖိနပ်တော် အဝန်းမှာ ပေ ၉၀၀ ဖြစ်သည်။ စေတီရင်ပြင်တော်ကို မြန်မာနိုင်ငံအထက်ပိုင်းမှ ကျောက်ပြားအနီများဖြင့် စံနစ်တကျ ဆစ်ချော ခင်းကျင်းထားသည်။ ထိုစေတီတော်၏ သမိုင်းအကျဉ်းချုပ်မှာ အောက်ပါအတိုင်းဖြစ်သည်။

မြတ်စွာဘုရားသခင်သည် ဂဝံပတိရဟန္တာ ပင့်လျှောက်ချက်အရ မဟာသက္ကရာဇ် ၁၁၁ ခုနှစ် ဆောင်းရာသီ၌ သုဝဏ္ဏဘုမ္မိ သထုံပြည်သို့ ကြွတော်မူခဲ့သည်။ သထုံဘုရင်တိဿမမ္မ သီဟရာဇာနှင့် မှူးမတ်ပြည်သူပြည်သားတို့က ခမ်းနားကြီးကျယ်သော စံကျောင်းတော် ဆောက်လုပ်၍ ၇ ရက်တိုင်တိုင် ပူဇော်ကြသည်။ ဘုရားသခင် ထိုသို့စံနေတော်မူစဉ်အတွင်း ဂစ္ဆဂိရိတောင်မှ တိဿကုမာရ ရသေ့၊ ဗန္ဓဝဂိရိတောင်မှ သီဟကုမာရ ရသေ့၊ ကုသိနာရုံတောင်ရသေ့၊ ဒိုးခလွန်တောင်ရသေ့ အစရှိသော ရသေ့တို့သည် လာရောက်ဆည်းကပ် ပူဇော်ကြကုန်သည်။

ထိုအထဲတွင်သီဟဒီပကျွန်းခေါ် ယခုသံလျင်မြို့မှ တိဿရသေ့သည်လည်း တပါးအပါအဝင် ဖြစ်သည်။ ရသေ့တို့သည် မြတ်စွာဘုရား အထံတော်၌ ဘုရားကိုယ်စား ကိုးကွယ်ထားနိုင်ရန်အတွက် မွေတော် ဓါတ်တော် များ ခြီးမြှင့်ရန် တောင်းပန်ကြသဖြင့် ရသေ့အသီး အသီး အား ဆံတော် ၁ ဆူ ၂ ဆူစသည်ဖြင့် ပေး သနား တော် မူ သည်။ သီဟဒီပကျွန်းက ရသေ့ကြီးတိဿသည်လည်း ဆံတော် ၂ ဆူ ရရှိခဲ့၏။ ရသေ့ကြီးသည် ထိုဆံတော်များ ကို မည်သူတစုံတယောက်ကိုမျှ ဖူးမြော်ခွင့်မပေးဘဲ မိမိတဦးတည်းသာ ကိုး ကွယ် မည် အကြံ နှင့် ဆံကျစ်အကြား၌ ကွယ်ဝှက်သိမ်း ဆည်း ၍ ထားသည်။ ထိုသို့ ကောက် ကျစ် သော အကြံရှိသ ဖြင့် နောင်အခါ တိဿရသေ့ကို တိဿဝင်္ဂဟူ၍၎င်း၊ 'ရသေ့ကောက်' ဟူ၍၎င်း ခေါ်ဝေါ်ကြသည်။ ရသေ့ကောက်မှ စကား ရွေ့လျော၍ 'ရသေ့ခေါက်' ဖြစ်လာသည်ဟုဆိုကြသည်။

ယခုအခါ ကျောက်တန်းဟုခေါ်သော ပါဒမြို့ ဘုရင်ဇေယသေနမင်းနှင့် မိဖုရားကြီးတို့သည် မြတ်စွာဘုရား ကိုလည်း မဖူးမြော်လိုက်ရ၊ ဓါတ်တော်မွေတော် တစုံတရာကိုမျှလည်း မရရှိလိုက်သဖြင့် စိတ်နှလုံး မသာမယာဖြစ်ကာ ဓါတ်တော်များကို စုံစမ်းရှာဖွေသည်။ ထိုနောက် အခိုက်သင့်စွာ မင်းနှင့်မိဖုရားကြီးတို့သည် သီဟဒီပကျွန်းမှ တိဿရသေ့ကြီးနှင့် တွေ့ဆုံမိကြ၏။ မင်းကြီးလည်း ဓါတ်တော်

မွေတော်များကို တည်ထားကိုးကွယ်လိုပါသည်။ ရရှိနိုင်မည့် နေရာကို ညွှန်ကြားတော်မူပါဟု ရသေ့အား လျှောက်ထား၏။ ရသေ့ကြီးက ၇ ရက်လွန်မြောက်လျှင် ပြသမည်ဟု ပြောကြားရာ မင်းနှင့်မိဖုရားတို့လည်း ရသေ့ကြီးအား နန်းတော်သို့ ပင့်ဆောင်၍ ပူဇော်သက္ကာရ ပြုကြ၏။

နောက်ဆုံး၌ ရသေ့ကြီးသည် မိမိ၏ ဆံကျစ်အကြား၌ သိုထားသော ဆံတော် ၂ ဆူအနက် ၁ ဆူကို မင်းကြီးအားပေး၏။ ပါဒမင်းသည် ထိုဆံတော်ကို ဌာပနာ၍ ရှေးလွန်လေပြီးသောကာလ၌ မြတ်စွာဘုရား အလောင်းတော် ရွှေဟသာမင်းဘဝက ခိုဝင်နားနေခဲ့ဘူးရာ ကုန်းမြတ်ဖြစ်သော ဥတ္တရာယဏ် ကုန်းတော်ပေါ်တွင် စေတီတဆူ တည်တော်မူသည်။ ဆံတော်ကို သိုဝှက်ထားသော ရသေ့ခေါက်၏ အမည်ကို အစွဲပြု၍ ထိုစေတီကို 'ကျိုက်ခေါက်စေတီ' ဟု ခေါ်စမှတ်ပြုကြသည်။ ကျိုက်ခေါက်စေတီကို ဇေယသေနမင်း၊ သိကြားမင်းနှင့် ရသေ့ခေါက် ၃ ဦးတို့ ပူးပေါင်းတည်ခဲ့ကြောင်းနှင့် ဘုရားသမိုင်းများတွင် အမှတ်အသားတွေ့ရလေသည်။

ကျိုက်ခေါက်စေတီကို သံလျင်မြို့ ဘောဂသေနမင်း၏ သမီးတော် ရှင်မွေနွန်းက ဒုတိယအကြိမ် ဓါတ်တော်များကို ဌာပနာတော် မူခဲ့၍ နောက်မင်းအဆက်ဆက်တို့ ပြုပြင်တော်မူခဲ့ကြသည်။ သို့သော် ပေါ်တူဂီလူမျိုး င စက်ာခေါ် ဖိလစ်ဒီဗရစ်တို လက်ထက် သက္ကရာဇ် ၉၆၅ ခုနှစ်မှ ၉၇၅ ခုနှစ်ခန့်အတွင်း ကျိုက်ခေါက်စေတီတော်ကို ပြုပြင်မွမ်းမံမည့်သူ မရှိသဖြင့် တောကြီးအတိ ဖြစ်ပြန်သည်။ သက္ကရာဇ် ၁၁၃၃ ခုနှစ်တွင် မိုးနဲရောက် ဂန္ဓသာရ အရှင်သူမြတ် ကြီး မှူး၍ မြို့သူမြို့သားတို့က ထပ်လောင်းမွမ်းမံကာ တံတိုင်းကာရံ ဆောက်လုပ်ခဲ့ကြသည်။

ဆင်ဖြူရှင် မင်းတရားကြီးသည် သက္ကရာဇ် ၁၁၃၆ ခုနှစ် ရွှေတိဂုံစေတီတော်တွင် ထီးတော်အသစ် တင်တော်မူပြီးနောက်၊ ၁၁၃၇ ခုနှစ်၌ ကျိုက်ခေါက်စေတီတော်ကိုလည်း ထီးတော် တင်တော်မူခဲ့သည်။ ၁၁၄၃ ခုနှစ်က စေတီတော်ပြိုကျပြန်ရာ ဘိုးတော်ဘုရားက ပြင်ဆင်မွမ်းမံ ခဲ့လေသည်။ ကျိုက်ခေါက်ဘုရားပွဲတော်ကို နှစ်စဉ်နှစ်တိုင်း တပို့တွဲလပြည့်နေ့တွင် ကျင်းပလေ့ရှိသည်။

ကျိုက်ခေါက်စေတီသည် ရှေးအခါကပင် အထက်အောက် မြန်မာနိုင်ငံအတွင်း ထင်လင်းကျော်ကြားခဲ့သည်။ ကဝိလက္ခဏာ သတ်ပုံဆရာက 'သံလျင်မြို့မြတ်၊ တောင်မတ်မတ်၊ ကျတ်ခေါက်ဘုရားရှင်' ဟု စပ်ဆိုခဲ့သည်။ နဝဒေးကြီး၊ နတ်သျှင်နောင် စသော စာဆိုတော်များကလည်း ကျိုက်ခေါက်ဘုရားတိုင် ရတုများကို စပ်ဆိုခဲ့ကြလေသည်။

# ထူးဆန်းအံ့ဩဖွယ်စံပယ်တော်မူသည့်စေတီတော်

**မြန်မာနိုင်ငံတွင် စေတီပုထိုးအမျိုးမျိုးရှိကြသည့်အနက် ထူးဆန်း အံ့ဩဖွယ်အကောင်းဆုံး တည်ထား သောစေတီဖြစ်ပေသည်။ တည်နေပုံဆန်းကြယ်ခြင်း၊ တောတောင်သာယာကြည်နူးဖွယ်ကောင်းခြင်း၊ ဘုရားဖူးသွားရာတွင် နားနေရန် စခန်း အဆင့်ဆင့် ရှိခြင်းများကြောင့် ကျိုက်ထီးရိုးဘုရားသည် ကျော်စောထင်ရှားလှပေသည်။**

**ကျိုက်ထီးရိုးစေတီ။** ။ကျိုက်ထိုနယ်ရှိ ကျိုက်ထီးရိုးစေတီသည် အရှေ့ရိုးမတောင်တန်း အဝင်အပါဖြစ်သော ပေါင်းလောင်းတောင်ပေါ်တွင် တည်ရှိ၍ မြန်မာနိုင်ငံတွင် တန်ခိုးကြီးသော စေတီတဆူ ဖြစ်သည်။ ကျိုက်ထီးရိုးစေတီကို အစွဲပြု၍ စေတီတည်ရှိရာတောင်ကို ကျိုက်ထီးရိုးတောင်ဟု ခေါ်ကြသည်။ ကျိုက်ထီးရိုးစေတီ တည်ရှိရာတောင်ထွတ်မှာ ပင်လယ်ပြင်မှ ပေ ၃၆၀၀ ခန့်မြင့်သည်။

ကျိုက်ထီးရိုးစေတီ တည်နေပုံမှာ အံ့ဩဖွယ်ရာကောင်းလှသည်။ ကြီးမား၍ မတ်စောက်သော ကျောက်ဆောင်တခု၏ အစွန်းတွင် လုံးပတ် ပေ ၅၀ ခန့်ရှိသော ဦးခေါင်းပုံသဏ္ဌာန် ကျောက်လုံးကြီးတခုက ပြုတ်လုတည်းကာတင်၍ နေသည်။ ထိုကျောက်လုံးကြီး ပေါ်တွင်မှ ဉာဏ်တော် ၁၅ ပေခန့်မြင့်သော စေတီတော်ကို တည်ထားသည်။ စေတီတည်ရှိရာ ကျောက်ဆောင်နှင့် ရင်ပြင်တော်ကို ချောက်တခု ခြားနေသောကြောင့် သံတန်တားယော်ဖြင့် ဆက်သွယ်ထားရသည်။ စေတီတည်ထားရာ ကျောက်လုံးကြီးသည် လူတယောက် တွန်းလိုက်ရုံမျှဖြင့် လှုပ်ရှား၏။ ထိုကျောက်လုံးကို တွန်း၍ အောက်ခံကျောက် အကြားသို့ အပ်ခြည်ကြိုးကို သွင်းပြီးလျှင် ဆွဲယူနိုင်သည်။

ကျိုက်ထီးရိုး ဘုရားသမိုင်းမှာ မူအမျိုးမျိုး ကွဲလျက်ရှိသည်။ စစ်ကဲကြီး ဦးရွှေနော် ရေးသားသော မွန်ရာဇဝင်နှင့် စေတီတော် သမိုင်းပေါင်းချုပ်အရ ဖော်ပြပေအံ့။

မြတ်စွာဘုရားသခင်သည် မဟာသက္ကရာဇ် ၁၁၁ ခုနှစ် ဆောင်းဥတုတွင် သုဝဏ္ဏဘုမ္မိ သထုံပြည်သို့ ကြွတော်မူခဲ့ရာ၊ သထုံဘုရင် တိဿဓမ္မ သီဟရာဇာမင်းနှင့် မျူးမတ်ပြည်သူအပေါင်းတို့က စံကျောင်းတော် မဏ္ဍပ်ကြီးကို ဆောက်လုပ်လှူဒါန်းကြသည်။ ဘုရားသခင်သည် ထိုမဂ်လာမဏ္ဍပ်တော်၌ ၇ ရက်တိုင်တိုင် စံနေတော်မူစဉ် များစွာသော ဝေနေယျသတ္တဝါတို့အား တရားတော်အမြိုက်ဆေး တိုက်ကျွေးတော်မူသည်။ ထိုအခါ ဂဏ္ဍဂီရိတောင်က တိဿကုမာရရသေ့၊ ဗန္ဓဝဂီရိတောင်က သီဟကုမာရရသေ့၊ ကုသိနာရုံတောင်က ရသေ့၊ ဒိုးကမော့ခတ္တဂုဏ်လိုင်းတောင်က ဗုဒ္ဓဥာဏ

ရသေ့၊ ဒိုးခလွန်တောင်က ရသေ့၊ မဲလိ
တောင်က ရသေ့၊ ပေါင်းရသေ့ ၆ ပါးတို့
သည် မြတ်စွာဘုရားအား ဖူးမြော်ကန်
တော့ ကြပြီးနောက်၊ ဓါတ်တော်မွေ
တော်များ ခြီးမြှင့်မစရန်လျှောက်ထား
တောင်းပန်ကြသဖြင့် ရသေ့တပါးလျှင်
ဆံတော်တဆူစီ ပေးသနားတော်မူ
ခဲ့လေသည်။

နောက်နေ့ရက်များမကြာမီ မွတ်လအိ
တောင်က ကပ္ပရသေ့၊ မွတ်လအပ်
တောင်က နာရဒရသေ့၊ ဝါဂရုနယ်
လမိုင်း ကေလာသတောင်က ရသေ့၊
ကျိုက္ခမီတောင်က ရသေ့၊ ကော့ယက္ခဇုပ်
သွတ်ကျွန်းက နတ်ဘီလူးညီနောင် ၂
ယောက်၊ ဒိုး ယွန်း တောင် က ရသေ့၊
ဆောင်ခဲတောင်က အလ္လကပ္ပရသေ့၊
ပေါင်းပုဂ္ဂိုလ် ၇ ဦးတို့ အဖူးအမြော်
ရောက်ကြပြန်သဖြင့် အထက်နည်းတူ
ဆံတော်တဆူစီ ပေးသနားတော်မူခဲ့
သည်။ တိဿမေ့ သီဟရာဇာ မင်းအား
လည်း ဆံတော် ၂ ဆူ ခြီးမြှင့်ပေးသနား
တော်မူခဲ့လေသည်။

ဒိုးကမေ့ ခတ္တဲဂလိုင်းတောင်က ဗုဒ္ဓ
ဥာဏရသေ့၊ ဒိုး ခလွန် တောင်က ရသေ့
နှင့် ကုသိနာရုံတောင်က ရသေ့တို့သည်
မိမိတို့ရရှိထားသော ဆံတော်ဓါတ်များ
ကို ဌာပနာခြင်း မပြုကြဘဲသိမ်းဆည်း၍
ထားကြလေသည်။ ကာလအတန်ကြာ
လတ်သော် ဒိုးခလွန်ရသေ့နှင့် ကုသိနာရုံ
ရသေ့တို့မှာ အိုမင်းမစွမ်း ရှိကြသည့်ပြင် အနာရောဂါ စွဲကပ်
လာသည် နှင့်မကွယ်လွန်မီ မိမိတို့ ရရှိထားသော ဆံတော်
များကို ဗုဒ္ဓဉာဏ ရသေ့အား ပေးအပ်ခဲ့လေသည်။

ဗုဒ္ဓဉာဏရသေ့သည် ဆံတော်ဓါတ် ၃ ဆူကို မပျောက်
မပျက်ရအောင် မိမိ၏ဆံကျစ်အတွင်း၌ စည်းနှောင်ထား
လေ၏။ နောက်နှစ်ကာလ အတန်ကြာလတ်သော် အနာ
ရောဂါ နှိပ်စက်သဖြင့် ရသေ့ကြီးသည် အကယ်၍ မိမိကွယ်
လွန်ခဲ့သော် ဆံတော်ဓါတ် ၃ ဆူကို မည့်သို့မည်ပုံ ထား
ခဲ့ရပါမည်နည်းဟု တွေးတောပူပန်ခြင်း ဖြစ်မိလေသည်။
ထိုအခါ သိကြားမင်းသည် လူ့ပြည်သို့ ဆင်းသက်၍
ရသေ့ကြီး၏ ဆန္ဒအတိုင်း ရသေ့ကြီး ဦးခေါင်းနှင့် တူသော
ကျောက်လုံးကို ရှာဖွေကာ ကျောက်လုံးထဲကို သန်လျက်
နှင့်ထွင်း၍ ဆံတော်တဆူကို ဌာပနာခဲ့လေသည်။ ထိုသို့
ကျောက်လုံးပေါ်တွင် တည်ထားသော စေတီကို မွန်ဘာ
သာအားဖြင့် ကျိုက်အိသိရိုး မြန်မာဘာသာဖြင့် ရသေ့
ရွက်သောဘုရားဟုခေါ်၏။ နောင်ကာလကြာလတ်သော်
ကျိုက်အိသိရိုးမှ ကျိုက်ထီးရိုးဟု စကားရွေ့လျောလာ
လေသည်။ ကျန်ဆံတော် ၂ ဆူကိုလည်း သိကြားမင်းက
ဒိုးခလွန်တောင်နှင့် ကုသိနာရုံတောင်များတွင် အသီးအသီး
ဌာပနာပေးခဲ့ကြောင်းနှင့် သမိုင်းများတွင်ဆိုသည်။ ထိုစေတီ
များမှာ ကေလာသနှင့် ကုသိနာရုံဟု ထင်ရှားသည်။

ကျိုက်ထီးရိုး ရင်ပြင်တော်မှ မြင်ရသော ရှုမျှော်ခင်းမှာ
အလွန်သာယာသည်။ အနောက်ဖက်သို့ မျှော်ကြည့်လျှင်
စစ်တောင်းမြစ်ကို ကျော်လွန်၍ ပဲခူး ရွှေမော်ဓော စေတီ
တော်ကို ဖူးမြင်နိုင်သည်။ ကျိုက်ထီးရိုးစေတီတော်သို့ တက်
ရန်လမ်း ၂ သွယ်ရှိသည်။ တသွယ်မှာ စစ်တောင်းရွာမှ



မြတ်စွာဘုရား၏ ဆံတော်ဓာတ်ကိန်းဝပ်ရာ ကျိုက်ထီးရိုးစေတီ

တက်ရသော လမ်းဖြစ်၍ ကျန်တသွယ်မှာ ကျိုက်ထိုမြို့မှ မော်တော်ကားလမ်းဖြင့် ၉ မိုင်ခန့်ဝေးသော ကင်မွန်းစခန်းမှ တက်ရသော လမ်းဖြစ်သည်။ ဒုတိယလမ်းမှာ ဘုရားဖူး အများ အသုံးပြုသော လမ်းဖြစ်သည်။ ကင်မွန်းစခန်းမှ ကျိုက်ထီးရိုး ရင်ပြင်တော်အထိ ၇ မိုင်ခွဲခန့်ရှိ၍ စခန်းပေါင်း ၂၇ စခန်းကို ဖြတ်ကျော်သွားရသည်။

ကျိုက်ထီးရိုး ပွဲတော်အချိန်မှာ နှစ်စဉ် တပို့တွဲလမှ တန်ခူးလအထိ ဖြစ်သည်။ ပွဲတော်အချိန်၌ မြန်မာနိုင်ငံ အရပ်ရပ်မှ ထောင်သောင်းမကသော ဘုရားဖူးများ လာရောက်ကြသည်။ ထိုအထဲတွင် တရုပ်လူမျိုး အများပါဝင်သည်။ ဘုရားသို့ တက်ရာလမ်းတလျှောက်၌ ဘုရားဖူးများ နေနားတည်းခိုရန်အတွက် ရေမြောင်ကလေး၊ ရွှေရင်ဆို၊ ကင်ပြွမ်းပင်၊ ရေမြောင်ကြီး၊ ဘိုးပြန်တောင်၊ စိုင်တမော့ အစရှိသော စခန်းများ၌ ဈေးဆိုင်ကန္နားများရှိလေသည်။

ကင်မွန်းစခန်း၌ ဘိုးဘိုးကြီးနတ်နှင့် ဟုံးနတ်စင်များရှိ၍ လမ်းခရီးတွင် မျှော်တော်ယောင်စေတီ၊ လွှမ်းစေတီ၊ ကျောက်သမ္ဘာန် စသောစေတီယ်များနှင့် ရွှေနန်းကျင်နတ်၊ ပန်းတင်နတ် စသောနတ်ကွန်းများကို တွေ့ရှိနိုင်ပေသည်။ ဘုရားဖူးများသည် နေနေနားနား တက်ရောက်လေ့ရှိသည်။ အသက်အရွယ် ကြီးရင့်သူနှင့် အိုမင်းမစွမ်းသူတို့သည် အထမ်းပုခက်များစီး၍ တက်လေ့ရှိသည်။ ဘုရားဖူးများသည် ကျိုက်ထီးရိုး ဘုရားမှတဆင့် မုဆိုးဘုရား၊ ဖါးဘုရား၊ နဂါးဘုရားများကိုဖြတ်၍ ၄ မိုင်ခန့်ဝေးသော ကျောက်ထပ်ကြီး ဘုရား သို့လည်း ဘုရားဖူး သွားရောက်လေ့ရှိကြသည်။ ကျိုက်ထီးရိုး ရင်ပြင်ပေါ် ရှိ ဘိုးဘိုးကြီးနတ်ရုပ်နှင့် ကျိုက်ထီးရိုးဘုရားမြောက်ဖက်ရှိ ကျီးကန်းပါးစပ်ခေါ် ကျောက်ဂူနေရာတို့မှာ ဘုရားဖူးများ ဆုတောင်းမိဋ္ဌာန်ပြု၍ အမွှေးနံ့သာ ပက်ဖြန်းခြင်း၊ ပိုက်ဆံပစ်ထည့်ခြင်းများ ပြုလုပ်သော နေရာများ ဖြစ်ကြသည်။

**ကျိုက်ထိုမြို့။** ။ကျိုက်ထိုမြို့သည် ရန်ကုန် မော်လမြိုင် မီးရထားလမ်းပေါ်တွင်ရှိ၍ ရန်ကုန်မြို့မှ ၉၅ မိုင်၊ ပဲခူးမြို့မှ ၄၀ မိုင် အသီးသီးကွာဝေးသည်။ သထုံခရိုင်၏ နယ်တခုဖြစ်၍ ကျိုက်ထိုမြို့နယ်နှင့် ဘီးလင်းမြို့နယ် ဆိုင်ရာ နယ်ပိုင်ဝန်ထောက် ရုံးစိုက်ရာမြို့ဖြစ်သည်။ မြောက်ဖက်တွင် မြင့်မားသော ပေါင်းလောင်းတောင်တန်းကြီးနှင့် တောင်ဖက်တွင် ပင်လယ်ရေပြင်က နယ်နိမိတ်သတ်ထားသဖြင့် မြို့၏ရှုမျှော်ခင်းမှာ သာယာစိုပြည်သည်။

ကျိုက်ထိုမြို့နယ်သည် စတုရန်းမိုင် ၃၃၆ မိုင်ခန့် ကျယ်ဝန်း၏။ ဤမြို့တွင် မြူနီစီပယ်အဖွဲ့ကို ၁၈၈၉ ခုနှစ်ကပင် စတင်တည်ထောင်ခဲ့သည်။ ၁၉၁၀ ခုနှစ်တွင် ကျိုက်ထိုနယ်အတွင်းမှ ကျေးရွာပေါင်း ၁၇ ရွာကို ပဲခူးခရိုင် သနပ်ပင်မြို့နယ်သို့ လွှဲပြောင်းပေးလိုက်ရသဖြင့် အကျယ်အဝန်းစတုရန်းမိုင် ၇၃ မိုင်မျှ လျော့သွားသည်။ ကျိုက်ထိုမြို့ ပတ်ဝန်းကျင်တွင် လယ်ယာစိုက်ပျိုးနိုင်သော လယ်မြေများအနည်းငယ်သာရှိသည်။ တဖန် မြို့၏တောင်ဖက်ရှိ လယ်မြေများကို ပင်လယ်ရေက တိုက်စားလေ့ရှိပြန်သဖြင့် လယ်ယာလုပ်ကိုင်နိုင်သောမြေများ ပိုမိုနည်းပါးရလေသည်။ ကျိုက်ထိုနယ်မှထွက်သော ဆန်စပါးများသည် နယ်သူနယ်သားများအတွက် တခါတရံ မလုံမလောက် ဖြစ်တတ်သဖြင့် ပဲခူးနယ်မှ ဆန်စပါးများကို ဝယ်ယူတင်သွင်းရသည်။

ထိုသို့ကျိုက်ထိုနယ်မှ မြေများလွှဲပြောင်းပေးလိုက်ရခြင်း၊ လယ်မြေများ ရေတိုက်စားခံရခြင်း၊ ဆန်စပါးအထွက် နည်းပါးလာခြင်းတို့ကြောင့် ကျိုက်ထိုမြို့မှာ ယခင်ကလောက် စည်ကားဖွံ့ဖြိုးခြင်း မရှိတော့ချေ။

ကတတ်ချောင်းခေါ် ကျိုက်ထိုချောင်းသည် ကျိုက်ထိုမြို့ကို တောင်နှင့်မြောက် ဖြတ်၍ စီးဆင်းသည်။ ကတတ်ချောင်း၏အရှေ့ဖက်သည် မြို့၏စည်ကားသော အချက်အခြာ ဒေသဖြစ်သည်။ အနောက်ဖက်မှာမူ ကောစံနိုင်၊ ဘောဂနာစသောရပ်ကွက်များသာ ဖြစ်သည်။ ကတတ်ချောင်းနှင့် စစ်တောင်းမြစ်ကို ဆက်သွယ်သော တူးမြောင်းတခုကို ၁၈၈၂ ခုနှစ်က စတင်ဖေါက်လုပ်ခဲ့ရာ ၁၈၉၃ ခုနှစ် ကုန်ခါနီးတွင် ပြီးစီးခဲ့လေသည်။ ထိုတူးမြောင်းသည် ၁၃ မိုင်ရှည်လျား၍ ငွေ ၁၀ သိန်းခန့် ကုန်ကျလေသည်။ တူးမြောင်းဖေါက်လုပ်ခြင်း၏ ရည်ရွယ်ချက်မှာ စစ်တောင်းမြစ်မှ မော်လမြိုင်မြို့အထိ လှေသမ္ဗန်များသွားနိုင်သော တူးမြောင်းတခု ဖေါက်လုပ်ရန်ဖြစ်လေသည်။

စစ်တောင်းကျိုက်ထို တူးမြောင်းသည် စစ်တောင်း



ကျိုက်ထိုမြို့ရှိသွန်းဘုရားတန်ဆောင်းပုံ

မြစ်ဝရှိ ဝင်းပတောရွာနှင့် ကျိုက်ထိုမြို့ကို ဆက်သွယ်ပေးခဲ့လေသည်။ ဝင်းပတောရွာနှင့် ကျိုက်ထိုမြို့ ဘောဂနာရွာများတွင် ရေတံခါးများ ထားရှိခဲ့သည်။ ဝင်းပတောရွာရှိ ရေတံခါးမှာ ပျက်စီးလာခဲ့သဖြင့် ၁၈၉၇ ခုနှစ်တွင် မုပ္ပလင်ရွာ၌ ရေတံခါး ပြောင်းလဲ ဆောက်လုပ်ခဲ့လေသည်။ ပင်လယ်ကမ်းနှင့် ယှဉ်ပြိုင်ဖေါက်ထားသော စစ်တောင်းကျိုက်ထို တူးမြောင်းမှာ ပင်လယ်ရေတိုက်စားသဖြင့် နှစ်အနည်းငယ်အတွင်း ပျက်စီးသွားလေသည်။ သို့ဖြင့် စစ်တောင်းမြစ်မှ မော်လမြိုင်မြို့အထိ တူးမြောင်းဖေါက်လုပ်ရန် စီမံကိန်းမှာလည်း လက်လျှော့လိုက်ရလေသည်။ စစ်တောင်းမြစ်ဝရှိ ဝင်းပတောရွာမှာလည်း ကမ်းပြိုသဖြင့် လုံးဝပျက်စီးသွားခဲ့လေသည်။

ကျိုက်ထိုမြို့အလယ်တွင် ရွှေဘုံသာစေတီ တည်ရှိ၍ မြို့၏အရှေ့တောင်ယွန်းယွန်းတွင် ကျိုက်ပေါလောရုပ်ပွားတော်တည်ရှိသည်။ ကျိုက်ပေါလောရုပ်ပွားတော်ကို ပင်လယ်ထဲမှရရှိ၍ သီဟိုဠ်ကျွန်း ဒေဝါနံပိယတိဿမင်းက ပင်လယ်၌မျှောလိုက်သော ရုပ်ပွားတော် ၄ ဆူအနက် ကျောက်ဘီးပေါ်တွင် သီတင်းသုံး၍ မျောလာသော ရုပ်ပွားတော်ဖြစ်သည်ဟု ယုံကြည်ကြသည်။ ထိုကျောက်ဘီးကိုလည်း ဘုရားတန်ဆောင်းအတွင်းတွင် တွေ့မြင်နိုင်သည်။ ကျိုက်ပေါလောတန်ဆောင်းနှင့် မျက်နှာချင်းဆိုင်တွင် သွန်းဘုရားကြီးခေါ် ကြေးဆင်းတုတဆူရှိသည်။ ထိုဆင်းတုတော်မှာ မန္တလေးမြို့ မဟာမုနိ ရုပ်တုတော်၏ပုံကိုယူ၍ သွန်းလုပ်ထားသော ရုပ်တုတော်ဖြစ်သည်။

ကျိုက်ထိုမြို့ပေါ်နှင့် မြို့အနီးတဝိုက်တွင် ကျောင်းသင်္ခမ်းများ၊ စာသင်တိုက်များရှိသည်။ ထင်ရှားသော စာသင်တိုက်များမှာ မဟာမေဃဝန်တိုက်၊ ဘုရားကြီးတိုက်၊ သစ်ချတောင်တိုက်နှင့် တိုက်တောင်ကျောင်းတိုက်များ ဖြစ်ကြသည်။ ကျိုက်ထိုမြို့တွင် အစိုးရအထက်တန်းကျောင်း၊ စာတိုက်၊ ကြေးနန်းရုံ၊ ဆေးရုံနှင့် မျူနီစီပယ်ဈေးကြီးတို့ရှိသည်။ မြို့မှာ ကျောထောက် နောက်ခံ နယ်မကောင်းသဖြင့် စည်ကားသင့်သလောက် မစည်ကားဘဲရှိသည်။ သို့သော် ကျိုက်ထီးရိုးပွဲတော်လများတွင် မြို့မှာ ပိုမိုစည်ကားသည်။

မြို့နယ်အတွင်း မှီတင်းနေထိုင် ကြသူများမှာ မြန်မာလူမျိုးများဖြစ်၍ ရှမ်းနှင့်ကရင်လူမျိုးများ အသင့်အတင့်ရှိသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ မြို့ပေါ်တွင် လူဦးရေ ၁၃၁၇၄ ယောက်ရှိ၏။ မြို့ပေါ်တွင် ရှေးက ရှမ်းများနှင့်တောင်သူများ စတင်နေထိုင်ခဲ့သော ရပ်ကွက်များကို ရှမ်းစု၊ တောင်သူစုဟု ယခုတိုင် ခေါ်တွင်လျက်ရှိသည်။ ကျိုက်ထိုမြို့မှ ငါးခြောက်၊ ဝါးပတ်ဦးထုပ်နှင့် ခုံဖိနပ်များ ထွက်၏။ မြို့အနီးတွင် ကော်ဖတ်ခြံများရှိသဖြင့် ကော်ဖတ်စေးလည်း အနည်းငယ်ထွက်သည်။

**ကျိုက်မရောမြို့။** ။ကျိုက်မရောမြို့သည် မြန်မာနိုင်ငံအောက်ပိုင်း တနင်္သာရီတိုင်း ကျိုက္ခမီခရိုင်တွင်ပါဝင်သော မြို့ပိုင်ရုံးစိုက်ရာမြို့ဖြစ်သည်။ မော်လမြိုင်မြို့ အရှေ့တောင်ဖက် အတ္တရံမြစ်ပေါ်တွင်တည်ရှိ၍ မော်တော်ကားလမ်းအတိုင်း ၁၅ မိုင်ကွာဝေးသည်။ ကျိုက်မရောမြို့ကို အတ္တရံမြစ်ကြောင်းမှလည်း လှေသင်္ဘောများဖြင့် သွားလာနိုင်သည်။ ကျိုက်မရောကို မွန်ဘာသာအားဖြင့် 'ကျာ်မရဟ်' ဟုရေး၏။ အဓိပ္ပါယ်မှာ ထင်ရှားသောဘုရားဖြစ်၏။ ထိုထင်ရှားသောဘုရားကား ကျိုက်မရောမြို့ရှိ ဆုတောင်းပြည့်ဘုရားကြီးပင်ဖြစ်ပေသည်။



ကျိုက်မရောဆုတောင်းပြည့်ဘုရား

ကျိုက်မရောမြို့နယ်တွင် ကျေးရွာအုပ်စုပေါင်း ၁၅ စု ပါဝင်၍ အကျယ်အဝန်းမှာ ဧက ၂၃၃၀၀ ကျော်ဖြစ်သည်။ မြို့နယ်၏လူဦးရေမှာ ၈၀,၀၀၀ ခန့်ရှိ၍၊ မွန်၊ မြန်မာ၊ ကရင်၊ ရှမ်းတောင်သူ၊ တရုပ်၊ ကုလား၊ လူမျိုးများနေထိုင်ကြသည်။ မွန်အမျိုးသားများမှာလူများစုဖြစ်သည်။

ကျိုက်မရောမြို့နယ်မှာ တောတောင်ထူထပ်၍ ကော်ဖတ်ခြံအမြောက်အမြားရှိသည်။ လယ်ယာကိုင်းကျွန်းလုပ်ကိုင်မှုမှာ အဓိကအသက်မွေးဝမ်းကျောင်း လုပ်ငန်းဖြစ်သည်။

ထိုနယ်မှာ မြေဩဇာညံ့ဖျင်းသည့်ပြင် မကြာခဏ ရေလွှမ်းမိုးခြင်းခံရသဖြင့် လယ်ယာလုပ်ငန်းများ မဖွံ့ဖြိုးချေ။

ကျိုက်မရောမြို့ပေါ်တွင် အိမ်ခြေ ၆၇၀ ခန့်ရှိ၍ ၁၉၅၃ ခု သန်ကောင်စာရင်းအရ လူဦးရေ ၄၂၄၄ ယောက်ခန့်ရှိသည်။ မြို့ပေါ်တွင် ရဲဌာန၊ စာပို့တိုက်၊ ဝတ်ကျောင်း၊ ငွေတိုက်၊ အထက်တန်းကျောင်း၊ မြေစာရင်းရုံး၊ သစ်တောဌာနနှင့် ဆေးရုံတို့ရှိသည်။ ဝတ်ကျောင်းမှာ အထင်ရှားဆုံးသောမြို့၏ကျက်သရေဆောင်ဖြစ်၍ သက္ကရာဇ် ဂ၁၇ ခုနှစ် သီတင်းကျွတ် လပြည့်နေ့တွင် မွန်ဘုရင်မကြီး၊ ရှင်စောပု တည်ဆောက်ခဲ့သည်။ ဝတ်ကျောင်း အတွင်းရှိ ရုပ်ပွားတော်မှာ ဆုတောင်းပြည့်ဘုရားဟု ဘွဲ့တော်ချီသည်။ ထိုရုပ်ပွားတော်၏ ပုံသဏ္ဌာန်မှာ ထူးခြားပေသည်။ ဝတ်ကျောင်းအဝင်ဝ လက်ဝဲဖက်၌ မွန်ဘာသာကျောက်စာ တချပ်တည်ရှိသည်။

ကျိုက်မရောမြို့နှင့် ၂၄ မိုင်ခန့်ကွာသော အတ္တရံမြစ်ကမ်းနဖူးရှိ ရေပူကျေးရွာတွင် ရေပူကန်များရှိသည်။ ထိုအပြင် ထုံးဖုတ်သော ထုံးကျောက်တောင်ကြီး ၁၅ လုံးခန့်ရှိသည်။ သို့ရာတွင် ကျိုက်မရောမြို့မ ပတ်ဝန်းကျင်၌သာ ထုံးလုပ်ငန်းကို လုပ်ကိုင်ကြ၍ အခြားကျေးရွာများတွင် မလုပ်ကိုင်ကြချေ။ ထုံးများကို မော်လမြိုင်မြို့မှတဆင့် ပို့ထုတ်ရောင်းချလေ့ရှိသည်။

ကျိုက်မရောမြို့နယ် ကျေးရွာများတွင် လှည်းဘီးအမြောက်အမြား ပြုလုပ်ကြသည်။ ရက်ကန်းလုပ်ငန်းအနည်းငယ်လည်းရှိသည်။ နှစ်စဉ်နှစ်တိုင်း သင်္ကြန်နှစ်ကူးအခါတွင်ရေသဘင်ပွဲတော်နှင့် ကျိုက်မရောမြို့ ဆုတောင်းပြည့်ဘုရားပွဲတော်ကို တပြိုင်တည်းကျင်းပလေ့ရှိ၍ အလွန်စည်ကားလှလေသည်။

**ကျိုက်လတ်မြို့။** ။ကျိုက်လတ်မြို့သည် ဖျာပုံခရိုင်အတွင်း နယ်ပိုင်ရုံးစိုက်သောမြို့ဖြစ်သည်။ မအူပင်မြို့အနီး ရောဝတီမြစ်မှ ဖြာထွက်သွားသော သံသပ္ပတ်မြစ်၏အဆက် ဖြစ်သည့် ကျိုက်လတ်မြစ် ကမ်းပေါ်တွင် တည်ရှိသည်။

ကျိုက်လတ်ဟူသောအမည်မှာ မွန်စကားဖြစ်၍၊ ဘုရားပြိုဟုအဓိပ္ပါယ်ရသည်။ ခရစ်နှစ် ၁ဂ၄၀ ကျော်ခန့်က ယခုကျိုက်လတ်မြို့ ၆ လမ်းနှင့် ၇ လမ်းအကြား ကမ်းနားဖက်အနီး၌ရှိသော ဥဿဖ်တော် ၉ တောင်ခန့်ရှိ စေတီတဆူမှာ ရေထဲသို့ပြိုလဲကျသွားကြောင်းအဆိုရှိသည်။ ယင်းစေတီပြိုကျသွားသည်ကိုအစွဲပြု၍ ကျိုက်လတ်ခေါ်တွင်လာခဲ့သည်ဟု ပြောစမှတ်ပြုကြသည်။ ဤသည်ကိုထောက်၍ ကျိုက်လတ်မြို့ကို မွန်လူမျိုးတို့ စတင်တည်ထောင်ခဲ့သည်ဟု ယူဆကြသည်။ ကျိုက်လတ်မြို့နေရာမှာ ရှေးအခါက အင်းနှင့် ကျေးရွာများ ရှိခဲ့သည်။ ကျိုက်လတ်မြို့၏ အနောက်ဖက် ယခုကွင်းပေါက်ပိုင်း ဟုခေါ်သောရပ်ကွက်သည် ရှေးအခါက ဖိုးတောကုန်းဖြစ်၏ဟု အမှတ်အသားရှိသည်။

ခရစ်နှစ် ၁ဂ၇၅ ခုနှစ်တွင် သုံးခွခရိုင်ကို တည်ထောင်ခဲ့သည်။ ထိုစဉ်က မအူပင်နယ်နှင့် ကျိုက်လတ်နယ်တို့မှာ သုံးခွခရိုင်ထဲတွင် ပါဝင်ကြသည်။ ထိုနောက် လူဦးရေများလာသည်ကတကြောင်း၊ စိုက်ပျိုးလုပ်ကိုင်သော လယ်ယာမြေကွက်များ ကျယ်ပြန့်လာသည်ကတကြောင်းတို့ကြောင့် ၁ဂ၉၃ ခုနှစ်တွင် ဤခရိုင်၏တစိတ်တဒေသကို မြောင်းမြခရိုင်အမည်ဖြင့် ခွဲထုတ်လိုက်သည်။ တဖန် ၁၉၀၃ ခုနှစ်တွင် ဖျာပုံခရိုင်ကိုခွဲထုတ်ပြန်သည်။ ထိုအချိန်မှစ၍ ကျိုက်လတ်နယ်နှင့်မြို့မှာ ဖျာပုံခရိုင် အတွင်းတွင်ပါဝင်လေသည်။ ၁၉၀၀ပြည့်နှစ်တွင်ကျိုက်လတ်မြို့၌တောင်းကော်မီတီဖွဲ့စည်း၍ ၁၉၀၅ ခုနှစ်တွင် မျူနီစီပယ်အဖွဲ့ကိုဖွဲ့စည်းခဲ့လေသည်။

ကျိုက်လတ်နယ်တွင် ကျိုက်လတ်မြို့နယ်နှင့် ဒေးဒရဲမြို့နယ်များပါဝင်သည်။ ကျိုက်လတ်မြို့သည် ရန်ကုန်၊ ဖျာပုံ၊ ဘိုကလေး၊ ဒေးဒရဲ၊ မအူပင်၊ ညောင်တုန်းစသောမြို့များနှင့် ရေလမ်းခရီးဖြင့်အဆက်အသွယ်ရှိ၍ အရောင်းအဝယ်ကောင်းမွန်ပြီးလျှင် စည်ကားသည်။ မြို့ပေါ်၌ နိုင်ငံတော်အစိုးရအထက်တန်းကျောင်း၊ ဆေးရုံနှင့် အခြားအစိုးရရုံးများရှိသည်။

ဥဿဖ်တော် ၉ တောင် ၂ မိုက်ခန့်ရှိသော တိလောကမာရဇိန်ရုပ်တုတော်ကြီးကို မြန်မာသက္ကရာဇ် ၁၂၅၂ ခုနှစ်၌ သွန်းခဲ့သည်။ ထိုပြင် မြို့၏ကျက်သရေဆောင်ဖြစ်သော လေးထောင့်ကန်ခေါ် ရေကန်ကြီးမှာ အလျားပေ ၂၀၀၀ အနံပေ ဂ၄၀ အနက်မှာ ၁၀ ပေခန့်ရှိသည်။

ကျိုက်လတ်မြို့နယ်သည် ဖျာပုံခရိုင်တွင်အငယ်ဆုံးမြို့နယ်ဖြစ်သည်။ အကျယ်အဝန်းမှာ စတုရန်းမိုင် ၂၇၇ မိုင်ရှိပြီး ကျေးရွာနယ်မြေပေါင်း ၉၃ ခုပါဝင်သည်။ ကျိုက်လတ်နယ်မှ ဆန်စပါး အုန်းသီးနှင့် ကွမ်းသီးများထွက်သည်။

ကျိုက်လတ်မြို့မှ အနီးပတ်ဝန်းကျင်မြို့ရွာများသို့ ရေလမ်းဖြင့်သာသွားလာနိုင်သည်။

နှစ်စဉ်တပို့တွဲလ၌ ရေငန်ပိုင်ဦးရှင်ကြီးအား ပူဇော်ပသသောပွဲကို ကျိုက်လတ်မြို့တွင် ရပ်ကွက်ချင်းအပြိုင်အဆိုင်ကျင်းပလေ့ရှိသည်။ ၁၉၅၃ ခုနှစ်သန်ကောင်စာရင်းအရ ကျိုက်လတ်မြို့၏လူဦးရေမှာ ၁၅,၇၉၀ ဖြစ်သည်။

**ကျိုက်သံလန်စေတီ။** ။ထိုစေတီမှာ မော်လမြိုင်မြို့ပေါ်တွင် အထင်ရှားဆုံး စေတီဖြစ်၍ မြို့၏အရှေ့ဖက် သံလင်တောင်စွယ်တွင် တည်ရှိသည်။ ဤစေတီသမိုင်းနှင့်စပ်လျဉ်း၍ အဆို ၂ မျိုး ကွဲပြားလျက်ရှိသည်။ တမျိုးမှာ သာသနာနှစ် ၂၃၆ တွင် ယခုမော်လမြိုင်ခေါ် ရမ္မာဝတီမြို့မှ မှတ်ပိရာဇာမင်းသည် သထုံပြည်မှ သွားတော်ဓါတ်

## ကျိုက်သံလန်စေတီ



မော်လမြိုင်မြို့၏အထင်ရှားဆုံးသောကျိုက်သံလန်စေတီတော်

တဆူရရှိခဲ့သဖြင့် မြတ်စွာဘုရားသခင် ကြွရောက်နားနေတော်မူဘူးရာ နာဂဝိသ တောင်လည်းခေါ် သံလင်တောင်စွယ်တွင် ဌပနာ၍ စေတီတည်ခဲ့ကြောင်း၊ ဆံတော်ဓါတ်ကိုလည်း ဌပနာကြောင်းနှင့် အဆိုရှိသည်။ ဘုရားတည်ရာတောင်ကိုအစွဲပြု၍ စေတီကိုလည်း ကျိုက်သံလင်စေတီဟုခေါ်တွင်လေသည်။ ယခုအခါ စကားရွေ့လျောလာသဖြင့် ကျိုက်သံလန် ဖြစ်လာသည်။ ရှေးအခါက ထိုစေတီတည်ထားရာ တောင်ခြေသည် ပြိုပျက်အံ့သကဲ့သို့ ရှိသောကြောင့် မွန်ဘာသာဖြင့် 'သံလင်' ဟုသမုတ်ခဲ့သည်။

အခြားအဆိုတရပ်မှာ ရှေးအခါက ရှမ်းစစ်သည်နှင့် မြန်မာစစ်သည်များ သံလွင်မြစ် အရှေ့ဖက်ကမ်းတွင် စစ်ဦးချင်းဆိုင်ကြပြီးနောက် သတိတရားရရှိကြပြီးလျှင် စစ်တိုက်ကြမည့်အစား စေတီတဆူစီတည်ကြ၍ ရှေးဦးစွာပြီးစီးသည့်ဖက်မှ အနိုင်ယူကြစတမ်းဟု ကတိပြုကြလေသည်။

ရှမ်းစစ်သည်တို့က အုတ်များဖြင့် တည်ရန်ပြင်ဆင်နေဆဲ၊ မြန်မာစစ်သည်တို့က ခြင်းကျားဖြင့် တည်၍ စေတီအတုရှေးဦးစွာ ပြီးမြောက်နှင့်သောကြောင့် ထိုစေတီကို ရှမ်းတို့မြင်သဖြင့် အကယ်ထင်မှတ်ကာ အရှုံးပေး ဆုတ်ခွာသွားလေသည်။ ထိုသို့ ရှမ်းများလန်ပြေးသည်ကို အကြောင်းပြု၍ တည်သောစေတီတော်ကို 'ကျိုက်ရှမ်းလန်' ဟုခေါ်ကြောင်း၊ နောင်ကာလ ရွေ့လျောသဖြင့် 'ကျိုက်သံလန်' ခေါ်ကြောင်းနှင့်လည်း အဆိုရှိသည်။

စေတီတော် သမိုင်းအရ မွတ်ပိရာဇာမင်း တည်စဉ်က စေတီဖိနပ်တော် အတောင် ၄၀၊ ဉာဏ်တော် ၅၅ တောင်ရှိလေသည်။ နောက်မင်းအဆက်ဆက်တို့ ထပ်မံပြုပြင်ကြသေးသည်။ ထိုနောက် သက္ကရာဇ် ၁၁၂၅ ခု ဆင်ဖြူရှင်မင်းလက်ထက် ယိုးဒယားသို့ ထားဝယ်ကြောင်း ချီတက်ခဲ့သောဗိုလ်ချုပ် မဟာနော်ရထာ ကတကြိမ်၊ အင်္ဂလိပ်မြန်မာ ပဌမစစ်ပွဲအတွင်းက စစ်သူကြီး မဟာဗန္ဓုလ၏ လက်ရုံးတဆူဖြစ်သော စကြာဝန်ကြီး ကတကြိမ်၊ ပြုပြင်ခဲ့ကြသည်။ သို့သော် ထို ၂ ကြိမ်စလုံး၌ ထီးတင်၍မပြီးမီ မော်လမြိုင်မြို့ကြီး ပျက်စီးခဲ့ကြောင်းနှင့် ကျိုက်သံလန်ဘုရား ကျောက်စာတွင်ဖေါ်ပြထားသည်။

သက္ကရာဇ် ၁၁၇၉ ခုနှစ်တွင် စစ်ကဲကြီး ဦးထော်လေးနှင့် ဦးသီလဗုဒ္ဓိ ဆရာတော်တို့ ကြီးမှူးရွှေဆောင်၍ ကျိုက်သံလန်စေတီတော်ကို ပြုပြင်တည်ဆောက်ပြန်ရာ ၁၁၈၃ ခုနှစ် ပြာသိုလတွင် ထီးတော်တင်ခဲ့လေသည်။ ထိုသို့ ပြုပြင်ခဲ့ကြောင်းများကို ကျောက်စာ ရေးထိုးထားခဲ့သည်။ ထိုကျောက်စာမှာ 'ကျိုက်သန်လန်ကျောက်စာ' လည်းခေါ် 'စစ်ကဲဦးထော်လေး ကျောက်စာ' ဟု ထင်ရှားသည်။

ယခုအခါ ကျိုက်သံလန်စေတီတော်၏ ဉာဏ်တော်မှာ ပေ ၁၅၀ ရှိ၍ ဖိနပ်တော် အဝန်းမှာ ပေ ၄၅၀ ရှိသည်။ စေတီရံပေါင်း ၃၄ ဆူရှိပေသည်။

၁၃၀၇ ခုနှစ်က ကျိုက်သံလန်စေတီ ကုန်းတော် သုံးပုံတပုံခန့် ပြိုကျပျက်စီးခဲ့ရာ မြို့သူမြို့သားများက ကျိုက်သံလန်ရင်ပြင်တော် ပြုပြင်ရေးအဖွဲ့ ဖွဲ့ကာ ထပ်မံပြင်ဆင်ခဲ့သည်။



ဟာသအနုပညာရှင်ဦးကျင်ခဲ

**ကျင်ခဲ။ ဦး** (၁၂၄၇ – ၁၃၀၀)။ ။ဦးကျင်ခဲသည် မြန်မာသဘင်လောကတွင်ထင်ရှားသော လူရွှင်တော် တဦးဖြစ်ပေသည်။ သီချင်းရေးဆရာလည်းဖြစ်သည်။

ဦးကျင်ခဲကို ပြည်မြို့သံတချောင်းလမ်း၊ ဖခင် ဆရာလန်း အမိ ဒေါ်သာ တို့မှ ၁၂၄၇ ခုနှစ်တွင် ဖွားမြင်ခဲ့သည်။ မိဖများက မောင်ငယ်ဟုနာမည်ပေးခဲ့သော်လည်း၊ အဒေါ် ဖြစ်သူ မှည့်ခေါ်ခဲ့သော ကျင်ခဲနာမည်သာ တွင်ခဲ့လေသည်။ ဆရာလန်းမှာ သီချင်းကြီး သီချင်းခံများကို စံနစ်တကျ သီဆိုနိုင်သည့်အပြင် မင်းတုန်းမင်းနှင့် သီပေါမင်းတို့ လက်ထက်များတွင် အမှုတော်ထမ်းခဲ့သော အဆိုတော်တဦးလည်း ဖြစ်လေသည်။

ဦးကျင်ခဲ ၁၂ နှစ်အရွယ်တွင် ဆရာလန်းသည် ရန်ကုန်မြို့သို့ ပြောင်းရွှေ့လာခဲ့၍ ကြည့်မြင်တိုင် ထီးတန်းအရပ်တွင် နေထိုင်လေသည်။ ဦးကျင်ခဲသည် ဖခင်၏ ဇာတ်အဖွဲ့တွင် ပါဝင်ဆောင်ရွက်ယင်း ဒေါ်ပုံအုန်းစိန်အဖွဲ့၊ မစိန်ချစ်အဖွဲ့၊ အလုံမစိန်တင်အဖွဲ့၊ မစိန်ပုကြီးအဖွဲ့စသော အငြိမ့်အဖွဲ့များတွင် လူရွှင်တော်အဖြစ် ဝင်ရောက် ကပြခဲ့လေသည်။ အသက် ၁၇ နှစ်အရွယ်တွင် ကြည့်မြင်တိုင်မှ အရပ်သူ မသိန်းမျှင်နှင့် အကြောင်းပါခဲ့သည်။ ၉ နှစ်ခန့်အကြာတွင် ဒေါ်သိန်းမျှင် ဆုံးလေသည်။ မောင်အုန်းလှိုင်နှင့် မောင်အုန်းဆိုင် ဟု သား ၂ ယောက် ထွန်းကားခဲ့သည်။ မောင်အုန်းလှိုင်မှာ မင်းသားကျော်အုန်းလှိုင် အမည်ဖြင့်ထင်ရှားရှိသည်။ မောင်အုန်းဆိုင်မှာ စာရေးဆရာ ရွှေတိုင်ညွန့် အမည်ဖြင့် ထင်ရှားခဲ့လေသည်။ (ရွှေတိုင်ညွန့် — ရှု။)

နောက်များမကြာမီ ဦးကျင်ခဲသည် အငြိမ့်မင်းသမီး စန္ဒယားမမြရီနှင့် အကြောင်းပါခဲ့သည်။ ၁၉၁၄ ခုနှစ်တွင် ဦးကျင်ခဲသည် ဒေါင်းယာဉ်ပျံမင်းသမီး အဖွဲ့နှင့် အိန္ဒိယပြည်သို့သွားရောက်ကပြခဲ့လေသည်။

ဦးကျင်ခဲသည် မြန်မာအက၊ ယိုးဒယားအကများကို ကပြနိုင်သည့်အပြင် ပတ္တလား၊ ပတ်ဝိုင်း၊ ဗာဂျာနှင့် နှဲများကိုလည်း တီးမှုတ်တတ်လေသည်။ ထို့ပြင် ပန်းချီနှင့်ပန်းပုပညာများကိုလည်းလိုက်စားခဲ့လေသည်။

ဦးကျင်ခဲမှာ အသံအောင်ရုံမျှမက အသံအမျိုးမျိုးဖြင့် သီဆိုနိုင်ခြင်းမှာ သူ၏ ထူးခြားသောအရည်အခြင်း တရပ်ဖြစ်သည်။

ဦးကျင်ခဲ၏ပျက်လုံးများ၊ ဇာတ်ထုပ်များကို ဓါတ်ပြားသွင်း ထားခဲ့သည်။ သီချင်းပေါင်း ၁၀၀ ကျော် ဓါတ်ပြားသွင်းခဲ့ရာ ပဲပြုတ်သည်သီချင်းမှာ ပဌမဆုံးသွင်းသော ဓါတ်ပြားဖြစ်သည်။ သူ၏ ဓါတ်ပြားဇာတ်ထုပ်များမှာ ဦးရှင်ကြီး၊ ဗျတ်ဝိဗျတ္တ၊ ဗုဒ္ဓဝင်၊ မောင်မစ္စက၊ ရေနံချောင်းကဖေကံကောင်း စသောဇာတ်ထုပ်များ ဖြစ်လေသည်။ သူသည် ဦးသော်တာဆိုသော အမည်ကိုလည်း ယူခဲ့လေသည်။

ဦးကျင်ခဲသည် အခြားသဘင်သည်များအဖို့ တေးသီချင်းများကိုလည်း ရေးစပ်ပေးခဲ့လေသည်။ မင်းသားပုဏ္ဏားပျံကျော်အေးနှင့် ဖိုးစိန်ကြီးတို့အတွက် သီချင်းများ ရေးစပ်ပေးဘူးလေသည်။ ဖိုးစိန်ကြီး သီဆိုလေ့ရှိသော 'အချစ်ဆုံး' သီချင်းနှင့် 'နိဗ္ဗာန်ကူးမဲ့စိန် သီချင်း' များမှာ ဦးကျင်ခဲ ရေးစပ်ခဲ့သောသီချင်းများဖြစ်သည်။

ထို့အပြင် 'လယ်ယာစောင်းမှာ၊ တယောက်ထဲ နွားကျောင်းလာတာ၊ ပြွေတစင်းနဲ့အပျင်းဖြေရကာ' အစချီသော နွားကျောင်းသားသီချင်းနှင့် 'ဘဲကျောင်းသားပျော်ပါးပါတဲ့နေရာ၊ ရွှံဗွက်ကယ် ရေအိုင်စောင်းကို၊ မောင်းပြန်ရတာ' အစချီသော ဘဲကျောင်းသားသီချင်းများကိုလည်းရေးခဲ့သည်။

ဦးကျင်ခဲသည် ဇာတ်ခုံပေါ်၌ လူရွှင်တော်အဖြစ်ဖြင့် ကပြခဲ့သော်လည်း ဇာတ်အပြင်ဖက်တွင် အိန္ဒြေရရနှင့် နေထိုင်တတ်သူဖြစ်သည်။ ဇိနတ္ထပကာသနီ၊ ဗုဒ္ဓဝင်စသော ကျမ်းစာအုပ်များကို ဖတ်ရှုလေ့ရှိ၍ အလှူအတန်း၌ ရက်ရောလေသည်။ ရပ်မှုရွာမှုများတွင်လည်း စေတနာထက်သန်စွာ ဝင်ရောက်ကူညီလေ့ရှိသည်။ အရပ်ထဲမှ ယိမ်းအဖွဲ့များ၊ ကျောင်းကပွဲများအတွက် ဝင်ရောက် ကူညီလေ့ရှိသည်။ ၁၃၀၀ ပြည့်နှစ် အသက် ၅၂ နှစ်တွင် မင်းညီနောင် ဇာတ်ထုပ်ကို ဓါတ်ပြားသွင်းနေဆဲ မပြီးမီ ဦးကျင်ခဲ ကွယ်လွန်ခဲ့လေသည်။

**ကျောင်း။** ။မြန်မာနိုင်ငံပညာရေးစံနစ် — ရှု။

**ကျောင်းကုန်းမြို့။** ။ကျောင်းကုန်းမြို့သည် ပုသိမ်ခရိုင် ကျုံးပျော်နယ်တွင် ပါဝင်၍ မြို့ပိုင်ရုံးစိုက်ရာ မြို့ဖြစ်သည်။ မီးရထားလမ်းမြို့တမြို့ မဟုတ်ငြားသော်လည်း ပုသိမ်မြို့နှင့် ဟသ်ာတမြို့များသို့ အသုတ်မြို့မှတဆင့် မီးရထားလမ်း ပေါက်သည်။ ပုသိမ်မြို့နှင့် မီးသဘော်လမ်းလည်း ဆက်သွယ်လျက်ရှိသည်။ မော်တော်ကားလမ်းအားဖြင့်မူ ဟသ်ာတမြို့မှ ကျောင်းကုန်းမြို့သို့ မိုင် ၆၀ ခန့်ဝေး၍ ကျုံးပျော်၊ ရေကြည်၊ အသုတ်မြို့များကို ဖြတ်သန်းသွားရသည်။ ကုန်းလမ်း ရေလမ်း ရှိသည့်ပြင် ဆန်စပါး အမြောက်အမြားထွက်ရာ ဒေသဖြစ်သည့်အလျောက်၊ ကျောင်းကုန်းမြို့သည် တနေ့တခြား စည်ကားတိုးတက်လျက်ရှိလေသည်။

ကျောင်းကုန်းမြို့ကို ဒကချောင်းက တောင်နှင့်မြောက် ဖြတ်သန်းစီးဆင်းလျက်ရှိသည်။ ချောင်း၏ လက်ဝဲဖက်ကမ်းမှာ စည်ကားရာ မြို့၏အချက်အခြာ ရပ်ကွက်ဖြစ်သည်။ လက်ျာဖက်ကမ်းတွင် တရပ်ကုန်းရပ်ကွက်ရှိ၍ လက်ဝဲဖက်ကမ်းကဲ့သို့ မစည်ကားချေ။ မြို့၏အလျားမှာ ၁ မိုင်ခန့်ရှိ၍ အနံမှာ ၃ ဖါလုံခန့်ရှိသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ကျောင်းကုန်းမြို့တွင် လူဦးရေ ၄၃၇၄ ယောက်ရှိသည်။ မြို့၏မြောက်ဖက်တွင် မြောက်ပိုင်းဘုရားဟု ထင်ရှားသော မိုးကောင်းဘုရားနှင့် စဉ့်ကူးဗိုလ် တည်ထားခဲ့သည်ဆိုသော ဘုရားတဆူရှိသည်။ တောင်ပိုင်းတွင် ပြည်လုံးချမ်းသာဟု ထင်ရှားသော ဘုရားဆင်းတုတော် တဆူရှိသည်။ မိုးကောင်းဘုရားနှင့် ပြည်လုံးချမ်းသာ ဘုရားပွဲတော်များကို နှစ်စဉ် တန်ဆောင်မုန်းလ အတွင်းတွင်ကျင်းပလေ့ရှိသည်။ မြောက်ပိုင်း ဘုရားပွဲတော် ကျင်းပစဉ်တွင် မိုးရွာသွန်းလေ့ရှိသဖြင့် ထိုဘုရားကို မိုးကောင်းဘုရားဟု ခေါ်ကြသည်။ ကျောင်းကုန်းမြို့တောင်ဖက် ၂ မိုင်ခန့်အကွာ ရေကလုပ်ရွာတွင် ရေကလုပ်ဘုရားဟု ထင်ရှားသော ရှေးဟောင်းဘုရား တဆူရှိသည်။ ထိုဘုရားကို ပုသိမ်ဘုရင်သမုဒ္ဒဃောသ၏ မိဖုရားဥမ္မာဒန္တီ တည်ထားခဲ့သည်ဟု ပြောစမှတ်ပြုကြသည်။



ကျောင်းကုန်းမြို့ကိုဒကမြစ်တဖက်မှရှုသော်

ကျောင်းကုန်းမြို့နယ်တွင် သူကြီးပိုင် ၆၀ ခန့်ပါဝင်၍ ရေတက်ရေကျရှိသော ချောင်းငယ်မြောင်းငယ်များ ကွန်ချာသဖွယ် ဖြတ်သန်းစီးဆင်းလျက်ရှိသဖြင့် မြေဩဇာ အလွန် ကောင်းမွန်သည်။ ထို့ကြောင့် ဤမြို့နယ်သည် ပုသိမ်ခရိုင်၌ ဆန်စပါးအထွက်ဆုံး မြို့နယ်ဖြစ်သည်။ နှစ်စဉ် စပါးတန်ချိန် ၁,၅၀၀,၀၀၀ ခန့်ထွက်သည်။ ပုံတ်ဆန်ကောင်းကောင်းထွက်သောမြို့နယ်လည်းဖြစ်သည်။ ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်ပွားမီက စတီးဘရားသား၊ အေဘီ စီ၊ စသောနိုင်ငံခြားကုမ္ပဏီကြီးများက အဝယ်ဒိုင်များ ဖွင့်လှစ်ထားခဲ့သည်သာမက အိန္ဒိယနိုင်ငံမှ ဆန်စပါး ရောင်းဝယ်ရေး ကုမ္ပဏီကြီး ၅ ခု၏ ကိုယ်စားလှယ်များ တိုက်ရိုက်စေလွှတ်ကာ ဆန်စပါးများ ဝယ်ယူ စုဆောင်းခဲ့သည်။ ကျောင်းကုန်းမြို့တွင် ဆန်စက် ၈ လုံးရှိ၍ ဆန်စပါးလုပ်ငန်းများဖြင့် အသက်မွေး ဝမ်းကျောင်းသူ ပေါများသည်။ ကျောင်းကုန်းမြို့ အနီးအနားတွင် ငှက်ပျောနှင့် ပြောင်းဖူးများကိုလည်း အသင့်အတင့် စိုက်ပျိုးလုပ်ကိုင်ကြလေသည်။

ကျောင်း ကုန်း မြို့ ပေါ် တွင် အထက်တန်းကျောင်း၊ ဆေးရုံနှင့် စာပို့တိုက်များ ရှိသည့်အပြင် မိခင်နှင့် ကလေးများစောင့်ရှောက်ရေး အဖွဲ့တခုလည်းရှိသည်။ ပြည်တော်သာ စီမံကိန်း အရ ကျောင်းကုန်းမြို့ သဘော်ဆိပ်ဘောတန်တားကို အသစ်ပြု လုပ် ပြီး စီး သည့် အပြင် အဝီစိတွင်း များ လည်း တူးလျက်ရှိသည်။ မြို့ ပေါ် တွင် ဦး ပေသီး အထိမ်းအမှတ် စာကြည့်ပိဋကတ်တိုက် အမည်ဖြင့် စာကြည့်တိုက် တခု ရှိခဲ့ရာ ယင်းမှာ ဒုတိယ ကမ္ဘာစစ်ကြီးမဖြစ်မီက ဦးပေသီး၏ သားမြေးများက ထိုပုဂ္ဂိုလ်ကြီးကို ရည်စူး၍ လှူဒါန်းထားသော အခမဲ့စာကြည့်တိုက် ဖြစ်သည်။

မြို့ပေါ်တွင် နေထိုင်သူတို့မှာ ဗုဒ္ဓအယူဝါဒီ မြန်မာ အများဆုံးဖြစ်၍ ဗမာမွတ်စလင် အတော်အသင့်ရှိသည်။

**ကျောင်းသားနေ့။** ။ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ ကျောင်းသားနေ့မှာ ဒီဇင်ဘာလ ၂၀ ရက်နေ့ ဖြစ်သည်။ ထိုနေ့သည် ၁၉၃၈ ခုနှစ်တွင် စတင်ပေါ်ပေါက်ခဲ့၍ ဖြစ်ပေါ်လာပုံမှာအောက်ပါအတိုင်းဖြစ်သည်။

ကျောင်းသားများသည် ဗြိတိသျှအစိုးရ လက်အောက်တွင် အခါအခွင့်သင့်တိုင်း လွတ်လပ်ရေးအတွက် ဆန္ဒပြခြင်း၊ တောင်းဆိုခြင်း၊ ကြွေးကြော်ခြင်းများကို ပြုခဲ့ကြသည်။

ထို ၁၉၃၈ ခုနှစ်မှာ ဝန်ကြီးချုပ် ဒေါက်တာဘမော် ခေါင်းဆောင်သော ညွန့်ပေါင်း အစိုးရ လက်ထက်ဖြစ်လေသည်။ ထိုနှစ် နိုဝင်ဘာလ ၃၀ ရက် (သက္ကရာဇ် ၁၃၀၀ ပြည့်နှစ် နတ်တော်လဆန်း ၉ ရက်) နေ့တွင် ရေနံမြေသပိတ်ကြီး ပေါ်ပေါက်ခဲ့၏။ သပိတ်သမား ၁၂၀၀ ကျော်တို့သည် အရေးဆိုရန် ရန်ကုန်မြို့သို့ ခြေလျင်ချီတက်ခဲ့ရာ၊ မကွေးသို့ ရောက်လာကြသည်။ မကွေးတွင် ဗမာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားသမဂ္ဂ ဥက္ကဋ္ဌ ကိုဘဟိန်း၊ အတွင်းရေးမှူး ကိုဗဆွေတို့ ရေနံချောင်း ကျောင်းသားသပိတ်ကိစ္စအတွက် ရောက်နေကြသည်နှင့် ကြုံကြိုက်နေသည်။ အမျိုးသားအရေးဖြစ်၍ ထိုကျောင်းသားခေါင်းဆောင် ၂ ဦးက ရေနံမြေသပိတ်ကိစ္စတွင် ကူညီတရားဟောရာ၊ အစိုးရက ဖမ်းဆီးလိုက်၏။

ထိုကြောင့် ရန်ကုန်မြို့လုံးဆိုင်ရာ ကျောင်းသားကိုယ်စားလှယ်များသည်၎င်း၊ တက္ကသိုလ် သမဂ္ဂသည်၎င်း၊ အစည်းအဝေးများကျင်းပကာ မိမိတို့ခေါင်းဆောင်များ အဖမ်းခံရသည်ကို ကန့်ကွက်သောအနေဖြင့် မြန်မာနိုင်ငံကျောင်းသားအားလုံးက ၃ ရက်သပိတ်မှောက်ပေးရန်ဆုံးဖြတ်ကြသည်။

ထို့ပြင် ဒီဇင်ဘာလ ၂၀ ရက်နေ့တွင် ရန်ကုန်မြို့လုံးဆိုင်ရာ ကျောင်းသားများ စုပေါင်း၍၊ ရန်ကုန်မြို့ အတွင်းဝန်များ ရုံးကြီးကို ဝိုင်းကာ ဝင်ပေါက်ထွက်ပေါက်ကို ပိတ်လျက် သပိတ်တားကြ၏။ နံနက် ၁၁ နာရီအချိန်တွင် သပိတ်တားပြီး၍ ပြန်ကြရန် လူစုပြီး ရုံးကြီးကို လှည့်ပတ်ကြွေးကြော်ကြသည်။ ထိုသို့ကြွေးကြော်သော ကျောင်းသားများကို စပတ်လမ်း နှင့် ဖရေဇာလမ်း ထောင့်တွင်မြင်းစီးပုလိပ်များက မြင်းနှင့်တိုက်၊ တုတ်နှင့် ရိုက်လေသည်။ ကျောင်းသားကျောင်းသူ အများအပြားပင် ဒဏ်ရာရရှိကြသည်။ ကျောင်းသားခေါင်းဆောင် ၁ ဦးဖြစ်သော ယုဒသန်ကောလိပ် ဥပစာ အထက်တန်းမှ ကိုအောင်ကျော်မှာ ဦးခေါင်းတွင် ဒဏ်ရာပြင်းစွာရ၍ ကွယ်လွန်သွားရှာလေ၏။

ထိုအခါ ကျောင်းသားလောကနှင့်တကွ၊ တနိုင်ငံလုံးသိမ့်သိမ့်တုန်အောင် လှုပ်ရှားကာ အမျိုးသားစိတ်ဓါတ်များ အလွန် တက်ကြွလာကြသည်။ ကိုအောင် ကျော်ကိုလည်း တိုင်းပြည်လူထုက 'နေမျိုးသီဟသူရ' ဘွဲ့ဖြင့်ချီးမြှောက်သည်။ သူ၏ ဈာပနမှာလည်း မကြုံဘူးအောင် အထူးစည်ကားလှလေသည်။ (အောင်ကျော်။ဗိုလ်—ရှု။)



ကျောင်းသားနေ့အထိမ်းအမှတ်ပွဲကိုနှစ်စဉ်ကျင်းပ၏။

ဤသို့ ကျောင်းသားနှင့် လူထု၏ အမျိုးသားစိတ်ဓါတ်တော်လှန်ရေး စိတ်ဓါတ်တို့ကို တိုးတက်ဖြစ်ပေါ်စေခဲ့သော ဒီဇင်ဘာလ ၂၀ ရက်နေ့ကို အမှတ်တရ ဖြစ်စေရန်၊ 'ကျောင်းသားနေ့' ဟုသတ်မှတ်ခဲ့ကြ၏။ ကျဆုံးရှာသော ကိုအောင်ကျော်ကိုဂုဏ်ပြုသောအားဖြင့် 'ဗိုလ်အောင်ကျော်နေ့' ဟုလည်းတွင်သည်။

**ကျောင်းဥယျာဉ်များ။** ။သစ်ပင်ပန်းမာလ်တို့သည် လူတို့၏စိတ်ကို ကြည်နူးစေသော သဘာဝပစ္စည်းများ ဖြစ်ကြ၏။ ဥယျာဉ်ပန်းမာလ်များကို မြင်တွေ့ကြည့်ရှုရခြင်းဖြင့် ဟဒယနှလုံး ရွှင်ပြုံးသောအရသာကို လူတိုင်း ဆင်းရဲချမ်းသာမရွေး ခံစားတတ်ကြသည်။ ထိုကြောင့် ပန်းဥယျာဉ်များကို မိမိတို့နေအိမ် ဝင်းခြံများတွင် ပြုစုစိုက်ပျိုးလေ့ ရှိကြသည်။ ထိုကဲ့သို့ သဘာဝ ဝတ္ထုများကို လေ့လာသုံးသပ်ယင်း ဥယျာဉ်များ ပြုစုပျိုးထောင်ချင်သော ဝါသနာပါသွားစေရန် ကလေးသူငယ်များကို ကျောင်းသားအရွယ် နုနယ်စဉ်ကပင်စ၍ ဥယျာဉ်စိုက်ပျိုးခြင်း ပညာကို သင်ကြား

ပေးသင့်သည်။ စာသင်ကျောင်းမှ အစပျိုးပေးလိုက်သော ဤဝါသနာမှာ နောင်အရွယ်ကြီးပြင်းလာသည့်အခါ သူတို့၏ အသက်မွေးဝမ်းကျောင်းမှုများတွင် အထောက်အပံ့ ဖြစ်လာနိုင်သည်။

ထို့ကြောင့် ယခုအခါ ခေတ်မှီသော နိုင်ငံတိုင်းတွင် စာသင်ကျောင်းများ၌ ဥယျာဉ်စိုက်ပျိုးခြင်းပညာကို လက်တွေ့ဥယျာဉ်များထားရှိကာသီးခြားဘာသာတရပ်အနေဖြင့် သင်ကြားပေးလေသည်။ စာသင်ကျောင်းနှင့်တွဲ၍ ထားသော ဥယျာဉ်များမှာ သစ်ပင်ပန်းပင်များ စိုက်ပျိုးခြင်းအကြောင်းရပ် တခုတည်းကိုသာ သင်ကြားရန်မဟုတ်ဘဲ သဘာဝသိပ္ပံ ပညာရပ်များသင်ကြားရာတွင် လက်တွေ့စမ်းသပ်ရန် အတွက် လည်း အသုံးကျပေသေးသည်။ ထို့မှတပါး စာသင်ခန်းများ အတွင်း၌ စာပေသင်္ချာစာများ သင်ကြားလေ့လာဖန် များသဖြင့် ပင်ပန်းငြီးငွေ့လာသော သူငယ်များအဖို့ လဟာပြင် ပန်းဥယျာဉ်များသည် စိတ်၏ သာယာရွှင်လန်းမှုကို ပေးစွမ်းနိုင်ပေသည်။ ဥယျာဉ်ပန်းမာလ်များကို လက်ပွန်းတတီး လေ့လာခွင့် ရရှိသဖြင့်လည်း ကျောင်းသားသူငယ်များမှာ လှပတင့်တယ် ရှုချင်ဖွယ်သောရုပ်ဝတ္ထုများကို မြတ်နိုးခင်တွယ်တတ်သော အလေ့အထကို ရရှိလာကြသည်။

စံနစ်ကျ ကျောင်းဥယျာဉ်ထားရှိခြင်း အလေ့အထကို ၁၈၁၉ ခုနှစ်ခန့်၌ ဥရောပတိုက် ရှလဲဇွစ် ဟိုလစတိုင် နယ်က စတင်ဆောင်ရွက်ခဲ့သည်။ ထိုနောက် အနှစ် ၅၀ ခန့် ကြာသောအခါ ဩစတြီးယားနိုင်ငံနှင့် ဆွီဒင်နိုင်ငံတို့တွင် ကျောင်းတိုင်း ကျောင်းဥယျာဉ်ပြုစုရေး ဥပဒေတရပ်ကို ထုတ်ပြန်၍ ကျောင်းတိုင်းတွင် ဥယျာဉ်စိုက်ပျိုးစေခဲ့သည်။ နောက်များမကြာမီအတွင်း ဥရောပနိုင်ငံများတွင် ကျောင်းဥယျာဉ်များ ထားရှိခြင်းအလေ့သည် ခေတ်စားလာခဲ့သည်။ ယခုအခါ ဆိုဗီယက်နိုင်ငံ၊ တရုပ်ပြည်သူ့ သမတနိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့တွင် မူလတန်းမှစ၍ အထက်တန်းများအထိ နိုင်ငံအနှံ့အပြား စာသင်ကျောင်းများ၌ သဘာဝဝတ္ထုများ လေ့လာရန်နှင့် စိုက်ပျိုးရေးအခြေခံ ပညာများ ရရှိရန် ဥယျာဉ်များပူးတွဲ ထားရှိပေးလေသည်။ ပြည်ထောင်စု မြန်မာနိုင်ငံ၌လည်း စာသင်ကျောင်းများတွင် ဥယျာဉ်စိုက်ပျိုးခြင်း၌ အကျုံးဝင်သော ပညာရပ်များ သင်ကြားပေးခြင်း အလေ့အထကို ပဌမကမ္ဘာစစ်ကြီး ပြီးဆုံးချိန်မှ စတင်ခဲ့သည်။

ရှေးဦးစွာ ဆရာဖြစ်သင် ကျောင်းများတွင် ဥယျာဉ်များပြုစုထားပြီးလျှင် ဆရာဆရာမလောင်းများအား ဥယျာဉ်စိုက်ပျိုးခြင်းပညာကို သင်ကြားပို့ချ ပေးခဲ့သည်မှစ၍ နိုင်ငံအတွင်းရှိ စာသင်ကျောင်းများတွင် ကျောင်းဥယျာဉ်များ ပြုစုခြင်းအလေ့အထသည် တဖြည်းဖြည်း ပြန့်ပွားလာခဲ့သည်။ ကျောင်းဥယျာဉ် ထားရှိခြင်းသည် မြောက်ဖက်တောင်တန်း ဒေသရှိ ကျောင်းများတွင် ပိုမိုအောင်မြင်လေသည်။ ပိုမိုအောင်မြင်ခြင်း၏ အကြောင်းရင်းမှာ ထိုကျောင်းများ၌ စိုက်ပျိုးရေး ပညာကို အခြေခံမျှသာ သင်ကြားကြရသည် မဟုတ်ဘဲ ကျောင်းအိပ်ကျောင်းစားနေသော ကျောင်းသားများအဖို့ ဟင်းကျွေးဟင်းလျာအဖြစ် အထောက်အပံ့ ရသည်အထိ စိုက်ပျိုးပြုစု ကြရသောကြောင့်ဖြစ်သည်။

မြန်မာနိုင်ငံ လွတ်လပ်ပြီးနောက် ပညာရေးစီမံကိန်းသစ်နှင့် ပြည်တော်သာစီမံကိန်းများတွင် နိုင်ငံတော်အတွင်းရှိ စာသင်ကျောင်းများ၌ ဥယျာဉ်များပြုစုထားရန် အစီအစဉ်များပါရှိသည်။ ထိုအစီအစဉ်များအရ ယခုအခါ များစွာသောကျောင်းများတွင် ဆောင်ရွက်လျက်ရှိနေကြသည်။

ကျောင်းသားများအတွက် စိုက်ပျိုးရေးပညာနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ဘာသာပြန်စာပေအသင်းမှ ထုတ်ဝေသော မူလတန်းစိုက်ပျိုးရေး၊ အလယ်တန်းစိုက်ပျိုးရေး အစရှိသော ခေတ်မှီစာအုပ်စာတမ်းများကို ကျောင်းသုံးအဖြစ်ပြဋ္ဌာန်းထားသည်။

အချို့ကျောင်းကြီးများတွင် ဥယျာဉ်စိုက်ပျိုးခြင်း ပညာကို စိုက်ပျိုးရေးကျောင်းမှ လက်မှတ်ရဆရာများက သီးသန့်တာဝန်ယူ၍ သင်ကြားပို့ချပေးလေသည်။



ကျောင်းဥယျာဉ်တွင် လက်တွေ့ပညာများ ဆည်းပူးနေပုံ

# မြင့်မြတ်သောအခွင့်အာဏာကိုညွှန်းသည့်အဆောင်အယောင်



မြန်မာတို့တွင်မင်းခမ်းမင်းနားကိစ္စများ၌ မြင့်မြတ်သောဂုဏ်ထူးနှင့် အခွင့်အာဏာကိုညွှန်းသည့်အဆောင်အယောင်သဘောဖြင့် ကျိုင်းကို အသုံးပြုကြ သည်။ အခြားလူမျိုးများစွာသည် လည်း ကျိုင်းကို မင်း စသည့် ဂုဏ်ကြီး မြင့်သူတို့ သာ သုံးစွဲ ထိုက် သည့် အဆောင်အယောင်ပစ္စည်းဟူ၍ သတ်မှတ်ခဲ့ကြသည်။ ယခုအခါ၌ပင် ကျိုင်းကိုအထွတ်အမြတ်သဘောဖြင့် လှပဆန်းကြယ်စွာတန်ဆာဆင်မွမ်းမံပြီးလျှင် ဂုဏ်နှင့်အာဏာအဆင့်အတန်းကို သတ်မှတ်သိသာစေရန် အသုံးပြုနေသည်ကိုတွေ့ရပေသည်။

**ကျိုင်း။** ။ကျိုင်းမှာ မြန်မာမင်းများလက်ထက် ဘုရင် မိဖုရားနှင့် မင်းညီမင်းသားတို့၏ အဆောင်အယောင်တပါး ဖြစ်၏။ ဘုရင်က ခြီးမြှောက်သူကောင်းပြု ခံရသူများလည်း ဘုရင့်အမိန့်အရ ကျိုင်းကို ကိုင်ဆောင်သုံးစွဲခွင့်ရ၏။ ကျိုင်းကို ဘုရင်၊ မိဖုရား၊မင်းညီမင်းသားစသည်တို့ မင်းပွဲသဘင်စသော အခမ်းအနားများသို့တက်ရောက်သောအခါ ဆိုင်ရာကျိုင်းကိုင် အမှုထမ်းများက ကိုင်ဆောင်၍ လိုက်ပါရ၏။

ကျိုင်းမှာ အရိုးရှည် တပ်ထားသော ခမောက်သဏ္ဍာန် အရာဖြစ်၏။ အထွတ်ကို ရွှေချထားခြင်းတမျိုး၊ အထွတ် ရွှေနှင့် အအုံ၊ အရွက်၊ အရိုးတို့ အနီသုတ်ခြင်းတမျိုး။ ကျိုင်းဖြူတွင် အထွတ်အနီသုတ်ခြင်းတမျိုး အားဖြင့် ၃ မျိုးရှိ၏။ ကုန်းဘောင်ခေတ် နောက်ပိုင်းတွင် ကျိုင်းကို လက်ကိုင်အရိုးတွင် မှန်စီ၍လည်း အသုံးပြုကြောင်းကို၊ မြန်မာမင်း အုပ်ချုပ်ပုံစာတမ်းတွင်ပါသော 'ဝေါရှည်နှင့်ဝေါတော်ရွှေကျိုင်း ၄ ချက်စီ၊ လက်ကိုင်မှန်စီ ကျိုင်းတော်နှစ်' ဟူသောစကား အရသိရ၏။ တခါတရံ ကျိုင်းကို ရွှေမှကိုင်ဆောင်ရုံမက ဆောင်းမိုးခြင်းလည်း ပြုကြောင်းကို ပြာဋ္ဌိဟာခန်းပျို့လာ 'ယာဉ်ညင်စီးစီး၊ ကျိုင်းထီးဆောင်းဆောင်း' ဟူသောစကား အရ၎င်း၊ လွှတ်တော်သတ်ပုံလာ 'ဆောင်း သည့်ကျိုင်း' ဟူသောစကားအရ၎င်း သိရလေသည်။

ကျိုင်းကို အဆောင်အယောင်အဖြစ် အသုံးပြုရာ၌၊ မင်းနှင့်မိဖုရားကား ဂ လက်၊ အိမ်ရှေ့မင်း၊မင်းညီမင်းသားတို့ကား ၄ လက်၊ တခါတရံ ၆ လက်ဆောင်၏။ ကျိုင်းကို မင်္ဂလာအခမ်းအနားများ တွင်သာမက အသုဘ အခမ်းအနားများတွင်လည်း အဆင့်အတန်းအလိုက်၊ ဆိုင်ရာအမှုထမ်းများက ကိုင်ဆောင်၍ လိုက်ပါရသည်။

ကျိုင်းသည် မြင့်မြတ်သူတို့၏ အဆောင်အယောင်ဖြစ်သဖြင့် သာမန်လူတို့နှင့် မထိုက်တန်ရကား၊ 'ကျိုင်းနှင့်သပေါက်၊ မထောက်မတန်' ဟူ၍၎င်း၊ 'သိုင်းနှင့်ကျိုင်းနှင့် ဂုဏ်ကြီးမြင့်သည်' ဟူ၍၎င်း စာပေတွင် စပ်ဆိုကြသည်။

ယခုအခါ ပြည်ထောင်စုမြန်မာနိုင်ငံ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနှင့် လူမျိုးစုလွှတ်တော်နာယကတို့တွင် ငွေဖြင့်ပြုလုပ်ထားသော ကျိုင်းကို အဆောင်အယောင်အဖြစ်ထားရှိသည်။ ထိုကျိုင်းမှာ အရှည် ၄ ပေနှင့် ဂ လက်မခွဲရှိ၍ ငွေသားကျပ်ချိန် ၆၀၀ ရှိ၏။ အဆိုပါကျိုင်းသည် ဥက္ကဋ္ဌနှင့်နာယကတို့၏ မြင့်မြတ်သော အခွင့်အာဏာကိုပြ၏။ မြန်မာမင်းများ လက်ထက်ကကျိုင်းနှင့် အထွတ်အမြတ်ဖြစ်သော သဘောချင်းသာတူ၍ ပုံသဏ္ဍာန်ချင်းကား မတူချေ။ ယခုကျိုင်းမှာ အနောက်နိုင်ငံများတွင်သုံးသော ကျိုင်းနှင့်ပုံပန်းချင်း ဆင်တူသော်လည်း မြန်မာဆန်ဆန် ပန်းပြောက်များဖြင့် ထုလုပ်ထား၏။

ဥက္ကဋ္ဌနှင့်နာယကသည်လွှတ်တော်အစည်းအဝေးခန်းမသို့ကြွရောက်သောအခါ ဆိုင်ရာကျိုင်းကိုင်အရာရှိက ဥက္ကဋ္ဌကြီး၏ရှေ့ ဂ ပေခန့် အကွာမှ ကျိုင်းကိုကိုင်လျက် သွားရ၏။

သတ်မှတ်ထားသောနေရာတွင် ဥက္ကဋ္ဌကြီး ထိုင်ပြီးသော အခါ ဥက္ကဋ္ဌကြီးရှေ့ရှိ ကျိုင်းထားရာ သီးသန့်နေရာတွင် ကျိုင်းကို အလျားလိုက် တင်ထားရသည်။ အစည်းအဝေး ပြီး၍ ဥက္ကဋ္ဌကြီး ပြန်လည်ထွက်ခွာမည့်အခါ ကျိုင်းကိုင် အရာရှိသည် ကျိုင်းကိုယူဆောင်၍ ရှေ့မှသွားနှင့်ရသည်။ ကျိုင်းမှာ လွှတ်တော်တွင် အရေးပါလှ၏။ လွှတ်တော်ထဲ တွင် ကျိုင်းရှိနေလျှင် လွှတ်တော်အစည်းအဝေး ရှိနေသည်။ ဥက္ကဋ္ဌကြီး၏ ရှေ့၌ရှိသောကျိုင်းကို ယူဆောင်သွားလျှင်ပင် အစည်းအဝေး ပြီးဆုံးပြီဟူသော အထိမ်းအမှတ်ဖြစ် တော့သည်။ ကျိုင်းကိုင်အရာရှိကို အစဉ်အလာအားဖြင့် ရဲဝန်ထက် အဆင့်အတန်းနိမ့်သူကို ခန့်ထားရိုးမရှိချေ။

နိုင်ငံတော် တရားလွှတ်တော်ချုပ်နှင့် တရားလွှတ်တော် တရားဝန်ကြီးများလည်း ကျိုင်းအဆောင်အယောင်များ



ရှေးမြန်မာမင်းများ၏အဆောင်အယောင်ကျိုင်း

ရှိကြ၍ တရားခွင်သို့ဝင်သည့်အခါ ကျိုင်းနှင့်ဝင်ကြသည်။ တရားဝန်ကြီးများ၏ကျိုင်းမှာ တရားဝန်ကြီး၏ အခွင့် အာဏာကို ပြသည့်အပြင် 'ဥပဒေနှင့် တရားမျှတမှု' ၏ အထိမ်းအမှတ်လည်းဖြစ်သည်။

တရားလွှတ်တော်ချုပ်တွင် သုံးသောကျိုင်းသည် ၆ ပေ ခန့်ရှည်၍ သစ်သားဖြင့် ပြုလုပ်ထား၏။ ကျိုင်း၏ထိပ်မှာ လုံးဝန်း၍ ရွှေချထားသည်။ တရားဝန်ကြီး တရားခွင်သို့ ကြွလာသည့်အခါ ကျိုင်းကိုင်လုလင်က တရားဝန်ကြီး၏ ရှေ့ ၉ ပေခန့်အကွာမှ ကျိုင်းကိုထမ်း၍ သွားရသည်။ တရား ဝန်ကြီးက နေရာတွင် ထိုင်လိုက်သည်နှင့်တပြိုင်နက်၊ ကျိုင်း ကိုင်လုလင်က ကြမ်းပြင်ကို ကျိုင်းဖြင့်ဆောင့်၍ အချက် ပေးလိုက်သည်။ ယင်းကဲ့သို့ပြုလုပ်ခြင်းမှာ ထိုအချိန်မှစ၍ တရားရုံးထိုင်ပြီဖြစ်ကြောင်း ကြေညာခြင်းပင်ဖြစ်၏။ တရား ဝန်ကြီး ပြန်လည်ကြွသွားသည့်အခါ ကျိုင်းကိုင်လုလင်က ဝင်လာသည့်နည်းတူ တရားဝန်ကြီး၏ရှေ့ကထွက်နှင့်ရသည်။

ကျိုင်းမှာ မြင့်မြတ်သောဂုဏ်ထူးနှင့် အခွင့်အာဏာ၏ အထိမ်းအမှတ်ဖြစ်၍ အခြားနိုင်ငံများတွင်လည်း ပါလီမန် လွှတ်တော်များ၊ တရားလွှတ်တော်များ၊ တက္ကသိုလ်များ တွင် ဆိုင်ရာအကြီးအကဲများ၏ အဆောင်အယောင်အဖြစ် ထားရှိ၏။ အင်္ဂလန်နိုင်ငံလန်ဒန်မြို့တော်ဝန်ထံတွင်ငွေကျိုင်း အဆောင်အယောင်ရှိ၏။ ကျိုင်းကိုင်အမှုထမ်းများကို လည်း ထားရှိလေသည်။ ရှေးခေတ်ဟောင်းက စစ်ဖက် ဆိုင်ရာကျိုင်းများကို လက်နက်သဖွယ် အသုံးပြုနိုင်အောင် ပြုလုပ်ထား၏။ အိန္ဒိယနိုင်ငံတွင်မူ အလှအပမွမ်းမံထား သော ကျိုင်းအပြင် လက်နက်သဖွယ် ကိုင်ဆောင်ရသော ကျိုင်းများကိုလည်း အသုံးပြုကြသေးသည်။

**ကျိုင်းကောင်။** ။ကျိုင်းကောင်သည် နှံကောင်တမျိုး ဖြစ်သည်။ နှံကောင်တွင် နှံကောင်ချိုရှည်မျိုးနှင့် နှံကောင် ချိုတိုမျိုး ဟူ၍ အဓိက ၂ မျိုးရှိသည်။ ထို ၂ မျိုးတွင် မျိုး စိတ်များ ရှိသေး၏။ မြင်တွေ့နေကျဖြစ်သော သာမန်



အုပ်နှင့်ချီ၍ ဖျက်ဆီးတတ်သော ကျိုင်းကောင်

နှံကောင်တို့သည် ချိုရှည်မျိုးပင် ဖြစ်ကြ၍၊ ကျိုင်းကောင် တို့မှာ နှံကောင်ချိုတိုမျိုးတွင် ပါဝင်ကြသည်။ (နှံကောင် ရှု။) ချိုရှည်၊ချိုတို ဟူ၍ဆိုရာ၌၊ အမှန်စင်စစ် ဦးချိကား

မဟုတ်ကြပေ။ အတွေ့အထိ အာရုံကို စမ်းသပ်သိရှိနိုင်သော အာရုံမှင်များ ဖြစ်ကြ၍ ဦးခေါင်းထိပ်တွင် ပေါက်သဖြင့် ချိုဟုတင်စားပြီး ခေါ်ဝေါ်ထားခြင်းသာဖြစ်သည်။ တဖန် မြန်မာနိုင်ငံတွင် ပြောင်းပင်၊ကြံပင်၊ နှမ်းပင်စသည်တို့၌ ကျရောက်ဖျက်ဆီးလေ့ရှိသော ပိုးတောင်မာများကို၊ ပိုးကျိုင်းကောင်ဟူ၍ရင်း၊ ကျိုင်းကောင်ဟူ၍ရင်း ဒေသအလိုက် ခေါ်တတ်ကြရာ၊ ထိုပိုးတောင်မာတို့သည် ဤနှံကောင်မျိုးဝင်ကျိုင်းကောင်များနှင့် မည်သို့မျှမသက်ဆိုင်ချေ။

ဥရောပ၊ အာရှစသော တိုက်ကြီးတို့တွင် အအေးလွန်သော ဒေသများမှအပ၊ ကျန်အပူပိုင်းနှင့် အပူလျော့ပိုင်း ဒေသများ၌ အဆိုပါ ကျိုင်းကောင်တို့၏ အဖျက်အဆီးဘေးကို ရှေးပဝေဏီကစ၍ အကြိမ်ပေါင်းများစွာ ခံခဲ့ရဘူးသည်။ နှံကောင်တို့သည် အပင်နုမှ အရွက်များကို စားလေ့ရှိကြ၏။ ထိုနှံကောင်တို့သည် တကောင်ချင်း နေလေ့ရှိ၍၊ စားသောက်ရာ၌လည်း နှေးကွေးသဖြင့် အဖျက်အဆီး မသန်လှပေ။

ကျိုင်းကောင်တို့မှာမူ စားသောက်သွားလာပုံ ဖျတ်လတ်လှသည့်အပြင် အုပ်နှင့်ချီ၍ ဖျက်ဆီးတတ်ရကား၊ အသီးအနှံပင်တို့ဖြင့် စိမ်းလန်းစိုပြည်နေသည့် လယ်ယာစိုက်ခင်းကြီးများသည် ကျိုင်းကောင်များ အုပ်လိုက်ကျပြီးနောက်၊ မကြာမီပင် တကွင်းလုံး တခင်းလုံး ပြောင်တလင်း ဖြစ်သွားလေတော့သည်။ ကျိုင်းကောင်တို့ကြောင့် ကမ္ဘာအရပ်ရပ်၌၊ ငွေကုဋေပေါင်းများစွာ တန်ဖိုးရှိသော အသီးအနှံများ ပျက်စီးခဲ့ရပြီ။ မြန်မာနိုင်ငံ၌လည်း ၁၉၁၁ ခုနှစ်က မိတ္ထီလာခရိုင်ရှိ ဝါခင်းဧကပေါင်း ၂၅၀ ခန့်တွင်၊ ကျိုင်းတကြိမ် ကျရောက်ဖျက်ဆီးဘူးသည်။ နောက်ထပ်ကျရောက် ဖျက်ဆီးဘူးသည်ဟူ၍ကား မရှိခဲ့ချေ။

တောင်ပံခတ်သံ တဝီဝီမြည်လျက် အုပ်နှင့်ချီ၍ ပျံသန်းလေ့ရှိသော ကျိုင်းကောင်တို့၏ အရေအတွက်မှာ တခါတရံ နေပြောက် မထိုးနိုင်လောက်အောင်ပင် များပြား တတ်ရာ၊ ၁၈၈၉ ခုနှစ်က ရက်ဒဆီးခေါ် ပင်လယ်နီကို ဖြတ်သန်းသွားသည့် ကျိုင်းကောင်အုပ်ကြီးမှာ စတုရန်းမိုင် ၂၀၀၀ မျှ ကျယ်ဝန်းသည်ဟု ခန့်မှန်းရလေသည်။ ကျိုင်းကောင်တို့သည် အလွန်ဝေးလံသော ခရီးကိုပင် ပျံသန်းနိုင်ရာ၊ ကမ်းခြေမှ မိုင် ၁၂၀၀ မျှ ဝေးသည့်ပင်လယ်ထက်၌ ပျံသန်းနေသော ကျိုင်းကောင်အုပ်များကို တွေ့ခဲ့ရဘူးသည်။ မီးရထားလမ်းနှင့် မော်တော်ကားလမ်းပေါ်တွင် ကျိုင်းကောင်အုပ်ကျသည့်အတွက်၊ မီးရထားနှင့် မော်တော်ကားများ ဘီးချော်ကာ တိမ်းမှောက်ခဲ့ဘူးကြောင်းကိုလည်း သိရသည်။

အသီးအနှံပင်များကို အင်္ဂါစုံ ကျိုင်းကောင်တို့သာလျှင် မဟုတ်၊ ယင်းတို့မှ ပေါက်ပွားလာကြသော အတောင်မပေါက်သေးသည့် ပိုးသားကလေးများကလည်း ကိုက်ဖြတ်စားသောက်ကြသည်။ ကျိုင်းကောင်အမတို့သည် ဥများကို မြေလွှာအတွင်း၌ ၂၀ မှ ၁၀၀ အထိ အစုလိုက် အုလေ့ရှိကြသည်။ နွေးသော ဒေသများတွင် ၁၀ ရက်မှ ရက် ၂၀ အတွင်း၌ ပေါက်သည်။ အေးသော ဒေသများ၌ကား တဆောင်းလုံး မပေါက်ဘဲနေတတ်သည်။ ဆောင်းကုန်သောအခါ ထိုဥများမှ ပိုးတောင်မာကလေးများပေါက်လာကြသည်။ အတောင်မစုံသေးသော ထိုပိုးကောင်ကလေးများသည် တွား၍ဖြစ်စေ၊ ခုန်၍ဖြစ်စေ သွားလာစားသောက်ယင်း အရေများလဲကာ လျင်မြန်စွာ ကြီးပြင်းကြသည်။ အရေ ၅ ကြိမ် ၆ ကြိမ်မျှ လဲပြီးနောက် ရက်သတ္တ



ကျိုင်းကောင်ကိုဘေးမှမြင်ရပုံ

၅ ပတ် ၆ ပတ်ခန့်ကြာသော်၊ အရွယ်ရောက်ကျိုင်းကောင်ကြီးများ ဖြစ်လာကြသည်။

နှံကောင်တွင် ပုံပန်းဓလေ့စသော သဘာဝပြောင်းလဲမှု အခြေအနေ ၂ မျိုးရှိကြောင်း သိရသည်။ တကောင်ချင်း နေလေ့ရှိသော နှံကောင်မျိုးသည် အုပ်နှင့်နေတတ်သော ကျိုင်းကောင်မျိုးတို့ထက် အထက်တွင်ဖော်ပြခဲ့သည့်အတိုင်း ဦးချိုရှည်ကာ၊ စားသောက်သွားလာပုံ နှေးကွေး၏။ ထို့ပြင် ဦးခေါင်းကြီး၍ အတောင်တိုပြီးလျှင် ခြေတံရှည်သည်။

အုပ်လိုက် နေတတ်သော ကျိုင်းကောင် မျိုးတို့သည် နှံကောင်တို့ထက် ဦးချိတို့၍ စားသောက်သွားလာပုံ ဖျတ်လတ်၏။ ပခုံးကျယ်၍ အတောင်များ ရှည်လျားပြန့်ကားသည်။ နှံကောင်နှင့် ကျိုင်းကောင်တို့၏ သားကလေးများ အချင်းချင်းတွင်လည်း အရောင်အဆင်း အလေ့အထ စသည်များ ခြားနားကြ၏။ သို့ရာတွင် တကောင်ချင်း နေလေ့ရှိသော နှံကောင်တို့၏ သားကလေးများကို အမြဲလှုပ်ရှားပေးထားသော လှောင်ချိုင့်ဖြင့် မွေးလျှင် အုပ်နှင့် နေတတ်သော ကျိုင်းကောင်အခြေအနေသို့ ပြောင်းလဲသွားသည်။ ထိုအတူ ကျိုင်းကောင်တို့၏ သားကလေးများကိုလည်း တကောင်ချင်း ကြီးပြင်းစေလျှင် သာမန် နှံကောင် အခြေအနေသို့ ပြောင်းလဲသွားသည်။

ကျိုင်းကောင်များကို ကျရောက်လာမှ တိုက်ခိုက်နှိမ်နင်းခြင်းသည် အချည်းနှီးဖြစ်၏။ မပေါက်ပွားမီနှင့် ကြီးပြင်းဆဲအချိန်တွင် ကြိုတင်သုတ်သင်ပစ်ခြင်းဖြင့်သာလျှင် ယင်းတို့၏ ဘေးအန္တရာယ်ကို ကာကွယ်နိုင်သည်။ ယခင်က အချို့ အရပ်ဒေသတို့တွင် ကျိုင်းကောင်များ လာမည့်လမ်း၌ ကျင်းနက်နက် တူးထားပြီးနောက်၊ ကျင်းထဲကျသော ကျိုင်းကောင်များကို မြေဖို့ပစ်နည်း သို့မဟုတ် မီးရှို့ပစ်နည်းတို့ဖြင့် နှိမ်နင်းဘူးသည်။ သို့သော် ထိုနည်းသည် တရွေ့ရွေ့တွားကာခုန်ကာ လာကြသော ပိုးသားကလေးများကိုသာ နှိမ်နင်းနိုင်၍၊ ပျံသန်းနိုင်သောကျိုင်းကောင်ကြီးများကိုကား မနှိမ်နင်းနိုင်ချေ။ ယခုခေတ်တွင်မူ ကျိုင်းကောင်များ ဥချပြီးချိန်၌ မြေကို နာနာထွန်ပေးခြင်းဖြင့် ထိုဥများကို ဖျက်ဆီးပစ်ကြသည်။ ကျိုင်းကောင်ကလေးများ ပေါက်ပွားချိန်၌ ဒလိမ့်လိမ့်၍လည်း ဖျက်ဆီးပစ်ကြသည်။ ဟော့ပါးဒိုဇာခေါ် စက်ဖြင့်လည်း နှိမ်နင်းကြ၏။ ထိုစက်တွင် ဘီး ၂ ဘီး၏ အလယ်၌ သေတ္တာရှည်တခုပါ၍ သေတ္တာအောက်နား၌ ဆီခွက်တခုထားသည်။ သေတ္တာနောက်ဖက်၌ အနံကြီးကြီး ရွက်ထည်တခုကို ဖြန့်၍ တပ်ဆင်ထားသည်။ လယ်ကွင်းအတွင်းသို့ အဆိုပါ ဟော့ပါးဒိုဇာကို မောင်းနှင်သောအခါ ကျိုင်းကောင်ကလေးများသည် လန့်ဖျပ်၍ ခုန်ကြရာမှ ရွက်ထည်ကို ရိုက်မိပြီးလျှင် သေတ္တာအောက်ခြေရှိ ဆီခွက်ထဲသို့ ကျရောက်ကာ သေကြလေသည်။ အခြားနည်းကောင်းတခုမှာ စိန်ပါသော အဆိပ်ဆေးမှုန့် ဆေးရည်များကို စိုက်ခင်းအတွင်း ပက်ဖျန်းပေးခြင်းဖြစ်၏။ စိုက်ခင်း ကျယ်လွန်းပါက တခါတရံ လေယာဉ်ပျံများဖြင့်ပင် ပက်ဖျန်းပေးကြရသည်။

ကျိုင်းကောင်များကို အစတုံး မျိုးပြုတ်အောင် ဖျက်ဆီးပစ်ရန်မှာ ယနေ့အထိ မဖြစ်နိုင်သေးပေ။ သို့သော် နိုင်ငံကြီးများတွင်ကျိုင်းကောင်နှိမ်နင်းရေးအတွက် အပြည်ပြည်ဆိုင်ရာ ညီလာခံများ ကျင်းပပြီးနောက်၊ ကျိုင်းကောင်များ ပေါက်ပွားရာဒေသ၌ဖြစ်စေ၊ ကျိုင်းကောင်များကျသည့် စိုက်ခင်းများ၌ဖြစ်စေ အထက်ပါအတိုင်း စံနစ်တကျ လေ့လာနှိမ်နင်းခဲ့သည့်အတွက် ၁၉၄၀ ပြည့်နှစ် အလွန်မှစ၍ ကမ္ဘာ့အရပ်ရပ်၌ ကျိုင်းကောင်တို့ကြောင့် ပြောပလောက်အောင် အပျက်အစီးများ မဖြစ်ပွားခဲ့သေးပေ။

**ကျိုင်းတုံ။** ။ကျိုင်းတုံနယ်သည် စတုရန်းမိုင်ပေါင်း ၁၂,၃၀၀ ခန့်ကျယ်ဝန်း၍ တောင်ထူထပ်ပေါများသည်။



ရှမ်းပြည်နယ်အရှေ့ပိုင်းတွင်အကြီးဆုံးမြို့ဖြစ်သည့်ကျိုင်းတုံမြို့၏ရှုမျှော်ခင်းတရပ်

တောင်များအနက် အချို့မှာ ပေ ၅၀၀၀ မှ ၇၀၀၀ အထိမြင့်ကြသည်။ မြေပြန့်ဒေသများတွင် လယ်စပါးကို စိုက်ပျိုး၍ တောင်တန်းဒေသများတွင်မူ ယာစပါးနှင့် ဘိန်းများစိုက်ပျိုးကြသည်။ ကျိုင်းတုံတနယ်လုံးတွင် ဂုံ၊ ဂေါ့၊ လဟူ၊ လီရှော၊ ရှမ်း၊ ကွီ၊ အင်းသား၊ ရှမ်းတရုပ်၊ မြန်မာအစရှိသောလူမျိုးပေါင်း ၄၀ ကျော် မှီတင်းနေထိုင်ကြသည်။ ၁၉၅၂ ခုနှစ် သန်ကောင်စာရင်းအရ နယ်အတွင်းအိမ်ခြေပေါင်း ၄၅,၄၉၂ အိမ်ရှိ၍ လူဦးရေ ၂၆၇,၇၃၆ ယောက်ရှိသည်။ အရွယ်ရောက်လူလားမြောက်ပြီးသော ယောကျ်ားတိုင်း မိမိတို့မိရိုးဖလာ ရှမ်းဘာသာစကားနှင့် စာပေအပြင် ယိုးဒယားဘာသာစာပေ ဂုံ ဘာသာစာပေတို့ကို တတ်ကျွမ်းနားလည်ကြသည်။

စစ်အတွင်း ဂျပန်များ အုပ်စိုးသည့်ခေတ်၌ ကျိုင်းတုံနယ်သည် မိုင်းပန်နယ်နှင့် အတူ ယိုးဒယားနိုင်ငံ အတွင်းသို့ သွတ်သွင်းခြင်းခံရသည်။ သို့သော် မဟာမိတ်များပြန်ဝင်လာ၍ စစ်အုပ်ချုပ်ရေးခေတ်၌ ရှမ်း ပြည်နယ်အုပ်ချုပ်ရေးထဲသို့ပြန်လည် ရောက် ရှိလာသည်။ ယခုအခါရှမ်း ပြည်နယ်အစိုးရက ရှမ်း ပြည်နယ်တောင်ပိုင်း၊ ရှမ်း ပြည်နယ်မြောက်ပိုင်း၊ ရှမ်းပြည်နယ်အရှေ့ပိုင်းဟူ၍ ၃ ပိုင်း ပိုင်းခြားသတ်မှတ်လိုက်သဖြင့် ကျိုင်းတုံနယ်သည် ရှမ်းပြည်နယ်အရှေ့ပိုင်းတွင် ပါဝင်သောနယ်ကြီးတနယ်ဖြစ်လာသည်။

ကျိုင်းတုံမြို့ကား ရှမ်းပြည်နယ်အရှေ့ပိုင်းတွင် အကြီးဆုံးမြို့ဖြစ်သည်သာမက ရှမ်းပြည်နယ်နှင့် တရုပ်နိုင်ငံ၊ ရှမ်းပြည်နယ်နှင့် ယိုးဒယားနိုင်ငံ၊ ရှမ်းပြည်နယ်နှင့်အင်ဒိုချိုင်းနားပြည် တို့ကို ကူး သန်း သွား လာနိုင် သော ပြည် ထောင်စု မြန်မာနိုင်ငံတော်ကြီး၏ အရှေ့ပိုင်းတံခါးပေါက်လည်းဖြစ်ပေသည်။ ကျိုင်းတုံမြို့ကို ခေမာရဋ္ဌတုံကပူရီဟုခေါ်၍ ဘယ်ား ဂါဟပ် ဘုရင်လက်ထက်ကစပြီး ထင်ပေါ် ကျော်ကြားလာခဲ့သည်ဟု ရှေးဟောင်းသမိုင်းများတွင် ဖော်ပြပါရှိသည်။

ကျိုင်းတုံ ဟူသော အမည်နာမ ဖြစ်ပေါ် လာပုံမှာ စိတ်ဝင်စားဖွယ်ရာကောင်း၏။ ဗုဒ္ဓမြတ်စွာဘုရားလက်ထက်တော်အခါက ယခုကျိုင်းတုံမြို့တည်နေရာ၌ ဆွမ်းဆန်ဆေးရာမှ စီးဆင်းသောရေသည် ကန်တခုဖြစ်လာ၏။ ထိုကန်ကို နောင်တုံးဟုခေါ် ကြ၏။ ရှမ်းဘာသာအားဖြင့် နောင်မှာ အင်း၊ တုံးမှာခံယူသည်ဟု အဓိပ္ပါယ်ရ၏။ နောင်ကာလရွေ့လျောသဖြင့် နောင်တုံးသည် နောင်တုံဖြစ်လာသည်။ ထိုမှတဆင့် ကျိုင်းတုံဟူသော အမည်နာမ ဖြစ်တည်လာလေသည်။ ကျိုင်းတုံမြို့၌ လူဦးရေ ၁၂,၀၀၀ ခန့်ရှိ၍ ကျိုင်းတုံ စော်ဘွား ရုံးစိုက်ရာမြို့ဖြစ်သည်။ ယခုလက်ရှိစော်ဘွားမှာ စဝ်စိုင်းလုံဖြစ်သည်။ မြို့သည် ဇင်းမယ်သွားလမ်းပေါ် တွင်တည်ရှိ၍ လွယ်လင်မြို့မှ ၂၂၆ မိုင်ကွာဝေးသည်။ မြို့နှင့် ၈ မိုင်ကွာနေရာ၌ လေယာဉ်ပျံကွင်းသစ်ကြီးရှိသည်။

ပြည်တော်သာညီလာခံကို ကျိုင်းတုံမြို့၌ ၁၉၅၂ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်နေ့တွင်အောင်မြင်စွာကျင်းပခဲ့သည်။ ကျိုင်း တုံမြို့ အုပ် ချုပ် ရေး မှာ နယ် အုပ် ချုပ် ရေး နှင့် တပူးတပေါင်းတည်း ဖြစ်သည်။ ရှမ်း ပြည်နယ်အရှေ့ပိုင်း ဆိုင်ရာ နယ် ခြား ဝန် သည် လွယ် မွေ့တွင် ရုံး စိုက် ၍ နယ် ခြားဝန် ထောက်၏အကူအညီဖြင့်ကျိုင်းတုံမြို့သို့ရံဖန်ရံခါလာရောက်ကြည့်ရှုစစ်ဆေးလေ့ရှိသည်။ ကာကွယ်ရေးအတွက် ပြည်ထောင်စုအစိုးရက ကြည်းတပ် တပ်ရင်း တခု နှင့် စစ် ရဲ များ ထား ရှိ စောင့် ရှောက် ပေး သည်။ ကျိုင်းတုံမြို့ရှိ အကျဉ်းထောင်သည် ရှမ်းပြည်နယ်တခုလုံးတွင် အကြီးဆုံးအကျဉ်းထောင်ဖြစ်သည်။

မြို့ပေါ် ၌ ထင်ရှားသောအဆောက်အအုံများမှာ အထက်တန်း ကျောင်း၊ ဗရင်ဂျီသာသနာပြုများ၏ စိန်လူး ဝစ် အလယ်တန်း ကျောင်း၊ အ မေရိကန် ဗက် ပတစ် စာသင် ကျောင်း၊ တရုပ်ဘုံကျောင်းနှင့် ဗုဒ္ဓအယူဝါဒီများဖြစ်ကြသော ဂုံလူမျိုးနှင့် မြန်မာလူမျိုးတို့ ကိုးကွယ်ဆည်းကပ်သော ဘုန်းတော်ကြီးကျောင်းများဖြစ်ပေသည်။ ထိုပြင် ကျိုင်းတုံဆေးရုံကြီးမှာလည်း ကျိုင်းတုံနယ်တွင် အကြီးဆုံးဆေးရုံကြီးဖြစ်သည်။

ကျော်စောသော စေတီပုထိုးတို့မှာ ကျိုင်းတုံမြို့လယ်၌ တည်ရှိသည့် ရခိုင်ဘုရား ကြီး ဟူ၍ လည်း ခေါ် သော မဟာမြတ် မုနိဘုရား ကြီး ဖြစ် ၍ စဝ် ဖကွန် ကျော က် လက် ထက် တွင် တည် ထား ကိုးကွယ်ခဲ့လေသ ည်။ ထို စေတီ အပြင် စွန် စလီ၊ စွန် တောင် နှင့် စွန် လွဲ စေ တီများ လည်း ရှိသေးသည်။ ယင်းတို့အနက် စွန်လွဲစေတီတော်ကြီး၏ ထူးခြားချက်တရပ်ကား ကျိုင်းတုံးနယ်ကိုအုပ်ချုပ်သော မည်သည့်စော်ဘွားမျှ ထိုစေတီတော်ကို သွားရောက်ဖူးမြော်ခြင်း မပြုကြပေ။ အကြောင်းသော်ကား စေတီတော်ကိုတည်ခဲ့သူများဖြစ်ကြသည့် ၀ ဇနီးမောင်နှံတို့သည် သူတို့အား စေတီတည်ရန်တားမြစ်သောမင်းကို စိတ်နာသဖြင့် ကြောက်မက်ဖွယ် ကျိန် စာ ဆို ထား ခြင်းကြောင့်ပေတည်း။ ကျိန်ဆိုပုံမှာ ကျိုင်းတုံနယ်အတွင်း တိုင်းပြည်အုပ်ချုပ်မင်းလုပ်သော ဘုရင်အဆက်ဆက်သည် မိမိတို့ ၀ မောင်နှံ တည်ထားသောဘုရားကို ကိုးကွယ်လျှင် မူးဝေခြင်း၊ လေသင်တုန်းဖြတ်ခြင်း ရောဂါနှင့် သေပါစေ၊ အန္တရာယ်ရောက်ပါစေ ဟူ၍တည်း။

**ကျည်းကန်ရှင်ကြီး။** ။ကုန်းဘောင်ခေတ်တွင် ထင်ရှားသော ကျမ်းပြုစာဆိုတဦးကား ကျည်းကန်ရှင်ကြီးဖြစ်၏။ ပခုက္ကူခရိုင်၊ မြိုင်မြို့နယ် လက်တောဆယ်ရွာ အဝင်အပါ ကျည်းကန်ရွာတွင် သက္ကရာဇ် ၁၁၃၈ ခုနှစ်တွင်ဖွားမြင်၏။ စနေသား ဖြစ် သည်။ ငယ်မည်မှာ မောင်နေ ဖြစ်၍ ရှင်ဘွဲ

နန္ဒဇ ဖြစ်သော်လည်း၊ ကိုရင်ကြီးအဖြစ် စာပေကျမ်းဂန်များကို ပြုစုခဲ့သောကြောင့် မြန်မာစာပေ ဂန္ထဝင်တွင် 'ကျည်းကန်ရှင်ကြီး' ဟုယနေ့တိုင် ထင်ရှားသည်။ ကျည်းကန်ရှင်ကြီးမှာ ညောင်ရမ်းဆယ်ဆက် အင်းဝပျက်တွင် တောင်ငူပြည်ကြီးကို အစိုးရသော ရေမြေသခင် ရွှေနန်းရှင့် အဆောင်မြဲမင်း၏ မြစ်ဖြစ်သည်။

ငယ်စဉ်ကပင် စာပေကျမ်းဂန်များကိုဆည်းပူး၍ ဧစဥ္စကူးမင်းနှင့် ဘိုးတော်ဘုရား လက်ထက်တော်တို့တွင် လွှတ်တော်ရုံးတော်များ၌ လှည့်လည်ဝင်ထွက်၍ လွှတ်ရုံးကိစ္စများကို ရှာဖွေစူးစမ်းသည်။ မြန်မာနိုင်ငံ အောက်မြို့ကျေးရွာများသို့လည်း လှည့်လည်၍ ဂန္ထန္တရ ဗဟုသုတ၊ ဒေသန္တရ ဗဟုသုတတို့ကိုဆည်းပူးလေသေးသည်။ အသက် ၃၀ ကျော်သောအခါ လူ့ဘောင်ကို ငြီးငွေ့၍ ရှင်သာမဏေပြုကာ ဇာတိကျည်းကန်ရွာ ဘုံသာထွန်းကျောင်း၌ပင် စာပေပို့ချနေလေသည်။ ထိုနောက်မှ ဘိုးတော်ဘုရား၏ ပင့်ဆောင်ချက်အရ အမရပူရ နေပြည်တော်သို့ လာရောက်၍ မောင်းထောင်သာသနာပိုင်ထံတွင် ဆည်းကပ်မြဲခဲ့လေသည်။

ကျည်းကန်ရှင်ကြီးသည် စာပေကျမ်းဂန်တွင် နှံ့စပ်သည်ဖြစ်၍ မုံရွေးဆရာတော်မေးသည့် ခက်ခဲနက်နဲသောပြဿနာ ၅၅ ချက်ကို ဖြေဆိုရာ 'မုံရွေးအမေး ကျည်းကန်အဖြေ' ဟုထင်ရှားသည်။ ခေတ်ကြေးမုံဟု ခေါ်အပ်သောအရပ်ရပ် မေတ္တာစာများ၊ မဃာရန္တ ဗေဒင်တွက်ရိုးလင်္ကာ၊ သတ္တောဝါဒီ ဆယ်လွှန်းတင်ဂါထာကျမ်းတို့ကို ရေးသားစီကုံးသည်။ ထိုပြင် 'သာကီဝင်နွယ်၊ စေဘုန်းကြွယ်၊ မင်းဘယ်မျှတွင် ပွင့်သနည်း' အစချီသည့် အမေးပုစ္ဆာပေါင်း ၁၁၁၅ ပုဒ်ပါရှိသော စွယ်စုံကျော်ထင်ကျမ်းကြီးကို သက္ကရာဇ် ၁၁၅၇ ခုနှစ်တွင် ပြုစုသည်။

'သတ်ပုံလည်းပါ၊ ပုစ္ဆာလည်းရ၊ သိပ္ပကုံလုံ၊ နှစ်ချက်ဆုံသောကြောင့်၊ စွယ်စုံကျော်ထင် အမည်ရှိသောကျမ်း' ကား ကာရန်သတ်ပုံ၊ သံတူကြောင်းကွဲ သတ်ပုံတို့ဖြင့် တန်ဆာဆင်၍ အထူးထူးသော လောကီလောကုတ္တရာ နှစ်ဖြာသောဗဟုသုတတို့ဖြင့် ပြည့်ဝလှ၏။ ပမာဆိုသော် ရှေးမြန်မာဘုရင်တို့ ရာဇဘိသေက ခံတော်မူ၍ နန်းသိမ်းသောအခါ စားတော်ခွံ့ရပုံကို 'ရွှေနန်းသိမ်းအံ့၊ စားတော်ခွံ့၊ နှုးညံ့ဆုပ်ပေါင်း ဘယ်မျှနည်း' ဟုသောအမေးပုစ္ဆာဖြင့် မေးထားသည်ကို၊ ကျီးသဲဆရာတော်က 'ရတနာသုံးပါးကိုရည်၍သုံးဆုပ်၊ မိခင်ဘခင်၊ အဘိုးအဘွားကိုရည်၍ လေးဆုပ်၊ ကိုယ်စောင့်နတ် တကျိပ်ကိုရည်၍ ဆယ်ဆုပ်အားဖြင့် တဆဲ့ခုနစ်ဆုပ် စားရာသည်' ဟုအဘိသေကကျမ်းအရ ဖြေဆိုထား၏။ ထိုသို့ ပိဋကတ်၊ ဗေဒင်၊ လောက၊ ဓမ္မ၊ ရာဇ အားဖြင့် အဖက်ဖက်တွင် ဗဟုသုတ ပွားစေမည့်ပုစ္ဆာများ ပါဝင်လေသည်။ ထို့ကြောင့်လည်း စွယ်စုံကျော်ထင်ကျမ်းကို ဖြေဆိုတော်မူသော ကျီးသဲဆရာတော်က ကျမ်း၏ပဏာမတွင် 'ဤကျမ်းသည် အထူးထူးသော အနက်အဓိပ္ပါယ်ကို ဆောင်၏။ နက်နဲကျယ်ဝန်း၏။ ပညာရှာသူတို့၏ စီးပွားကို ဆောင်၏။' ဟုထောမနာခဲ့လေသည်။ ထိုပြင် စွယ်စုံကျော်ထင်ကျမ်းကို ပြုစုခဲ့သော ကျည်းကန်ရှင်ကြီးအား အဖြေကျမ်းကို စီရင်သော ကျီးသဲဆရာတော်ကပင် 'ကျည်းကန်ရှင်ကြီးသည်၊ ပိဋကတ်ဗေဒင် အရပ်ရပ်ကိုနှံ့စပ်၏။ လောက၊ ဓမ္မ၊ ရာဇ အရေးသုံးပါး၌ကျမ်းကျင်၏။ ဥာဏ်လည်း ထက်မြက်နက်နဲသည်။ ရယ်ရွှင်နှစ်သက်စရာတို့ကိုလည်း တီထွင်ရေးတတ်သေးသည်။ အဖက်ဖက်က ပြည့်စုံရကား လူအားလုံး၏ မှီတင်းရာ ပညာသူဌေးကြီးဖြစ်၏။' ဟုဂုဏ်ပြုချီးကျူးတော်မူလေသည်။



ကျည်းပင်၏အရွက်နှင့်ညွှာတံ

**ကျည်းပင်**။ ။ကျည်းပင်သည် တွဲလျားကျနေသော ညွှာတံရှည်တွင် ပွင့်လေ့သီးလေ့ရှိသော အပင်မျိုးဖြစ်သည်။ အမြဲစိမ်းသစ်ပင် ပင်လတ်မျိုးဖြစ်၍ အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ မလ္လာယုကျွန်းဆွယ်နှင့် သြစတြေးလီးယားတိုက်မြောက်ပိုင်းတို့တွင် ပေါက်သည်။ မြန်မာနိုင်ငံတွင် စိုထိုင်းသော စိမ့်မြေအရပ်များ၌ ပေါက်ကြသည်။ ကျည်းပင်ကို ကျည်းနီပင် ဟူ၍လည်း အချို့ကခေါ်ကြသည်။

သစ်ပင်၏အမြင့်မှာ ပေ ၄၀ အထိ ရှိတတ်၍ ပင်စည်ရင်း အနီးမှ ကောက်ကွေးသော အကိုင်းအခက်များ ထိုးထွက် တတ်သည်။ အခေါက်မှာ ကြမ်း၍ ညိုမည်းမည်း အရောင် ရှိသည်။ အရွက်မှာ လုံးသွားပုံရှိ၍ နွေဦးတုတွင် သေးသွယ် ရှည်လျားသော ပန်းပွားသဏ္ဍာန် ပန်းရောင်အပွင့်များ ပွင့် ကြသည်။ အသီးမှာ အစိမ်းရောင်လေးထောင့်ပုံ ၁ လက်မ ခန့် ရှည်၍ အသီးတခု၌ အစေ့တစေ့စီသာ ပါရှိသည်။

ကျည်းပင်သည် အစေ့မှပေါက်သော အပင်မျိုးဖြစ်သည်။ အထူးသဖြင့် ရေလွှမ်းသောဒေသများ၌ ပေါက်တတ်သည်။

ကျည်းသားမှာ ပျော့၍ အရောင်ဖြူသည်။ အရောင် တောက်လျှက် သစ်ကြော ညီညာသောကြောင့် ကျည်း သားကို စားပွဲ၊ ဘီရိုစသည်တို့ လုပ်ရာ၌ အသုံးပြုကြသည်။ လှေ၊ လှည်း၊ ရေတွင်းကျည်းခွေနှင့် ကျည်ပွေ့များလုပ်ရ၏။

ကျည်းပင်မှာ အကြီးအသေး ၂ မျိုးရှိသည်။ ထို ၂ မျိုး စလုံးကို အများအားဖြင့် တနင်္သာရီတိုင်း၌ တွေ့ရသည်။

ကျည်းပင်၏အမြစ်ကို ဝမ်းနုတ်ဆေးတွင်၎င်း၊ အစေ့ကို မျက်စိနာဆေးတွင်၎င်း၊ အရွက်ကို ဝမ်းကျပျောက်ဆေး တွင်၎င်းသုံး၍ အခေါက်ကိုမူ သားရေနယ်ရာ၌သုံးကြသည်။

**ကျည်းလံပင်။** ။ကျည်းလံပင်ကို မြန်မာနိုင်ငံတွင် မဲဇာ မြစ်ဝှမ်း၌ တွေ့ရသည်။ ဤအပင်သည် အလွန်ကြီးမား သော တောသစ်ပင်ကြီးမျိုးဖြစ်၍၊ အမြင့်ပေ ၁၀၀ အထိ ပင်စည်လုံးပတ် ၁၀ ပေမှ ၁၂ ပေအထိ ရှိတတ်သည်။ အဖျားပိုင်း၌သာ အကိုင်းအခက်များ ထိုးထွက်လျက်ရှိ သဖြင့် ပင်စည်လုံးသည် အကိုင်းအခက်ကင်း၍ ရှည်လျား မြင့်စောက်သည်။

ကျည်းလံသားသည် ပျော့၍ အရောင်မှာ ညိုဖျော့ဖျော့ ဖြစ်သည်။ အာသံပြည်၌ ကျည်းလံသားကို တန်တား၊ အိမ် ထောင်ပရိဘောဂ၊ လှေနှင့်လှေတက်များ လုပ်ရန်အသုံး ပြုကြသည်။

ရန်ကုန်မြို့တွင် မလ္လာယုကျွန်းဆွယ်မှ လာသော သစ် သားတမျိုးဖြင့် သမ္ဗန်များကို ဆောက်လုပ်လေ့ရှိကြသည်။ ယခုအခါထိုမလ္လာယုကျွန်းဆွယ်မှလာသော သစ်သားအစား ပြည်တွင်းထွက် ကျည်းလံသားဖြင့် သမ္ဗန် စမ်းသပ်ဆောက် လုပ်ကြည့်ရာ ထမြောက်အောင်မြင်သည်ကို တွေ့ရသည်။ သို့သော် ထိုသစ်သားကို ပေါက်ရောက်ရာသစ်တောမှ အလို ရှိသလောက် လွယ်ကူစွာ ထုတ်ယူသယ်ပို့ရန် ဖြစ်နိုင်မည် မဖြစ်နိုင်မည်ကို သေချာစွာ မပြောနိုင်ချေ။

**ကျည်းဦးပေါင်း။** ။မြန်မာဘုရင်များ၏ မကိုဋ်နှင့် အနောက်တိုင်းဘုရင်များ၏ သရဖူကဲ့သို့ ဆင်မြန်းရသော ကျည်းဦးပေါင်းသည် ရှေးအခါက ကျည်းကုလားများ ဦးခေါင်းတွင်ဆင်မြန်းသည့် ပေါင်းထုပ်ဖြစ်သည်။ ကျည်းဦး ပေါင်းကိုလှပစွာ အဆန်းတကြယ် ပြုလုပ်ထားလေ့ရှိ၍ အဖိုးများစွာ ထိုက်တန်လှလေသည်။

ရှေးရခိုင်မင်းများသည် ထိုကျည်းဦးပေါင်းများကို ဆင် မြန်းခဲ့ကြောင်း မြန်မာရာဇဝင်များတွင်တွေ့ရသည်။ အင်းဝ ခေတ်တွင် ဘုရင်မင်းကြီးစွာစော်ကဲ ထံသို့ ရခိုင်ဘုရင် စောမွန်ကြီးက ရွှေတိုက်တော်အတွင်းမှရရှိသော ကျည်းဦး ပေါင်းတခုကို လက်ဆောင်အဖြစ် ဆက်သလေသည်။ ထို ကျည်းဦးပေါင်းကို ရခိုင်ဘုရင် နန်းကျကြီး နန်းကျငယ်တို့ ဆင်မြန်းခဲ့ဘူးသည်။ မင်းကြီးစွာစော်ကဲလည်း အမတ်ကြီး စည်းတပစ်၏ 'ရေမြေသခင် ဖြစ်တော်မူသော ဇကရာဇ်မင်း တို့သည်၊ ဦးတော်ဆံတော် တင်အံ့သော ဝတ်စားတန်ဆာ တို့ကို မစုံစမ်း မဆင်ခြင်ဘဲ အလျင်တဆော တင်တော်မမူ သင့်' ဟုသတိပေးလျှောက်တင်ချက်အရ ကျည်းဦးပေါင်းကို ဆင်မြန်းခြင်းမပြုဘဲ သိမ်းဆည်းထားတော်မူသည်။ ကျည်း ဦးပေါင်းမှာ နန်းတော်တွင်းတွင် သင်ဖြူးများဖိရာ လန်ဘိ ကျောက် ကြာမှုံနှင့် သဏ္ဍာန်တူသည်ဟူ၍ ရွှေဘုံနိဒါန်း တွင်လာသည်။

နန်းတော်တွင်း နေရာသင်ဖြူးတွင် ဖိထားသော လန်ဘိ



ကြိတ်ပင်၏ပင်စည်နှင့်အပွင့်အသီးများ

ကျောက်ကြာမုံမှာ ကျည်းဦးပေါင်းပုံ ဖြစ်သည်ဟူ၍ရင်း၊ မင်းကြီးစွာစော်ကဲသည် 'ရခိုင်နံ ရခိုင်မင်းတို့ အညွန့် အသားကို နှိမ်လို၍၊ ရခိုင်မင်းဦးပေါင်းနှင့်တူစွာ ကျောက်ကိုထုလုပ်ပြီးလျှင်၊ နန်းတော်တွင်ခင်းသည့် သင်ဖြူးများမှာ အနားလန်သည်ကို လမ်းသွားသာအောင် ဘိထားသည်ဖြစ်၍ လန်ဘိကျောက် ခေါ်သည်။' ဟူ၍ရင်း ရွှေဘုံနိဒါန်းတွင် ဖေါ်ပြထားသည်။ ယင်းကိုထောက်၍ ကျည်းဦးပေါင်းမှာ ရခိုင်မင်း၏ ဦးပေါင်းဖြစ်၍ လန်ဘိကျောက်ကြာမုံ သဏ္ဌာန်ရှိကြောင်း သိသာသည်။

**ကျိတ်ပင်။**　　။ကျိတ်ပင်သည် မြက်ပင်ကြီးတမျိုးဖြစ်၍၊ စိမ့်မြေများ၌ ဖြစ်ထွန်းလေ့ရှိသည်။

တခါတရံ ၆ ပေမှ ၈ ပေအထိမြင့်၍၊ အရွက်များ အောက်သို့ငိုက်ကျနေသည်။ ပင်စည်အထက်ပိုင်းမှ အပွင့်နှင့်အသီးများ အခိုင်လိုက်ထွက်သည်။ ဖြူပြာပြာအရောင်ရှိသော အစေ့များမှာ မာကျောလှပကာ၊ ယင်းတို့ကို ပုတီးသီကုံး၍ သော်၎င်း၊ လွယ်အိတ်စသည်တို့တွင် တန်ဆာဆင်၍သော်၎င်း၊ အသုံးပြုကြသည်။ တရုပ်လူမျိုးတို့ကမူ ကျိတ်စေ့ကို ဆေးဖက်ဝင်သည်ဟုဆိုကာ၊ ကျိတ်ပင်ကို စိုက်ပျိုးသည်။

# မြန်မာနိုင်ငံတော်ကို ဦးစွာစည်းလုံးပေးခဲ့သောမင်း

**ပုဂံခေတ်တွင် အနော်ရထာမင်းသည် ပုဂံကျောက်ဆည်တဝိုက်အနေမှ ယခုပြည်ထောင်စုမြန်မာနိုင်ငံတော် အနေနီးပါးအထိ ကျယ်ဝန်းလာအောင် နိုင်ငံသစ်ကိုတည်တော်မူခဲ့သည်မှန်သော်လည်း ထိုမင်းနတ်ရွာစံတော်မူပြီးနောက် ထိုနိုင်ငံသစ်ကိုတည်တံ့ခိုင်မြဲအောင် ဆက်လက်ဆောင်ရွက်နိုင်သူ မပေါ်ပေါက်ခဲ့သော် မြန်မာနိုင်ငံသည် အဘယ်သို့ဖြစ်အံ့နည်း။ ကျွန်ုပ်တို့ မတွေးဝံ့အောင်ဖြစ်ရလေသည်။ သို့ရာတွင် နိုင်ငံသစ်ကိုရိုသေလေးစား၍ တည်တံ့ခိုင်မြဲအောင် ဆက်လက်ဆောင်ရွက်နိုင်သောမင်းတပါး ပေါ်ပေါက်ခဲ့ပေသည်။ ထိုမင်းကားအခြားမဟုတ်။ ကျန်စစ်သားမင်းပေတည်း။**

**ကျန်စစ်သားမင်း။**　　။ကျန်စစ်သားမင်း အကြောင်းကို ဦးကုလား၏ မဟာရာဇဝင်၊ မှန်နန်းမဟာရာဇဝင်တော်ကြီး စသောရာဇဝင် များမှသာမက၊ ယခုအခါတွင် ကမ္ပည်းကျောက်စာများ မှလည်း သိခွင့်ရလာပြီ ဖြစ်လေသည်။ အထူးသဖြင့် ထိုမင်းနှင့်စပ်လျဉ်း၍ ရာဇဝင်များ၌ မပါရှိသေးသော အချက်အလက်များကို ထိုမင်းလက်ထက်တွင် မွန်ဘာသာဖြင့်ရေးထိုးခဲ့သောကျောက်စာများမှရင်း၊အချို့အချို့သော မြန်မာဘာသာဖြင့်ရေးထိုးခဲ့သော ကျောက်စာများမှရင်း၊ သိလာနိုင်ကြပြီ ဖြစ်လေသည်။ ဒေါက်တာဗလက်ဂဒင်သည် ကျန်စစ်သားမင်းကြီးလက်ထက် ရေးထိုးခဲ့သော မွန်ကျောက်စာများကိုလေ့လာ၍ အနက်အဓိပ္ပါယ်ဖွင့်ဆိုခဲ့လေသည်။ ကျောက်စာဝန်များ ဖြစ်ခဲ့ကြသော မစ္စတာတော်စိန်ခို၊ ပါမောက္ခ ဒူရွာဇဲနှင့် ဦးမြတို့သည်လည်း ကျန်စစ်သားမင်း အကြောင်းနှင့်စပ်လျဉ်း၍ လေ့လာချက်များ ရေးခဲ့လေသည်။ ထိုပြင် ရန်ကုန်တက္ကသိုလ် ရှေးခေတ်မြန်မာနိုင်ငံသမိုင်း နှင့် အာရှအရှေ့ဖျား သမိုင်းဆိုင်ရာပါမောက္ခ၊ မြန်မာနိုင်ငံသုတေသနအသင်း ရွှေတံဆိပ်ရဂျီ၊အိပ်၊ လု (စ) သည်လည်း ထိုမင်းအကြောင်းနှင့်စပ်လျဉ်းသော မိမိ၏လေ့လာချက်များကို 'ရှေးခေတ်မြန်မာနိုင်ငံ' ဟူသော သမိုင်းကျမ်း၌ တင်ပြခဲ့ပြီး ဖြစ်လေသည်။ ထိုကြောင့် အောက်ပါကျန်စစ်သားမင်း အကြောင်းသည် မြန်မာရာဇဝင်များအရရင်း၊ ဆိုခဲ့သောကမ္ပည်းကျောက်စာ သုတေသီပုဂ္ဂိုလ်တို့၏ လေ့လာချက်များအရရင်း၊ ညှိနှိုင်းလေ့လာထားသောအကြောင်း အကျဉ်းမျှသာဖြစ်ပေသည်။

## ဘွဲ့နှင့်အမည်များ

ကျန်စစ်သားမင်းအား ကျောက်စာများ၌ ဇြိတြိဘုဝနာဒိတျဓမ္မရာဇဟုရင်း၊ ထိလိုင်မင်းဟုရင်း၊ ထိလိုင်သျှင်ဟုရင်း၊ ကလန်စစ်သားဟုရင်း ခေါ်လေသည်။ ဤဘွဲ့ နှင့် အမည်များကို ရာဇဝင်များ၌လည်း တွေ့နိုင်လေသည်။ ထီးလှိုင်သျှင်ဟုခေါ်တွင်ခြင်းမှာ ကျန်စစ်သားသည် ပုဂံပြည်၌ မင်းမဖြစ်မီ ထီးလှိုင် (ယခုမိတ္ထိလာခရိုင်၊ ထီးလှိုင်ရွာ) အရပ်ကို အုပ်ချုပ်ခဲ့ဘူးသောကြောင့်ဖြစ်သည်ဟု ယူဆကြလေသည်။

ရာဇဝင်များ၌ရင်း၊ လှည်းထောက် ကျောက်စာ၌ရင်း၊ ကျန်စစ်သားမင်းသည် အနော်ရထာမင်း၏ သားတော်ဖြစ်ကြောင်း ဖေါ်ပြထားလေသည်။ ကျန်စစ်သား မင်းသည် ချင်းတွင်းမြစ်ဝအနီး၊ လက်ဝဲဖက်မြစ်ကမ်းရှိ ပရိမ္မအရပ်၌ ဖွားမြင်တော်မူလေသည်။ ဖွားမြင်သောနှစ်ကို သက္ကရာဇ် ၄၀၂ ခုနှစ်လောက်ဟူ၍ယူဆနိုင်လေသည်။ ၄၄၆ ခုနှစ် (ခရစ် ၁၀၈၄ ခုနှစ်) တွင် ပုဂံ၌မင်းအဖြစ်ကိုရ၍ ၂၈ နှစ်အုပ်စိုးပြီးနောက် ၄၇၄ ခုနှစ် (ခရစ် ၁၁၁၃ ခုနှစ်လောက်) သက်တော် ၇၀ ကျော်တွင် လွန်တော်မူလေသည်။

ကျန်စစ်သားမင်းသည် နိုင်ငံတော်၏အစီးအပွားကို လိုလား၍ ဥာဏ်အမြော်အမြင်ကြီးသော မင်းဖြစ်လေသည်။ လူမျိုးမရွေး၊ ဘာသာမရွေး၊ တရားမျှတစွာ အုပ်ချုပ်သောမင်းလည်းဖြစ်လေသည်။ တိုင်းတပါးတို့နှင့် အချစ်အကြည်ဆက်ဆံ၍ ငြိမ်းချမ်းရေးကိုရယူနိုင်သော မင်းလည်းဖြစ်လေသည်။ ထိုမင်းသည် ထိုသို့သောဥာဏ်အမြော်အမြင်ဖြင့်ရင်း၊ ထိုသို့သောစေတနာဖြင့်ရင်း၊ အနော်ရထာမင်းတည်ခဲ့သော

မြန်မာနိုင်ငံတော်ကို အနှစ် ၂၀၀ မျှ ဆက်လက်တည်တံ့ခိုင်မြဲအောင် ၂၈ နှစ်မျှသော နန်းစံကာလအတွင်းတွင် ဆောင်ရွက်တော်မူခဲ့လေသည်။ (အနော်ရထာ — ရှု။)

### ထီးနန်းရတော်မူခြင်း

ပုဂံထီးနန်းကို ကျန်စစ်သားရခြင်းမှာ ရန်သူ့လက်သို့ ပုဂံပြည်ကြီး ကျဆုံးလုနီး အခြေမှ မိမိကိုယ်တိုင် ကယ်တင်နိုင်၍ ရခြင်း ဖြစ်လေသည်။ ကျန်စစ်သား သည် ပုဂံထီး နန်းကို မဆက်ခံမီပုဂံတွင် စောလူးမင်း (မင်းလုလင်) အုပ်စိုးလျက်ရှိလေသည်။ စောလူးမင်းသည် အနော်ရထာမင်း လွန်တော်မူပြီးနောက် ဆက်ခံစိုးစံသောမင်းဖြစ်လေသည်။ (စောလူးမင်း — ရှု။) ထိုအခါက တိုင်းပြည်၏ အခြေအနေမှာ ကမ္ပည်းကျောက်စာ သုတေသီတို့၏အလိုအရ၊ ထိုခေတ်ပုဂံပြည်နှင့် နိုင်ငံတော်တဝန်းတွင် မြန်မာလူမျိုး၊ ပျူလူမျိုး၊ မွန်လူမျိုးတို့သည် လူမျိုးစုကြီးများအဖြစ် နေထိုင်ကြသည်ဟုရင်း၊ ထေရဝါဒ ထွန်းကား လာပြီဟုရင်း၊ သျှင်အရဟံ (မဟာထေရ်) သည် သာသနာတော်စီးပွားကို ဆောင်ရွက်လျက်ပင်ရှိသည်ဟုရင်း၊ ထေရဝါဒအပြင်၊ မဟာယာနဂိုဏ်းနှင့် တန္တြ ဂိုဏ်းတို့ ရှိနေသည်ဟုရင်း၊ ဗုဒ္ဓအယူ မှတပါး ဖြစ်သော ဝိဿနိုးကိုးကွယ်သောအယူ၊ နဂါးကိုးကွယ်သောအယူ၊ နတ်ကိုးကွယ်သောအယူတို့လည်း ရှိနေသည်ဟုရင်း၊ စကားနှင့် စာပေအရာတွင် မြန်မာဘာသာ၊ ပျူဘာသာ၊ မွန်ဘာသာတို့ကို ရေးသားပြောဆိုနေကြသည်ဟုရင်း ယူဆနိုင်လေသည်။ ပုဂံပြည်၌ သထုံမနူဟာ (မကုတ) မင်း၏ အဆက်အနွယ်တော်များသည် မြင်းကပါအရပ်၌ နေထိုင်လျက်ရှိကြသည်ဟုရင်း၊ မွန်တို့၏ဒေသ၊ ဥဿာပဲကူမြို့ကို အထိန်းတော်သား ငရမန်ကာန်းအားပေး၍၊ မြို့စားအဖြစ် အုပ်ချုပ်စေသည်ဟုရင်း ယူဆနိုင်လေသည်။

ထိုကဲ့သို့ လူမျိုးအမျိုးမျိုး၊ အယူဝါဒအမျိုးမျိုး၊ စကားစာပေအမျိုးမျိုးရှိသော နိုင်ငံသစ်သည် အနော်ရထာမင်း လက်ထက်၌ ငြိမ်းချမ်းခဲ့ပါ၏။ သို့ရာတွင် အနော်ရထာမင်း လွန်တော်မူသောအခါ၊ စောလူးမင်းသည် ထိုငြိမ်းချမ်းမှုကို မထိန်းမသိမ်းနိုင် ဖြစ်လာလေသည်။ ထိုမင်းလက်ထက်တွင် အထိန်းတော်သားငရမန်ကာန်းသည် မတော်လောဘထွက်၍၊ဥဿာပဲကူကိုအားကိုးပြုကာပုန်ကန် လေသည်။

ကျန်စစ်သားသည် ခမည်းတော် အနော်ရထာမင်းလက်ထက်တွင်၊ စစ်သူကြီးတဦး အဖြစ်ဖြင့် အမှုတော်ကိုထမ်းရွက်ခဲ့လေသည်။ ခမည်းတော် သထုံသို့ ချီတော်မူရာတွင်၊ ကြည်းကြောင်းဖြင့် ရှေ့ဖျားတပ်မပြု၍ လိုက်ပါခဲ့ဘူးသူဖြစ်သည်။ ဂန္ဓာလရာဇ်တိုင်း သို့ ချီတော်မူရာတွင်၊ လိုက်ပါခဲ့ဘူးသူလည်း ဖြစ်သည်။ ဥဿာပဲကူတွင် ဂျမ်းစစ်သည်တို့ရှိလာသည်ကို တိုက်ခိုက်အောင်မြင်ခဲ့သူလည်းဖြစ်သည်။

ကျန်စစ်သားသည် စစ်သူကြီး အဖြစ် အမှုထမ်း စဉ်၌ပင်၊ လက်ရုံး နှလုံးနှင့် ပြည့်စုံသူဖြစ်လေသည်။ သို့ရာတွင် အခါတပါး၌ ခမည်းတော်အနော်ရထာမင်း မျက်တော်မူသဖြင့်၊ လွတ်ရာ၌ပုန်းရှောင်နေရလေသည်။ စောလူးမင်းနန်းတက်သောအခါ မှူးမတ်တို့က ကိုယ်တော်နှင့် မကွာကောင်းပလေဟု နားတော်လျှောက်သဖြင့်၊ စောလူးမင်းသည် ပြည်ရေးရွာမှုကိုထောက်၍ ကျန်စစ်သားအား ပုဂံသို့ခေါ်တော်မူလေသည်။ ထိုအခါမှစ၍ ကျန်စစ်သားသည် ပုဂံ သို့ပြန်ရောက်လေသည်။

ငရမန်ကာန်းသည်စောလူးမင်းကို ပုန်ကန်လိုသဖြင့်ဥဿာပဲကူမှ ရဲမက်ဗိုလ်ပါ ဆင်လုံးမြင်းရင်းဖြင့်ချီ၍ ပြည်တော်သာကျွန်း (မိကျောင်းရဲအောက်ရှိကျွန်းတောကျွန်း) ၌ တပ်ချရပ်သောအခါ ကျန်စစ်သားသည် ပြည်တော်သာကျွန်း သို့ တပ်ဦးချီ၍၊ စောလူးမင်း သည် နောက်တပ်ပြု၍ ချီလေသည်။ ငရမန်ကာန်းသည် ကျန်စစ်သား စစ်အရာ၌ လိမ္မာသည်ကိုသိသဖြင့်၊ ကျန်စစ်သားတပ်ကိုရှောင်၍ စောလူးမင်းတပ်ကိုတိုက် လေသည်။ စောလူး မင်း သည် ဆင်မှ ဆင်း၍ ပြေး ရလေသည်။ တပ်လည်း အဆီးအတားမရှိ ပျက်လေသည်။ကျန်စစ်သားလည်း ပုဂံသို့ဆုတ်လာရလေသည်။ထိုအခါ ပုဂံပြည်သားတို့သည် ကျန်စစ်သားအား ထီးနန်းအပ်ကြပါ၏။သို့ရာတွင် ကျန်စစ်သားသည် ထီးနန်းကိုလက်မခံ။ ငါ့အရှင်ရှိမရှိ စုံးစမ်းဦးမည်။ ငါ့အရှင်ရှိသော် ငါ့အရှင်ကိုယူ၍ နန်းတင်မည်ဟု ဆိုလေသည်။ ငရမန်ကာန်းသည် စောလူးမင်းကိုဖမ်းမိ၍၊ အလုံးအရင်းနှင့် ချီလာပြီးလျှင် ပုဂံမြို့မှ တောင်ဖက်တမိုင်ခန့်အကွာ မြင်းကပါအရပ်၌ တပ်ချ၍ ပုဂံကိုရံလေသည်။ကျန်စစ်သားသည် စောလူးမင်းကို အရယူပါသေး၏။သို့သော်လည်း မရ၊ပုဂံမှ မိတ္ထီလာထီးလှိုင်သို့ဆုတ်ရလေသည်။ စောလူး မင်း သည် ငရမန် ကာန်း လက် တွင် အနိစ္စရောက်လေသည်။

ကျန်စစ်သားသည် မိတ္ထီလာထီးလှိုင်တွင် ဗိုလ်ဝင်ခံလျက်နေစဉ် ငရမန် ကာန်း သည် အင်းဝအရပ် အထိ ချီ၍ သိမ်းလေသည်။ထိုအခါ ကျန်စစ်သားသည် အင်းဝအရပ်သို့ချီ၍၊ ငရမန်ကာန်းကိုတိုက်လေသည်။အင်းဝစစ်ပွဲ၌ ငရမန်ကာန်း ရှုံး၍ မြင်းကပါသို့ဆုတ်ရလေသည်။တဖန်မြင်းကပါ၌ တိုက်ပွဲဖြစ်ပြန်ရာ ငရမန်ကာန်း တပ်ပင် ဆုတ်ရပြန် လေသည်။ ထိုနောက် စော၌ကူးအရပ်တွင် ငရမန်ကာန်းအသက်ဆုံး၍၊ သူပုန်အရေးအေးလေတော့သည်။ဤသို့ဖြင့် ကျန်စစ်သားသည် သက္ကရာဇ် ၄၄၆ ခုနှစ် (ခရစ် ၁၀၈၄ ခုနှစ်) ၌ပုဂံတွင် မင်းအဖြစ်ကိုခံယူ၍ ပုဂံထီးနန်းကိုသိမ်းပိုက်လေသည်။

### နိုင်ငံတော်၏အစီးအပွားကိုလိုလားတော်မူခြင်း

ငရမန် ကာန်း သူပုန် အရေး ပြီးသည် နှင့် တပြိုင် နက်၊

ကျန်စစ်သားမင်းသည် တိုင်းသူပြည်သားတို့၏ နေထိုင်စားသောက် အသက်မွေးမြူရေးတည်းဟူသော ဘောဂဗလကိုင်၊ ကာယ ဉာဏ စာရိတ ဗလတို့ကိုင်၊ တိုးတက်အောင်ဆောင်ရွက်တော်မူလေသည်။

ငရမန်ကာန်း သူပုန်ထသဖြင့် ပြည်တွင်း၌ဆူပူသောင်းကျန်းမှုများ ဖြစ်ပေါ်နေစဉ်တွင်၊ တိုင်းသူပြည်သားတို့သည် ဘေးအမျိုးမျိုးနှင့် ကြုံတွေ့ကြရလေသည်။ အချို့လည်း သားတကွဲ မယားတကွဲ ထွက်ပြေးတိမ်းရှောင်ကြရသည်။ အချို့လည်း ရန်သူတို့၏အဖမ်းအဆီးကိုခံရ၍၊ အောက်ပြည်အောက်ရွာသို့ ရောက်ကြရသည်။ အချို့လည်း စားရမဲ့သောက်ရမဲ့၊ဝတ်ရမဲ့ ဖြစ်ကြရသည်။ ဤအခြေကားဆိုးလှပေသည်။ကျန်စစ်သားမင်းသည် တိုင်းသူပြည်သားများအားဤအခြေဆိုးမှ ကယ်တင်၍ ပြည့်စုံလုံလောက် ပျော်ရွှင်အောင် ဆောင်ရွက်တော်မူလေသည်။ ကျန်စစ်သားမင်း၏ရွှေစည်းခုံ မှန်ကျောက်စာတွင် မင်းကြီး၏ အလိုဆန္ဒတော်အတိုင်း မဆိုင်းမတွဆောင်ရွက်ကြရမည်ဖြစ်ကြောင်း၊ရန်သူတို့သည် ပုဂံကိုတိုက်ဖျက်ရန်ဆန်တက်လာ၍၊ အမျိုးလေးပါးကို သုံ့ပန်းအဖြစ်ဖမ်းဆီးကြကြောင်း၊ထိုနောက် လက်ရုံးမှု၍ ထိုသူတို့အား တရပ်တကျေးသို့ ဆောင်ယူကြကြောင်း၊ မင်းကြီးသည် ထိုသူတို့အား ပုဂံသို့ပြန်ခေါ်၍ နှစ်သိမ့်မည်ဖြစ်ကြောင်း၊သားကွဲ မယားကွဲဖြစ်သူတို့အားငှင်း၊ပူပင်သောကရောက်ကြရသူများအားငှင်း၊မင်းကြီးသည် မေတ္တာကရုဏာဖြစ်၍၊ ထိုသူတို့၏ မျက်ရည်တို့ကို သုတ်ပေးတော်မူမည်ဖြစ်ကြောင်း၊ ယာလက်တော်ဖြင့် ဆန်စပါးမှစ၍ စားဖွယ်သောက်ဖွယ်တို့ကို ပေးအပ်ကျွေးမွေးမည် ဖြစ်ကြောင်း၊ ဝဲလက်တော်ဖြင့် အဝတ်ပုဆိုး အဆင်တန်ဆာတို့ကို ပေးအပ်ဆင်ယင်မည်ဖြစ်ကြောင်း၊အမိသည် သားငယ်တို့ကို ရင်ခွင်၌ပိုက်ထွေးယုယသကဲ့သို့၊ ထိုသူတို့ကို စောင့်ရှောက်ပြုစုမည်ဖြစ်ကြောင်း ဆိုခဲ့လေသည်။

တဖန်၊ ထိုရွှေစည်းခုံကျောက်စာ၌ပင် မင်းကြီး၏လက်ထက်တော်တွင် မိုးမျှစ်၊သစ်သီးပန်းမန်တို့ပေါများစေရမည်ဖြစ်ကြောင်း၊ ဆန်စပါး အဝတ်ပုဆိုးတို့အတွက် အခက်ကြုံနေကြသူများသည် ရွှေငွေရတနာဖြင့် ဆန်းကြယ်သောအဝတ်ပုဆိုးတို့ကို ဆင်မြန်းကြရမည်ဖြစ်ကြောင်း၊ဆင်မြင်းကျွဲနွားကြက်ဝက်ဆိတ်တို့ ပေါများစေရမည်ဖြစ်ကြောင်း၊လူတိုင်းလူတိုင်း ကြွယ်ဝချမ်းသာရမည် ဖြစ်ကြောင်း၊အိုးစလောင်းရောင်းသော အမယ်အိုများပင်လျှင် ဈေးကောင်းရ၍ ချမ်းသာရမည်ဖြစ်ကြောင်း၊မြေယာထွန်ယက်ကြသောလယ်သမားအပေါင်းတို့တွင် ဆန်စပါးလူးဆပ်တို့သည်ကျီအပြည့်ရရှိမည်ဖြစ်ကြောင်းတို့ကိုလည်း ဆိုခဲ့လေသည်။

ကျန်စစ်သားမင်းသည် တိုင်းသူပြည်သားတို့၏ နေထိုင်စားသောက် အသက်မွေးမြူမှုတို့ကို ပြန်လည်ကောင်းမွန်လာအောင် အရေးယူဆောင်ရွက်ယင်းပင်၊ ဉာဏ်ပညာစာရိတမြင့်တင်ရေးကိုလည်းဂရုပြုတော်မူလေသည်။ကျန်စစ်သားမင်းသည် သျှင်အရဟံ၏ဩဝါဒကိုခံယူကာ ခမည်းတော်အနော်ရထာမင်း ဆောင်ရွက်ခဲ့သော သာသနာရေးကိစ္စများကို ဆက်လက်ဆောင်ရွက်တော်မူရာ၊ တိုင်းသူပြည်သားတို့သည် နောင်တမလွန်အတွက်သာမက၊ မျက်မှောက်တွင် ဉာဏ်ပညာစာရိတ တိုးတက်မှုအတွက်လည်း အခွင့်အရေးများစွာရရှိလာကြလေသည်။ (အရဟံ၊သျှင် — ရှု။)

ငရမန်ကာန်းကြောင့် ပြည်တွင်းသောင်းကျန်းမှုများဖြစ်ပွားနေစဉ်တွင်၊ပိဋကတ်တော်စာပေအချို့သည်ပျောက်သည်လည်း ရှိတန်ရာ၏။ ပျက်သည်လည်း ရှိတန်ရာ၏။အချွတ်အလွဲဖြစ်သည်လည်း ရှိတန်ရာ၏။ကျန်စစ်သားမင်းသည် ထိုပိဋကတ်တော်စာပေတို့ကို ပြန်လည်စုဆောင်း၍၊တည်းဖြတ်သုတ်သင်တော်မူခဲ့လေသည်။အနော်ရထာမင်းတည်ခဲ့သော ရွှေစည်းခုံစေတီတော်ကို ဆက်လက်၍တည်တော်မူခဲ့လေသည်။ (ရွှေစည်းခုံဘုရား — ရှု။) ထို့ပြင်စေတီကူကျောင်းအများအပြားကိုလည်း တည်တော်မူခဲ့လေရာ၊ ပုဂံတွင် အာနန္ဒာနှင့်မင်းအိုးချမ်းသာဘုရားတို့သည် ထင်ရှားလေသည်။ (အာနန္ဒာဘုရား — ရှု။) ထို့ပြင် တူးရွှင်းတောင်ခြေ၌ငှင်း၊အလန်ပုဂံ (တူးရွှင်းတောင်ခြေနှင့်မင်းနန်သူရွာအကြား) ၌ငှင်း၊ သတ္တဝါခပ်သိမ်းတို့၏ အကျိုးငှာ၊ရေကန်တကန်စီ တူးခဲ့လေသည်။တူးရွှင်းတောင်ခြေရှိကန်ကိုမြကန်ဟူ၍ခေါ်ကြလေသည်။ ထိုကန်အနီး၌ပင် ပိဋကတ်တိုက်တတိုက်ကိုလည်း ဆောက်လုပ်လှူဒါန်းခဲ့လေသည်။

ထို့ပြင် သက္ကရာဇ် ၄၆၀ ပြည့်နှစ် (ခရစ် ၁၀၉၈ ခုနှစ်) တွင် ကျန်စစ်သားမင်းသည် သထုံမြို့သို့သွား၍၊ သထုံမြို့မြောက်ဖက်မိုင် ၃၀ ခရီး၌ရှိသော ကျိုက်တလင်စေတီ (မြသိန်းတန်ဘုရား) ကိုငှင်း၊ တောင်စွန်းအနီးရှိ မဟာဓါတ်ဘုရား (ကျိုက်တဲဘုရား) ကိုငှင်း ပြင်တော်မူလေသည်။ ထို့ပြင် အိန္ဒိယနိုင်ငံသို့ မင်းချင်းတို့ကိုစေ၍ မြတ်စွာဘုရားပွင့်တော်မူရာဖြစ်သော ဗုဒ္ဓဂယာ၌ မဟာဗောဓိဘုရား (ဝဇီရာသန) ကိုပြင်စေလေသည်။ထိုမျှသာမက၊ ထိုအရပ်၌ မြေဝယ်စေသည်။ ထိုနောက် ကန်တူးပြီးလျှင်၊ လယ်မြေတိစေ၍ဘုရားသို့လှူတော်မူလေသည်။ ဆီမီးဝတ်မပျက်အောင်ငှင်း၊အဆို အတီး အက ဝတ်မပျက်အောင်ငှင်း၊ဆောင်ရွက်စေတော်မူလေသည်။ ထို့ပြင် အိန္ဒိယတောင်ပိုင်းဒေသမှစောဠမင်းသားတပါးသည် ခြေရံသင်းပင်းနှင့်တကွ ပုဂံသို့ရောက်လာသည်ဟုကြားတော်မူရာ၊ ရတနာသုံးပါး၏ဂုဏ်တော်ကိုရွှေပေတွင် ဟင်္သာပြဒါးဖြင့်ရေး၍ မင်းသားထံသို့ပို့တော်မူလေသည်။ မင်းသားနှင့် ခြေရံသင်းပင်းတို့လည်း မိမိတို့၏ အယူဝါဒကိုစွန့်ပယ်၍၊ ဗုဒ္ဓအယူဝါဒကိုယူကြလေသည်။

## မျှတစွာအုပ်ချုပ်တော်မူခြင်း

ကျန်စစ်သားမင်းသည် ဥဿာပဲကူစား ငရမန်ကာန်းသူပုန်ကို နှိမ်နင်းနေခိုက်မှာပင်၊ ခမည်းတော်တည်ထောင်ခဲ့သည့် နိုင်ငံသစ်တည်တံ့ခိုင်မြဲမှုအတွက် စည်းလုံးရေးသည် အဓိကဖြစ်သည်ဟူ၍ ယူဆတော်မူခဲ့ဟန် တူလေသည်။ မင်းကြီး၏ အုပ်ချုပ်ရေးအစီအမံ အဆောင်အရွက်တို့တွင် ထိုယူဆချက်အမှုအရာများကို သိမြင်နိုင်လေသည်။ ထိုအမှုအရာများကား အခြားမဟုတ်၊ လူမျိုးမရွေး၊ ဘာသာမရွေး မျှတစွာအုပ်ချုပ်သော အမှုအရာများပင်ဖြစ်လေသည်။

ကျန်စစ်သားမင်းသည် သက္ကရာဇ် ၄၄၆ ခုနှစ်တွင် ပုဂံထီးနန်းကိုသိမ်းပိုက်သော်လည်း၊ ၄၄၇ ခုနှစ် (ခရစ် ၁၀၈၆ ခုနှစ်) မှာမှ၊ အဘိသိက်ကိုခံယူတော်မူလေသည်။ အဘိသိက်ခံယူတော်မူကြောင်း၊ နန်းတော်သစ်တည်တော်မူကြောင်းတို့ကို ကမ္ပည်းကျောက်စာ (ရွှေစည်းခုံကျောက်စာ) ရေးထိုးတော်မူခဲ့လေသည်။ တည်တော်မူသော နန်းတော်သစ်သည် ပြာသာဒ်ငါးဆောင်ရှိသော ပဉ္စပါသာဒဖြစ်လေသည်။ ရွှေစည်းခုံ ကျောက်စာအရ၊ ကျန်စစ်သား မင်းသည် ပုဂံမြို့ကို အခိုင်အခံ့ပြု၍ ဝင်းကိုယ်ရံတော် ၁၀၀၀ ကျော်ပါဝင်သောအဖွဲ့ကို ဖွဲ့စည်းတော်မူသည်ဟု သိရလေသည်။ ထိုပြင် ဘိသိက်ပွဲအခမ်းအနားတွင် မှူးမတ်အရာရှိကြီးများဖြစ်သော သံပျင်ကြီး၊ သံပျင်ငယ်များသည်၎င်း၊ ကလန်အရာရှိများသည်၎င်း၊ ထို့နောက် ကျေးရွာအကြီးအကဲများဖြစ်သည့် သင်ကြီး၊ သင်လျင်တို့သည်၎င်း၊ တက်ရောက် ဖူးမြော်ကြသည်ဟုလည်း သိရလေသည်။ ဘုရားများအား ပူဇော်လှူဒါန်းခြင်း၊ ဘိသိက်ပွဲအခမ်းအနား၌ ပရိတ်တော်ရွတ်ဖတ်ခြင်း၊ ပိဿနိုးပူဇော်ခြင်း၊ ဂဝံပတိပူဇော်ခြင်း၊ နဂါးပူဇော်ခြင်းတို့ရှိသည်ဟုလည်း သိရလေသည်။ ထိုပြင် ထိုဘိသိက်ပွဲအခမ်းအနား၌ သျှင်အရဟံကြီးမှူးသော ရဟန်းတော်များပါဝင်ကြခြင်း။ ပုဏ္ဏားများလည်းပါဝင်ကြခြင်း၊ မြန်မာဘာသာသီဆိုခြင်း၊ မွန်ဘာသာသီဆိုခြင်း၊ ပျူဘာသာသီဆိုခြင်းတို့ရှိသည်ဟုလည်း သိနိုင်လေသည်။ တဖန် ပြည်ရွှေဆံတော်ကျောက်စာအရ၊ မင်းကြီးအကန်တော့ခံပွဲတွင် အချို့တို့သည် နတ်ဝင်သည်အဟန်ပြု၍ သီဆိုကခုန်ကြသည်ဟုလည်းသိရလေသည်။

အထက်ပါအချက်များကိုထောက်ခြင်းအားဖြင့်၊ ကျန်စစ်သားမင်းသည် မွန်၊မြန်မာ၊ ပျူအမျိုးသားများကို ခန့်ထားခြီးမြှင့်တော်မူကြောင်း၊ ထေရဝါဒကို နှစ်သက်ကြည်ညို၍ အထူးခြီးမြှင့်သူဖြစ်လင့်ကစား၊ မဟာယာနဂိုဏ်း၊ တန္တြဂိုဏ်းတို့ကိုလည်း ခြီးမြှင့်တော်မူကြောင်း၊ ထိုပြင် ပိဿနိုးကိုးကွယ်သောအယူ၊ နဂါးကိုးကွယ်သောအယူ၊ နတ်ကိုးကွယ်

ကျန်စစ်သားမင်း၏ကောင်းမှုတော်ဖြစ်သောအာနန္ဒာစေတီတော်



သော အယူတို့ကို လည်း ချီးမြှင့်တော်မူကြောင်း၊ မွန်မြန်မာ ပျူအနုပညာများကိုလည်း ချီးမြှင့်တော်မူကြောင်း သိသာ လေသည်။ ကျန်စစ်သားမင်းသည် ဤနည်းများဖြင့်၊ လူမျိုး အား လုံး ကို နှစ် သိမ့်ခြင်း ဖြစ် စေ၍၊ အချင်း ချင်း ရင်းနှီး စည်းလုံးမှုကိုပြုကာ၊ မျှတစွာအုပ်ချုပ်ခဲ့သည်ဟု ယူဆနိုင်၏။

ထို သို့ မျှတ စွာ အုပ် ချုပ် သည် ထက် အရေး ကြီး သော အချက်တခု ရှိလေသေးသည်။ ထိုအချက်မှာ မွန်မြန်မာ နှစ် ဦးနှစ်ဖက်လုံးကျေနပ်၍ အဓွန့်ရှည်စွာ နိုင်ငံတော်စည်းလုံး ခိုင်မြဲမည်ကို မျှော်ရှုကာ၊ သမီးတော် ရွှေအိမ် သည် အား သထုံမနူဟာမင်း၏မြစ်တော် နာဂသမန်းနှင့် ပေးထိမ်းမြား ၍၊ မြေးတော်ရသောအခါ၊ မိမိ၏သားတော်ရှိပါလျက်၊ မြေး တော်အားထီးနန်းကိုဆက်ခံစေခြင်းဖြစ်သည်။ ထိုမြေးတော် သည်ပါမောက္ခဂျီ၊ အိပ်၊ လု (စ) ၏အယူအရ၊ မွန်မြန်မာမင်း သား ဖြစ် လေသည်။ ထို သို့ ယူ၍ (မြစေတီ ကျောက် စာ ဟု ခေါ် ခဲ့ ကြ သော) ကူပြောက် ကြီး ကျောက် စာကို၎င်း၊ မနူဟာကျောက်စာကို၎င်း သက်သေတင်သည်။

ကူ ပြောက် ကြီး ကျောက် စာ အရ၊ ကျန် စစ် သား မင်း၌ ရာဇကုမာရ်မည်သော သား တော် တပါး ရှိ ကြောင်း သိရ လေသည်။ သို့ရာတွင် ရာဇကု မာရ် သည် ထီးနန်းကို ဆက် ခံရသူ မဟုတ်သည်မှာ ထင်ရှားလေသည်။ တဖန် မနူဟာ ကျောက်စာအရ၊ သထုံမင်းမနူဟာ၌ သုဓမ္မရာဇ်မည်သော သားတော်ရှိကြောင်း၊ သုဓမ္မရာဇ်၌ အသဝတ်ဓမ္မာမည်သော သားတော် ရှိ ကြောင်း၊ အသဝတ် ဓမ္မာ သည် မင်းစီးလှေ တော် ကို ပုပ္ပား ၌ ဝှက် ထား ကြောင်း၊ ထို သို့ ဝှက် ထား သည်ကို မင်းကြီး (ကျန်စစ်သားမင်း) သိတော်မူသောအခါ လှေတော်ကိုပြန်အပ်ရန် မိန့်တော်မူကြောင်း၊ လှေတော်ကို ပေး အပ် သော အခါ၊ မင်း ကြီး သည် မိ မိ ၏ သမီး တော် ရွှေအိမ်သည်အား၊ အသဝတ်ဓမ္မာ၏သားတော် နာဂသမန်း နှင့်ပေးထိမ်းမြားတော်မူကြောင်း သိရလေသည်။

မင်း စီး လှေ တော် ကို ပုပ္ပား ၌ အသဝတ်ဓမ္မာမင်းသား ဝှက်သောကာလသည်၊ ရေမန်ကာန်းပုဂံကို ပုန်ကန်နေသော ကာလဆိုး ဖြစ်တန်ရာသည်။ ထိုသို့ဝှက်သော အသဝတ်ဓမ္မာ ၏အမူအရာသည်၊ ပုဂံတဝိုက်ရှိ မွန်တို့ကိုစုရုံး၍ တထီးတနန်း ထူလိုသဖြင့်၊ ပုပ္ပား၌ ဗိုလ်ဝင်ခံသော အမူအရာဖြစ်တန်ရာ သည်။ ထိုသို့ဖြစ်လျှင် မျက်မှောက်ဆူပူသောင်းကျန်းမှုကို အလွယ်တကူငြိမ်းအေး စေလိုသော ဆန္ဒကြောင့်၎င်း၊ နောင် ရေးကိုမြော်တွေး၍ မွန်မြန်မာအဓွန့်ရှည်စွာ စည်းလုံးခိုင်မြဲ စေလိုသောဆန္ဒကြောင့်၎င်း၊ ကျန်စစ်သားမင်းသည် မိမိ၏ သမီး တော် ရွှေအိမ် သည် အား၊ မနူဟာမင်း၏ မြစ် တော် နာဂသမန်းနှင့် ပေးထိမ်းမြားခြင်းသည်လည်း ဖြစ်တန်ရာ သည်။ တဖန် ရာဇဝင်များ၌ မြေးတော်ကိုမင်းမြှောက်ခဲ့ ပြီး ဖြစ် ၍၊ မြေး ကား အရင်း၊ သားကားအဖျားဖြစ်ပြီဟု ကျန်စစ်သားမင်း မိန့်တော်မူကြောင်း ရေးမှတ်ခဲ့ခြင်းသည် လည်း ထိုအကြောင်း များ ကြောင့် ပင် ဖြစ် တန် ရာသည်။ ဤသို့လျှင်ပါမောက္ခ လု (စ) အယူရှိ၍၊ ကျန်စစ်သားမင်း၏ ထီး နန်း ကိုဆက် ခံသော အလောင်း စည် သူမင်း သည် ရွှေအိမ်သည်နှင့်နာဂသမန်းတို့မှ ဖွားမြင်လာသော မွန်မြန် မာမင်းဖြစ်သည်ဟုဆိုခဲ့ခြင်းဖြစ်လေသည်။

**တိုင်းတပါးနှင့်ဆက်ဆံ၍ငြိမ်းချမ်းရေးကိုရယူတော်မူခြင်း**

ပုဂံခေတ် တွင် မြန် မာနိုင် ငံသည် တိုင်း တပါး၏ ထိပါး ခြင်းကိုမခံရ။ အနှစ် ၂၀၀ မျှငြိမ်းချမ်းခဲ့လေသည်။ ထိုသို့ ငြိမ်းချမ်းခဲ့သည်မှာ ကျန်စစ်သားမင်း၏ နိုင်ငံခြားရေးဝါဒ ကြောင့် ဖြစ် လေသည်။ ထိုဝါဒမှာအခြား မဟုတ်။ နိုင်ငံ တကာနှင့် သင့်တင့်ညီညွတ်စွာ ဆက်ဆံသောဝါဒ ဖြစ်လေ သည်။ မြန်မာနိုင်ငံ၏အနောက်ဖက်တွင် အိန္ဒိယနိုင်ငံရှိ၍၊ အရှေ့မြောက်ဖက်တွင် တရုပ်နိုင်ငံရှိလေသည်။

အိန္ဒိယနိုင် ငံ၊ ဗုဒ္ဓဂယာရှိ မဟာဗောဓိစေတီပြင် ခွင့် ကို ကျန်စစ်သားမင်း ရရှိခဲ့သည်ဖြစ်ရာ၊ ကျန်စစ်သားမင်းသည် အိန္ဒိယမင်းများနှင့် သင့်တင့်ညီညွတ်စွာဆက် ဆံခဲ့ကြောင်း ထင်ရှားလေသည်။ ထိုသို့ဆက်ဆံသည့်အတိုင်းလည်း ပုဂံတွင် ယဉ်ကျေးမှုအဆင့်အတန်းသည် မြင့်တက်လာခဲ့လေသည်။

တဖန် ကျန်စစ်သားမင်းသည် သက္ကရာဇ် ၄၆၅ ခုနှစ် (ခရစ် ၁၁၀၃ ခုနှစ်) ၌တကြိမ်၊ ၄၆၈ ခုနှစ် (ခရစ် ၁၁၀၆ ခုနှစ်) ၌ တကြိမ်၊ တရုပ်ပြည်သို့ သံစေလွှတ်တော်မူလေသည်။ တရုပ် ပြည် ဆွန်း မင်း ဆက် နန်းစဉ် စာတို့တွင် ၄၆၈ ခုနှစ်၌ ပုဂံ ပြည်မှ သံတမန်များရောက်လာကြောင်း၊ ပုဂံပြည်သည်ဘုန်း တန်ခိုးအင် အား နှင့်ပြည့်စုံသည်ဖြစ်၍၊ ထိုနိုင်ငံနှင့်ဆက်ဆံ ရာတွင် အာရပ်နိုင်ငံ၊ အာနမ်နိုင်ငံနည်းတူ တိုင်းကြီးပြည်ကြီး အဖြစ်ဆက်ဆံကြောင်း ဖေါ်ပြထားချက်ရှိလေသည်။ ကျန် စစ်သားမင်း ထိုသို့သံစေလွှတ် ခြင်း သည်၊ နှစ်ပြည့်တပြည် အရောင်း အဝယ် ဖြစ် စေလို သော ကြော င့် သော် ၎င် း ၊ ခမည်း တော် အနော် ရထာမင်း လက် ထက် ဂန္ဓာလရာဇ် (နန်ချောင်) ကိုတိုက်ခိုက် ခဲ့ဘူးရာ၊ ဂန္ဓာလရာဇ်၏ ရန်ကို စိုးရိမ် သဖြင့်၊ တရုပ်ပြည်နှင့် မဟာမိတ် ဖွဲ့လိုသောကြောင့် သော် ၎င်း ဖြစ် တန် ရာ သည် ဟုယူဆ ကြ လေသည်။ (နန် ချောင်—ရှု။) ထိုပြင် ကျန်စစ်သားမင်းသည် နောက်တကြိမ် ထိပါး လာသော ဂန္ဓာလရာဇ် မင်း ၏ စစ် သည် တို့ကိုတွန်း လှန်နိုင်ခြင်းသည် ပုဂံပြည်၏လက်ရုံးအင်အားကြောင့်၎င်း၊ တရုပ် မင်း နှင့် မဟာမိတ် ဖွဲ့ ခဲ့ သော ကျေး ဇူး ကြော င့် ၎င်း ဖြ စ် မ ည် ဆိုပါ ကလည်း ဆိုနိုင် ပေသည်။ မည် သို့ပ င် ဆိုစေကာမူ၊ ပုဂံပြည် သည်၊ တရုပ်ပြည် သို့သံစေလွှတ်မိတ်ဖွဲ့ ခဲ့သည် မှစ၍၊ အနှစ် ၂၀၀ နီး ပါး မျှငြိမ်း ချမ်း ခဲ့သည် မှာ အထင်အရှားဖြစ်လေသတည်း။ **ဦးသိန်းဟန်။**

# အနာရောဂါကိုကာကွယ်သောနည်းလမ်းကောင်း

ဥစ္စာကံစောင့် အသက်ဥာဏ်စောင့် ဟူသောရှေးပညာရှိတို့၏ စကားကို လူတိုင်း သတိချပ်သင့်၏။ ကျန်းမာရေးနှင့် ညီညွတ်စွာ စားသောက်နေထိုင်တတ်ခြင်းသည် ရောဂါဘယကိုတားဆီးနိုင်သည့်ပြင် အသက်ရှည်ရာရှည်ကြောင်းလည်းဖြစ်ရကား ကျန်းမာရေးလမ်းညွှန်များကိုသေချာစွာဖတ်ရှုမှတ်သား၍သုံးသပ်ကြပါလော့။

**ကျန်းမာရေး။** ။အာရောဂျံ၊ ပရမံ၊ လာဘံ ဟူသောဘုရားဟောတရားတော်နှင့် အညီ ကျန်းမာရေးလာဘ်ကြီးကို လက်ကိုင်ရရှိထားမှသာလျှင် လူ့ဘဝရကျိုး နပ်ပေမည်။ ကျန်းမာရေးနှင့်လျော်ညီစွာ ပြုမူနေထိုင်တတ်ပါမှ မွန်မြတ်လှသော ထိုလာဘ်ကြီးကို ရရှိနိုင်ပေမည်။

မိမိတို့ နေထိုင်ရာအိမ်ကို ထိန်းသိမ်းစောင့်ရှောက်ခြင်း ပြုပြင်နေထိုင်ခြင်း မရှိပါက ထိုအဆောက်အအုံသည် မကြာမီ ပျက်စီးယိုယွင်း သွားတတ်သကဲ့သို့ အိမ်နှင့် တူသော ခန္ဓာကိုယ်ကို ကျန်းမာမှုအတွက် ဂရုမပြုဘဲ နေပါက တဖြည်းဖြည်း ချို့တဲ့လာကာ စိတ်၏ဆင်းရဲခြင်း၊ ကိုယ်၏ဆင်းရဲခြင်းများကို ကြုံတွေ့ခံစားရလိမ့်မည်။

ကျန်းမာရေးနှင့် ညီညွတ်စွာ နေနိုင်ရန်မှာ မခက်ပေ။ မိမိ၏ နေမှုစားမှုတို့ကို စနစ်တကျ ဂရုစိုက်၍ ပြုပြင်ပေးရုံမျှနှင့် ကျန်းမာမှုကို လွယ်ကူစွာရနိုင်သည်။ ဤသို့ဖြစ်စေရန် အောက်ပါကျန်းမာရေး ကျင့်စဉ် ၉ ချက်ကို ကျင့်သုံးလိုက်နာကြရပေမည်။

(၁) လေကောင်းလေသန့်ကို ရှူရှိုက်ပါ။
(၂) ရေကောင်းရေသန့်ကို သောက်ပါ။
(၃) ကျန်းမာစေမည့် အစားအစာမျိုးကို စားပါ။
(၄) အိပ်ရေးဝအောင် အိပ်ပါ။
(၅) ကျန်းမာရေးနှင့်ညီညွတ်စွာ ဝတ်စားဆင်ယင်ပါ။
(၆) ကိုယ်ခန္ဓာ အနေအထား မှန်ကန်အောင်နေပါ။
(၇) ဣရိယာပုတ် မျှတအောင် နေထိုင်ပါ။
(၈) သန့်ရှင်းစင်ကြယ်စွာ နေပါ။
(၉) စိတ်ကြည်လင်ရွှင်လန်းစွာ နေပါ။

ကျန်းမာမှုရစေရန် ထိုကျင့်စဉ်များအတိုင်း ဆောင်ရွက်ဖို့ရာ အဘယ်ကြောင့် အရေးကြီးသည်ကို တခုစီ စစ်ဆေးကြပါစို့။

### လေကောင်းလေသန့်ရှူရှိုက်ခြင်း

လူ၏အသက် ရှင်နေမှုအတွက် မိနစ်စက္ကန့်မလပ် အရေးတကြီး လိုအပ်သောအရာမှာ လေဖြစ်သည်။ အသက်နှင့်ခန္ဓာ တည်မြဲနေစေရန် ခန္ဓာကိုယ်တွင်းရှိ သွေးတို့၏ လှည့်ပတ်သွားလာမှုကို လေက များစွာကူညီ ထောက်ပံ့ရသည်။ ခန္ဓာကိုယ်တွင်းသို့ ရှူသွင်းလိုက်သော လေသည် သန့်ရှင်းစင်ကြယ်မှ ကျန်းမာရေးအတွက် အကျိုးအာနိသင် ထိရောက်နိုင်သည်။ ခန္ဓာကိုယ် အတွင်းရှိ အဆုတ်သည် သန့်ရှင်းသော လေထဲ၌ပါသည့် အောက်ဆီဂျင်ကိုသာ အလိုရှိသည်။ ထို့ကြောင့် ကျွန်ုပ်တို့သည် လေကောင်းလေသန့်ကိုသာ အခါခပ်သိမ်း အလိုရှိအပ်ပေသည်။

အချို့က လေစိမ်းတိုက်လျှင် နေထိုင်မကောင်းတတ်ဟု ယူဆကာ အိမ်တံခါးများ ပိတ်ဆို့နေလေ့ ရှိကြသည်။ ညစ်ပတ်သောအိမ်နှင့် ကျဉ်းမြောင်းသော အခန်းများထဲရှိ ညစ်ညမ်းသော လေသည်သာလျှင် လူတို့ကို အန္တရာယ်ဖြစ်စေသည်။ လေကောင်းလေသန့်သည် မည်သည့်အခါမျှ ရောဂါအန္တရာယ်ကို မဖြစ်စေနိုင်ပေ။ နေအိမ် အဆောက်အအုံတွင်း၌ လေကောင်းလေသန့် ကောင်းမွန်စွာ ဝင်ထွက်နိုင်အောင် ထားရသည်။ အိပ်စက်သည့်အခါတွင် လေ



လေကောင်း လေသန့် ရသောနေရာ တွင် ကိုယ်ကို နွေးစွာထား၍ အိပ်စက်ရန် ကျန်းမာရေးဌာနများကညွှန်ကြားကြ၏။

ကောင်းလေသန့်ကို ပိုမို၍ လိုအပ်ပေသည်။ ကိုယ်ကို နွေးနေအောင် လုံခြုံစွာ စောင်ခြုံထားလျှင် တံခါးဖွင့်၍ အိပ်စက်နိုင်သည်။ (လေ — ရှု။)

လေကိုရှူရှိုက်လျှင် နှာခေါင်းမှသာ ရှူရှိုက်သင့်သည်။ သို့မှသာ လေသည်ပူနွေး၍ နှာခေါင်းထဲတွင်ရှိသော အမွေးနုကလေးများကလည်း လေထဲတွင်ပါသောဖုံများကို အဆုတ်အတွင်းသို့ ဝင်မသွားစေရန် စစ်ကာ တားဆီးထားနိုင်သည်။ ပါးစပ်နှင့် အသက်ရှူလျှင် အတွင်းနှာပေါက်နှင့် လည်ချောင်းအကြားရှိ အမြှေး ရောင်တတ်သည်။ ဤသို့ အမြှေးရောင်ခြင်းဖြင့် ကျန်းမာရေး ချွတ်ယွင်းတတ်သည်။ ကလေးသူငယ်များ၌ လည်ချောင်းနာ၍ ဖျားနာခြင်း စသည့်ရောဂါမျိုးမှာ ထိုကဲ့သို့ အမြှေးရောင်ရာမှ စတင်ဖြစ်ပွားတတ်သည်။

လေကောင်းလေသန့်ကို အများဆုံး ရရှိနိုင်စေရန် အိမ်အပြင်ပများတွင် နေနိုင်သမျှ နေသင့်သည်။ သန့်ရှင်းစင်ကြယ်သောလေကို ရှူရခြင်းအားဖြင့် ရောဂါပေါင်း များစွာတို့ကို ပျောက်ကင်းစေနိုင်သည်။ ယခုခေတ်အခါ အဆုတ်နှင့်ဆိုင်သော ရောဂါများကို ကုသရာ၌ ဆရာဝန်တို့သည် လေကောင်းလေသန့် ရရှိရန်ကို ဦးစွာ အရေးထားကြရာ အချို့ လူနာများကို အိမ်ပြင်၌ပင် အိပ်စက်ခိုင်းသည်။ လေကောင်းလေသန့်ကား လူတို့၏ ကျန်းမာရေးအတွက် အဖိုးထိုက်တန်သလောက် အချိန်အခါမရွေး ရလွယ်ပေသည်။ (ရက်စပီရေးရှင်း — ရှု။)

## ရေကောင်းရေသန့်ကိုသောက်ခြင်း

လူ၏ခန္ဓာကိုယ်သည် အစိုင်အခဲ အနေမျိုး ဖြစ်တည်သော ပုံပန်းသဏ္ဌာန် ရှိသော်လည်း ခန္ဓာကိုယ်ကို ခွဲခြားစိစစ် ကြည့်ရှုလိုက်လျှင် ၄ ပုံ ၃ ပုံမှာ ရေဖြစ်သည်။ခန္ဓာကိုယ်တွင်းရှိ သွေးများ မှန်ကန်စွာ လှည့်ပတ်သွားလာနိုင်ရန် ရေ၏ ကူညီထောက်ပံ့မှုကို လိုလေသည်။ ထို့ပြင် ကိုယ်တွင်းမှ အညစ်အကြေးတို့ကို အဆုတ်၊ ကျောက်ကပ်၊ အရေပြားများမှတဆင့် ချွေးစသည်တို့ အဖြစ်ဖြင့် ကိုယ်၏ အပြင်ဖက်သို့ ထုတ်ရလေသည်။ ဤသို့ဖြင့် ကိုယ်တွင်း၌ ဆေးကြောသန့်ရှင်းစေ၍သွေးအသွားအလာ ကောင်းမွန်မှန်ကန် စေရန်အတွက် ရေကို များစွာသောက်ပေးရန်လိုသည်။

ရေကို အချိန်အခါနှင့်လိုက်၍ အနည်းဆုံး တနေ့လျှင် ရေ ၆ ဖန်ခွက် ခန့်မျှကုန်အောင် သောက်သင့်ပေသည်။ နံနက်စာမစားမီ ၁ ဖန်ခွက်၊ နံနက်စာနှင့် နေ့လည်အတွင်း ၂ ဖန်ခွက်၊ နေ့လည်စာနှင့် ညစာအတွင်း ၂ ဖန်ခွက်၊ညအိပ်ရာမဝင်မီ ၁ ဖန်ခွက် သောက်သင့်သည်။ အစာစားနေစဉ် ရေသောက်လျှင် ရေနှင့်အစာကို ရော၍ မျိုမချရန် သတိထားရပေမည်။ အစာကို ညက်ညက်ဝါး၍ မျိုချပြီးမှသာ ရေသောက်သင့်သည်။ ရေနှင့်အစာ ရော၍ မျိုချလျှင် အစာမကြေ ဖြစ်တတ်သည်။ ဤသို့ ကျန်းမာမှုအတွက် အရေးပါအရာရောက်သော ရေမှာလည်း တန်ဖိုးကြီးစွာပေး၍ ဝယ်ယူရသည်မဟုတ်ဘဲ အလွယ်တကူရရှိနိုင်လေရာ အသုံးပြုရာ၌ ဂရုတစိုက် ပြုတတ်လျှင် ထိရောက်သော အကျိုးကျေးဇူးကို ရရှိနိုင်သည်။

## ကျန်းမာ၍အင်အားဖြစ်စေမည့်အစားအစာတို့ကိုစားခြင်း

အင်ဂျင်စက်တို့ကို ထင်း၊ မီးသွေး၊ ဆီတို့ဖြင့် အားဖြစ်စေ၍ မောင်းနှင်ရွေ့ရှား စေရသကဲ့သို့ အစားအစာဖြင့် လူတို့၏ ကိုယ်ခန္ဓာကြီးကိုလည်း အားဖြစ်စေ၍ လှုပ်ရှားသွားလာ စေနိုင်သည်။ နေ့စဉ်နှင့်အမျှ လှုပ်ရှားသွားလာနေရသဖြင့် လှုပ်ရှားမှုကြောင့် ကုန်ခန်းသွားသောအင်အားများကို ဖြည့်တင်းပေးရန်အတွက် အစားအစာများကို စားသောက်ပေးရသည်။

ကိုယ်ခန္ဓာကြီး နွမ်းနယ်ခွေယိုင်ခြင်း မရှိဘဲ အားအင်ပြည့်ဖြိုးစေရန် အစာများ စားသောက်ကြရာ၌ အချိန်အခါနှင့် ချင့်ချိန်ကာ အတိုင်းအဆမှန်မှန် မပိုမလို စားသွားနိုင်မှ အကောင်းဆုံးဖြစ်သည်။ စားသင့်သည်ထက် ပိုမိုစားလျှင် အစာချေချက်ရသော ကိုယ်အင်္ဂါသည် လုပ်သင့်သည်ထက် ပိုမိုလုပ်ရသဖြင့် မအီမသာ ဖြစ်တတ်သည်။ ထို့ပြင် အလုပ်ကိစ္စ များလွန်းလှသည်ဆိုကာ အဆာလွန် မခံသင့်ချေ။ ဝလာလျှင် အလှပျက်မည်စိုး၍ အစာလျှော့စားသော မိန်းကလေးမျိုးသည် အားအင်ချည့်နဲ့ ရောဂါထူပြော၍ ကျန်းမာရေးကို ထိခိုက်သဖြင့် လှပတင့်တယ်မှုကို မရရှိတော့ဘဲပျော်ရွှင်မှုလည်း လက်လွတ်သွားရတတ်သည်။

အချိန်မှန်မထားဘဲ စားချင်သည့်အခါ စားတတ်သည့် အလေ့အကျင့်မျိုးကိုလည်း မမွေးသင့်ပေ။ အဘယ်ကြောင့်ဆိုသော် အစာအိမ်ကို နားသင့်သည့်အခါတွင် အနားမပေး၊ အချိန်မရွေး အလုပ်လုပ်ခိုင်းသည်နှင့် တူသောကြောင့် လုပ်ငန်းစဉ်ကို မမှန်မကန်ဖြစ်အောင်ပြုသဖြင့် အစာကြေချက်ခြင်းကို ထိခိုက်စေသည်။

အစာစားသည့်အခါ ဝမ်းပြည့်ရန်သာ ပမာနမထားဘဲ အသွေး၊ အသား၊ အရိုး၊ အကြောအခြင်တို့ကို သန်စွမ်းစေမည့်အစားအစာမျိုးကို စိစစ်စားသောက်သင့်လေသည်။ အချို့ရောဂါ ရှိသူများသည် ဓါတ်စာများကို ချင့်ချိန် စားသောက်ခြင်းဖြင့်ပင် ရောဂါများ သက်သာပျောက်ကင်း စေနိုင်သည်။ (အစာချေခြင်း — ရှု။)

လူတို့စားသုံးရန် သင့်လျော်သော အစာများကား လတ်ဆတ်သော ဟင်းသီးဟင်းရွက်နှင့် နွားနို့ဖြစ်၏။ မချက်ပြုတ်ရဘဲ အစိမ်းစားနိုင်သော ဟင်းသီးဟင်းရွက်များမှာ ပိုမိုကောင်းမွန်သည်။ နွားနို့မှာ လူတိုင်းနှင့် သင့်လျော်၍ အထူးသဖြင့် ငယ်ရွယ်သူများနှင့် သက်ကြီးရွယ်အိုတို့အဖို့ သာလွန်ကောင်းမွန်သည်။ လက်ဖက်ရည် ကာဖီစသည်တို့ကို များစွာမသောက်သင့်ချေ။ ကလေးသူငယ်များအား

မတိုက်ဘဲနေနိုင်လျှင် ပို၍ကောင်းသည်။ အချို့ အအီ အဆိမ့် အကြော်အလှော် များကား အစာကြေခဲ၍ များစွာစားသုံးရန်မသင့်လျော်ချေ။ ဆေးလိပ်နှင့် အရက်တို့သည် ကျန်းမာရေး၏ အန္တရာယ်ကြီးများပင် ဖြစ်ချေသည်။

အစာစားသည့်အခါ အလျင်စလိုမစားဘဲ ဖြည်းနှေးစွာ အစာကို ကြေညက် အောင် ဝါး ၍စား သင့် သည်။ သို့မှသာ အစာကြေရန် အကူအညီပေးသည့်၊ အစာစားလျှင် ပါးစပ်အတွင်းမှ ထွက်လာသော ကစီရည်ကို ကောင်းမွန်စွာရရှိ၍ အစာအိမ်ကို အလုပ်မများစေဘဲ အလွယ်တကူ ကြေညက်နိုင်စေသည်။ ထိုပြင် သွားများကိုလည်း ကောင်းစွာအလုပ်ပေးနိုင်စေသည်။ သွားများ အသုံးပြုရနည်းလျှင် လျင်မြန်စွာဆွေး၍ ဒုက္ခပေးတတ်သည်။ 'ဝမ်းတလုံးကောင်း ခေါင်းမခဲ' ဆိုသည့်ဆိုရိုးစကားအတိုင်း အစားအသောက်ကို သင့်မြတ်စွာ ချိန်ဆ၍ စားသုံးသွားနိုင်လျှင် အနာရောဂါကင်းရှင်း၍ ကျန်းမာခြင်း ဖြစ်စေနိုင် သည်။ (အစာ အာဟာရ — ရှု။)

## အိပ်ရေးဝအောင်အိပ်ခြင်း

လန်းဆန်းကြည်လင်ရွှင်ပျစွာ အလုပ်လုပ်လိုလျှင် အိပ်ရေးဝအောင် အိပ်သင့်သည်။ လူ၏ကိုယ်ခန္ဓာ စက်ယန္တရားကြီးကို အလုပ်ပြီးသည့်အခါ ရပ်နားအိပ်စက်ခွင့် ပေးရလေသည်။ ရပ်နားခွင့် ကောင်းစွာမရှိခဲ့လျှင် ချွတ်ယွင်းချက်များရှိလာကာ လူ၏ကျန်းမာရေးကို ထိခိုက်စေသည်။

အရွယ်ရောက်ပြီး သောလူတိုင်း တနေ့လျှင် ၈ နာရီခန့် အိပ်စက်သင့်၍ ကလေးသူငယ်နှင့်လူအိုများမှာ အချိန်ပိုမို၍ အိပ်စက်သင့်ပေသည်။ အိပ်စက်မည့် ဆဲဆဲတွင် စိတ်ပူပန်စရာ အကြောင်းကိစ္စ ဟူသမျှကို ဖျောက်ဖျက်ပစ်လိုက်၍ အိပ်ရာ ဝင်သင့်လေသည်။ အိပ်ရေး ဝလျှင် ဦးနှောက်ရှင်း၍ ဉာဏ်ပွင့်လင်းကာ ကြံတိုင်းအောင်တတ်ပေသည်။ နေ့လည်နေ့ခင်းဖက်များ၌ တရေးမျှ အိပ်စက်ခွင့်ရနိုင်လျှင် ကောင်းသည်။ အိပ်စက်ခွင့်မရလျှင် ၁၅ မိနစ်ခန့် ပက်လက်လှန်ကာ တကိုယ်လုံးရှိ ကြွက်သားတို့ကို လျော့ပြီး ငြိမ်သက်စွာ မျက်စိမှိတ်နေပါလေ။ ထိုကဲ့သို့ ခေတ္တမျှ အနားယူလိုက်ရခြင်းသည် မည်မျှလောက်လူကိုအားအင်ပြည့်တင်း ဖျတ်လတ်သွက်လက် လာစေသည်ကို လက်တွေ့ စမ်းသပ်ကြည့်ကကောင်းစွာသိနိုင်ပေသည်။

## ကျန်းမာရေးနှင့်ညီညွတ်စွာဝတ်စားဆင်ယင်ခြင်း

အဝတ်အစားများကို ရာသီဥတုနှင့် အချိန်အခါအလိုက် ဝတ်စားဆင်ယင်သင့်သည်။ ချမ်းအေးသောရာသီ၌ ထူထဲ၍ နွေးသော အဝတ်မျိုးကို ဝတ်ဆင်သင့်၍ လေအေးမည်မျှပင်တိုက်သော်လည်း ကိုယ်မှာ လုံခြုံပူနွေးနေလျှင် ဖျားနာခြင်းမဖြစ်နိုင်ပေ။ ပူအိုက်သည့်ရာသီဥတုတွင် ပေါ့ပါး၍ လေဝင်နိုင်သည့် အဝတ်မျိုးကို ဝတ်ဆင်သင့်သည်။

လူ၏အဆုတ်သည် အသက်ရှူသည့်အခါ နှစ်လက်မခန့်ကား၍ထွက်လာပြီးလျှင် အဆုတ်မှာ ခါးပိုင်းအထိရောက်သည်။ ထိုကြောင့် ကျပ်တည်းကျဉ်းမြောင်းသော အဝတ်ကို မဝတ်ဆင်သင့်ဘဲ ချောင်ချိသက်သာသည့် အဝတ်မျိုးကိုဝတ်ဆင်သင့်သည်။ သို့မှသာလျှင် အသက်လွတ်လပ်စွာ ရှူနိုင်၍ ကိုယ်ခန္ဓာအတွင်းရှိ သွေးများ ကောင်းမွန်စွာ လှည့်လည် သွားလာနိုင်ပေမည်။

အဝတ်များကို သန့်ပြန့်သပ်ရပ်စွာ ဝတ်ဆင်သင့်သည်။ ဝတ်ပြီးသားအဝတ်များကို ကြမ်းပေါ်၌စုပုံ၍ မထားသင့်ဘဲ လေသလပ် ခံထားသင့်သည်။ လျှော်ဖွပ်ရန် မလွယ်ကူသော အဝတ်များကို မကြာခဏ နေရောင်ပြပေးရသည်။

ခြေချောင်းကလေးများကို တွန့်လိမ်စေသော ဖိနပ်မျိုးကို မစီးသင့်ချေ။ အချို့ခေတ်ဆန်ချင်သူ အမျိုးသမီးကလေးများသည် ခုံမြင့်လှန်းသော ဖိနပ်များစီးမှ နကိုင်းထွက်သည်ဟုယူဆ၍ ထိုဖိနပ်မျိုးကို စီးလေ့ရှိကြသည်။ ထိုဖိနပ်မျိုးစီးလျှင် သွားပုံလာပုံ ဟန်ပန်အမူအရာ ပျက်စီး၍



စာဖတ်ရာတွင်ဤသို့စံနစ်တကျထိုင်တတ်ရန်လိုအပ်ပေသည်။

ကိုယ်ခန္ဓာ၏အလေးချိန်ကို ထမ်းထားရသော ခြေထောက်များ၏ အနေအထား ပျက်ပြားစေသဖြင့် ကျန်းမာရေးဖက်မှကြည့်လျှင် မသင့်လျော်ပေ။

## ကိုယ်ခန္ဓာအနေအထားမှန်ကန်ခြင်း

ခေါင်းမော့၍ ရင်ကော့ကာ တင့်တယ်ဖျတ်လတ်စွာလမ်းလျှောက်လာသူတဦးကို အများပင် ဂရုထား၍ ကြည့်မိကြပေမည်။ ထိုကဲ့သို့ လမ်းလျှောက်တတ်သူသည် မြင်ရသူများ၏ မျက်စိတွင် ခန့်ညားတင့်တယ်သည်သာမက တီဗီ ရောဂါစသည့် ဝေဒနာမျိုးတို့လည်း သူ့အား လွယ်ကူစွာ မကပ်ရောက်နိုင်ပေ။ ထိုင်သည့်အခါတွင်ဖြစ်စေ၊ ရပ်နေသည့်အခါတွင်ဖြစ်စေ၊ လေကို မှန်မှန်ရှူသွင်းနိုင်စေရမည်ဖြစ်၍ အသက်မှန်မှန်ရှူနိုင်မည့် အနေအထားမျိုး ရှိရန်လိုသည်။ ကိုယ်ခန္ဓာကို တည့်မတ်စွာ မထားသူ၏ အဆုတ်စသည့် အင်္ဂါတို့မှာ ပွင့်ကားသင့်သလောက် မပွင့်ကားဘဲ နေထားတကျ မရှိနိုင်သောကြောင့် အဆုတ်နှင့်ဆိုင်သည့် ရောဂါများစွဲကပ်တတ်သည်။ ကိုယ်ခန္ဓာကို ခါးနှင့် ဒူးတို့၌သာ ကွေးညွတ်သင့်လေသည်။ လမ်းလျှောက်သည့်အခါတွင် ခေါင်းပေါ်၌ တစုံတခု ရွက်ထားရသကဲ့သို့ ခေါင်းကို မတ်မတ်ထားကာ လက်ပြင်ကိုဖြန့်လျက် ရဲဝံ့တည်ကြည်စွာလျှောက်သင့်၏။ လေးလံသော ဝတ္ထုပစ္စည်းကို လက်ဖြင့် သယ်ဆောင်လာလျှင် တဖက်မှ တဖက်သို့ ကူးပြောင်းကာ တလှည့်စီ ယူဆောင်သင့်ပေသည်။ လက်တဖက်တည်း အားပြု၍သုံးဖန်များလျှင် ပခုံးများ ပုံပန်းသဏ္ဌာန် ပျက်သွားတတ်လေသည်။

## ဣရိယာပုထ်မျှတစေခြင်း

ကိုယ်ခန္ဓာရှိ အရိုး ကြွက်သား အကြော စသည်တို့သည် လှုပ်ရှားမှု အသင့်အတင့်မျှ မရရှိလျှင် တောင့်တင်းမာကျော၍ အားနည်းသွားတတ်သည်။ လှုပ်ရှားနေသော အရိုးနှင့်ကြွက်သားတို့သည် သွေးကိုပိုမို၍ အလိုရှိသဖြင့် သွေးပိုမိုရရှိရန် နှလုံးနှင့်အဆုတ်တို့မှာ ပိုမို၍ အလုပ်လုပ်ကြရသည်။ ထိုသို့ပိုမို၍ အလုပ်လုပ်ရသဖြင့် နှလုံးမှာ ပိုမို၍ ခုန်ရပြီးလျှင် အဆုတ်မှာလည်း သွေးများသန့်ရှင်းစေရန် လေကို ပိုမိုရှူသွင်းရသဖြင့် ပို၍အားရှိလာသည်။

ကိုယ်ခန္ဓာကို လှုပ်ရှားစေရာ၌ တကိုယ်လုံး အညီအမျှ လှုပ်ရှားစေသင့်သည်။ ထိုကဲ့သို့ လှုပ်ရှားမှုကို ရရှိစေနိုင်မည့် အလွယ်ဆုံး နည်းလမ်းများမှာ ရေကူးခြင်း၊ လှေလှော်ခြင်း၊ စက်ဘီးစီးခြင်းနှင့် လေကောင်းလေသန့် ရရှိမည့် နေရာများတွင် လမ်းလျှောက်ခြင်းများဖြစ်သည်။ ဘောလုံးကစားခြင်း တင်းနစ်ရိုက်ကစားခြင်း ကြက်တောင်ရိုက်ကစားခြင်း စသည်တို့မှာလည်း စိတ်ရောကိုယ်ပါ ဖျတ်လတ်သွက်လက်စွာ အလုပ်လုပ်ရသော ကစားနည်းများဖြစ်၍ ကောင်းမွန်သင့်လျော်ပေသည်။

ကိုယ်လက်ကြံ့ခိုင်ရေး လေ့ကျင့်ခန်းများကိုလည်း အိမ်တွင်ပင် လေ့ကျင့်ခန်းယူနိုင်သည်။ အလွယ်ဆုံး လေ့ကျင့်ခန်းမှာ နံနက် အိပ်ရာမှ ထလျှင်ထခြင်း ဖွင့်ထားသော ပြတင်းပေါက်တွင်ရပ်၍ ၅ မိနစ်ခန့် အားရပါးရ အသက်ရှူခြင်းပင်တည်း။

ထိုကဲ့သို့ ကိုယ်လက်လှုပ်ရှားခြင်းများ ပြုလုပ်ရာ၌ တော်သင့်ရုံထက် မပိုသင့်ပေ။ တန်ဆေးလွန်ဘေး ဖြစ်တတ်




မတ်တပ်ရပ်ရာတွင် (ဝဲ) နည်းမှန် နှင့် (ယာ) နည်းမှား

သဖြင့် လှုပ်ရှားခြင်းလွန်လျှင် မောဟိုက်ပင်ပန်း အားအင်ကုန်ခန်း၍ အန္တရာယ်ဖြစ်စေတတ်သည်။ ကြိုးခုန်ခြင်းဖြင့် လေ့ကျင့်ခန်းယူသူမိန်းကလေးတဦးမှာ တော်သင့်သည်ထက်ပို၍ အချိန်ကြာစွာ ကြိုးခုန်သဖြင့် အားစိုက်ရလွန်းသောကြောင့် နှလုံးခုန်ခြင်း ရပ်သွားဘူးသည်။ ကိုယ်လက်လှုပ်ရှားခြင်းများကို အစာစားပြီးစတွင် ပြုလုပ်လျှင် အစာကြေချက်ခြင်းကို ထိခိုက်စေတတ်၍ ထိုအခါမျိုးတွင် မပြုလုပ်သင့်ပေ။ မည်သည့် ကိုယ်လက်လှုပ်ရှားခြင်းလေ့ကျင့်ခန်းကို ပြုလုပ်သည်ဖြစ်စေ စိတ်ရောကိုယ်ပါ ဆောင်ရွက်မှသာအကျိုးထိရောက်နိုင်ပေသည်။ (ကိုယ်လက်ကြံ့ခိုင်ရေး — ရှု။)

## သန့်ရှင်းစင်ကြယ်ခြင်း

ရောဂါဖြစ်လာမှ ပျောက်ကင်းချမ်းသာအောင် ကုသရခြင်းထက် မဖြစ်မီကြိုတင်ကာကွယ်ခြင်းက ပိုမိုသက်သာ

လွယ်ကူသည်။ ရောဂါဖြစ်လာမှ အချိန်ကုန်ငွေကုန် လူပန်းခံကာ ကုသခြင်းထက် ရောဂါမဖြစ်အောင် ကြိုတင်ကာကွယ်ခြင်းမှာ သက်သာလွယ်ကူပေသည်။ ထိုသို့ ကြိုတင်ကာကွယ်ရာ၌ သန့်ရှင်းစင်ကြယ်စွာ နေထိုင်ခြင်းသည် များစွာအရာရောက်၍ အကျိုးရှိသော အကြောင်းတပါးဖြစ်ပေသည်။ (ဗီဇမျိုး — ရှု။)

စားသောက်စရာများကို သန့်သန့်ပြန့်ပြန့် ပြုပြင်ထားစေကာမူ ယင်းတို့ကို ညစ်ပတ်ပေရေသော လက်များဖြင့် ယူငင်စားသောက်လျှင် ရောဂါပိုးတို့သည် အစာအိမ်ထဲရောက်သွားနိုင်သည်။ ထို့ကြောင့် အစားအသောက်များ စားသောက်မည့် အခါများတွင် လက်များကို ကောင်းမွန်သန့်စင်စွာ ဆေးကြောပြီးမှ စားသောက်သင့်သည်။ လက်သည်းကြားတွင် ချေးများမရှိစေအောင် လက်များလက်သည်းများကို ဆပ်ပြာစသည်ဖြင့်စင်ကြယ်အောင် ဆေးကြော၍သန့်ပြန့်စွာ ရှိစေသင့်သည်။

စားသောက်ပြီးသည့်အခါ ပါးစပ်များကို ပါးလုပ်ကျင်းပစ်၍ သွားများကို ပွတ်တိုက်ဆေးကြောပစ်နိုင်လျှင် အထူးကောင်းမွန်သည်။အဘယ်ကြောင့်ဆိုသော် စားစရာ အစအနများသည် သွားကြိုသွားကြားထဲတွင် ကပ်နေတတ်၍ သွားများကို ညစ်ပတ်စေတတ်သည်။



အစာမစားမီနှင့်စားပြီး လက်များကို ဤသို့သန့်စင်စေရသည်။



သွားများညစ်ပတ်လျှင် ကြည့်၍ အရုပ်ဆိုးသည်သာမက သွားများပိုးစားလာ၍ သွားကိုက်သွားနာ ရောဂါများ မကြာမီ ဖြစ်လာတတ်သည်။ သွားပွတ်တံ မပျော့မမာလွန်းသော အနေကိုသုံး၍ ယင်းကို သန့်ရှင်းစင်ကြယ်စွာ ရှိစေပြီးလျှင် လေနှင့်နေရောင် ရသောနေရာတွင် ထားသင့်သည်။ နေရောင်မှာ သွားရောဂါပိုးများကို တွန်းလှန်နိုင်သော သတ္တိရှိသည်။ သွားများကို အနည်းဆုံး နံနက်နှင့်ည ၂ ကြိမ်မှန်မှန် တိုက်ပေးသင့်၍ အပေါ်မှအောက်၊ အောက်မှအပေါ်သို့၎င်း၊ ကန့်လန့်ထိုးသွင်း၍၎င်း၊ ခပ်ကြမ်းကြမ်း ကလေးဖိတိုက်ပေးသင့်သည်။ သွားများက ဒုက္ခမပေးသည့်တိုင်အောင် တနှစ်လျှင် ၂ ကြိမ်မျှလောက် သွားစိုက်ဆရာဝန်ထံ ပြသစမ်းသပ် ကြည့်သင့်သည်။ သို့မှသာလျှင် သွားများအတွက် ဒုက္ခမတွေ့ရဘဲ နောက်နောင် သွားအတွက်နှင့် ကုန်ကျမည့် ကြေးငွေကိုလည်း မကုန်ကျစေရတော့ပေ။ (သွား — ရှု။)

ညစ်ပတ်ပေရေသော လက်များကိုဆေးကြောရန်လိုအပ်သကဲ့သို့ ကိုယ်ခန္ဓာ တခုလုံးကိုလည်း နေ့စဉ် ရေမှန်မှန်ချိုးပေး၍ သန့်ရှင်းစင်ကြယ်စွာ ထားရှိသင့်သည်။ သို့မှသာ အသားအရေ စိုပြည်ကြည်လင်လျက် ကျန်းမာရွှင်လန်းနေပေလိမ့်မည်။အသားအရေပေါ်တွင်ချေးနှင့်ဖုံတို့ကြောင့် စေးထန်းညစ်ပတ် နေတတ်လေရာ သန့်ရှင်းအောင် ရေဆပ်ပြာတို့ဖြင့် ရေမချိုးလျှင် မကောင်းသော အနံ့အသက်များ ထွက်တတ်သည့်ပြင် ကျန်းမာရေးအတွက်လည်း မသင့်ချေ။ အရေပြားတွင် ရှိသောချေးပေါက်များကို ဖုံချေးတို့ဖြင့် ပိတ်ဆို့မနေစေရန် ကိုယ်ခန္ဓာတခုလုံးကို ကောင်းမွန်စွာ တိုက်ချွတ်ဆေးကြော သန့်ရှင်းစေရာသည်။

နံနက်စောစော ရေမိုးချိုး၍ မျက်နှာသုတ်ပုဝါဖြင့် ရေစင်အောင် ခတ်ကြမ်းကြမ်း ပွတ်တိုက်ပေးလိုက်လျှင် အသားအရေမှာ ပူနွေးလာကာ သွေးရောင်များ သန်းလာ၍ လူမှာလည်း ဖျတ်လတ်သွက်လက် ရွှင်လန်းလာပေလိမ့်မည်။ထိုသို့မှန်မှန်ပြုလုပ်ပေးနိုင်လျှင် အအေးမိခြင်းကိုလည်း ကာကွယ်နိုင်၍ ရာသီဥတုအပြောင်းအလဲဒဏ်ကိုလည်းခံနိုင်မည်။

ဦးခေါင်းမှ ဆံပင်များကို အနည်းဆုံး တလ ၂ ကြိမ် လျှော်ပေးသင့်သည်။ ခေါင်းလျှော်ဆပ်ပြာ စသည်ဖြင့် လျှော်သည်ဖြစ်စေ၊ တရော်ကင်ပွန်းတို့ဖြင့် လျှော်သည်ဖြစ်စေ၊ပွတ်လျှော်ပြီးနောက် ရေဖြင့် အထပ်ထပ် စင်ကြယ်အောင် ဆေးပစ်ပြီးလျှင် လေသလပ်ခံရမည်။ ခေါင်းဖြီးသည့်ဘီးနှင့် ဝက်မှင်ဘီးများကိုလည်း ရေထဲတွင် ဇဝက်သာအနည်းငယ်ထည့်၍ ဆေးကြောစေနိုင်သည်။ ထိုနောက်နေဖြင့် ခြောက်သွေ့စေရာ၏။

ကိုယ်ခန္ဓာကို ကျန်းမာသန့်ရှင်းစွာ ရှိစေရန် အထက်ပေါ်ပြပါ နည်းများနှင့် လျော်ညီစွာ နေထိုင်ပြုမူ ကြရမည့်

အပြင် နေအိမ်စသည့် ပတ်ဝန်းကျင်များ သန့်ရှင်းစွာ ရှိရန်လည်း အထူးလိုအပ်ပေသည်။ အိပ်ရာနေရာ စသည်တို့မှာ အမှိုက်သရိုက်များမှ စင်ကြယ်သန့်ရှင်း၍ လေဝင်လေထွက်ကောင်းမွန်စေပြီးလျှင် နေရောင်ခြည် ကောင်းစွာရရှိစေရမည်။ တတ်နိုင်လျှင် အိမ်များကို တနှစ်လျှင် ၂ ကြိမ်မျှ ရေဖြင့် ဆေးကြောပေးသင့်သည်။ ခန်းဆီး လိုက်ကာများမှာ ရေလျှော်ခံသော အထည်မျိုးကို သုံးသင့်သည်။ အိမ်လှည်းကျင်း သည့်အခါ တံမြက်စည်း ကြက်မွေးစသည်တို့



ခံတွင်းနှင့်သွားကိုစင်ကြယ်စွာဆေးကြောရမည်။

သည် ဖုံများလွင့်စင်ထွက်သဖြင့် လျှပ်စစ်ဓါတ်အား ပေါသည့်နိုင်ငံများရှိ ခေတ်မှီနေအိမ်များတွင် ကျန်းမာရေးနှင့် ညီညွတ်သော ဓါတ်တံမြက်စည်းများကို အသုံးပြု၍သန့်ရှင်းစေကြသည်။

မီးဖိုဆောင် ရေချိုးခန်း အိမ်သာများကိုလည်း တပတ်လျှင် တခါမျှတိုက်ချွတ်ဆေးကြော ပေးသင့်သည်။ သို့မဟုတ်လျှင် အညစ်အကြေးများစု၍ မကောင်းသော အနံ့အသက်များ ထွက်တတ်သည်။ အမှိုက်သရိုက်များကို နေ့စဉ် မီးရှို့ပစ်နိုင်လျှင် ကောင်းသည်။ ဤသို့မပြုလုပ်နိုင်လျှင် အဖုံးရှိသော ပုံးတလုံးတွင်စု၍ ထည့်ထားပြီးနောက် သွားရောက်စွန့်ပစ်နိုင်သည်။ အိမ်တွင်း၌ ယင်ကောင်များ ကြွက်များ မလာနိုင်စေရန် စားစရာများကို စည်းကမ်းမဲ့ မထားသင့်ပေ။ ယင်ကောင်များ ကြွက်များမှာ ရောဂါပိုးများ သယ်ဆောင်လာတတ်ကြသဖြင့် စားစရာများကို ဖုံးအုပ်ထားသင့်သည်။ ထို့ပြင် သန့်ပြန့်သောပန်းကန်ခွက်ယောက်များဖြင့် စားစရာများကို လတ်ဆတ်ပူနွေးစွာ စားသောက်သုံးဆောင်သင့်ပေသည်။

နေအိမ်များတွင်သောက်ရေမှာအရေးကြီးသဖြင့် သန့်ရှင်းစင်ကြယ်၍ အန္တရာယ်မဖြစ်ဟုသိရှိနိုင်မှသာ သောက်သုံးသင့်ပေသည်။ အဝီစိ တွင်းရေများမှာ သောက်ရေအတွက် သင့်လျော်၍ မြို့ကြီးများမှာ ရေလှောင်ကန်ကြီးများမှ ပိုက်များဖြင့် ပေးပို့သော ရေကိုသုံးကြသည်။ ထိုရေလှောင်ကန်များမှ ပေးသွင်းသည့်ရေများကို ရောဂါပိုးများ မပါစေရန် ကလိုရိုက် အေ့ လိုင်း ခေါ် ဆေးနှင့် အခြားဓါတုဗေဒဆေးများကို ထည့်ပေးသည်။ သို့ရာတွင် သောက်ရေအဖြစ် အသုံးပြုခါနီးတွင် ရေကိုစစ်၍သော်၎င်း၊ ချက်၍သော်၎င်း၊ သောက်သုံးသင့်သည်။ ချက်၍သောက်သောရေကျက်အေးမှာ ပေါ့ပျက်ပျက်နေကာ သောက်၍အားမရဖြစ်တတ်သဖြင့် ရေကိုကျိုချက်ပြီး အအေးခံသောအခါ ခွက်တခုမှ တခုသို့ ကြိမ်ဖန်များစွာ ကူးပြောင်းအအေးခံပြီးမှသောက်လျှင် ကောင်းမွန်ပေမည်။

နေအိမ်များကား သပ်ရပ်သန့်ရှင်းစွာ ရှိသင့်သည့်ပြင် တိတ်ဆိတ်ငြိမ်သက်စွာလည်း ရှိသင့်ပေသည်။ ဆူညံသောအသံများသည် စိတ်အာရုံကြောများကို အနှောင့်အယှက်ဖြစ်ကာ ထိခိုက်စေတတ်သည်။ အရိုး၊ ကြွက်သား၊ ဦးနှောက် စသည်တို့ကဲ့သို့ အာရုံကြောတို့သည်လည်း ရပ်နားငြိမ်ဆိမ်မှုကို အလိုရှိကြသည်။ နေအိမ်များကား တိတ်ဆိတ်ငြိမ်သက်ကာ ကိုယ်စိတ်နှစ်ပါး အနားယူရာ နေရာဖြစ်သဖြင့် ပွဲဖွယ်ကိစ္စတို့ကို ညင်သာစွာ ပြုလုပ်သင့်ပေသည်။ ဆူဆူညံညံ ဝုန်းဝုန်းဒိုင်းဒိုင်း အသံများကြောင့် အာရုံကြောများကို ထိခိုက်၍ဖြစ်ပေါ်သော ရောဂါဝေဒနာများသည် ကုသရန်ခဲယဉ်းသည်။

သပ်ရပ်သန့်ရှင်းစွာနှင့် အေးအေးလူလူ ဆိတ်ငြိမ်ရာတွင်




အဖုံးပါသောအမှိုက်သယ်ယာဉ်များဖြင့် သန့်ရှင်းရေးဆောင်ရွက်ကြ၏



**ကျန်းမာရေးအတွက်တန်ဖိုးရှိသောနေရောင်ခြည်ကိုအသုံးချတတ်ရမည်။**

နေထိုင်ရခြင်းမှာ ကျန်းမာရေးအတွက်သာလျှင် ကောင်းမြတ်သည်မဟုတ်ဘဲ စိတ်၏ သာယာချမ်းမြေ့ခြင်းကိုလည်း ဖြစ်စေသည်။

### နေရောင်ခြည်လုံလောက်အောင်ရရှိစေခြင်း

သစ်ပင် တိရစ္ဆာန်နှင့်တကွ လူသတ္တဝါ အပေါင်းတို့မှာ နေရောင်ခြည်မရလျှင် ကြုံလှီဖျော့တော့၍ အားပျော့ကြသည်။ နေရောင်ခြည်သည် လူတို့၏ ကျန်းမာသန်စွမ်းရေးအတွက် အဖိုးတန်၍ အရာရောက်သည်။ အချို့ရောဂါဝေဒနာများကို နေရောင်ခြည်ဖြင့် ကုသပျောက်ကင်းစေနိုင်ပေသည်။

နေပူစာ လှုံခြင်းဖြင့် နေမှ တိုက်ရိုက်လာသော နေရောင်ခြည်ကို အဖိုးအခ မပေးဘဲ လွယ်ကူစွာ ရရှိနိုင်ပေသည်။ နံနက်ပိုင်း နေရောင်ခြည်မှာ ပိုမိုကောင်းမွန်သဖြင့် ထိုအချိန်အခါမျိုးတွင် အိမ်ပြင်သို့ ထွက်၍ နေပူစာလှုံခြင်း နေရောင်ခြည်ခံခြင်းများ ပြုလုပ်သင့်သည်။ တခါတည်းနှင့် အချိန်ကြာမြင့်စွာ နေပူစာ မလှုံသင့်ချေ။ တစတစတိုးတက်၍ နေရောင်ခြည် ခံသင့်ကြပေသည်။

နေအိမ်တွင် မှန်ပြတင်း တပ်ဆင်ထားလျှင် မှန်ကို ထိုးဖေါက်ဝင်ရောက် လာရသော နေရောင်ခြည်မှာ တန်ခိုးအရှိန်အဝါ မများလှသဖြင့် အိမ်တံခါးများကို ဖွင့်လှစ်၍ အတွင်းသို့ နေရောင်ခြည် ဝင်ရောက်နိုင်ရန် ပြုလုပ်ပေးသင့်သည်။ ငွေကြေးမပေးရသော သဘာဝနေရောင်ခြည် ဆေးဆရာသည် လူ၏ကိုယ်ခန္ဓာမှငင်း၊ နေအိမ် ပစ္စည်း အသုံးအဆောင်များမှငင်း၊ ရောဂါပိုးများကို နှိမ်နင်းနိုင်ပေသည်။

ပြဆိုခဲ့သော ကျန်းမာရေးကျင့်စဉ်များမှာ ခက်ခဲပင်ပန်းစွာ ကျင့်ဆောင်ရသော နည်းလမ်းများ မဟုတ်ကြောင်းကို သိသာနိုင်ပေပြီ။ မိမိတို့၏ နေထိုင်စားသောက်မှုကို အနည်းငယ် ဂရုစိုက်၍ ပြုပြင်နေထိုင် သွားလိုက်လျှင် ကိုယ်၏ကျန်းမာခြင်း၊ စိတ်၏ချမ်းသာခြင်း အကျိုးကျေးဇူးများကို မုချရနိုင်ပေသည်။ ထိုထိုကျင့်စဉ်များအပြင် နောက်ဆုံးနှင့် အရေးအကြီးဆုံး အချက်တခုကို ဖြည့်စွက်လိုသေးသည်။ ‘စိတ်ပျိုလျှင် ကိုယ်နု’၊ ‘ပျော်ပျော်နေ သေခဲ’ ဟူသောစကားများအတိုင်း စိတ်ညစ်ညူးစရာ စိတ်မသက်သာစရာများကို ထပ်တလဲလဲ တွေးတောပူပင် တတ်သူများသည် ကျန်းမာရေး ချို့တဲ့တတ်သည်။ ထိုကြောင့် ကျန်းမာရေးတည်းဟူသော လာဘ်ကို ရရှိစေနိုင်ရန်သော်ငင်း၊ ဒုက္ခသုခ စသည်တို့နှင့် ရင်ဆိုင်ကြရသည့်အခါ စိတ်ထိခိုက်မှုမရှိဘဲ ကြံ့ခိုင်တည်ကြည်စွာ နေနိုင်ရန်သော်ငင်း၊ တရားရှိကြဖို့လည်း လိုပေသေးသည်။

အိမ်သူအိမ်သားများ ကျန်းမာစွာ နေထိုင်နိုင်ကြမှုမှာ အိမ်ရှင်မတို့၏ ကြီးလေးလှသော တာဝန် ဝတ်တရားကြီး

တခုဖြစ်ပေသည်။ ယခုခေတ်ကဲ့သို့ စက်မှုလက်မှု ထွန်းကားနေသော ကမ္ဘာကြီးတွင် ကျန်းမာစွာ နေထိုင်နိုင်မှုမှာ ပေါ့ပေါ့ဆဆ နေ၍မဖြစ်ပေ။ အိမ်ရှင်မတို့သည် ကျန်းမာရေး၏တန်ဖိုး၊ ကျန်းမာရေးနှင့်ပြည့်စုံစွာ မည်သို့ နေထိုင်ကျင့်သုံးရန်များကို တတ်သိနားလည်မှသာ နေအိမ်များကို စည်းကမ်းတကျအုပ်ချုပ်၍အိမ်သူအိမ်သားတို့အားကျန်းမာရေးတည်းဟူသော ဆုကြီးကိုပေးဆောင်အပ်နှင်းနိုင်ပေမည်။

**ကျန်းမာရေးလေ့ကျင့်ခြင်း။** ။စည်းဝါးကိုက် ကိုယ်လက်လေ့ကျင့်ခြင်း — ရှု။

**ကျန်းမာရေးဝန်ကြီးဌာန။** ။မြန်မာနိုင်ငံ ကျန်းမာရေးဝန်ကြီးဌာနလုပ်ငန်းများကို ယခင်က ပြည်သူ့ဝန်ထမ်းဝန်ကြီးဌာန၌ တွဲဖက်ထားရှိသည်။ ၁၉၅၃ ခုနှစ်မတ်လတွင် ကျန်းမာရေးဝန်ကြီးဌာန သီးခြားဖွဲ့စည်း၍ ကျန်းမာရေးလုပ်ငန်းဆိုင်ရာများကို တိုးချဲ့ကာ အားသွန် ဆောင်ရွက်လျက်ရှိသည်။

ဤဝန်ကြီးဌာနရှိ အတွင်းဝန်များအောက်တွင် ညွှန်ကြားရေးဝန် တဦးရှိသည်။ ထိုညွှန်ကြားရေးဝန်ကို ကူညီရန် ဒုတိယညွှန်ကြားရေးဝန် ၄ ဦး၊ အုပ်ချုပ်ရေးအရာရှိတဦးနှင့်လက်ထောက်ညွှန်ကြားရေးဝန်များ ထားရှိသည်။

မြို့နယ်တခုလျှင်ဆေးရုံတခုရှိရမည် ဆိုသော ပြည်တော်သာဆောင်ပုဒ်အရ နိုင်ငံတော်အစိုးရသည် ခရိုင်ဆေးရုံကြီးများ၊ မြို့နယ်ဆေးရုံများ၊ ဆေးပေးခန်းများကို အနှံ့အပြားဖွင့်လှစ်လျက်ရှိသည်။ ၁၉၅၂ ခုနှစ်တွင် ဆေးရုံပေါင်း ၂၁၄ ရုံရှိ၍ ဆေးပေးခန်းပေါင်း ၁၂၁ ခန်းရှိလေသည်။ ထိုဆေးရုံများအပြင် စိတ္တဇရောဂါကုဆေးရုံ၊ ခွေးရူးကိုက်ရောဂါကုဆေးရုံ၊ ကုဋ္ဌနူနာ ဆိုင်ရာရောဂါကုဆေးရုံ၊ ကာလသားရောဂါကုဆေးရုံနှင့် တီဘီရောဂါကုဆေးရုံများလည်းရှိသည်။

၁၉၅၃ ခုနှစ်တွင် ပေါ်လီကလင်နစ် ကျန်းမာရေးအဖွဲ့ဆေးပေးဌာနများကိုလည်း ဖွင့်လှစ်ခဲ့သည်။ မြန်မာနိုင်ငံတဝှန်းလုံးရှိ ဆေးရုံဆေးခန်းနှင့် ဆေးအဖွဲ့များအတွက် ဆေးဝါးနှင့်ကုသမှုဆိုင်ရာ တန်ဆာပလာများကို နိုင်ငံတော်ဗဟိုဆေးသိုလှောင်ရေး အဖွဲ့မှဖြန့်ဖြူး၍၊ ယင်းဌာနကို လက်ထောက်ညွှန်ကြားရေးဝန်တဦးက စီမံအုပ်ချုပ်သည်။

၁၉၅၁ ခုနှစ်တွင် ကျန်းမာရေးနှင့်စပ်လျဉ်း၍ အရေးကြီးသောအချက် ၇ ချက်ပါ စီမံကိန်းတရပ်ကိုရေးဆွဲခဲ့သည်။ ထိုစီမံကိန်းအရ တောလက်ကျေးရွာများတွင် ဆရာဝန်ဆရာမများ လုံလောက်စွာရရှိရေး၊ မြန်မာနိုင်ငံတွင် ဆေးဝါးထုတ်လုပ်ရေး၊ ကလေးသူငယ်ကျန်းမာရေးအတွက် ကလေးသူငယ်ကျန်းမာရေးကောင်စီဖွဲ့စည်း၍ အကွက်စေ့ဆောင်ရွက်ရေး၊ ကာလသားရောဂါ ငှက်ဖျားရောဂါနှင့် တီဘီရောဂါများ တိုက်ဖျက်ရေး၊ မိခင်နှင့်ကလေးများအတွက် သက်သာချောင်ချိရေး ဌာနများနှင့် ကလေးဆေးရုံများ ဖွင့်လှစ်ပေးရေးစသည်တို့ပါဝင်လေသည်။

## သင်တန်းများ

သင်တန်းများနှင့်စပ်လျဉ်း၍ ယခင်က ကျန်းမာရေးအင်စပက်တော်သင်တန်းကို တိုးချဲ့ကာ လက်ထောက်ကျန်းမာရေးမှူး သင်တန်းအဖြစ်ဖြင့် ဖွင့်လှစ်သင်ကြားနေသည်။ သင်တန်းတပတ်လျှင် ကျောင်းသားဦးရေ ၁၅၀ ခန့်ရှိ၍ တနှစ်ခွဲမျှကြာအောင် သင်ကြားကြရသည်။ နိုင်ငံတဝှန်းလုံးအတွက် လက်ထောက်ကျန်းမာရေးမှူးပေါင်း ၈၀၀ မျှရရှိအောင် သင်ကြားပေးမည်ဟုသိရသည်။

သူနာပြုသင်တန်းနှင့် ဝမ်းဆွဲဆရာမသင်တန်းများကိုမူ မိခင်နှင့်ကလေးသူငယ်များ စောင့်ရှောက်ရေးဌာနက ကြီးကြပ်ဖွင့်လှစ်လျက်ရှိသည်။ လက်မှတ်ရပြီးသော သူနာပြုဆရာမအချို့ကို ဥာဏ်သစ်ထပ်လောင်းသင်တန်းများဖွင့်၍ ပြည်တွင်း၌၎င်း၊ နိုင်ငံခြားသို့လွှတ်၍၎င်း သင်ကြားသည်။

## တီဘီရောဂါ

တီဘီရောဂါတိုက်ဖျက်ရေးအတွက် မြန်မာနိုင်ငံအစိုးရ၊ ကုလသမဂ္ဂ အပြည်ပြည်ဆိုင်ရာကလေးများ အရေးပေါ်ရန်ပုံငွေအဖွဲ့၊ ကမ္ဘာ့ကျန်းမာရေးအဖွဲ့တို့ ပူးပေါင်းကာ စုံစမ်းလေ့လာရေး ကြိုတင်ကာကွယ်ရေးနှင့် ကုသရေးများကိုဆောင်ရွက်လျက်ရှိသည်။ ရန်ကုန်မြို့ပြည်သူ့ဆေးရုံကြီးတွင် တီဘီရောဂါကုရန်အတွက် နေရာ ၂၅၀ ခန့်ရှိသည်။ တီဘီရောဂါစုံစမ်းလေ့လာခြင်းနှင့် ဗီစီဂျီဆေးထိုးပေးခြင်းများကို ခရိုင်မြို့ကြီးများတွင် စတင်ဆောင်ရွက်လျက်ရှိသည်။ မန္တလေးမြို့တွင် တီဘီဆေးရုံတခု ဆောက်လုပ်ရန်နှင့် သံလျင်မြို့တွင် လူနာ ၂၅၀ မျှ ထားနိုင်သော လဟာပြင်အထူးဆေးရုံတခု ဆောက်လုပ်ပေးနိုင်ရန်အစီအစဉ်များပြုလုပ်ဆဲရှိသည်။

## ငှက်ဖျားရောဂါ

ငှက်ဖျားရောဂါ တိုက်ဖျက်ရေးကို နိုင်ငံတော်အစိုးရက ၅ နှစ်စီမံကိန်းချ၍ လုပ်ကိုင်နေသည်။ ထိုစီမံကိန်းအရ ငှက်ဖျားရောဂါတိုက်ဖျက်ရေးတိုင်းအဖွဲ့ကြီး ၆ ဖွဲ့နှင့် အဖွဲ့ငယ်ပေါင်း ၇၄ ဖွဲ့ ဖွဲ့စည်းဆောင်ရွက်ရန်ဖြစ်ရာ၊ ယခုအခါတိုင်းအဖွဲ့ကြီး ၄ ဖွဲ့နှင့် အဖွဲ့ငယ်ကလေး ၁၆ ဖွဲ့ကို ဖွဲ့စည်းပြီးဖြစ်၍ ခြင်သတ်ဆေးများဖျန်းခြင်း၊ ဆေးဝါးဝေငှခြင်း၊ ရပ်သူရွာသားများအား ငှက်ဖျားရောဂါ ကာကွယ်နည်းများကို ညွှန်ကြားသင်ပြခြင်းစသော လုပ်ငန်းများကိုလုပ်ကိုင်နေကြသည်။

ကုဋ္ဌနူနာရောဂါ တိုက်ဖျက်ရေးလုပ်ငန်းကို လက်ထောက်ညွှန်ကြားရေးဝန် တဦးကအုပ်ချုပ်၍ လူနာများအား ဆေးဝါးကုသပေးခြင်း၊ သီးခြားရိပ်သာနှင့် စခန်းများဖွင့်လှစ်ပေးခြင်းများကို ဆောင်ရွက်လျက်ရှိသည်။ ကုဋ္ဌလူနာများ သီးခြားရိပ်သာကို အင်းစိန်ခရိုင် ထောက်ကြံ့တွင်ဖွင့်လှစ်ထားသည်။ မုံရွာ၊ ရွှေဘို၊ စစ်ကိုင်း၊ ပခုက္ကူ၊ မိတ္ထီလာ၊ ရမည်းသင်း၊ မင်းဘူး၊ မကွေး၊သထုံ၊ ပုသိမ်၊ သရက်၊ မော်လမြိုင်၊ မန္တလေးနှင့် မြင်းခြံမြို့များ တွင်လည်း ကုဋ္ဌလူနာကု စခန်းကလေးများ ဖွင့်လှစ်ထားပြီးလျှင်၊ ပြည်နယ်များအတွက်ကိုလည်း တာဝန်ယူ၍ဆောင်ရွက်ရသည်။ ထိုဆေးကုစခန်းများတွင် ပြုစုစောင့်ရှောက်ပေးရန်အတွက် စောင့်ရှောက်ရေးမှူးများကို ၆ လသင်တန်းပေးပြီးမှ ခန့်ထားသည်။ ထိုမှတပါး ရန်ကုန်မြို့ပြည်သူ့ဆေးရုံကြီးတွင် ကုဋ္ဌနူနာရောဂါတွင် အကျုံးဝင်သော အရေပြားရောဂါများအတွက် စမ်းသပ်ကုသရန် ဌာနတခုကို ဖွင့်လှစ်ထားပြီးလျှင် အထူးကျွမ်းကျင်သော ပုဂ္ဂိုလ်များကိုခန့်ထားသည်။ ကုဋ္ဌရောဂါတိုက်ဖျက်ရေးအတွက် ကမ္ဘာ့ကျန်းမာရေးအဖွဲ့ကြီးမှ ကျွမ်းကျင်သူများနှင့် ဆေးဝါးအကူအညီများကိုရရှိသည်။

## ကာလသားရောဂါ

ကာလသားရောဂါ တိုက်ဖျက်ရေးလုပ်ငန်းကို ၁၉၅၁ ခုနှစ်ကပင် ရန်ကုန်မြို့၌ ကုသပေးသောဆေးခန်း ၇ ခုဖွင့်လှစ်ကာ စတင်ဆောင်ရွက်ခဲ့သည်။ ယခုအခါ မန္တလေး၊ စစ်တွေ အစရှိသော မြို့ကြီးများတွင်လည်း စမ်းသပ်ကုသရေး ဌာနများဖွင့်လှစ်ပြီးဖြစ်သည်။ စီမံကိန်းအရဆိုလျှင် ကာလသားရောဂါ တိုက်ဖျက်ရေးအဖွဲ့ကြီး ၈ ဖွဲ့ကို ခရိုင်အသီးအသီးသို့ စေလွှတ်၍ စမ်းသပ်စစ်ဆေးကုသပေးခြင်းများ ဆောင်ရွက်ရန်ဖြစ်သည်။ ကာလသားရောဂါ တိုက်ဖျက်ရေးအတွက် ပညာသည်များ ဆေးဝါးနှင့်အခြားပစ္စည်းများကို တီစီအေ၊ ကုလသမဂ္ဂအပြည်ပြည်ဆိုင်ရာ ကလေးများအရေးပေါ်ရန်ပုံငွေအဖွဲ့နှင့် ကမ္ဘာ့ကျန်းမာရေးအဖွဲ့ကြီး တို့မှ အကူအညီများရရှိလေသည်။

ပြဆိုခဲ့သော ကူးစက်တတ်သည့် ရောဂါဆိုးကြီးများကို မည်ကဲ့သို့ ကြိုတင်ကာကွယ်ရမည်၊ ကုသရမည် စသည့် အချက်အလက်များကို ပြည်သူလူထုကြီးတရပ်လုံး သိရှိစေရန် ကျန်းမာမှုပညာဖြန့်ချိရေး ဌာနတခုကိုလည်း ဖွင့်လှစ်ထားရှိသည်။ ဤဌာနက ရုပ်ရှင်ရုပ်ပြင်မ်ကားများပြသခြင်း၊ တရားဟောပြောခြင်း၊ စာရွက်စာတမ်းများ၊ ပန်းချီကားများဝေငှခြင်း တို့ဖြင့် ကျန်းမာမှုပညာကိုဖြန့်ချိသည်။

မိခင်နှင့်ကလေး စောင့်ရှောက်ရေး နှင့် ကျောင်းသားသူငယ်များ ကျန်းမာရေးဌာနခွဲ၏ လုပ်ငန်းများမှာ သူနာပြုဆရာမများ သင်တန်းပေးခြင်း၊ ကလေးဆေးရုံများဖွင့်လှစ်ခြင်း၊ ကျန်းမာမှုပညာများ သင်ပေးခြင်းများကိုဆောင်ရွက်ရသည်။ စာသင်ကျောင်းများသို့ လှည့်လည်ကြည့်ရှုရသော ဆေးအဖွဲ့များ၊ မြို့တွင်းနှင့်ရပ်ကွက်များသို့ လှည့်လည်ကြည့်ရှုရသော ဆေးအဖွဲ့များလည်း ရှိသေးသည်။ ကျန်းမာရေးစီမံကိန်းအရ နိုင်ငံတော်အတွင်း ဆေးရုံ၊ ဆေးပေးခန်းများနှင့် ဝေးကွာသောဒေသများတွင် ကျေးရွာကျန်းမာရေးအဖွဲ့များထားရှိပေးရန်ဖြစ်သည်။

၁၉၅၃–၅၄ ခုနှစ်အတွင်းတွင် အဆိုပါအဖွဲ့ငယ်ပေါင်း ၁၅၀ မျှဖွဲ့စည်းရန်စီမံထားလေသည်။

ကျန်းမာရေး ဝန်ကြီး ဌာနမှ တာဝန်ယူ၍ဆောင်ရွက်ရသော လုပ်ငန်းများအနက်၊ နိုင်ငံခြားသို့ လေ့လာသူများစေလွှတ်ခြင်း၊ အပြည်ပြည်ဆိုင်ရာ ကျန်းမာရေးညီလာခံသို့ ကိုယ်စားလှယ်များစေလွှတ်ခြင်း၊ နိုင်ငံတော်အတွင်းရှိ ဆိပ်ကမ်းမြို့ကြီးများတွင် အပြည်ပြည်ဆိုင်ရာ ပြည်သူ့ကျန်းမာရေးစည်းကမ်းချက်များကို ပြဋ္ဌာန်းဆောင်ရွက်ခြင်း၊ နိုင်ငံတော်အတွင်းရှိ စေတနာ့ဝန်ထမ်း ဆေးရုံဆေးခန်းနှင့် လူမှုဝန်ထမ်း အဖွဲ့အစည်းများသို့ ထောက်ပံ့ကြေးငွေများ ချီးမြှင့်ခြင်းစသည်တို့ပါဝင်သည်။

မြန်မာနိုင်ငံတွင် ရှေးအစဉ်အလာ တိုင်းရင်းမြန်မာဆေးပညာများကို လူအများယုံကြည်အားထားလျက် ရှိသဖြင့် နိုင်ငံတော်အစိုးရသည် တိုင်းရင်းမြန်မာဆေးပညာများကိုလည်း အထူးတလည်အားပေးလျက်ရှိသည်။ မြန်မာသမားတော်များ ပဏ္ဍာမရွေးပြေးကော်မီတီ၏ တိုက်တွန်းထောက်ခံချက်အရ ၁၉၅၃ ခုနှစ် တိုင်းရင်းမြန်မာဆေးပညာအဖွဲ့အက်ဥပဒေကို အတည်ပြုခဲ့သည်။ ထိုဥပဒေအရ မြန်မာဆေးပညာရှင်များကို နိုင်ငံတော်အစိုးရက အသိအမှတ်ပြုကာ ဆေးပေးခန်းများ ဖွင့်လှစ်စေခဲ့သည်။ ယခုအခါ ရန်ကုန်မြို့နှင့် မန္တလေးမြို့များတွင် မြန်မာဆေးပေးခန်း ၉ ခန်းစီကို အစိုးရအထောက်အပံ့နှင့် ဖွင့်လှစ်ထားရှိပြီးဖြစ်သည်။ မျှားမကြာမီအတွင်း ဤမြို့ကြီး ၂ မြို့တွင် ၁၃၃ သိန်းခန့်စီ ကုန်ကျမည့် မြန်မာဆေးတက္ကသိုလ်များ ဆောက်လုပ်ရန်ကိုလည်း ခွင့်ပြုအမိန့်များပေးပြီးဖြစ်သည်။

နိုင်ငံတော်အစိုးရသည် ပြည်သူလူထု ကျန်းမာရေးကို အထူးလိုလားသည့်အားလျော်စွာ ၁၉၅၃–၅၄ ခုနှစ် အစိုးရရသုံးမှန်းခြေ ငွေစာရင်းတွင် ကျန်းမာရေးဌာန အတွက် မတည်ငွေပေါင်း ၅၉ သိန်းနှင့် ဆေးဌာနခွဲအတွက် အသုံးစရိတ် ၁၂၃ သိန်း၊ ပြည်သူ့ကျန်းမာရေးဌာနခွဲအတွက် ၁၈၆ သိန်းမျှ အသီးအသီး ခန့်မှန်းသတ်မှတ်ထားလေသည်။

**ကျမ်။** ။ခြင်းနှင့်တောင်းများ — ရှု။

**ကျမ်ခုတ်ခြင်း။** ။ရက်ကန်းပညာ — ရှု။




# ဗုဒ္ဓသာသနာရောင်ကို ဝင်းပြောင်စေသောကျေးဇူးရှင်များ

**သုံးလောကဥသျှောင်၏ နှုတ်တော်မှဟောမြွက်တော်မူသော ပိဋကတ်တော်များကို ရှင်းလင်းပေးပေသောပုဂ္ဂိုလ်များ၏ကျေးဇူးတို့ကို ဗုဒ္ဓအယူဝါဒီများ မမေ့မလျော့သိထိုက်လှပေသည်။ ထိုပိဋကတ်တော်ပါဠိများကို မြန်မာဘာသာသို့ ရောက်အောင်မည်ကဲ့သို့ အဆင့်ဆင့်ပြန်ဆိုရခြင်းအကြောင်းကို အောက်တွင်ဖေါ်ပြထားသည်မှာစိတ်ဝင်စားဖွယ်ပေ။**

**ကျမ်းပြုပုဂ္ဂိုလ်များ။** ။ပုဂံပြည် အနော်ရထာစောလက်ထက် သထုံပြည်ကိုတိုက်၍ ပိဋကတ်တော် အစုံသုံးဆယ်နှင့်တကွ ပိဋကတ်တတ်မြောက်သော သံဃာတော်များပါပင့်ဆောင်ခဲ့ပြီးလျှင် ပုဂံပြည်တွင် ပိဋကတ်တော်တို့ကို သင်ကြားပို့ချစေ၏။ ပါဠိပိဋကတ်တော်ကို မြန်မာလိုအဓိပ္ပါယ်ပြန်ဆိုပို့ချသင်ကြားရာမှာ သဒ္ဒါနည်းသည် အလွန်အရေးကြီး၏။ သို့ဖြစ်၍ ထိုအခါမှာ သဒ္ဒါကျမ်းကို အထူးလေ့လာကြရသည်ဖြစ်၍ ပုဂံပြည်မှာ သဒ္ဒါတတ်ပုဂ္ဂိုလ်၊ သဒ္ဒါကျမ်းပြုပုဂ္ဂိုလ်တို့ပေါ်များသည်။ ယခုတွေ့ရှိရသလောက်မှာ ကာရိကာကျမ်းသည် ပုဂံပြည်တွင် ရှေးအကျဆုံး ပေါ်ပေါက်၏။ သက္ကရာဇ် ၄၂၆ ခုနှစ်နန်းတက်သော ထီးလိုဏ်ရှင်ကျန်စစ်သားမင်း လက်ထက် နန္ဒာဂူအနီး နန္ဒာကျောင်း တိုက်နေရှင်ဓမ္မသေနာပတိ စီရင်သောကျမ်းဖြစ်သည်။ ဤကာရိကာကျမ်းတွင် မပေါ်လွင်သော အနက်အဓိပ္ပါယ်များကို နောက်သားတို့သိလွယ်ဖို့ရာ အဖွင့်ဖြစ်သော ကာရိကာဋီကာကျမ်းကိုလည်း ထိုအရှင်ပင် စီရင်သည်။

သက္ကရာဇ် ၅၃၆ ခုနှစ်နန်းတက်သော နရပတိစည်သူမင်းလက်ထက်ရောက်သောအခါ သံပျင်ဋီကာခေါ် ပါဠိသဒ္ဒါကျမ်းပေါ်ပေါက်ပြန်၏။ ဤကျမ်းမှာ သီဟိုဠ်ကျွန်းဖြစ် နျာသကျမ်း၊ သို့မဟုတ် ဥာသ်ကျမ်း၏အဖွင့်ဖြစ်၏။ ကျမ်းဂန်တတ်မြောက်သော ပုဂ္ဂိုလ်တပါးသည် နရပတိစည်သူမင်း၏အစွန်အဖျားဖြစ်သော သမီးတော်တယောက်ကို နှစ်သက်စွဲလမ်း မကျန်းမမာ ရပ်တည်ရာမရအောင် ဖြစ်နေသည်ကို မင်းကြီးသိသဖြင့် ခိုင်ခံ့ကောင်းမွန်သော ကျမ်းတစောင်ရေးနိုင်လျှင် ပေးစားမည်ဟု အမိန့်ရှိသောကြောင့် ဤကျမ်းကိုရေး၍ မင်းကြီးထံဆက်၏။ မင်းကြီးလည်း ကျမ်းကိုနှစ်သက်တော်မူသဖြင့် လူထွက်စေပြီးလျှင် မင်းသမီးကိုပေးကာ သံပျင်အမတ်အရာ၌ခန့်ထား၏။ သို့ဖြစ်၍ ဤကျမ်းကိုသံပျင်ဋီကာဟုခေါ်သည်။ ဤကားရှေးစာဟောင်း၊ စာတမ်းများ၌ ရေးသားဖေါ်ပြချက်အရတည်း။

နှုတ်ဖြင့်အစဉ်အလာ ပြောလေ့ရှိသည်ကား၊ ကျစွာမင်းကြီးလက်ထက်မှာမှ ဤကျမ်းပေါ်ပေါက်သောဟူ၏။ ကျစွာမင်းကြီးသည် ပိဋကတ်သုံးပုံကို ကိုးခေါက်ပြန်၍ သင်ကြားသဖြင့် တတ်မြောက်လှသောကြောင့် ရဟန်းသံဃာများကိုပင် တနေ့လျှင် ခုနစ်ကြိမ် စာသင်ကြားပို့ချ ပေးသည်ဟု ရာဇဝင်များမှာပင်ဆို၏။ နှုတ်ပြောဆရာတို့ကမူကား ကျစွာမင်းကြီးသာမဟုတ်၊ သမီးတော်ဖြစ်သော သံပျင်မင်းသမီးသည်လည်း ပိဋကတ်တတ်မြောက်လှ၍ ရဟန်းသံဃာများကို တနေ့ခုနစ်ကြိမ်ပင် သင်ကြားပြသ ပို့ချရသည် ဟုဆို၏။ (သံပျင်မင်းသမီး — ရှု။) ထိုသံဃာထဲက တပည့်ရင်းတပါးသည် မင်းသမီးကို မက်မောခြင်းအားကြီး ဒုက္ခဖိစီးနေ၍ မင်းကြီးသိသောအခါ ကျမ်းတစောင်အရေးခိုင်းရာတွင် ဤကျမ်းကို ရေးသားဆက်သွင်းသဖြင့် မင်းကြီးနှစ်သက်တော်မူသောကြောင့် သမီးတော်ကို ပေးစားသည်။ ဤသို့လျှင် သံပျင်မင်းသမီးကို ရလို၍ရေးသားသောကျမ်း၊ ရလည်းရသောကျမ်းဖြစ်၍ သံပျင်ကျမ်းခေါ်သည်ဟုဆိုကြ၏။

နရပတိစည်သူမင်း လက်ထက်မှာကား သဒ္ဒါကျမ်းတွင်မက အခြားကျမ်းများလည်းပေါ်ပေါက်လာ၏။ ပုသိမ်မြို့စီရင်စု၊ ဆပဒရွာဇာတိ၊ ရှင်ဆပဒ၊ ရဟန်းဘွဲ့ ရှင်သဒ္ဓမ္မဇောတိပါလသည် သဒ္ဒါဖက်ဆိုင်ရာ သုတ္တနိဒ္ဒေသကျမ်း၊ အဘိဓမ္မာဖက်ဆိုင်ရာ သင်္ခေပဝဏ္ဏနာကျမ်း၊ ဝိနည်းဖက်ဆိုင်ရာ ဝိနယဂူဠတ္ထဒီပနီကျမ်းတို့ကို ပြုစုတော်မူ၏။ ဒလမြို့စီရင်စု၊

ပတိပ္ပထေယျရွာဇာတိ၊ ဘွဲ့မည်ရှင်သာရိပုတ္တရာ၊ တံဆိပ်မည် ဓမ္မဝိလာသမထေရ်သည် ဣဏကောဝပဒကောစေ အစရှိ သောဓမ္မသတ်ကျမ်းကို ရေးတော်မူ၏။ ကျမ်းပြုပုဂ္ဂိုလ်၏ တံဆိပ်မည်ကိုအစွဲပြုကာ ဓမ္မဝိလာသဓမ္မသတ် ဟူ၍ ခေါ်၏။ ထီးလင်းမြို့စီရင်စု၊ ပေါင်လောင်ရွာဇာတိ ရှင်မဟာကဿပ သည် နရပတိမင်း နန်းစံသုံး နှစ် တွင်ပင် မဟာဗောဓိဝင် ဋီကာကျမ်း ကို ပြုစု တော်မူ၏။ လောကုပ္ပတ္တိပကာသနီ ကျမ်းကို ရှင်အဂ္ဂပဏ္ဍိတပြုတော်မူ၏။ တထာဂတုပ္ပတ္တိကျမ်း ကို ရှင်ဉာဏဂမ္ဘီရပြု၍ ဗုဒ္ဓဃောသုပ္ပတ္တိနှင့် အရဟတ္တမဂ္ဂ ဝဏ္ဏနာတို့ကိုကား ပုဂံပြည် အမည်မသိထေရ်ပြုသည်။

သက္ကရာဇ် ၅၉၆ ခုနှစ်နန်းတက်သော ကျစွာမင်းလက် ထက်မှာ ကျစွာမင်းကိုယ်တိုင်ကပင် ပိဋကတ်တတ်မြောက် သည်ဖြစ်၍ မင်းမောင်းမတို့ အလွယ်တကူမှတ်သားနိုင်ရန် အဘိဓမ္မာဆိုင်ရာ ပရမတ္ထဗိန္ဒုကျမ်းကို ပြုစု၍ သဒ္ဒါဖက်ဆိုင် ရာမှာကား သဒ္ဒဗိန္ဒုကျမ်းကို အဖွင့်ဋီကာ နှင့်တကွ ပြုစု တော်မူ၏။ ဤမင်းလက်ထက်မှာပင် တတိယရှင်အဂ္ဂပဏ္ဍိတ ဟူ၍၎င်း၊ ရှင်အဂ္ဂဝံသဟူ၍၎င်း ကျော်စောသောမထေရ် သည် သဒ္ဒနီတိကျမ်းကြီးကို ပဒမာလာ၊ ဓာတုမာလာ၊ သုတ္တမာလာ၊ စတုပဒဟူ၍ လေးဌာနပိုင်းခြား ပြုစုတော် မူ၏။ ကျမ်းလည်းကြီးကျယ်၊ အဓိပ္ပါယ်အနှစ်သာရလည်း အများပါလှသဖြင့် မြန်မာနိုင်ငံတွင်မက သီဟိုဠ်ကျွန်းတွင် ပါ ကျော်စောထင်ရှား လေးစားကြသော ကျမ်းကြီးဖြစ် သည်။ ထိုလက်ထက်အချိန်အခါမှစ၍ ပုဂံပြည်မှာ သဒ္ဒတ္ထ ဘေဒစိန္တာ၊ ကစ္စာယနသာရ၊ သဒ္ဒဝုတ္တိ၊ ဝါစ္စဝါစက၊ ဗာလာ ဝတာရ၊ သမ္ဗန္ဓမာလိနီ၊ အက္ခရသမ္မောဟ ဆေဒနီ၊ သဒ္ဒါ ကျမ်းမွဲ၊ သဒ္ဒါကျမ်းနက်စသော သဒ္ဒါငယ် ကျမ်း အများ ပေါ်ပေါက်၏။ (ကျစွာမင်း — ရှု။)

ပုဂံပြည်ခေတ်တိမ်ပြီးနောက် ပင်းယခေတ်သို့ရောက်သော အခါ ပင်းယမြို့ ပဌမမြို့တည်နန်းတည် တစီးရှင် သီဟသူ မှ စတုတ္ထမြောက် သက္ကရာဇ် ၇၁၃ ခု၊ သို့မဟုတ် ၇၁၁ ခုတွင် နန်းတက်သော လေးစီးရှင်ကျော်စွာ၊ သို့မဟုတ် လေးစီးရှင်သီဟသူမင်း လက်ထက် ထိုမင်းဆောက်လုပ်သော ကျောင်းနေ ဆူးတွင်းပစ်ဆရာတော်ဟူ၍၎င်း ပေါက်ကန် ဆရာတော်ဟူ၍၎င်း ထင်ပေါ် ကျော်စောသော ရှင်နာဂိတ မထေရ်သည် သဒ္ဒသာရတ္ထဇာလိနီ အမည်ရှိသောသဒ္ဒါငယ် ကျမ်းကို ပြုစုတော်မူ၏။ ဤမင်းလက်ထက်မှာပင်၊ ပင်းယ မြို့ တဥ္စာဝတီမြစ်ငယ်တောင် ပလိပ်ရွာအရှေ့ မြို့သစ်မြို့နေ ရှင်သီရိမင်္ဂလသည် အဌသာလိနီ အဌကထာယောဇနာ၊ သမ္မောဟဝိနောဒနီ အဌကထာယောဇနာနှင့် ပါရာဇိကဏ် အဌကထာ ယောဇနာကျမ်းတို့ကိုပြုသည်။ ဤလေးစီးရှင် ကျော်စွာမင်းထံမှာ သီရိမဟာ စတုရင်္ဂဗလဘွဲ့ခံ ပြည်မြို့ ဇာတိ အတွင်းဝန်မင်းသည် အဘိဓာနပ္ပဒီပိကာ ခေါ်ပါဠိ

အဘိဓာန်ကျမ်း၏ အဖွင့်ဋီကာကိုပြုစု၏။ ဤဋီကာကျမ်း သည် ကျော်စောထင်ရှား ပညာရှိအများတို့ လေးစားကြ သောကျမ်းဖြစ်၏။ ဤကျမ်းတွင်မက မြတ်စွာဘုရား၏ လက္ခဏာတော်ငယ်ရှစ်ဆယ်နှင့် ပါဒနက်သန် တရာ့ရှစ်ကွက် စက်လက္ခဏာတို့ကို ဂါထာဗန္ဓ ဖွဲ့ကုံးစီရင်သည့်အပြင် ပေ အင်္ဂါနှစ်ဆယ်ကျော်ရှိ ဟိတောပဒေသဝတ္ထုကိုလည်း ပြုစီ ရင်၏။ ကစ္စည်းကျမ်းခေါ် သဒ္ဒါရှစ်စောင်၏ အဖွင့်ဖြစ်သော ကစ္စာယနဝဏ္ဏနာကျမ်းကိုလည်း ပင်းယမြို့မှာပင် အဘယ ဂီရိကျောင်းတိုက်နေ ရှင်မဟာဝိဇိတာဝီပြုသည်။

သို့ရာတွင် ထိုကျမ်းပြုသည့်အခါမှာ ပင်းယပြည်ကောင်း စားစဉ်ခေတ် သက္ကရာဇ် ခုနှစ်ရာခန့်မှာမဟုတ်၊ ဟံသာဝတီ ဆင်ဖြူများရှင် မင်းတရားကြီးသားတော် ငါးဆူဒါယကာ မင်းလက်ထက် ငါးဆူဒါယကာ၏သားလတ် မင်းရဲကျော်စွာ သည် သက္ကရာဇ် ကိုးရာ့ငါးဆယ်ခန့်လောက်တွင် အဘယ ဂီရိကျောင်းတိုက်ကိုတည်၍ ရှင်မဟာဝိဇိတာဝီကိုလှူသည်။

(ဤသို့လျှင် ပင်းယမြို့ကောင်းစားစဉ်ခေတ်မှစ၍နောက် ခေတ်ကာလများတိုင်အောင်ပင်းယပြည်တွင်ပြုစုသမျှကျမ်း စုကို စေ့စုံအောင် ရှာဖွေဖေါ်ပြနေရန်မသင့်သဖြင့် ကျော် စောထင်ရှား ယခုကာလထိ အများ သုံးစွဲနေကြသော ကျမ်းများကိုသာဖေါ်ပြပါသည်။ အခြားပြည်ဖြစ်ကျမ်းစုကို ဖေါ်ပြရာမှာလည်း ဤနည်းအတိုင်းပင်ဖြစ်သည်။)

ပင်းယမြို့ ပဌမမြို့တည်နန်းတည် တစီးရှင်သီဟသူမင်း လက်ထက်မှာပင်၊ ပင်းယမြို့နှင့် ထီးပြိုင်နန်းပြိုင် ဇေယျာ ပူရစစ်ကိုင်း ပဌမမြို့ တည်နန်း တည် သီရိအသင်္ခယာဘွဲ့ခံ စောယွန်းမင်းလက်ထက် ဇေယျာပူရမြို့ အနောက်မျက်နှာ အုတ်ကျောင်းနေ ရှင်မဟာဝိဇိတာဝီ သည် ဝါစကော ပဒေသကျမ်းကို အဖွင့်ဋီကာကျမ်း နှင့်တကွ ပြုစုတော်မူ၏။ ဧကက္ခရကောသအမည်ရှိသော သဒ္ဒါငယ်စာကိုယ်နှင့် အဖွင့် ဋီကာ၊ လိင်္ဂတ္ထဝိဝရဏစာကိုယ်နှင့် အဖွင့်ဋီကာ ကျမ်းတို့ ကိုကား စစ်ကိုင်းရှင်သဒ္ဓမ္မကိတ္တိပြုသည်။

ထိုနောက် စစ်ကိုင်းနှင့်ပင်းယ မရှေးမနှောင်းပျက်၍ အဝပြည်ကောင်းစားလာသောအခါ ပဌမမြို့တည်နန်းတည် သတိုးမင်းဖျားနှင့်တကွ သရက်မျိုး မင်းခြောက်ဆက်တို့ လက်ထက်တွင် ပြုစုခဲ့သောကျမ်းဟူ၍ ယခုအခါ အထင် အရှား တစောင်တဖွဲ့မှမတွေ့ရ။ မိုးညှင်းခြောက်ဆက်တွင် တတိယဖြစ်သော စစ်ကိုင်းထုပါရုံဒါယကာ နရပတိဘွဲ့ခံ ပြည် မင်းလက်ထက် စစ်ကိုင်းချောင်နေ ရှင်အရိယဝံသ ဓမ္မသေနာ ပတိမထေရ်သည် သင်္ဂြိုဟ်၏အဖွင့်ဖြစ်သော အဘိဓမ္မတ္ထ ဝိဘာဝနီခေါ် ဋီကာကျော်ကျမ်း၏အဖွင့် မဏိသာရမဉ္ဇူ သာကျမ်း၊ မူလဋီကာ၏အဖွင့်ဖြစ်သော မဏိဒီပကျမ်းကြီး များအပြင် ဂန္ဓာဘရဏအမည်ရှိသော သဒ္ဒါငယ်ကျမ်းကို လည်း ပြုစီရင်တော်မူ၏။ ဤပုဂ္ဂိုလ်သည် စစ်ကိုင်းမြို့မှာ




ပဟာသုတကာရီမဃဒေဝလင်္ကာသစ်ကြီးကိုပြုစုခဲ့သည့်ပုဂ္ဂိုလ်ကျော်

နေ၍ ကျမ်းများပြုစုသော်လည်း ဇာတိရင်းမှာ ဝိဇယပူရ မည်သော ပင်းယမြို့တောင် စကားအင်း ရွာဖွားဖြစ်၏။ မိုးညှင်းခြောက်ဆက်လွန်ပြီးနောက် ရှမ်း သိုဟန်ဘွား မင်း လက်ထက်သို့ ရောက်သောအခါ ရတနာပူရမြို့ အနောက် မျက်နှာ ဇေတဝန်ကျောင်းတိုက်နေ ရှင်သီရိရတနပညာ သည် ဝဇီရသာရတ္ထသင်္ဂဟကျမ်းနှင့် ထိုကျမ်းအဖွင့်ဋီကာ ကျမ်း တို့ကိုပြု၏။ အဝမြို့ ညောင်ရမ်းဆယ်ဆက်တွင် တတိယဖြစ်သော သာလွန်မင်းတရားလက်ထက် စလင်းမြို့ဇာတိ တောင်ဖီလာပုဂ္ဂိုလ်ကျော် သာသနာပိုင်ဆရာတော်သည် ဝိနယာ လင်္ကာရဋီကာ ကျမ်း နှင့် ဝီသတိဝဏ္ဏနာ ကျမ်း များ ကိုပြု တော် မူ၏။ ဤမင်းလက်ထက် စစ်ကိုင်းမြို့ဘုံသာတုလွတ် ကျောင်းတိုက်နေ ရှင်ဒါဌာနာဂ ရာဇဂုရုသည်ကား နိရုတ္တိသာရမဉ္ဇူသာဋီ ကာကျမ်းကိုပြု၏။ ပရိတ်ကြီး ဋီ ကာ ကျ မ်း ကို ကား တပယင်းမြို့တောင် လက်၊ ကန်ဖျား ရွာဇာတိ ရဟန်း ငါးဝါရ ရှင်တေဇောဒီပပြုသည်။ ညောင်ရမ်း ဆက်အဌမမြောက် ဖြစ်သော မာရ် အောင် ရတနာစေတီဒါယကာ စနေမင်း လက်ထက်မှာ၊ စလင်းမြို့နယ်ကင်ပွန်းတောင် ရွာဇာတိ၊ .ပဌမဆိပ်ဖြူ ဆရာတော်ကြီးသည် သုဒ္ဒသ ဝိကာသနီ ဋီကာသစ်ကိုပြုတော်မူ၏။

ကုန်းဘောင်ဆက်မင်းများတွင် အမရပူရ ပဌမမြို့တည် နန်းတည် ဘိုးတော်မင်းတရားလက်ထက် သာသနာပိုင် မောင်းထောင်ဆရာတော်သည် သီလက္ခန် ဋီကာသစ်ကိုပြု တော်မူ၏။ မန္တလေး ရတနာပုံ ပဌမမြို့တည်နန်းတည် ပဥ္စမသင်္ဂါယနာတင် မင်းတရားလက်ထက်ရောက်သော အခါ ဒက္ခိဏာရာမဆရာတော်၊ သို့မဟုတ် ဘုရားကြီးဆရာ တော်သည် ပါစိတျာဒိအဌကထာယောဇနာကျမ်းနှင့်ဒီပဝင် ဋီကာကျမ်းများကို ပြုတော်မူ၏။ မြန်မာနိုင်ငံတော်ကို အင်္ဂလိပ်လူမျိုးတို့ အုပ်စိုးနေသည့်ခေတ် မြန်မာသက္ကရာဇ် ၁၂၅၉ ခုနှစ်တွင် မုံရွာမြို့လယ်တီဆရာတော်သည် သင်္ဂြိုဟ်



ကျေးဇူးရှင်မုံရွာမြို့လယ်တီဆရာတော်ဘုရားကြီး

ကျမ်း၏ အဖွင့်ဖြစ်သော ပရမတ္ထဒီပနီ၊ ဤဒီပနီကိုပင်ထပ်၍ ဖွင့်သော အနုဒီပနီ၊ သဒ္ဒါဖက်ဆိုင်ရာ နိရုတ္တိဒီပနီ ကျမ်း တို့ကိုပြုတော်မူ၏။ ဤကားမြန်မာနိုင်ငံတော်တွင် ရာဇဝင် အရ ပါဠိကျမ်းပြုပုဂ္ဂိုလ်တို့ကို ထင်ရှားရာ သင့်လျော်ရုံ ထုတ်ပြခြင်းဖြစ်၏။ မွန်ပြည်အတွက်မှာကား မုတ္တမမြို့တည် နန်းတည် ဆင်ဖြူရှင်ဗညားဦးလက်ထက် မယ်တော်ကျောင်း နေ ရှင်မေဓင်္ကရသည် လောကဒီပကသာရကျမ်းကိုပြု၏။ ဟံသာဝတီဆင်ဖြူများရှင်မင်းတရားလက်ထက် ဟံသာဝတီမြို့နေ ရှင်မဟာနာမ ထေရ်သည် မူလဋီကာ အဖွင့် မဓုသာရတ္ထဒီပနီကျမ်း ကိုပြု၏။ အဘိဓမ္မတ္ထဝိဘာဝနီ ခေါ် ဋီကာကျမ်း၏ အဖွင့်ဖြစ်သော အဖေဂ္ဂုသာရဒီပနီ ကျမ်းကိုကားထိုမင်းလက်ထက်မှာပင် ရှင်တိပိဋက ဓရပြုသည်။

ပါဠိ၊ အဌကထာ၊ ဋီကာ တို့ကို မြန်မာပြန် ဆိုသည့် နိဿယ ခေါ် ကျမ်းများတွင်ကား မြန်မာသက္ကရာဇ် ခုနစ်ရာကျော် တွင်ပုဂံမြို့ ရွှေကျောင်း ဆရာတော် ရှင်ဂုဏာဝင်္ဂသက ပြုစီရင်အပ်သော သုတ်သုံးကျမ်း ပါဠိတော်နိဿယကို ရှေးအကျဆုံး တွေ့ရ၏။ ထိုနောက်သက္ကရာဇ် ၇၃၀ ပြည့်နှစ်တွင် အဝမြို့ဦနန်းတက်သော ပြည်စုန် မင်းလက်ထက် စစ်ကိုင်း မြို့နေ ရှင်အရိယဝံသမဟာ သေနာပတိသည် အနုဋီကာ မဟာနိဿယကိုပြု တော်မူ၏။ ဝိနည်း ငါးကျမ်း ပါဠိတော်နိဿယတို့ကို ညောင်ရမ်းဆက် တတိယဖြစ်သော သာလွန်မင်းတရားကြီးလက်ထက် သာသနာပိုင် တောင်ဖီလာ ဆရာတော်နှင့် ပုခန်းကြီးမြို့ ရွှေဥမင်ဆရာတော်များ မရှေးမနှောင်း အသီးအသီးရေး ကြသည်။ သာသနာပိုင်ဆရာတော်က မိမိနိဿယ ရေးပြီး သောအခါ ရွှေဥမင်ဆရာတော်ထံကြွ၍ စာနှစ်စောင်ကို တွဲယှဉ်ဖတ်ရှုကြသည်။ ဖတ်ရှုသောအခါ ရွှေဥမင်ဆရာ တော် ရေးသားချက်က သာလွန်သဖြင့် သာသနာပိုင်ဆရာ တော်သည် မိမိရေးခဲ့သောစာစုကို ပုခန်းစည်သူရှင်ဘုရား တွင် ပူဇော်သောအားဖြင့် မီးရှို့တော်မူ၏။ ရွှေဥမင်ဆရာ

တော်က တောင်းပန်တားမြစ်ပါသော်လည်း မရချေ။ ဤသို့လျှင် ရှေးပညာရှိသူတော်ကောင်းကြီးများသည် စိတ်နှလုံးထား ဖြောင့်မတ်မြင့်မြတ်တော်မူကြ၏။ ကြွင်းကျန်သောပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ၊ ဂန္ထန္တရတို့ကိုကား အခြားနောက်ဆရာများ အဆက်ဆက် ရတနာပုံမန္တလေးမြို့တိုင်အောင် အသီးအသီး မိမိတို့နှစ်သက်ရာ မြန်မာပြန်နိဿယများ ရေးသားပြုစုတော်မူကြ၏။ ဤသို့ရေးသားရာမှာ အချို့ပုဂ္ဂိုလ်တို့က ရှေးဆရာများ မရေးသားရသေးသော ကျမ်းစုကို နိဿယပြန်ဆိုတော်မူကြ၏။ အချို့ပုဂ္ဂိုလ်တို့ကမူကား၊ ရှေးဆရာများ ရေးသားခဲ့သည့် နိဿယဟောင်းများရှိစေကာမူ ပိုမိုကောင်းမွန်စေရန် ရည်သန်ပြီးလျှင် ထပ်မံ၍ နိဿယသစ်ရေးသားတော်မူကြ၏။ ဤသို့ရေးသားပြုစုကြသော နိဿယဆရာအများတို့တွင် သဒ္ဒနီတိ၊ ရူပသိဒ္ဓိစသော ဂန္ထန္တရတို့ကို နိဿယပြန်ဆိုတော်မူသော ကုန်းဘောင်ဆက်သတ္တမ ဘကြီးတော်ဘုရားလက်ထက် မဟာအောင်မြေဘုံစံ အုတ်ကျောင်းဆရာတော် ဦးပုတ်သည် အကောင်းဆုံးနိဿယဆရာဖြစ်သည်ဟု ပညာရှိအများ ကောင်းချီးပေးခြင်းခံရသော ပုဂ္ဂိုလ်ဖြစ်၏။ ဆရာတော်ဦးပုတ် မပေါ်မီ ရှေးကပြုစုကြသောနိဿယတို့မှာ ရှေးကျသောစကားလုံးတို့ကို သုံးကာ သာမညပြန်ဆိုကြခြင်းဖြစ်၏။ အထူးမှတ်သားဖွယ် အဓိပ္ပါယ်အနှစ်သာရ မပါလှ။ အနုဋီကာမဟာနိဿယမှာလည်း စကားများပြားကျယ်ဝန်း၏။ များပြားကျယ်ဝန်းသည်ကိုစွဲ၍ မဟာဟူသောအမည်ကိုတပ်ထား၏။ ကျယ်ဝန်းနေသည့်အတွက်ပင် အပိုစကားများ၍ အနှစ်အသားအဓိပ္ပါယ်နည်းနေ၏။ ဆရာတော်ဦးပုတ် ရေးသားသည့် နိဿယများမှာကား မကျဉ်းမကျယ် မှတ်သားဖွယ်ကောင်းသည့် အဆီအနှစ် အဓိပ္ပါယ်တို့ကို လေးနက်သိပ်သည်းစွာ ရေးသားထား၏။ ဆရာတော်ဦးပုတ်နောက်မှ ပေါ်ပေါက်သောနိဿယဆရာတော်တို့က ဆရာတော်ဦးပုတ်၏ပြန်ဆိုနည်းကို လိုက်ကြသော်လည်း စကားသိပ်သည်းလေးနက်ပုံ ကွာခြားကာ မမှီနိုင်ကြချေ။ သို့ဖြစ်၍ ဆရာတော်ဦးပုတ်ကို ပညာရှိအများတို့က လေးစားချီးမွမ်းခြင်းပြုကြရလေသည်။ ဤသို့ဆရာအဆက်ဆက်တို့ အသီးအသီး မြန်မာပြန်နိဿယများကို စီရင်ရေးသားသော်လည်း ယခုထက်တိုင်ပင် မြန်မာနိဿယမပြန်ဆိုရသေးသော စာအများရှိနေသေး၏။

ဝတ္ထုစကားပြေကျမ်းတို့တွင်ကား ယခုတွေ့ရသမျှတွင် ပါရာယန ဝတ္ထုသည် ရှေးအကျဆုံးဖြစ်၏။ ဤဝတ္ထုကို အဝမြို့မိုးညှင်းငါးဆက်မြောက် ဒုတိယမင်းခေါင်လက်ထက် ရှင်မဟာသီလဝံသစီရင်သည်။ မဏိကုဏ္ဍလဝတ္ထုကို ညောင်ရမ်းဆက်ဒုတိယဖြစ်သော အနောက်ဖက်လွန် မင်းတရားလက်ထက် လေးထပ်ကျောင်းနေ ဝရာဘိသံဃနာထ ဆရာတော်စီရင်သည်။ ယသဝဍ္ဎနဝတ္ထုမှာ ညောင်ရမ်းဆက်တတိယ သာလွန်မင်းတရားလက်ထက် ဝိနယာလင်္ကာရဋီကာကိုပြုသော တောင်ဖီလာသာသနာပိုင် ဆရာတော် စီရင်သည်။ ရတနာကရဝတ္ထုမှာ ပင်းယမြို့ ရွှေစည်းခုံကျောင်းတိုက်နေမဟာရတနာကရဆရာတော်စီရင်သည်။ ဤဝတ္ထုကို ဓမ္မပဒဝတ္ထုဟူ၍လည်းခေါ်၏။ ရာဇောဝါဒဝတ္ထုမှာ ညောင်ရမ်းဆက်အဋ္ဌမစနေမင်းလက်ထက် စစ်ကိုင်းမြို့နေ တောရဆရာတော်စီရင်သည်။ မင်္ဂလတ္ထဒီပနီစကားပြေကျမ်းမှာ အမရပူရ ပဋ္ဌမမြို့တည်နန်းတည် ဘိုးတော်မင်းတရားလက်ထက် ညောင်ကန်ဆရာတော်စီရင်သည်။ မဟာနိပါတ်လာဇာတ်ကြီးတို့၏ ဝတ္ထုစကားပြေကို မင်းဘူးဆရာတော်ဦးဩဘာသစီရင်သည်။ စကားပြေဆိုသော်လည်း ရံခါရံခါ လင်္ကာသဘောကာရန်ငြိစေသော အချက်များပါရှိသဖြင့် ဖတ်ရွတ်နာခံ၍ကောင်းသည့်အတွက် ဆရာတော်ဦးဩဘာသ၏စကားပြေကို အကောင်းဆုံးစကားပြေဟု ချီးမွမ်းကြရသည်။ ငါးရာ့ငါးဆယ် ဇာတ်ဝတ္ထုစကားပြေကိုကား တပယင်းမြို့စီရင်စု မုံတိုင်ပင်ဆရာတော်စီရင်သည်။ ရာဇောဝါဒဝတ္ထုနှင့် သာမဏေကျော်လေးပါး ဝတ္ထုတို့မှာ မောင်းထောင်သာသနာပိုင်ဆရာတော် စီရင်သည်။ ဓမ္မာပဒေသဝတ္ထုကိုကား မောင်းထောင်သာသနာပိုင်လူထွက် ချည်ပါရွာစား မင်းတိုင်ပင်အမတ် မဟာဓမ္မသင်္ကြံ စီရင်သည်။ သမန္တစက္ခုဒီပနီ အမည်ရှိသော စကားပြေကျမ်းသည်ကား ဘိုးတော်နှင့်ဘကြီးတော်ဘုရား မင်းနှစ်ပါးတို့လက်ထက် မုံရွေးဇေတဝန်ဆရာတော် စီရင်အပ်သောကျမ်းဖြစ်၏။ သို့ရာတွင် တမင်ကျမ်းတစောင်တဖွဲ့ပြုမည်ဟု ရည်သန်ပြုစုသည်မဟုတ်၊ မုံရွာမြို့ ရှင်သီရိမာလာ မေးလျှောက်သမျှစကားစုကို အသီးအသီးရေးသားဖြေဆိုတော်မူရာ ထိုဖြေသမျှတို့ကို စုပေါင်းထားသဖြင့် ကျမ်းတစောင်တဖွဲ့ဖြစ်နေ၏။ သံဝေဂဝတ္ထုဒီပနီ စကားပြေကျမ်းကိုကား မန္တလေးရတနာပုံပဋ္ဌမမြို့တည်နန်းတည်ပဉ္စမသင်္ဂါယနာတင် မင်းတရားလက်ထက် ဒက္ခိဏာရာမတိုက် ဘုရားကြီးဆရာတော်စီရင်သည်။ ဇိနတ္ထပကာသနီခေါ် ဝတ္ထုစကားပြေကျမ်းကိုကား ရွှေတောင်မြို့ ကျီးသဲလေးထပ်ဆရာတော်စီရင်သည်။ (ကျီးသဲလေးထပ်ဆရာတော် — ရှု။)

စွယ်စုံကျော်ထင်အဖြေကျမ်းကိုလည်း ဤဆရာတော်ကြီးပင် စီရင်တော်မူ၏။ သို့ရာတွင် မိမိအလိုရှိရာ စီစဉ်ရေးသားရသည်မဟုတ်။ ဘိုးတော်ဘုရားလက်ထက်တွင် ထင်ပေါ်ကျော်စောသော ကျည်းကန်ရှင်ကြီး ရှင်နန္ဒမေဓသည် မေးခွန်းလည်းစုံ၊ သတ်ပုံလည်းပြ၊ နှစ်ဖက်ရဖြစ်သော သံပေါက်လင်္ကာ ထောင့်တရာကျော်တို့ကို ရေးသားခဲ့ရာ၊ ထိုသံပေါက်များမှာပါသည့် အမေးအစီအစဉ်အတိုင်း အဖြေရေးသားထားခြင်းသာဖြစ်၏။ မုံရွာမြို့လယ်တီဆရာတော်သည်ကား စကားပြေသန့်သန့်ဖြစ်သော ကမ္မဋ္ဌာနဒီပနီ၊ ဘာဝနာ



ဒကမြစ်တဖက်ကမ်းမှကြည့်သော် ကျုံပျော်မြို့ရှုခင်းကို သာယာစွာမြင်နိုင်ပေသည်။

ဒီပနီ၊ ပဋ္ဌိစ္စသမုပ္ပါဒဒီပနီစသည်ဖြင့် ဒီပနီကျမ်းအများ ရေးသားတော်မူ၏။ မန်လည် ဆရာတော် သည်လည်း ဂတိဝိသောဓနဒီပနီကျမ်း၊ ဒိဋ္ဌိဝိသောဓန ဝဇီရဂ္ဂဒီပနီကျမ်း စသောစကားပြေကျမ်းများကိုရေးသားသည့်ပြင် ကဗျာဖက်တွင် အကြီးအကျယ်ဆုံးကျမ်းဟု ဆိုလောက်သော မဟာသုတကာရီခေါ် မဃဒေဝလင်္ကာသစ်ကြီးကို စီရင်ရေးသားတော်မူခဲ့လေသည်။ အဂ္ဂမဟာပဏ္ဍိတဆရာလင်း။

**ကျုံပျော်မြို့။** ။ကျုံပျော်မြို့သည် ပုသိမ်ခရိုင် မြောက်ပိုင်း၊ ဒကမြစ်နှင့်ချင်းယားချောင်း ပေါင်းဆုံရာဒေသတွင် ရှိသည်။ မြစ်၏အရှေ့ဖက်ကမ်းတွင် ခဲပေါင်၊ အရှေ့မြောက်ဖက်ကမ်းတွင် သန်လျက်စွန်း၊ အနောက်ဖက်ကမ်းတွင် ကျုံပျော်မြို့မတည်၍ ချင်းယားချောင်းက သန်လျက်စွန်းနှင့် ခဲပေါင်ကိုခြားလျက် ကျုံပျော်ကို တူရူဦးတိုက်နေသည်။

မြို့မမှာ ဒကမြစ်အလိုက် တောင်နှင့်မြောက် ၃ မိုင်ခန့်၊ မော်တော်ကားလမ်းအလိုက် အရှေ့နှင့်အနောက် ၁ မိုင်ခန့် အိမ်ခြေစိုက်လျက်ရှိသည်။ ဈေးဟောင်း၊ဈေးသစ်၊ မြို့သစ်ကုန်း၊ ဖန်ခါးကုန်း၊ အတီးပိုင်း၊ ကျုံးထောင့်၊ ထောင်လို၊ မြေရဲကွင်း ရပ်ကွက်တို့တွင် လမ်းပန်းယှက်သန်းနေသည်။ မြို့မတွင် သန်လျက်စွန်းနှင့် ခဲပေါင်တို့လည်းပါဝင်သည်။ အကျယ်ရေိယာမှာ စတုရန်း ၁ မိုင်ခန့်ရှိသည်။ ဒုတိယကမ္ဘာစစ်မဖြစ်မီ ၁၉၄၁ ခုနှစ်တွင် အိမ်ခြေ ၁၂၀၀ ကျော်၊ လူဦးရေ ၆၀၃၀ မျှရှိသည်။ ၁၉၄၉ ခုနှစ် မပျက်စီးမီ အိမ်ခြေ ၂၅၀၀ ခန့်၊ လူဦးရေ ၁၅၀၀၀ ကျော်ကျော်အထိ တိုးတက်ခဲ့သည်ဟု ခန့်မှန်းရသည်။ နယ်ပိုင်ဝန်ထောက်၊ရာဇဝတ်တရားသူကြီး၊ ရဲဝန်ထောက် ရုံးစိုက်ခဲ့သည်။ မျူနီစီပယ်အဖွဲ့က မြို့စည်ပင်သာယာရေးတွင် အုပ်ချုပ်သည်။

၁၉၄၈ ခု ဩဂုတ်လ ၂၇ ရက်နေ့တွင် သောင်းကျန်းသူရဲဘော်ဖြူများက အစိုးရထံမှသိမ်းပိုက်၍ အုပ်စိုးနေစဉ်၊ ၁၉၄၉ ခုနှစ် ဧပြီလ ၁၉ ရက်နေ့တွင် သောင်းကျန်းသူ ကရင်များကမီးတိုက်၍ တမြို့လုံးပြာကျခဲ့သည်။ ၁၉၅၂ ခုနှစ် ဇွန်လ ၇ ရက်နေ့တွင် အစိုးရက ပြန်လည်သိမ်းပိုက်ခဲ့သည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၅၃၉၂ ယောက်ခန့်ရှိသည်။

ဘုရားပုထိုးများကို ဖေါ်ပြရသော် ချမ်းသာကြီးခေါ် မြတ်ချမ်းသာဘုရားသည် ဥာဏ်တော် ၄ ပေ ၂ လက်မရှိ အလွန်သပ္ပါယ်သော ရှေးဟောင်း ဆင်းတုတော် ဖြစ်၏။ ဣန္ဒနီလာ ကျောက်ညိုတမျိုးကို ထုလုပ်ထားသည်။

သီဟိုဠ်လက်ရာ ဖြစ်တန်ကောင်းသည်။ ကျိုက်ထိုမြို့၊ ကျိုက်ပေါလောရုပ်ပွားနှင့် သွင်ပြင်သဘောသွားချင်း တူသည်။ ရှေးပဝေဏီအခါ၊ ပုသိမ်ဘုရင် သမုဒ္ဒဃောသ၏ မိဖုရား ဥမ္မာဒန္တီသည် ရန်သူ ဘေးမှ ထွက်ပြေးတိမ်းရှောင်စဉ် ကျုံပျော်အနီး အင်းရဲကြီး ထောက်မနက်အိုင်တွင်း၌ ဝှက်ထားခဲ့သည်။ နောက်ကာလတွင် တံငါသည်တဦး၏ ပိုက်ကွန်၌ငြိ၍ ငုပ်ရာမှရရှိခဲ့သည်။ ဘုရား၏အလိုတော်အရ ကျုံပျော်သို့ ပင့်ဆောင်ခဲ့သည်။ နောက်အိပ်မက်ရသဖြင့် ညီတော်ကိုပင့်ဆောင်ပြန်သည်။ ထို့ပြင် ရတနာရံသီ၊ ရှစ်မြှောင့်ချီး၊ မိုးကောင်းစေတီ အသီးသီးနှင့် ပြည်လုံးပေါ် ရုပ်ပွားတော်လည်းရှိသည်။

ထွက်ကုန်များမှာ ဆန်၊ကြံ၊ ငှက်ပျော၊ ငါးဖြစ်၍ အင်းရဲကြီးငါးနှင့် အင်းရဲမျှင်ငပိတို့မှာ အတော်နာမည်ရသည်။

လမ်းပန်းအဆက်အသွယ် သုံးမျိုးရှိရာ၊ မော်တော်ကားလမ်းမှာ ကျုံပျော်မှဟင်္သာတသို့ ၃၆ မိုင်၊ ဓနုဖြူသို့မိုင် ၃၀၊ ရေကြည်သို့ ၆ မိုင်၊ ငါးသိုင်းချောင်းသို့ ၁၂ မိုင်၊ အသုတ်သို့ ၁၁ မိုင်၊ ကျောင်းကုန်းသို့ ၂၈ မိုင်ခွဲဖြစ်သည်။ မီးရထားလမ်းမှာ ရေကြည်မှတဆင့် ပုသိမ်သို့၎င်း၊ ရေကြည်မှတဆင့် ဟင်္သာတနှင့်ရန်ကုန်သို့၎င်း ပေါက်၍ သင်္ဘောလမ်းမှာ ကား ကျောင်းကုန်းမြို့ကိုဖြတ်၍ ပုသိမ်၊ ရန်ကုန်အသီးသီးသို့ ပေါက်ရောက်သည်။

အတိတ်သမိုင်းနှင့် ရာဇဝင်အရဆိုသော် ကျုံပျော်မြို့သည် ရှေးရှေးမွန်ဘုရင်များလက်ထက်အခါကပင် (ကုသိမမဏ္ဍလ) ပုသိမ် ၃၂ မြို့တွင် အပါအဝင်ဖြစ်၍ နာမည်သုံးမျိုး ပြောင်းခဲ့သည်။ ယခုအမည်မှာ တတိယမြောက် ဖြစ်သည်။ ဤအမည်နှင့်စပ်လျဉ်း၍ (က) မွန်ဘာသာ၊ ကြုင်ပိ (ကြုင် ချောင်း၊ ပိ သုံး) ချောင်း သုံး ခု အရပ်၊ ကြုင်ပိကို (ကရုံပွဲ) ဟုမွန်အသံထွက်ရာမှ မြန်မာတို့က မပီမသ ကျုံပျော်ဟု ခေါ် ဆိုရေးသားကြသည်ဟူ၍၎င်း (ခ) မွန်နှင့်သက္ကဋပျက်၊ ကြုင်တရော် (ကြုင် ချောင်း၊ တရောသုံး) မှ ကျုံပျော်ဖြစ် လာ သည် ဟူ ၍ ၎င်း (ဂ) မွန် မိဖုရား ဥမ္မာဒန္တီ စခန်းစွဲရပ်စဉ်က ကျုံးပေါ်များစွာ တူးလုပ်ခဲ့သဖြင့် ကျုံးပေါ်၊ နောက်တဖန် ကျုံပျော် ခေါ် တွင်သည်ဟူ၍၎င်း အမျိုးမျိုးကြံဆကြသည်။ ကျုံပျော်မြို့သည်ရှေးခေတ်အခါက မွန်တို့ဒေသဖြစ်လေသောကြောင့် ကြုင်ပိ (ကရုံပွဲ) မှကျုံ ပျော်ဖြစ်လာသည်ဟုဆိုခြင်းက ယုတ္တိများစွာတန်သည်။ အနီး အနားတဝိုက် တွင် လည်း ကျုံခနီး၊ ကျုံကတွန်၊ ကျုံပတ်၊ ကျုံကတွတ်၊ ကျုံဒရယ်၊ ကျိုက်ပါ၊ ကျိုက်ပိဟူ၍ မွန်အမည်ခံရွာပေါင်းမြောက်မြားစွာရှိသည်။

ရာဇဝင်၌ ထင်ရှား သော အကြောင်း တရပ်မှာ မြန်မာ သက္ကရာဇ် ၇၇၆ ခုနှစ်တွင် မင်းရဲကျော်စွာမင်းသားသည် ကျုံပျော်မြို့အနောက်ဖက်ကမ်း၊ ခဲပေါင်မြို့ကို သုံးကြိမ်တိုင်တိုင် တိုက်ခိုက်သော်လည်း မအောင်မြင်ဘဲ လက်နက်လူသူ အဆုံးအပါး များ လှသဖြင့်၊ ငဝံမြစ်ဆီသို့ ခေတ္တဆုတ် ခွာ မည်ပြုသည်။ ထိုအခါ မွန်တို့က ထမီဖြင့်ယပ်ခပ်၍ စကောတီးကာ သရော်ပြောင်လှောင် ကြွေးကြော်ကြသည်။မင်းရဲကျော်စွာသည် ရှက်ဒေါသဟုန်ပြင်း ပြစွာနှင့် အတင်း ချီချီဝင်ရောက်တိုက်ဖျက်လေရာ ခဲပေါင်မြို့ကျလေသည်။

ထို့ပြင် ကျုံ ပျော်မြို့ သည် နိုင်ငံ ကျော် ဇာတ် ဆရာ၊ မင်းသား ဝဏ္ဏကျော်ထင်ဦးဖိုးစိန် ထွက်ပေါ် ရာအရပ်ဖြစ်သည်။

**ကျုံး**။ ။ကျုံးမှာ ရှေးဘုရင်တို့၏ မြို့တော်များအတွင်းသို့ ရန်သူများ အလွယ်တကူ မဝင်ရောက်နိုင်စေရန် မြို့ရိုးတံတိုင်း၏ ပြင်ဖက်တွင် ပတ်လည်ဝန်းရံ၍ ပြုလုပ်ထားသော အတားအဆီး မြောင်းကြီးဖြစ်သည်။

ကျုံးမှာ ၃ မျိုးရှိသည်။ ယင်းတို့မှာ ရေကျုံး၊ ညွန်ကျုံး၊ အခြောက်ကျုံးတို့ဖြစ်သည်။ မြို့တော်များတွင် ဆိုခဲ့သည့် ကျုံး ၁ မျိုးဖြစ်စေ၊ ၂ မျိုးဖြစ်စေ၊ ၃ မျိုးလုံးဖြစ်စေ၊ စီမံထားရှိကြသည်။ မြို့ရိုးတံခါးများတွင် ထိုကျုံးတို့ကို ကူးဖြတ်ရန် တန်တားယင်များ ထားရှိ၍ ထိုတံခါးပေါက်ကို ခိုင်လုံစွာ စောင့်ရှောက် ကြရသည်။ တံခါး မရှိသော နေရာတွင်ကား ကျုံးများကို ရန်သူက အလွယ်တကူ မဖြတ်ကူးနိုင်သဖြင့် စောင့်ကြပ်ကာကွယ်ရန် များစွာတာဝန်မရှိဘဲ၊ မြို့ရိုးပေါ် ရှိ သူရဲခို၊ ပြအိုး စသည်တို့၌ အစောင့်ချထားရုံသာလိုသည်။ အချို့မြို့ရိုး များ တွင် ကျုံးကူးတန်တားကို အရေးရှိလျှင် လွယ်ကူစွာ ဖျက် နိုင် ဖြုတ် နိုင် အောင် လည်း စီရင်ထားတတ်ကြသည်။

ရေကျုံးမှာ ရန်သူ စစ်သည် ဆင်မြင်းတို့ အလွယ်တကူ မကူးနိုင်အောင် ကျယ်ပြန့်စွာပတ်၍ တူးဖေါက်ထားသည့် ကျုံးဖြစ်သည်။ ရေအောက်တွင်လည်း ဆူးငြောင့်ခလုတ်များနှင့် မိကျောင်း၊ လင်းပိုင် အစရှိသော အန္တရာယ်ပြုတတ်သည့် ရေသတ္တဝါများကို ထည့်သွင်းထားတတ်သည်။ ရေပြင်၌ကား အမြင်တင့်တယ်အောင် ကြာမျိုး ၅ ပါး စိုက်ပျိုးထားသည်။

ညွန်ကျုံးမှာ ရန်သူစစ်သည် ဆင်မြင်းရထားတို့ ဖြတ်ကူးလျှင် နစ်ကျံနေလေအောင် တူးဆွရေသွင်း၍ ရွှံ့ညွန်များဖြစ် အောင် စီရင် ထား သော ကျုံး ဖြစ် သည်။ ညွန် ၏ အစောက်မှာ အလွန်နက်အောင် ပြုလုပ်ထားသဖြင့် ထိုညွန်၌ ကျံသူများမှာ ရုန်းထွက်ရန်ခက်ခဲသည်။

အခြောက်ကျုံးမှာ ရေမတင် ညွန်မတင်သော မြေလွတ်တွင် ရန်သူစစ်သည် ဆင်မြင်းရထားတို့ ဖြတ်ကျော်လျှင် ထိခိုက်ပြိုလဲလေအောင် ဆူးချွန် ငုတ်ချွန် ငြောင့်ခလုတ်၊ တွင်းချိုင့် စသည်တို့ဖြင့် စီမံထားသောကျုံးဖြစ်သည်။

ကျုံး ၃ ရပ်အနက် ရှေးမြန်မာဘုရင် မြို့တော်ဟောင်း

များတွင် အများအားဖြင့် ရေကျုံးကိုသာ ပြုလုပ်စီရင်ထား လေ့ရှိသည်။ ဇာတ်နိပါတ်တော်များ၌သာ အခြောက်ကျုံး ညွှန်ကျုံးစသည်တို့ကို ပြုလုပ်တတ်ကြောင်း ဖော်ပြပါရှိ သည်။မြို့တော်ဟောင်းနေရာများတွင် အုတ်မြို့ရိုးပတ်လည် တို့၌ကော၍ ရေခန်းခြောက်နေသော ရေကျုံးဟောင်း ချိုင့်ဝှမ်းကြီးများကို တွေ့မြင်ရလေ့ရှိသည်။ မန္တလေးမြို့ နန်းတော်အုတ်မြို့ရိုးပတ်လည်တွင် ယခုထက်တိုင် ရေကျုံး ထင်ရှားတွေ့မြင်ရသေးသည်။

**ကျုံးဝန်ဘုမ္မဇေယျ။** ။မြန်မာနိုင်ငံ တဝှန်းလုံးတွင် မနုကျယ်ဓမ္မသတ် သို့မဟုတ် မနုရသေ့ဖြတ်ထုံးဆိုလျှင် ယောကျ်ားမိန်းမမရွေး မကြားဘူးသူ မရှိသလောက်ပင်ဖြစ် သည်။ ဤမျှထင်ရှားကျော်စောသော ဓမ္မသတ်ကျမ်းကြီး ကို မြန်မာဂန္ထဝင်သို့ သွတ်သွင်းပေးခဲ့သူမှာ ကျုံးဝန်ဘုမ္မ ဇေယျ အမတ်ကြီးပင်ဖြစ်သည်။

ရတနာသိင်္ခ ကုန်းဘောင်မြို့တည် အလောင်းမင်းတရား ကြီး လက်ထက်တော်တွင် စိန္တကျော်သူဦးဩ၊ ရှင်လက်ာ သာရ၊ မကာရလောပခင်ကြီးပျော် စသောပညာရှိများ သာမက တရားသူကြီး လက်ဝဲဘိနန်သူ၊ အတုလဆရာတော် နှင့်ကျုံးဝန်ဘုမ္မဇေယျ အမည်ရှိသော ဥပဒေပါရဂူကြီးများ လည်း ပေါ်ထွန်းခဲ့သည်။ တရားသူကြီး လက်ဝဲဘိနန်သူက ဓမ္မဝိနိစ္ဆယ ဥပဒေကျမ်းကို ပြုစုခဲ့၍ အတုလဆရာတော်က ဘုရင်၏တောင်းပန်ချက်အရ ၁၀ နှစ်တိုင်တိုင် ခက်ခဲနက်နဲ သောအမှုအခင်းများကို အဆုံးအဖြတ်ပေးခဲ့သည်။ ကျုံးဝန် ဘုမ္မဇေယျကမူ ဟိန္ဒူလူမျိုးတို့ ရှေးဟောင်းကျမ်းဂန်ကြီး များအနက် တခုအပါအဝင်ဖြစ်သော မနုကျမ်းရင်း ၁၀ တွဲကို ပါဠိဘာသာမှ မြန်မာစကားပြေ သက်သက်ဖြင့် ၁၈ ပိုင်းပိုင်းကာ မနုကျယ်ဓမ္မသတ်ဟူ၍ ပြန်ဆိုရေးသားခဲ့ လေသည်။ ဤပညာရှိကြီး၏ မျိုးရိုးဇာတိနှင့် ဖွားသက္ကရာဇ် တို့ကို ဂနသေချာစွာ မတွေ့ရှိရသေးသော်လည်း၊ အမတ်ကြီး သည် အလောင်းမင်းတရားကြီး လက်ထက်၌ ကျုံးဝန်ဘုမ္မ ဇေယျဘွဲ့နှင့် မဟာသီရိဥတ္တမ ဇေယျသင်္ကြံ ဟူသောဘွဲ့ ၂ ဆင့်ကို အပ်နှင်းခြင်း ခံရကြောင်းကိုကားသိရှိရသည်။

ဤမနုကျယ်ကျမ်းမှာ ဓမ္မသတ်ကျမ်း တစောင်အနေဖြင့် သာမဟုတ်ဘဲ၊ မြန်မာစကားပြေကျမ်း တခုအနေဖြင့်လည်း ဖတ်ရှုလေ့လာနိုင်သဖြင့်၊ ကျမ်းပြုပုဂ္ဂိုလ် ကျုံးဝန် ဘုမ္မ ဇေယျအား ကျေးဇူးတင်ထိုက်လှပေသည်။ (မနုကျယ် ဓမ္မသတ် — လည်းရှု။)

**ကြာဆံ။** ။ကြာဆံသည် ဆန်မှုန့်၊ ပဲမှုန့်တို့ကို ကြိုးငယ် သဏ္ဌာန် အမျှင်များလုပ်ယူသော စားဖွယ်တမျိုးဖြစ်သည်။ ပဲကြာဆံ၊ ဆန်ကြာဆံဟူ၍ ၂ မျိုးရှိသည်အနက် ပဲကြာဆံ ကို အိန္ဒိယနိုင်ငံမှ ခြင်းများဖြင့် တင်ယူလာလေ့ရှိသည်။ ပဲကြာဆံသည် နဂိုနေအတိုင်း အဖြူရောင် အမျှင်ခြောက် များသာဖြစ်သည်။ စားသုံးလိုသောအခါ ထိုအမျှင်များ ကို ဆယ်မိနစ်ခန့် ရေတွင်စိမ်လိုက်ရသည်။ ခြောက်နေ သောအမျှင်တို့သည် ကြည်လင်၍ လုံးမွတ်သော အမျှင် ပျော့များအဖြစ်သို့ ပြောင်းသွားကြသည်။ ထိုကြာဆံကို လက်သုတ်များ၌ ထည့်၍ဖြစ်စေ၊ ကြက်သား၊ ငါးစသည် တို့ဖြင့် ချက်ပြုတ်၍ဖြစ်စေ စားသုံးလေ့ရှိကြသည်။ အချို့ ကလည်း ကြာဆံဟင်းခါး ချက်သောက်ကြသည်။

ဆန်မှုလုပ်ယူသောကြာဆံကို တရုပ်ဆိုင်များတွင် အတွေ့ ရများ၏။ ပဲမှုလုပ်ယူသည့် ကြာဆံကဲ့သို့ပင် အမျှင် များဖြစ်သော်လည်း ဆန်ကြာဆံသည် ရေတွင်စိမ်ရာ၌ ပဲကြာဆံကဲ့သို့ ကြည်လင်မလာဘဲ သာမန်အဖြူရောင် အမျှင်များသာ ဖြစ်လာသည်။ ပဲကြာဆံလောက်လည်း အမျှင်မတုတ်ချေ။ ဆန်ကြာဆံကို ဝက်သား၊ကြက်သား၊ ဘဲသားစသည်တို့ဖြင့် ကြော်၍စားလေ့ရှိကြသည်။ အထူး သဖြင့် တရုပ်လူမျိုးများ အသုံးများသည်။ ရန်ကုန်မြို့၌ ထိုကြာဆံမျိုး လုပ်ယူသော လုပ်ငန်းများရှိသည်။



**ဆန်မှုလုပ်ယူသောကြာဆံများ**
ရန်ကုန်မြို့၌ ကြာဆံဖိုများတည်ကာ အများအပြားလုပ်နေကြပေပြီ။



ရတနာပုံနေပြည်တော်မြို့ရိုးကိုပတ်လည်ဝန်းရံ၍တူးထားသောကျုံး

ကြာပွင့်ကြာရွက်ကြာဖက်တို့ဖြင့်တင့်တယ်ဝေဆာနေသောကန်၏တစိတ်တဒေသရှုခင်း

**ကြာပင်။** ။ကြာပင်သည် 'နင်ဖီအေးစီး' မျိုးစဉ်တွင် ပါဝင်သည်။ ရေ၌ပေါလောပေါ်ပေါက်၍ အပွင့်ပွင့်သော အပင်မျိုးအားလုံးမှာ နင်ဖီအေးစီးမျိုးစဉ်ဝင်အပင်များဖြစ်သည်။ကြာပင်သည် ရေကန်အင်းအိုင်များတွင်၎င်း။ချောင်းရိုးကမ်းစပ်များတွင်၎င်း ပေါက်ရောက်သည်။ အမြစ်များမှာ ပွ၍ ရွှံ့ညွန်များကို ကုပ်တွယ်ထားသည်။ ကြာရွက်ဝိုင်းများသည် ရေပေါ်တွင် အမြဲပေါ်လျက်ရှိသည်။ ကြာပွင့်များသည် ကြာရွက်ဝိုင်းများ အကြားမှ ငွါးငွါးစွင့်စွင့် ရေပြင်ပေါ်တွင် ပွင့်ကြသည်။ ပွင့်ညှာနှင့် ရွက်ညှာများသာ ရေအောက်တွင် နစ်လျက်ရှိသည်။ ပွင့်ညှာတခု အဖျားတွင် များသောအားဖြင့် ကြာပွင့် တပွင့်သာပွင့်သည်။ ပွင့်ညှာတွင် အရွက်များ လုံးဝမပေါက်ချေ။

ကြာပွင့်တပွင့်တွင် ပွင့်ချပ်နှင့် ပွင့်ဖတ်ပေါင်း များပြားစွာရှိသည်။ ဝတ်ဆံ ဖို တံများမှာလည်း အများအပြား တစုတဝေးတည်းပေါက်ကြသည်။ ဝတ်ဆံမ တံကား တခုတည်းပင်ရှိသည်။ ဝတ်ဆံမ တံ၏ အဖျားတွင် ပြားနေသော ဝတ်ဆံမထိပ် တခုရှိသည်။ အိုဗာရီခေါ် မျိုးစေ့အိမ်ကြီး ထဲတွင် မျိုးမှုန် အမကလေး များစွာပါရှိသည်။ ကြာပွင့်ကြာရွက်တို့နှင့် ဆက်သော ကြာရိုးတို့မှာ လေလျှောက်နိုင်သော ခေါင်းပွများဖြစ်ကြသည်။ လေနှင့် အလင်းရောင်ကို ရေပေါ်တွင်ရှိသော အရွက်များက သိုမှီး၍ သတ္တုဓါတ်နှင့် ရေတို့ကိုကား အမြစ်များက စုတ်ယူကြသည်။

ကြာပွင့်များမှာ မျိုးကိုလိုက်၍ အရောင် အမျိုးမျိုးရှိသည်။ အဖြူ၊ အဝါ၊ အပြာ၊အညို စသည်ဖြင့် အရောင်အမျိုးမျိုးရှိလေသည်။ အများအားဖြင့် ကြာဖူးများသည် နံနက်အရုဏ်တက်ချိန်တွင် ပွင့်ကြ၍ ညနေ နေဝင်ခါနီးတွင် ပြန်၍ငုံသွားကြသည်။ အချို့ ကြာမျိုးသည် ညနေတွင်ပွင့်ကြသည်။ ကြာပွင့်သည် ၃ ရက် လောက်သာ ခံသည်။ ၃ ရက်မှလွန်လျှင် ညှိုးနွမ်းသွားလေ့ရှိသည်။ ကုမုဒြာကြာသည် ညအခါ လရောင်ခံ၍ ပွင့်သည်ဟုဆိုကြသည်။

ကြာပွင့်၏အလယ်တွင် ကြာခွက်ကလေးများ ရှိသည်။ ကြာပွင့် မကြီးရင့်မီ ကြာခွက်မှာ မြင်နိုင်ရုံလောက်သာရှိ၏။

ကြာပွင့်မှ ပွင့်ဖတ်နှင့်ပွင့်ချပ်များ ကြွေကျပြီးနောက်တွင် ကြာခွက်သည် တဖြည်းဖြည်း ကြီးရင့်လာသည်။ ကြာခွက်ထဲမှ ကြာစေ့များကို ကလေးသူငယ်များသည် သရည်စာအဖြစ် စားတတ်ကြသည်။

ရေကန်အင်းအိုင်များတွင် အတွေ့ရများသော ကြာတို့မှာ ကြာဖြူ၊ ကြာနီနှင့် ကြာညိုများဖြစ်သည်။ ကြာဖြူ

အရွက်ပေါ်တွင်လူတယောက်ရပ်နိုင်သောဗစ်တိုးရီးယားရီဂျီးယားကြာ



မိုင်ပေါင်း ၂၆၁၀၀၀ ကျော်ကွာဝေးသောအရံဂြိုဟ်ငယ်မှကြည့်လျှင်ကြာသပတေးဂြိုဟ်ကိုဤသို့မြင်ရ၏။

ကို ရုက္ခဗေဒ အမည်အားဖြင့် 'နင်ဖီအာ အယ်လဗာ' ဟုခေါ်သည်။ ဗြိတိသျှကြာမျိုးထဲတွင် အဝါရောင်ကြာပန်းမျိုးကို တွေ့ရသည်။ ကြာအပေါင်းတွင် အလှဆုံးကား ကြာပဒုမာပင်ဖြစ်သည်။

အလွန်အံ့ဩဖွယ်ကောင်းသော ကြာပင်ကြီး တမျိုးကို တောင်အမေရိကတိုက် အမေဇုန်မြစ် ကမ်းစပ်တလျှောက်တွင်တွေ့ရသည်။ ထိုကြာကို ရုက္ခဗေဒအမည်ဖြင့် 'ဗစ်တိုးရီးယားရီဂျီးယား' ဟုခေါ်သည်။ထိုကြာပင်မှာမည်မျှကြီးမားသနည်းဟူမူ ကြာရွက်ပေါ်တွင် လူတယောက် ကောင်းစွာရပ်နေနိုင်လောက်အောင် ကြီးမားလေသည်။ အရွက်၏အချင်းမှာ ၆ ပေမှ ၇ ပေအထိ ရှိ၍ အပွင့်၏အချင်းမှာ ၈ လက်မမှ ၁၆ လက်မအထိရှိသည်။

ကြာမျိုး ၅ ပါးရှိရာ ယင်းတို့မှာ ကုမုဒြာ၊ပုဏ္ဍရိတ်၊ပဒုမ၊ ကြာနီ၊ ကြာညိုတို့ဖြစ်ကြသည်။

**ကြာဖက်နင်းငှက်။** ။ကြာဖက်နင်းငှက်၏ အခြားအမည်မှာဘီငှက်ဖြစ်သည်။ကြာဖက်နင်းငှက်ကိုအိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံနှင့် အရှေ့အာရှတိုက် တခွင်တွင်တွေ့ရသည်။

အလျား ၁၂ လက်မမှ ၁၅ လက်မအထိရှိသည်။ ငှက်ငယ်၏ အမောက်နှင့် လည်ကုပ်တို့သည် ညို၍ အောက်ပိုင်းမှာ ဖြူသည်။

ကြာဖက်နင်းငှက်သည် ခြေတံရှည်၍ ခြေချောင်းများမှာ အလွန်ရှည်လျားသည်။ ခြေချောင်းများဖြင့် ကြာဖက်များပေါ်တွင် ပေ့ါပါးစွာလျှောက်၍ အစာရှာဖွေနိုင်သောကြောင့် ကြာဖက်နင်းငှက်ဟု ခေါ်တွင်သည်။ ပျံသန်းရာတွင် ချည့်နဲ့၍ ပင်ပန်းပုံရသည်။ ပျံစဉ် ခြေထောက်များကို အောက်သို့ တွဲလျားချ ထားတတ်သည်။ အပြေးအလွန်သန်သည်။ ငှက်မသည် ငှက်ဖိုထက် ကိုယ်ထည်ကြီးသည်။

ကြာဖက်နင်းငှက်၏ အစာမှာ ပိုးမွှား၊ ခရု၊ ငါးနှင့်ရေတွင်ပေါက်သော အပင်များဖြစ်သည်။

မိုးရာသီတွင် ငှက်ကလေးများပေါက်သည်။ သစ်ရွက်ပေါင်းပင်များဖြင့် ပြုလုပ်ထားသော အသိုက်သည် ရေပေါ်တွင် မျောနေတတ်သည်။ တမြုံလျှင် ဥ ၄ လုံးရှိတတ်၏။ဥများမှာ အဝါရောင်အောက်ခံတွင် အမဲစင်းများ ပါရှိ၍ ချောမွတ်ပြောင်လက်နေသည်။ ဥ၏အရွယ်မှာ ပျမ်း မျှအလျား ၁ လက်မခွဲ၊ ပြက် ၁ လက်မ သာသာရှိသည်။



ဘီငှက်ခေါ် ကြာဖက်နင်းငှက်

**ကြာသပတေးဂြိုဟ်။** ။တနင်္ဂနွေဂြိုဟ် ဟုခေါ်တွင်သော နေမှလွဲလျှင် ကြာသပတေးဂြိုဟ်သည် ဂြိုဟ်များတွင် အကြီးဆုံး ဖြစ်သည်။ ထိုဂြိုဟ်ကို အနောက်တိုင်းနက္ခတ်ဆိုင်ရာတွင် ဂျူပီတာ ဟုခေါ်သည်။ ထိုဂြိုဟ်ကြီးသည်

ကျွန်ုပ်တို့ကမ္ဘာမှ မိုင်ပေါင်းကုဋေ ၆၀ ကွာဝေး၍ ထုထည်အားဖြင့် ကမ္ဘာထက် အဆပေါင်း ၁၃၀၀ ပို၍ကြီး၏။ သို့ရာတွင် အလေးချိန်အားဖြင့် ၃၁၇ ဆသာပိုသည်။ ဝင်ရိုးစွန်း တခုမှတခုသို့ အချင်းမိုင်ပေါင်း ၈၂၈၀၀ ရှိ၍၊ အီကွေတာ၌ အချင်းမိုင်ပေါင်း ၈၈၇၀၀ ရှိသည်ဟုဆိုသည်။ ဂျူပီတာသည် ဗီးနပ်ခေါ် သောကြာဂြိုဟ်မှတပါး အထွန်းလင်းဆုံးဂြိုဟ်ကြီးဖြစ်၍ တောက်ပသော အရံဂြိုဟ်ငယ် ၁၁ လုံးခြံရံလျက်ရှိသည်။ နေမှ အကွာအဝေး အလိုက် ဂျူပီတာသည် ပဉ္စမမြောက် ဂြိုဟ်ကြီးဖြစ်၍ နေကို ၁၂ နှစ်ခန့်တွင်မှ တပတ်ပတ်မိအောင် လှည့်လည်ရသည်။

ကြာသပတေးဂြိုဟ်သည် တနင်္ဂနွေဂြိုဟ်ဖြစ်သောနေမှ မိုင်ပေါင်း ၄၈၃,၂၀၀,၀၀၀ ကျော်မျှကွာဝေးသည်။ ကမ္ဘာနှင့်နေ၏အကွာအဝေး ၅ ဆကျော်မျှဖြစ်သည်။ ထိုဂြိုဟ်သည် မိမိဝင်ရိုးပေါ်တွင် အလိုအလျောက် လှည့်ပတ်နေရာ ၉ နာရီနှင့် မိနစ် ၅၀ တွင် တပတ်ပြည့်သည်။

ကြာသ ပတေးဂြိုဟ်သည် မြန်မာကျမ်းဂန်များအရ ဂြိုဟ်ကြီး ၉ လုံးတွင် ၅ လုံးမြောက် ဂြိုဟ်ဖြစ်သည်။ ကြယ်ငယ်အရံ ၄ လုံးရှိသော ကြယ်ကြီးဖြစ်၍ အချင်း ၁၇ ယူဇနာရှိသည်ဟု ဝေါဟာရလိနတ္ထဒီပနီ (လေ့သင်းအတွင်းဝန်) ကဆိုသည်။ ယင်းကြာသပတေးဂြိုဟ်ကို အစွဲပြု၍ ရက်သတ္တပတ်၏ ၅ ရက်မြောက်နေ့ကို ကြာသပတေး နေ့ဟုခေါ်သည်။ မြန်မာပြက္ခဒိန်ကျမ်းများအရ ကဆုန်၊ တော်သလင်း၊ ပြာသို၊ တပို့တွဲလများတွင် ကြာသပတေးနေ့များမှာ ရက်ရာဇာဖြစ်၍ တန်ခူး၊ ဝါခေါင်၊ နတ်တော်လများတွင် ပြဿဒါးရက်များ ဖြစ်သည်ဟုမှတ်ယူကြသည်။ မြန်မာတို့သည်ကြာသပတေးဂြိုဟ်ကိုပညာဂြိုဟ်အဖြစ်မှတ်ယူကြ၍ 'စာသင်ကြာသပတေး၊ စာရေးသောကြာ' ဟူ၍ ကြာသပတေးနေ့တွင် စတင်ကျောင်းအပ်လေ့ပြုကြသည်။ ကြာသပတေးဂြိုဟ်နတ်မင်း စီးသောဂြိုဟ်ကောင်မှာ ကြွက်ဖြစ်၍ 'ကြာသ ပတေးကြွက်၊ ဆယ့်ကိုးသက်၊ နေချက်ပစ္ဆိမ'၊ ဆိုသောဂြိုဟ်လင်္ကာအရ ကြာသပတေးဂြိုဟ်သက်မှာ ၁၉ နှစ်ဖြစ်ပြီး လျှင်၊ ကြာသပတေးဂြိုဟ် တည်ရာအရပ်မှာ အနောက်အရပ်ဖြစ်သည်။ ဗေဒင်ဝေါဟာရအားဖြင့် ကြာသပတေးဂြိုဟ်ကို 'ဂုရု' ဟုခေါ်မှတ်လေ့ရှိသည်။ မြန်မာအက္ခရာအားဖြင့် ပ၊ ဖ၊ ဗ၊ ဘ၊ မ ဟူသောပဝဂ်ဂြိုဟ်အက္ခရာ ၅ လုံးကို ကြာသပတေးနံဟုခေါ်သည်။

**ကြာအင်းဆိပ်ကြီးမြို့။** ။တနင်္သာရီတိုင်း ကျိုက္ခမိခရိုင်တွင် ကြာအင်းမြို့ရှိ၍ မြို့ပိုင်ရုံးစိုက်ရာ မြို့ဖြစ်သည်။ မြို့တည်ရာအရပ်မှာ ဒေါနတောင်တန်း၏ မြောက်ဖက်အစွန်တောင်ခြေရင်းတွင်ဖြစ်၍ အတ္တရံမြစ် အရှေ့ဖက်ကမ်းမှ ၂ မိုင်ခန့်ကွာဝေးသည်။ ကြာအင်းမြို့နယ်သည် စတုရန်းမိုင်ပေါင်း ၂၈၁၀ ခန့်ကျယ်ဝန်းသည်။ ၁၉၄၈ ခုနှစ်သန်ကောင်စာရင်းအရ မြို့နယ်၏လူဦးရေ ၇၄၈၇၇ ယောက်ဖြစ်၍ ယင်းအနက် ၄၆၀၁၀ မှာ ကရင်လူမျိုးများဖြစ်ကြသော်လည်း အများအားဖြင့် ဗုဒ္ဓအယူဝါဒီများဖြစ်ကြသည်။

ကြာအင်းမြို့ကို ရှမ်းလူမျိုးများ စတင်တည်ထောင်သွားကြောင်းအဆိုရှိသည်။ မူလက ရွာကြီးတရွာမျှသာဖြစ်၍ တဖြည်းဖြည်း စည်ကားလာသဖြင့် ၁၉၀၈ ခုနှစ်လောက်တွင် မြို့ပိုင်ရုံးစိုက်ရာ မြို့ဖြစ်လာသည်။ မြို့၏အနောက်ဖက်တွင်ပဒုမာကြာများပေါက်ရောက်သောအင်းကြီးတခုရှိခဲ့သဖြင့် ထိုအင်းကြီးကိုအစွဲပြု၍ ကြာအင်းမြို့ဟုခေါ်ဝေါ်ခြင်းဖြစ်သည်။ ကြာအင်းမြို့မှ ၂ မိုင်ခန့်ကွာဝေးသော အတ္တရံမြစ်ကမ်းနဖူးပေါ်တွင် စည်ကားသော ရွာကြီးတရွာရှိလေရာ ထိုရွာမှာ ဆိပ်ကြီးရွာပင်ဖြစ်သည်။ ထိုရွာတွင်မြို့ပိုင်ရုံး၊ စာတိုက် အစရှိသော အစိုးရအဆောက်အအုံများရှိကြသည်။ ကြာအင်းနှင့်ဆိပ်ကြီးတို့မှာ နီးကပ်နေသဖြင့် ကြာအင်းဆိပ်ကြီးမြို့ဟုခေါ်တွင်ကြသည်။



ကြာအင်းဆိပ်ကြီးမြို့ရှိဗောဓိပင်

ဆိပ်ကြီးရွာသည် သင်္ဘောဆိပ်ကမ်းဖြစ်သည့်အလျောက် ယင်းမှ အတ္တရံ မြစ်ကြောင်းကိုစုန်ကာ မော်လမြိုင်သို့ အလွယ်တကူသွားရောက်နိုင်သည်။ အနောက်ဖက်ကျွန်းရွာ၊

ချောင်းနှစ်ခွ၊ မုဒုံအရပ်များကိုဖြတ်၍ မော်လမြိုင်မြို့ သို့ ကြာအင်းမြို့မှ မော်တော်ကားလမ်းဖြင့်လည်း သွားရောက်နိုင်သည်။ မော်လမြိုင်နှင့်ကြာအင်းမြို့မှာ မော်တော်ကားလမ်းဖြင့် မိုင် ၅၀ ခန့်ကွာဝေး၏။ ကြာအင်းမှမြောက်ဖက် ကော့ကရိတ်သို့ရင်း၊ အရှေ့ဖက်ကျိုက်ဒုံသို့ရင်း ကုန်းလမ်းခရီးများပေါက်လေသည်။ ကျိုက်ဒုံမှတဆင့် တနင်္သာရီရိုးမကိုဖြတ်ကျော်လျှင် ယိုးဒယားနယ်စပ် သို့ရောက်နိုင် သည်။ ဒုတိယကမ္ဘာစစ်အတွင်းက ဖေါက်လုပ်ခဲ့သော ယိုးဒယားမြန်မာမီးရထားလမ်းမှာ ကြာအင်းမြို့နယ် အနန်းကွင်းရွာအနီးကိုဖြတ်သွားလေသည်။

ကြာအင်းမြို့နယ်တွင် တောင်ယာ၊ ပဲခင်းနှင့် လိမ္မော်၊ ရှောက်ချိုအစရှိသော ဥယျာဉ်ခြံများ လုပ်ကိုင်ကြသည်။ ကျွန်းသစ်အကောင်းစားများလည်း ထွက်ရှိသဖြင့် ဒုတိယကမ္ဘာစစ်မဖြစ်မီက ဘုံဘေဘားမား၊ မက္ကရီကာ၊ ဖူးကားစသောသစ်ကုမ္ပဏီကြီးများသည် ဆိပ်ကြီးရွာတွင် ဌာနခွဲများအသီးအသီး ဖွင့်လှစ်ထားခဲ့ဘူးလေသည်။

မြို့ပေါ်တွင် အစိုးရအထောက်အပံ့ခံ ကရင်အထက်တန်းကျောင်း တကျောင်းရှိသည်။ ခရစ်ယန်ဘုရားရှိခိုးကျောင်းကိုလည်း တွဲလျက်ဆောက်ထားသည်။ မြို့နယ်အတွင်း၌ ကျိုက်လေဝင်ဘုရား၊ ဖါးပြတ်ဘုရားများရှိသည်။ ကျိုက်ဒုံအရှေ့ဖက် ဒေါနတောင်ပေါ်တွင်တည်ရှိသော မွတ်လအိနှင့်မွတ်လအပ် စေတီ ၂ ဆူမှာ ထင်ရှားသောစေတီပုထိုးများဖြစ်ကြသည်။ ဖါးပြတ်ဂူအတွင်းနံရံများတွင် ရှေးနှစ်ပေါင်းများစွာက ထုလုပ်ထားခဲ့သော မွန်အနုပညာဆန်သည့် ဗုဒ္ဓရုပ်တုတော်များကို တွေ့ရှိနိုင်ပေသည်။ ယခုအခါ ကြာအင်းမြို့နယ်ကို ကရင်ပြည်နယ်အတွင်းသို့ ထည့်သွင်းပေးထားပြီးဖြစ်သည်။

**ကြိယာ**။ ။ကြိယာသည် လုပ်ခြင်း၊ ဖြစ်ခြင်း၊ တည်ရှိခြင်း တခုခုကို ဖေါ်ပြသော စကားလုံးဖြစ်၏။ ကြိယာသည် ဝါကျတွင် နာမ်ကဲ့သို့ အရေးကြီး၍ ကြိယာမပါဘဲ ဝါကျမဖြစ်နိုင်။ ကြိယာသည် ကတ္တား၏ လုပ်ခြင်း၊ ဖြစ်ခြင်း၊ တည်ရှိခြင်းတို့ကိုဖေါ်ပြသည်။ ဥဒါဟရုဏ်၊ 'သူ' 'နေ့စဉ်' 'ထမင်း' ဟူသောစကား သုံးလုံးမှာ အဓိပ္ပါယ်မပြည့်စုံချေ။ 'သူနေ့စဉ် ထမင်းစားသည်' ဟူ၍ 'စားသည်' ဟူသော ကြိယာပုဒ်ကို ထည့်သွင်းမှသာ အဓိပ္ပါယ်ပြည့်စုံလေသည်။

အချို့ကြိယာသည် လုပ်ခြင်းကိုပြ၍၊ အချို့ကားဖြစ်ခြင်း၊ အချို့ကားတည်ရှိခြင်းကိုပြသည်။ ဥဒါဟရုဏ်၊

'ခါးပြသည် လူကို သတ်သည်'

'မောင်ဘ သေပြီ'

'ခွေးတကောင် ရှိ၏'

ဤဝါကျသုံးခုတွင် ပဌမဝါကျ၌ 'သတ်သည်' ဟူသော ကြိယာသည် လုပ်ခြင်းကိုပြ၍ ဒုတိယဝါကျ၌ 'သေပြီ'၊ တတိယဝါကျ၌ 'ရှိ၏' ဟူသော ကြိယာတို့သည် ဖြစ်ခြင်း တည်ရှိခြင်းကိုပြသည်။

ကြိယာတို့ကို ကံပါကြိယာ၊ ကံမပါကြိယာ ဟူ၍ခွဲခြားနိုင်သည်။ 'သူသည် မြင်းကို စီးသည်' ဟူသောဝါကျ၌ 'စီးသည်' ဟူသော ကြိယာပုဒ်သည် ကြိယာလုပ်ရာ ခံရသည့် 'မြင်းကို' ဟူသော ကံပုဒ်မပါဘဲ အဓိပ္ပါယ်မပြည့်စုံချေ။ 'သူအိပ်သည်' ဟူသော ဝါကျတွင်ကား 'အိပ်သည်' ဟူသော ကြိယာပုဒ်နှင့်ပင် အဓိပ္ပါယ်ပြည့်စုံ၍၊ ကြိယာလုပ်ရာခံရသည့် ကံပုဒ်ကို ဆောင်ရန်မလိုချေ။ ကြိယာများကို အကူအညီပေးသည့် ပစ္စည်းများလည်း ရှိကြသေးသည်။ ယင်းတို့ကို ကြိယာနှင့်တွဲသုံးလျှင် အချိန်၊ အခြေအနေ စသည်တို့ကို ထင်ရှားစွာပြသည်။ ဥဒါဟရုဏ်၊ 'ပြေးလိမ့်မည်' ဟုဆိုရာ၌ 'ပြေး' သည် ကြိယာဖြစ်၍၊ 'လိမ့်မည်' မှာ ထိုကြိယာကို ကူညီသော ပစ္စည်းဖြစ်၏။ အချိန်ကာလကိုပြ၏။ 'ပြေးလိမ့်မည်' ၌ ဖြစ်လတ္တံ့ကာလ သဘောပါ၏။ ယခုမပြေးသေး၊ နောင်အခါ၌ ပြေးလိမ့်မည်ဟူသော အဓိပ္ပါယ်သည် ထင်ရှား၏။ ကြိယာတခုတွင် ဆိုင်ရာပစ္စည်းတွဲလျှင်၊ ထိုကြိယာပြသောကာလသည် ပြောင်းလဲသွားလေသည်။ ဥဒါဟရုဏ်၊ 'သွားသည်' ဟူသော ကြိယာမှာ 'ယခုသွားသည်' ဟူသောအနက်ရှိ၍ ဖြစ်ဆဲကာလကိုညွှန်ပြသည်။ 'သွားခဲ့သည်' ဟူသောကြိယာမှာ ပြီးစီးကြောင်း အနက်ရှိ၍၊ ဖြစ်ပြီးကာလကိုညွှန်ပြသည်။ 'သွားလိမ့်မည်' မှာ 'မပြီးမြောက်သေးကြောင်း' အနက်ရှိ၍၊ ဖြစ်လတ္တံ့ကာလကို ညွှန်ပြသည်။

ကြိယာဖြင့် အမိန့်ပေးခြင်း၊ တောင်းပန်ခြင်း၊ ဆုတောင်းခြင်း စသည့်အနက်တို့ကို ပေါ်လွင်စေလိုသောအခါ ယင်းတွင် ဆိုင်ရာပစ္စည်းထည့်ပေးရသည်။ ဥဒါဟရုဏ်၊ ကျွန်ုပ်ကို အစာပေး 'ပါ'။ စား 'ပါရစေ'။ ဘုရင်မင်းမြတ်သက်တော်ရှည် 'ပါစေ' သတည်း။ ဤဝါကျများသည် 'ပါ'၊ 'ပါရစေ'၊ 'ပါစေ' ဟူသောပစ္စည်းများကြောင့် အနက်အမျိုးမျိုး ထွက်ရှိလာကြသည်။ တောင်းဆိုသည့်အခါ ညင်သာပျော့ပျောင်းသော စကားလုံးများကို သုံးကြ၏။ 'ယခုချက်ခြင်း ထွက်သွားလိုက်'၊ 'လက်မြှောက်လိုက်' ဟူသောဝါကျများ၌၊ အာဏာသံပါသော ညွှန်ကြားနည်းကို သုံးထား၏။ ယင်းကဲ့သို့ 'စားသည်'၊ 'သွားသည်' ဟူသော ကြိယာရိုးရိုးများကိုပင် 'စားပါ'၊ 'သွားလိုက်' စသည်ဖြင့် လိုရာအနက် ပေါ်လွင်အောင် အမျိုးမျိုးခွဲ၍ သုံးစွဲနိုင်လေသည်။

'ခွေးသည် ကလေးကို ကိုက်သည်' ဟူသော လုပ်ခြင်းသဘောပြသည့် ဝါကျကို ခံရခြင်းသဘောပြသည့် ဝါကျဖြစ်စေလိုလျှင်၊ ကတ္တားကို ကံနေရာ၌ ထား၍၊ ကံကိုကတ္တား

နေရာ၌ ထားကာ 'ကလေး ခွေးကိုက်ခံရသည်' (ကလေးသည် ခွေး၏ကိုက်ခြင်းကို ခံရသည်) ဟူ၍ ဆိုနိုင်သည်။

နာမ်သဘောသက်ရောက်သော ကြိယာများကို နာမ်ကဲ့သို့ ကတ္တား ကံ နေရာ၌ သုံးစွဲကြသေးသည်။ ဥဒါဟရုဏ်၊ 'စောစော အိပ်ရာထခြင်းသည် ကျန်းမာစေသည်' ဟုဆိုရာ၌ 'ခြင်း' ဟူသောပစ္စည်းကို (ထ) ကြိယာနောက်၌ထည့်ခြင်းဖြင့် (ထ) ကြိယာသည် (ထခြင်း) နာမ်ဖြစ်လာသည်။ ကြိယာစကားလုံးများကို တခါတရံ နာမဝိသေသနအဖြစ်နှင့်လည်း သုံးနိုင်သည်။ ဥဒါဟရုဏ်၊ ဤမိန်းမပျို လှသည် (ကြိယာ) 'လှသော မိန်းမပျို' (နာမဝိသေသန)။

ကြိယာများကို သုံးရာတွင် အချိန်ကာလအလိုက် ရှေ့နောက်ညီရန် အရေးကြီးသည်။ ဥဒါဟရုဏ်၊ 'လုပ်ခဲ့သည်' ဟူသော ဖြစ်ပြီးကာလကို နက်ဖြန်နှင့်တွဲ၍၊ 'နက်ဖြန်လုပ်ခဲ့သည်' ဟုဆိုလျှင်မှားသည်။ 'နက်ဖြန်လုပ်ခဲ့ပါ'၊ သို့မဟုတ် 'နက်ဖြန်လုပ်ခဲ့မည်' ဟုဆိုမှသာမှန်မည်။ ထိုအပြင် ကြိယာသည် ကတ္တားနှင့် ကိန်းချင်းတူရန် သတိပြုအပ်သည်။ ကတ္တားက တခုပြကိန်းဖြစ်လျှင်၊ ကြိယာသည်လည်း တခုပြကိန်း ဖြစ်သင့်သည်။ ကတ္တားက အများပြကိန်းဖြစ်လျှင်၊ ကြိယာသည်လည်း အများပြကိန်းပင် ဖြစ်သင့်သည်။

ဥဒါဟရုဏ်၊ ကျွန်ုပ်လမ်းလျှောက်သွားသည်။ (တခုပြ)
ကျွန်ုပ်တို့ လမ်းလျှောက်သွားကြသည်။ (အများပြ)

**ကြိယာဝိသေသန**။ ။ကြိယာဝိသေသနသည် ဝါကျ၏ အင်္ဂါတခုဖြစ်သည်။ ယင်းသည် ကြိယာ၏အဓိပ္ပါယ်ကို ပိုမိုထင်ရှားစေသည်။ တိကျလေးနက်စေသည်။ နာမ်ကို နာမဝိသေသနက အထူးပြု ကူညီသကဲ့သို့ ကြိယာကို ကြိယာဝိသေသနက အထူးပြုကူညီလေသည်။ ဥဒါဟရုဏ်၊ 'လမ်းလျှောက်သည်' ဟုဆိုရာတွင်၊ ကြားရသူ၏စိတ်၌ သာမန်လမ်းလျှောက်နေပုံသာလျှင် ပေါ် ထင်လာပေမည်။ အကယ်၍ 'လျှင်မြန်စွာ လမ်းလျှောက်သည်' ဟုဆိုလျှင် ကြိယာ၏အဓိပ္ပါယ်သည် ပိုမိုတိကျ လေးနက်လာလေသည်။ ဤဝါကျ၌ ကြိယာကို အထူးပြုသည့် 'လျှင်မြန်စွာ' ဟူသောပုဒ်သည် ကြိယာဝိသေသနဖြစ်သည်။

ကြိယာတခု၌ 'စွာ' ဟူသောစာလုံးကို ဖြည့်စွက်လိုက်ခြင်းဖြင့် ယင်းသည် ကြိယာဝိသေသနပုဒ် ဖြစ်လာနိုင်သည်။ ဥဒါဟရုဏ် 'ကောင်းမွန်စွာ' 'လှပစွာ' 'သေသပ်စွာ' 'အေးချမ်းစွာ' စသည်တို့ဖြစ်ကြသည်။ ကြိယာဝိသေသနသည်၊ တခါတရံ နာမဝိသေသနကို အထူးပြုသည်ကိုတွေ့ရသည်။ ဥဒါဟရုဏ်၊ 'အလွန်ကောင်းသော စာအုပ်' ဤဝါကျ၌ 'စာအုပ်' ဟူသောနာမ်ကို 'ကောင်းသော' ဟူသော နာမဝိသေသနက အထူးပြုထားသည်။ တဖန် 'ကောင်းသော' ဟူသော နာမဝိသေသနကိုပင် 'အလွန်' ဟူသော ကြိယာဝိသေသနက အထူးပြုလေသည်။

ကြိယာဝိသေသနများကို အချိန်၊ နေရာ၊ ပြုမူပုံ၊ အရေအတွက်တို့ကို ဖေါ်ပြသည့် စကားရပ်များ အဖြစ်ဖြင့်လည်း အသုံးပြုတတ်ကြသည်။

ဥဒါဟရုဏ်၊ 'ဈေးသို့ မနေ့က ရောက်ခဲ့ပြီ' ဟူသော ဝါကျ၌ 'ရောက်ခဲ့ပြီ' ဟူသောကြိယာပုဒ်ကို ပိုမိုထင်ရှားအောင်၊ အချိန်ပြသည့် 'မနေ့က' ဟူသော ကြိယာဝိသေသနကို ပေါင်းထည့်လိုက်၏။ ဤနည်းနှင်နှင် နေရာကိုပြလိုသောအခါ 'အနီးတွင်ရပ်နေသည်'၊ 'အောက်၌တည်ရှိသည်'၊ 'အတွင်းသို့ဝင်သွားပါ' ဟူသော ဝါကျများတွင်ပါရှိသည့်၊ 'အနီးတွင်'၊ 'အောက်၌'၊ 'အတွင်းသို့' ကဲ့သို့သောစကားများကိုအသုံးပြုနိုင်သည်။

(က) 'ကျယ်လောင်စွာမြည်ဟည်းသောအသံ'

(ခ) 'တယောက်စီ တယောက်စီ စမ်းသပ်သည်' ဟူသော ဝါကျ ၂ ခု၌ 'ကျယ်လောင်စွာ' နှင့် 'တယောက်စီ တယောက်စီ' ဟူသောစကားတို့သည် ပြုမူပုံကို ထင်ရှားစေသော ကြိယာဝိသေသနများ ဖြစ်ကြသည်။

အောက်ပါဥဒါဟရုဏ် ၂ ခု၌ 'အလွန်' ဟူသော ကြိယာဝိသေသနသည် 'ပမာဏ' ကို ဖေါ်ပြသည်။

'အလွန်စိတ်ဝင်စားဘွယ်ကောင်းသောပုံပြင်'

'အလွန်အရသာရှိသောမုံ့'

အောက်ပါဥဒါဟရုဏ် ၂ ခုတွင် အရေအတွက်ကို ဖေါ်ပြသော ကြိယာဝိသေသနတခုစီပါရှိသည်။

'သူသုံးမိုင်ခန့်ပြေးရသည်'

'သူသည်ကျွန်တော့်အိမ်သို့နှစ်ကြိမ်ရောက်သည်'

နာမဝိသေသနမှာကဲ့သို့ပင် ကြိယာဝိသေသနမှာလည်း နှိုင်းရှည့်ချက်များရှိကြ၏။ ။ဥဒါဟရုဏ်ကား

'သာ၍ကြည်လင်စွာမြည်တွန်သည်'

'အမြန်ဆုံးပြေးနိုင်သည်'

'အစောဆုံးအိပ်ရာမှထသည်'

'သာ၍နက်အောင်တူးသည်' စသည်တို့ဖြစ်၏။

ဤအလတ်စား၊ အမြတ်စား နှိုင်းရှည့်ချက်များကို ဝါကျတွင် ကြိယာဝိသေသနအဖြစ် သုံးနိုင်သည်။

**ကြီး။ဦး**။ ။ဦးကြီးသည် ကုန်းဘောင်ခေတ်နောက်ပိုင်းတွင် ထင်ရှားသော စာဆိုတော်တဦးဖြစ်သည်။ စစ်ကိုင်းနယ် မန်ကျည်းကန်ချောင်း၏တောင်ဖက် စသာဈေးတက်တောင်ကြားရွာတွင် ဖွားမြင်သည်။ အစ်ကိုဖြစ်သူ ကျောင်းဆောက် လှူဒါန်းသော ပင်းဆရာတော်ထံတွင် ငယ်စဉ်က စာပေသင်ကြားရလေသည်။

ထိုနောက် အမရပူရမြို့ ဘုံကျော်တိုက်ဆရာတော်ထံတွင်

ရှင်သာမဏေအဖြစ်၊ ရဟန်းအဖြစ်ရခဲ့သည်။ ထိုကျောင်းတိုက်၌ပင် ဆက်လက်၍ စာပေသင်ကြား ပို့ချခဲ့သည်။

ထိုနောက်လူထွက်၍ ၁၂၀၁ ခုနှစ် သာယာဝတီမင်းလက်ထက် ရွှေပြည်တံခွန်မြင်းစုကို ဖွဲ့စည်းရာ၌ စုရေးစုကိုင်အဖြစ် ထမ်းရွက်သည်။ ရတနာသိင်္ဃ မြို့မရုံးတော်၌လည်း ထမ်းရွက်သေးသည်။ မင်းတုန်းမင်းလက်ထက်တွင် ရတနာသိင်္ဃ မြို့၌ပင် ဆက်လက်ထမ်းရွက်သည်။ ထိုအခါ ဆယ်အိမ်ခေါင်းဘွဲ့လွမ်းချင်း၊ တောပြန်ဘွဲ့လွမ်းချင်း၊ မောင်ဘွဲ့လွမ်းချင်း စသည်များကို ရေးသား၍ အိမ်ရှေ့စံ ကနောင်မင်းသားသို့ဆက်သွင်းသည်။ ဦးကြီး၏လွမ်းချင်းများမှာ မည်မျှထိမိသည်ကို ဖော်ပြပါသရုပ်ဖော် ကဗျာတပုဒ်ဖြင့်ခန့်မှန်းနိုင်၏။

ပျော်ပုံကသစ်သနှင့်၊ ယယ်ချစ်ကယ်လိုက်ခဲ့တော့၊ အကြိုက်ကတဲ့တိုတောရွာမှာ၊ မိုးအကာပင် ယံထက်ဆီက၊ ထန်းရွက်နှင့် ဆင်သည့် အိမ်၊ ခြုံတင်းတိမ် နွားရေခင်းလို့၊ ညဉ့်တွင်းကိုပုလွေကျော်နှင့်၊ ဖျော်ပမယ်လေး။ ။

ကိုက်ဖူးယယ်ညှန့်စီ၊ ချဉ်ပေါင်နီကို၊ ရာသီဝလေ့၊ ပုစွန်လုံးခွံဖုံးထေ့လို့၊ တောလေ့ယယ်တဆင်၊ လယ်ကြွက်ကင်နှင့်၊ တို့ခွင်ဖရုံ၊ အချိုချက်ဟင်းဘက်စုံလှ၊ မင်းပုံထယ်ထယ်၊ နေစာပျို့အစ်ကိုကို တယ်ပမယ်၊ ဆောင်းနယ်ဝင်သည် ချိန်ကို၊ ယစ်စည်းစိမ် အဆီဖိန်းလို့မှိန်းစေ့မယ်လေး။ ။

သီပေါမင်းလက်ထက်တွင် တောင်ငူ သစ်တောစာရေး၊ တောင်ငူမြို့စာရေး ရာထူးများဖြင့် ချီးမြှင့်ခြင်းခံရသည်။ လွမ်းချင်းများ ကိုသာမက စသာဈေးတက်တောင်ကြား သမိုင်း၊ ရတနာကြေးမုံကျမ်းနှင့် ပါဠိနုသာရီသတ်ပုံ တို့ကိုလည်းရေးသားခဲ့လေသည်။

ဦးကြီးသည် အလျှုအတန်းဖက်တွင် စေတနာထက်သန်၍ ထာဝရကုသိုလ်ဖြစ်သော ဘုရားတည် ကျောင်းဆောက်ခြင်းများကို ပြုတတ်သည်။ သူ၏ကဗျာများသည် တောဝလေ့နှင့် အရွှမ်းအသောများ ပါဝင်သဖြင့် ဖတ်ရှုသူကြားနာသူတို့၏ စိတ်နှလုံးကို ရွှင်ပြုံးနှစ်သက်စေနိုင်သည်။ ဦးကြီးသည် တောဝလေ့သရုပ်ကို ထင်ရှားအောင်ဖော်ပြနိုင်စွမ်းသော စာဆိုဖြစ်သဖြင့် စာပေလောကတွင် ထင်ရှားကျော်ကြားသည်။

အထက်မြန်မာနိုင်ငံကို ဗြိတိသျှတို့သိမ်းပိုက်ပြီးနောက်များမကြာမီ ပျဉ်းမနားမြို့တွင် ကွယ်လွန်လေသည်။

**ကြေးစည်**။ ။ကြေးစည်သည် ဃနတူရိယာ ဟုခေါ်သည့် တခဲနက်စည်များတွင် အဝင်အပါဖြစ်သော တူရိယာတမျိုးဖြစ်သည်။ ကြေးကို မှုတည်ကာ ပြုလုပ်ထားသဖြင့် ကြေးစည်ဟုခေါ်တွင်သည်။ ကြေးစည်သည် သာယာငြိမ့်လေး၊ ကြည်အေးသောအသံကို ဆောင်သည့်ပြင် ကြေးစည်သံကို အဝေးမှ ကြားနိုင်သဖြင့် ဗုဒ္ဓအယူဝါဒီများသည် အများအားဖြင့် သာသနာ့ကိစ္စများတွင် ဖိတ်ကြားနိုးဆော်သည့်အခါ၊ ကုသိုလ်ကောင်းမှုပြု၍ အမျှအတန်းဝေသည့်အခါများတွင်တီးခတ်လေ့ရှိသည်။ မြန်မာတူရိယာများ၌ ကြေးသံ ၁၀ ပါးဟုဆိုသော တူရိယာသံ ၁၀ မျိုးတွင်လည်း ကြေးစည်သံမှာ တပါးအပါအဝင်ဖြစ်သည်။ (တူရိယာ — ရှု။)

ကြေးစည်၏ ပုံသဏ္ဌာန်မှာ ၃ ထောင့်ပုံ အပြားဖြစ်သည်။ အပေါ်ထိပ်အစွန်းမှာ လုံး၍ အောက်အစွန်း ၂ ဖက်မှာ အပေါ်သို့ ကော့ထောင်၍နေလေသည်။ ကြေးစည်၏ ဝမ်းသည် အနည်းငယ် မိုမောက်၍နေသည်။ အနားသတ်ပုံသဏ္ဌာန်အားဖြင့် ကြေးစည်သည် စေတီပုံနှင့်တူသည်။

ကြေးစည်မှာ ခေါင်းလောင်းကဲ့သို့ ပုံလောင်း၍ ယူရသော ကြေးထည်မျိုးမဟုတ်ဘဲ ကြေးမောင်း၊ လင်းကွင်းများကဲ့သို့ ပုံခတ်၍ ယူရသော အထည်မျိုးဖြစ်သည်။ ကြေးစည်ပြုလုပ်ရန် သတ္တုရောစပ်ပုံမှာ ဆရာတဦးနှင့်တဦး မတူကြချေ။ အချို့က ကြေးဝါနှင့်ခဲ၊ ကြွပ်၊ ဘင်များကို အချိုးအစား အမျိုးမျိုးဖြင့် ရောစပ်ကြသည်။ အချို့ကမူ ကြေးဝါ ၇၀၊ သွပ် ၂၀၊ ခဲ ၁၀ ကျပ်အချိုးဖြင့် ရောနှော ပေါင်းစပ်ကြသည်။ ကြေးစည်အရွယ်ပမာဏမှာလည်း အမျိုးမျိုးရှိသည်။ ကလေးကစားစရာ ၂ လက်မအရွယ် ကြေးစည်မှ အောက်ခြေပြက် ၂ ပေခွဲခန့်ရှိ၍ အချိန်ပိဿာ ၅၀ ကျော်အရွယ်အထိကြေးစည်ခတ်ကြသည်။



ကောင်းမှုကုသိုလ်၏အဖို့ကိုဤသို့ကြေးစည်တီး၍အမျှဝေ၏။

ကြေးစည်ကို ရိုက်တီးရာ၌ အခြားစည်မောင်း ခေါင်းလောင်းတို့ကို တီးသကဲ့သို့ မထုမထိုးရဘဲ အရိုးတံတပ်ထားသော သစ်သားဆောက်ပုတ်ဖြင့် ကြေးစည်၏ ထောင့်စွန်းတဖက်ကို တီးခတ်ပေးရသည်။ ထိုအခါ ကြိုးဖြင့်ဆိုင်းထားသော ကြေးစည်သည် လည်သွားယင်း သာယာငြိမ့်လေးသောအသံကို ဝေ့၍ဝေ့၍ ထွက်ပေါ်လာစေသည်။ ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးတို့၏ နေအိမ်များတွင် ဘုရားစင်ရှေ့၌ အရွယ်သင့် ကြေးစည်များကို ဆွဲထားကြပြီးလျှင် ဘုရားပုထိုး ရှိခိုးဝတ်တက်ခြင်း၊ ဆွမ်းတော်ကပ်ခြင်း၊ ဆီမီးပူဇော်ခြင်းစသော ကုသိုလ်ကောင်းမှုများ ပြုတိုင်းပြုတိုင်း ကြေးစည်ကို ရိုက်တီးလေ့ရှိကြသည်။ ဆွမ်းလောင်းအသင်း၊ ဝတ်အသင်း၊ အရုဏ်ခံဆွမ်းလောင်းအဖွဲ့ စသောအသင်းအဖွဲ့များသည် အလှူခံထွက်သည့်အခါ ကြေးစည်ကိုရှေ့ဆုံးမှ ရိုက်တီး၍ နှိုးဆော်ဖိတ်ကြားလေ့ရှိကြသည်။

ကြေးစည်ကို သုမင်္ဂလကိစ္စများတွင်သာမက ဒုမင်္ဂလကိစ္စများတွင်လည်း အသုံးပြုကြသေးသည်။ အသုဘ၌ ဆွေမျိုးညာတိ မိတ်သင်္ဂဟများကပြုလုပ်သော ကောင်းမှုဒါနကို သေလွန်သူနှင့်တကွ သတ္တဝါအများတို့အား အမျှပေးဝေခြင်း အထိမ်းအမှတ်ဖြင့်၎င်း၊ အိုခြင်း၊ နာခြင်း၊ သေခြင်းတို့၌ သတိသံဝေဂရစေခြင်းငှာ၎င်း ကြေးစည်ကို ရိုက်တီးလေ့ရှိကြသည်။

ကြေးစည်ကို အသုံးပြုခြင်းမှာ မြန်မာလူမျိုးတို့၏ သီးခြားထင်ရှားသော ယဉ်ကျေးမှု တရပ်ဖြစ်သည်။ ရန်ကုန်မြို့ သာသနနုဂ္ဂဟ စေတီယင်္ဂဏအသင်း ကဲ့သို့သော အသင်းအဖွဲ့အချို့တို့သည် ကြေးစည်ကို အသင်းတံဆိပ်အဖြစ် အသုံးပြုကြသည်။ အချုပ်အားဖြင့် ကြေးစည်သည် သာသနာရေးဆိုင်ရာ တူရိယာတခုဖြစ်သည်။ ကြေးစည်သံကို ကြားရသောသူတော်စင်တို့သည် စိတ်နှလုံး တည်ငြိမ် ချမ်းမြေ့ကြကုန်သည်။ ထိုသို့ဖြစ်ကြရသည်မှာ သာယာချိုသော ကြေးစည်သံသည် မြေငြိမ်သက်သော နိဗ္ဗာန်ကို အာရုံပြုစေနိုင်သောကြောင့်ဟုဆိုရပေမည်။

ကြေးစည်နှင့် ဗုဒ္ဓတရားတော်သည် အစဉ်ဆက်စပ်နေရကား ရတနာသုံးပါးနှင့်ဆိုင်သောကိစ္စများတွင် ကြေးစည်သံအမြဲကြားရ၏။ သို့ဖြင့် 'စက်တော်ရင်းဝယ်' ကဗျာတွင်

ချာလည်ချာလည်

ရွှေကြေးစည်လည်း

သာကြည်ချိုအေး

နိဗ္ဗာန်တေးကို

ကြော်ကြေးရာမှ ဆိတ်ခဲ့ပြီ။

ဟူ၍စာဆိုတဦးက ဖွဲ့ဆိုထားလေသည်။

**ကြေးညို**။ ။ကြေးညိုဆိုသည်မှာ ကြေးနီနှင့်သံဖြူကို အချိုးအမျိုးမျိုးနှင့် ရောစပ်ထားသော သတ္တုစပ်ကို ဆိုလိုသည်။ အင်္ဂလိပ် ဝေါဟာရအားဖြင့် ကြေးညိုကို 'ဗရွန်း' ဟုခေါ်သည်။ သတ္တုနှစ်မျိုးဖြစ်စေ၊ နှစ်မျိုးထက်ပို၍ဖြစ်စေ၊ ရောနှောပေါင်းထားသော သတ္တုစပ်သည် မူလသတ္တု သန့်သန့်များထက် ပိုမိုအသုံးဝင်ကြောင်းကို ရှေးမဆွကပင်သိရှိခဲ့ကြသည်။ ဥဒါဟရုဏ်၊ ကြေးနီသတ္တုသန့်သန့်သည် ပျော့သဖြင့် အရာရာတိုင်းတွင် အသုံးပြုရန် များစွာမသင့်လျော်သော်လည်း ယင်းကို သံဖြူနှင့်ရောစပ်၍ ကြေးညိုဖြစ်လာသည့်အခါ ကြေးနီထက် မာလာသောကြောင့် ကြေးနီထက် ပိုမိုအသုံးဝင်လာသည်။ ကြေးညိုကို စက်မှုလုပ်ငန်း အမျိုး


သွန်းပြီးကြေးညိုထည်တခုကိုအပြီးသတ်အချောကိုင်နေစဉ်

မျိုးတွင်၎င်း၊ အနုပညာ လုပ်ငန်းများတွင်၎င်း၊ ကြေးရုပ်သွန်း လုပ်ငန်းများတွင်၎င်း၊ များစွာအသုံးပြုကြ၏။ ယခုခေတ်တွင် ကြေးညိုဖြင့် ခေါင်းလောင်းကြီးများကို ပြုလုပ်ယူကြ၏။ ကြေးနီဖြင့်လုပ်သော ခေါင်းလောင်းကြီးများမှာ ပျော့၍ အသံမသာချေ။ ကြေးနီကိုသံဖြူနှင့် ရောစပ်ပြီးလုပ်သော ခေါင်းလောင်းများမှာမူကား မာလည်းမာ၍ ထိုးလိုက်သည့်အခါ အသံလည်းအလွန်သာသည်။ အမျိုးကောင်းသော ကြေးညိုရရန် ကြေးနီနှင့်သံဖြူကို အချိုးအမျိုးမျိုးနှင့် ရောစပ်ကြသော်လည်း ရောစပ်ရာတွင် သံဖြူများခဲ့သော် ကြေးညိုသည် ပို၍မာပြီးလျှင်ဆတ်သည်။

သဘော်ကြီးများတွင် တပ်ဆင်ထားရှိသော ငမန်းယပ်ဝင်ရိုးကြီးများသည် အလွန်ပင် လေးလှလေရာ ထိုဝင်ရိုးကြီးများကို ထိန်းထားရသော သံကွင်းကြီးများမှာ အလွန်မာကျောဖို့လိုပေသည်။ အများအားဖြင့် ထိုသံကွင်းကြီးမျိုးကို ဖေါ့စဖိုဗရွန်း ဟုခေါ်သော သတ္တုစပ်ဖြင့် ပြုလုပ်ထားသည်။ ဤသတ္တုစပ်မှာ ကြေးညိုတွင် ဖေါ့စဖေါရပ် အနည်းငယ် ရောစပ်ထားသဖြင့် ကြေးညိုရိုးရိုးထက် ပို၍ခိုင်မာသည်။ ကြေးနီကိုသံဖြူနှင့် ရောစပ်မည့်အစား အလျူမီနီယမ်နှင့် ရောစပ်လိုက်သောအခါ အလျူမီနီယမ်ဗရွန်းခေါ် သတ္တုစပ်ကိုရ၏။ ထိုသတ္တုစပ်သည် စားတတ်သော ဓါတ်ပစ္စည်းအချို့၏ဒဏ်ကို ခံနိုင်သောကြောင့် အိုးခွက်များပြုလုပ်ရာတွင် အသုံးပြုကြသည်။

လူတို့သည် ရှေးနှစ်ပေါင်းများစွာကစ၍ ကြေးနီနှင့်သံဖြူ ရောစပ်ထားသော ကြေးညိုကို အသုံးပြု လာခဲ့ကြသည်။ ကြေးနီကြေးဝါစသော သတ္တုများကို စတင်တွေ့ခဲ့သည်မှာ အမှတ်မဲ့ တွေ့ခဲ့ခြင်းဖြစ်သည်။ ထိုအခါက သံကို မတွေ့ရသေးချေ။ ကြေးနီနှင့်သံဖြူ ရောစပ်ထားသော ကြေးညိုသည် ကြေးနီ သို့မဟုတ် သံဖြူသန့်သန့်တို့ထက် ပို၍မာကြောင်းကို သိရှိကြသောအခါ ဓါး၊ လှံ၊ ပုဆိန်၊ မြားသွားစသောလက်နက်များ၊ အိုးခွက်ဇွန်းစသော အသုံးအဆောင်များကိုကြေးညိုဖြင့် ပြုလုပ်လာကြ၏။ ဤသို့ဖြင့် 'ကျောက်ခေတ်' ဟုခေါ်သောခေတ်တွင် ကျောက်တုံးကျောက်ပြားများကိုသာ အဓိကအသုံးပြု လာခဲ့ကြရာမှ ကြေးညိုကို အသုံးပြုလာကြသောအခါ 'ကြေးညိုခေတ်' ဟုခေါ်သည်။

# လူတို့ပဌမဆုံးအသုံးပြုသည့်သတ္တု

**သတ္တုထဲတွင် ကြေးနီသည် လူတို့ပဌမဆုံးအသုံး ပြုသောပစ္စည်း ဖြစ်၏။ ကြေးနီ၏ အသုံးဝင်ပုံမှာ များလှပေသည်။ အကယ်၍ ကြေးနီသာမရှိပါက လျှပ်စစ်ပညာသည် ယခုလောက်ထွန်းကားလာနိုင်ဖွယ်ရာမရှိချေ။**

**ကြေးနီ။** ။ကြေးနီကို ကမ္ဘာအနှံ့အပြား၌ရရှိ၍ နှစ်စဉ်နှစ်တိုင်းလိုပင် တန်ချိန်ပေါင်း ၁,၅၀၀,၀၀၀ မျှ တူးဖေါ်အသုံးပြုလျက်ရှိ၏။ ထိုမျှသော ကြေးနီတို့အနက် ထက်ဝက်နီးပါးကို အမေရိကန်ပြည်ထောင်စု နှင့် အာဖရိကတိုက်တောင်ပိုင်းတို့မှ တူးဖေါ်ရရှိသည်။ ဤနှစ်နိုင်ငံအပြင် ကြေးနီအမြောက်အမြားထွက်သော အခြားဒေသများမှာ ချီလီနိုင်ငံ၊ မက္ကဆီကိုနိုင်ငံနှင့် ဂျပန်နိုင်ငံတို့ဖြစ်သည်။ ကြေးနီသတ္တုရိုင်း အများဆုံး ရှိရာဒေသမှာ မြောက်အမေရိကတိုက် ဆူပီးရီးယားအိုင် ပတ်လည်တဝိုက်ပင်ဖြစ်၏။

သတ္တုထဲတွင် ကြေးနီကို လူတို့ပဌမဆုံး အသုံးပြုခဲ့ကြ၏။ သံကို တွေ့ပြီးသည့်နောက် ကြေးနီအသုံးနည်းလာသော်လည်း သံမှလွဲလျှင် ကြေးနီမှာ အသုံးအဝင်ဆုံး သတ္တုဖြစ်လေသည်။ ကြေးနီကို သဘာဝတွင် သယံဇာတအဖြစ်ဖြင့်လည်း တွေ့ရတတ်၏။ ကြေးနီသန့်သန့်ကို အတုံးအနေဖြင့် တွေ့ရရာ အချို့အတုံးများမှာ အလွန်ကြီးမားသည်။ ယခုအချိန်အထိ တွေ့ရသမျှသော အတုံးများ အနက် အကြီးဆုံးမှာ အလွန်ကြီးမားသဖြင့် သယ်ယူပို့ဆောင်ရာ၌ လွယ်ကူစေရန် လူပေါင်း ၂၀ မျှ ထိုအတုံးကြီးကို ခွဲစိတ်ကြရ၏။ ဤသို့ ခွဲစိတ်ရာ၌ ၁၅ လခန့် ကြာသည်ဟုဆို၏။ ထိုအတုံးကြီးထဲမှ ရွှေဒင်္ဂါးပေါင် ၃၀၀၀၀ မျှ တန်ဖိုးရှိသော ကြေးနီကို ရရှိသည်။ တခါတရံ ကြေးနီကို သံဖြူနှင့် တနေရာတည်းတွင် တွေ့ရတတ်၏။ ကြေးနီကို သံဖြူနှင့် ရောကျိုသောအခါ ကြေးညို (ဗရွန်း) ကိုရ၏။ ကြေးညိုသည် ကြေးနီထက် မာသောကြောင့် ယင်းကို ရှေးခေတ်လူတို့သည်လက်နက်များ၊ လူ့အသုံးအဆောင်များ ပြုလုပ်ရန် အသုံးပြုခဲ့ကြ၏။ (ကြေးညို — ရှု။)



ကြေးညိုခေတ်တွင်အသုံးပြုသောလက်နက်ကရိယာများ




## ကြေးညိုဖြင့်သွန်းယူသည့်အနုပညာလုပ်ငန်းတရပ်

၁။ ရုပ်ထုလုပ်ငန်းတွင်ကြေးညိုကိုအရုပ်သွန်းရန်အတွက်ပဌမဦးစွာဖိုတွင်ထည့်၍အရည်ကျိုရသည်။

၂။ အရည်ပျော်နေသောကြေးညိုများကိုလောင်းထားသောပုံတွင်ထည့်သွန်းပြီးနောက်နှစ်ခုဟပ်ထားသောပုံစံခွက်ကိုခွဲလိုက်ရသည်။

၃။ ထိုနောက်သွန်းလောင်းရရှိသောရုပ်လုံးကိုလိုသောနေရာများတွင်ဆက်ပေးနိုင်ရန်အရာများသတ်မှတ်ရသည်။

၄။ သူ့နေရာနှင့်သူနေသားတကျရုပ်လုံးပေါ်လာအောင်ဆက်ပေးပြီးနောက်အချောကိုင်ရပြန်သည်။

၅။ အချောကိုင်ပြီးရုပ်လုံးများကိုတခုနှင့်တခုတွဲစပ်ပြီးနောက်စိုက်ထူမည့်ခုံတွင်တပ်ဆင်ထူထောင်ရသည်။

၆။ ရုပ်လုံးများ အပြီးသတ် တပ်ဆင် ထူထောင်ပြီးနောက် ခိုင်မြဲစေရန်စို့များရိုက်ပေးရ၍ နောက်ဆုံးအချောကိုင် လိုက်သောအခါမှ လုပ်ငန်းကိစ္စပြီးလေတော့သည်။



ကြေးနီဖြင့်ပြုလုပ်ထားသောအနုပညာလက်ရာမြောက်သည့်အိမ်သုံးပစ္စည်းများ

## ကြေးနီ

လျှပ်စစ်ဓါတ် သွယ်ယူရန် ဝိုင်ယာကြိုးများ၊ ရေအောက်ကြေးနန်းကြိုးများ၊ တယ်လီဖုန်းကြိုးများကို ကြေးနီဖြင့် ပြုလုပ်ယူကြ၏။ ဂျင်နရေးတား၊ မိုတာ၊ လျှပ်စစ်ခလုတ်များနှင့် အခြားလျှပ်စစ်နှင့်ဆိုင်သည့် အသုံးအဆောင်များတွင် ကြေးနီကို အသုံးပြုကြ၏။ ကြေးနီအပြားကို ဗလောက်လုပ်ရာတွင်သုံး၏။ ကြေးနီသည် အပူကို အလွယ်တကူလိုက်စေသည့်အပြင် အပူဒဏ်ကိုလည်း အသင့်အတင့် ခံနိုင်ရည်ရှိခြင်းကြောင့် ယင်းကို မီးရထားစက်ခေါင်းများတွင် မီးခန်းများပြုလုပ်ရန် အသုံးပြုကြ၏။ ကော့ပါးဆာလဖိတ် (ကြေးဒုတ္ထာ) ခေါ် ကြေးနီမှ ပြုလုပ်ရရှိသော ဓါတ်ဆား တမျိုးသည် ကောက်ပဲသီးနှံဖျက် ပိုးမွှားများကို သေစေတတ်သဖြင့် လယ်သမားများအား များစွာသော အထောက်အပံ့ ဖြစ်စေ၏။ ကြေးနီကို အခြားသတ္တုများ နှင့်ရော၍ သတ္တုစပ်များ ပြုလုပ်ယူနိုင်၏။ သံဖြူနှင့် ရောယူသော် ကြေးညို (ဗရွန်း) သတ္တုစပ်ကိုရ၏။ သံမဏိမပေါ်မီ ကြေးနီ၊ ကြေးညိုနှင့် ကြေးဝါတို့သည် စီးပွားရေးလုပ်ငန်းများတွင်အလွန်အရေးပါအရာရောက်ခဲ့ကြလေသည်။

တွင်းမှ တူးဖေါ်ရရှိသော ကြေးနီသတ္တုရိုင်းသည် နီကြန့်ကြန့် အရောင်ရှိသဖြင့် ယင်းကို သတ္တုနီဟူ၍လည်း ခေါ်၏။ ရောမလူမျိုးတို့သည် ကြေးနီကို စိုက်ပရပ်ကျွန်းမှ ရရှိခဲ့ကြသဖြင့် ဤအချက်ကို အကြောင်းပြုပြီးလျှင် သိပ္ပံဝေါဟာရတွင် ကူပရမ်ဟုခေါ်ဝေါ်ခဲ့ကြ၏။ ကြေးနီကို သာမန်အပူချိန်၌ပင် အပြားခတ်နိုင်သည်။ နန်းလည်း ဆွဲနိုင်သည်။ ထုရိုက်ပေးလျှင် သို့မဟုတ် နန်းဆွဲပေးလျှင် ကြေးနီသည် သံမဏိအပျော့စား လောက် မာလာ၏။ သို့သော် နီလာအောင် မီးဖုတ်၍ ရေဖြင့်ဆေးလိုက်သော် ဤသတ္တိမှာ ပြယ်သွား၏။ ကြေးနီကို အရောင်ပြောင်လက်လာအောင် ပွတ်တိုက်ပေးနိုင်၏။ သံချေးစား သကဲ့သို့ ချေးမစားခြင်းကြောင့်လည်း အိမ်အသုံးအဆောင်များ၊ အိုးခွက်များ ပြုလုပ်သုံးစွဲကြ၏။ အိုးခွက်များ ပြုလုပ်ရာ၌ ကြေးနီကို သံဖြူရည်သုတ်လိမ်းပေးကြသည်။ ကြေးနီကို လျှပ်စစ်နှင့်ဆိုင်သည့် ကရိယာများတွင်အများဆုံး အသုံးပြု၏။ အကယ်၍ ကြေးနီသာ မရှိပါက လျှပ်စစ်ပညာမှာ ယခုလောက် ထွန်းကားလာနိုင်မည်မဟုတ်ချေ။ အဘယ်ကြောင့်ဆိုသော် လျှပ်စစ်ကို သုံးစွဲရာ၌ ကြေးနီကို အမြောက်အမြား လိုသောကြောင့်ဖြစ်ပေသည်။



ကြေးနီကို အရည်ကျို၍ ပုံသွန်းလောင်းနေသည့် အလုပ်ရုံခန်းမကြီး

ကြေးနီသတ္တုရိုင်းမှာ များသောအားဖြင့် ကော့ပါးအောက်ဆိုက်နှင့် ကော့ပါးဆာလဖိုက်(ဒ)များ ဖြစ်ကြ၏။ အချို့ ကြေးနီသတ္တုတွင်းများသည် မြေပြင်၌ တူးရသောတွင်းမျိုးဖြစ်၍ အချို့တွင်းများမှာမူ ကျောက်မီးသွေးတွင်းကဲ့သို့ မြေအောက်တွင်းများ ဖြစ်ကြသည်။ သတ္တုတွင်းအလုပ်သမားများသည် သတ္တုရိုင်းအကြောင်းကို ကောင်းစွာနားလည်ကြသဖြင့် ကြေးနီသတ္တုရိုင်းကို မြင်ရုံနှင့် အခြားပစ္စည်းတို့အထဲမှ ရွေးချယ်နိုင်ကြ၏။ ရွေးချယ်ပြီးသော ကြေးနီသတ္တုများကို လမ်းလုပ်ရာ၌အသုံးပြုသည့် ကျောက်ခွဲစက်ကဲ့သို့သော စက်များဖြင့် ခွဲပေး၏။ အချို့သတ္တုရိုင်းများတွင် သတ္တုသည် သတ္တုချေးများနှင့် ရောနေသဖြင့် ခွဲပြီးသား အတုံးများကို အမှုန့်ဖြစ်အောင် ဒလိမ့်ကြီးများဖြင့် ကြိတ်ပေးရ၏။ အကယ်၍ သတ္တုကို ထိုထက်ညက်အောင် ကြိတ်ပေးရန် လိုအပ်သောအခါ ထိုအမှုန့်ကို တဖန် အလွန်လေးသော သံလုံးများနှင့်အတူ စည်ကြီးများတွင် ထည့်၍လည်း ပို၍ညက်လာအောင် ကြိတ်ပေးရပြန်သည်။

ချေပြီးသား သတ္တုရိုင်းတွင် အတုံးများပါလျှင် အရွယ်အစားစား ရွေးထုတ်၍ ဆန်ခါပေါ်တွင် တင်ပြီးနောက် ရေဖြင့်ကျင်ပေးရသည်။ ကြေးနီပါသော သတ္တုရိုင်းမှာ လေးသဖြင့် ရေအောက်တွင် အနည်ထိုင်သွား၏။ ကျောက်ဖြုန်းတို့မှာမူကား ရေနှင့်ပါသွား၏။ အလွန်သေးငယ်သော အမှုန့်များကို ရေဖြင့် ရောပြီးလျှင် ခုံစောင်းပေါ်တွင် လောင်းချရသည်။ ခုံ၏ မျက်နှာပြင်တွင် ရေစီးရာလမ်းကို ကန့်လန့်ဖြတ်၍ ရိုက်ထားသော တန်းများရှိ၏။ ရေလွှတ်ထားစဉ် ခုံကို ပြင်းထန်စွာ လှုပ်ခါပေးသဖြင့် ရေတွင်ပါလာသော သတ္တုမှုန့်များသည် တန်းများပေါ်တွင် တင်ကျန်ခဲ့သည်။ ပေါ့ပါးသည့် ကျောက်မှုန့်များမှာ ရေနှင့်အတူ တန်းအားလုံးကို ကျော်၍ပါသွား၏။ ခုံမှာ အစဉ်လှုပ်နေသဖြင့် တန်းပေါ်တွင် ကျန်ရစ်သော သတ္တုမှုန့်များသည် ခုံအစွန်းဆီသို့ တဖြည်းဖြည်း ရွေ့သွားပြီးနောက် ထိုနေရာတွင် ခံထားသော မြောင်းထဲသို့ကျရောက်ရသည်။

ခုံမှ နောက်ဆုံးကျဆင်းသည့်ရေတွင် သတ္တုမှုန့်များ မျောခိုလျက် ပါရှိ၏။ ထိုအမှုန့်များသည် အလွန်သေးငယ်သဖြင့် ရုတ်တရက် အနည်ထိုင်ရန်ခဲယဉ်းသည်။ သို့သော် ထိုအမှုန့်များတွင် သတ္တုအချိုးအစား ပါရှိသည်မှာ များသဖြင့် ခုံမှ ကျဆင်းလာသောရေကို မစွန့်ပစ်နိုင်ချေ။ ရေတွင် မျောခိုပါရှိသော သတ္တုမှုန့်များကို ထုတ်ယူရန် ကောင်းသောနည်း တနည်းရှိ၏။ ထိုနည်းမှာ ရေကို ဆီမြှုပ်များဖြင့် ရောပေး၏။ ဆီမြှုပ်များသည် သတ္တုကို တွယ်ကပ်နိုင်သော သတ္တိရှိ၍ သတ္တုမှုန့်များကို ရေတွင်နစ်မသွားအောင် ပင့်ဆောင်ထားကြ၏။ သတ္တုမပါသော ကျောက်များသည် ရေတွင် နစ်မြုပ်သွားကြ၏။ ထိုအခါ သတ္တုမှုန့်ကပ်လျက်ရှိသော ဆီမြှုပ်များကိုခပ်ယူပြီးလျှင် ယင်းမှကြေးနီထုတ်ယူရ၏။ ဤနည်းကိုမသိရမီက သတ္တုရိုင်း ၁ တန်လျှင် ကြေးနီ ၁၆ ပေါင်ခန့် ဆုံးရှုံးခဲ့၏။ ဆီမြှုပ်ဖြင့် သတ္တုမှုန့်များကို ထုတ်ယူသည့်အချိန်မှစ၍ သတ္တုရိုင်း ၁ တန်လျှင် ကြေးနီ ၁ ပေါင်ခွဲမျှသာ ဆုံးရှုံးလေတော့သည်။

ကြေးနီသတ္တုရိုင်းကို အရည်မကျိုမီ ပဌမဆုံး မီးတိုက်ပေးရ၏။ မီးတိုက်ရာ၌ သတ္တုမှာ အရည်မပျော်သော်လည်း သတ္တုရိုင်းမှ ကန့်အားလုံးလိုလိုပင် ထွက်သွား၏။ မီးတိုက်သောစခန်း ပြီးဆုံးသောအခါ အရည်ကျိုလုပ်ငန်း စတော့သည်။ အရည်ကျိုရာ၌ တခါတရံ လေပြင်းဖိုများကို အသုံးပြု၍ တခါတရံ မီးလှံမီးဖိုများကို အသုံးပြုကြ၏။ ကြေးနီအရည်ကျိုရာ၌သုံးသည့် လေပြင်းဖိုသည် သံရည်ကျိုရာ၌သုံးသည့် လေပြင်းဖိုနှင့် အချက် ၂ ချက်မှလွဲ၍ အတူတူပင်ဖြစ်၏။ ထို ၂ ချက်ကား ကြေးနီကျို လေပြင်းဖို၏ အောက်ပိုင်း၌ အတွင်းခံ မပါရှိသည့်အချက်နှင့် ထိုအပိုင်းကို ရေအိတ်ဖြင့် အအေးခံပေးထားသည့် အချက်တို့ဖြစ်သည်။ မီးဖိုတွင်းသို့ သတ္တုရိုင်းကို ကုတ်မီးသွေး၊ သတ္တုပျော်ကူတို့ဖြင့်ရော၍ အထက်မှဖြစ်စေ၊ သို့မဟုတ် နံရံတွင် ဖေါက်ထားသည့် ဘေးပေါက်မှဖြစ်စေ၊ သွင်းပြီးလျှင် လေမှုတ်သွင်းပေးရ၏။ ကြေးနီအရိုင်းမှာ အရည်အဖြစ်ဖြင့် အနည်ထိုင်သွား၍ ချော်မှာမူကားကြေးနီပေါ်တွင်မျောနေသည်။

မီးဖိုမှ ချော်နှင့် မက် ခေါ် မသန့်စင်သေးသော ကြေးနီသတ္တုတို့ကို အုတ်ဖြင့်ခံထားသော ကန်များအတွင်းသို့ မကြာမကြာ သွင်းပေး၍ ထိုကန်မှတဖန် မက်ကို ထုတ်ယူကြ၏။ မက်တွင် သတ္တုရာခိုင်နှုန်း ၃၀ မှ ၄၅ အထိသာ ပါရှိ၏။ မက်ကို တဖန် ဗက်ဆီမာဖိုကြီးများတွင် ထည့်၍ အညစ်အကြေးများ ကင်းစင်သွားအောင် အရည်ကျိုပြီးလျှင် လေဖြင့် မှုတ်ပေးရ၏။ ထိုအခါ ကြေးနီရာခိုင်နှုန်း ၉၀ ပါရှိသည့် သတ္တုကိုရ၏။ ထိုထက် သန့်စင်သောကြေးနီကို ရလိုလျှင် အီလက်ထရိုလစ်ဆစ် ခေါ် လျှပ်စစ်ဖြင့် ခါတ်ခွဲနည်းကို အသုံးပြုရလေသည်။

မြန်မာနိုင်ငံတွင် ကြေးနီကို ရှေးနှစ်ပေါင်းများစွာကပင် ရှာဖွေသုံးစွဲခဲ့ကြသည်။ သို့ရာတွင် ကြေးနီဖြင့်ထုထည်ကြီးမားသောအထည်ဝတ္ထုများ မပြုလုပ်ကြဘဲ သာမန်အသုံးအဆောင်များသာပြုလုပ်ခဲ့ကြသည်။ မြန်မာနိုင်ငံမြောက်ပိုင်းရှမ်းပြည်နယ် နမ္မတူဘော်တွင်မှ ကြေးနီသတ္တုရိုင်းများကိုတူးဖေါ် ရရှိခဲ့ရာ ဒုတိယကမ္ဘာစစ်ကြီးမဖြစ်ပွါးမီက နှစ်စဉ်ကြေးနီသတ္တုရိုင်းတန်ချိန် ၁ သောင်းခန့်အထိရရှိခဲ့သည်။

ယခုအခါ ဗားမားကော်မီရေးရှင်းကုမ္ပဏီနှင့် နိုင်ငံတော်အစိုးရတို့ဖက်စပ်လုပ်ကိုင်သောအဖွဲ့က နမ္မတူဘော်တွင်းအရပ်၌ကြေးနီအစရှိသောမြေတွင်းဓါတ်သတ္တုများကို ခေတ်မှီစနစ်ဖြင့်စတင်တူးဖေါ်လုပ်ကိုင်နေပြီဖြစ်သည်။

# ကမ္ဘာတလွှားသို့ လျှပ်စစ်ဓါတ်ဖြင့် သတင်းပို့ခြင်း

သရေးရှင်ရေးကိစ္စတွင်ရင်း အခြားအရေးကြီးသောကိစ္စတွင်ရင်း အမြန်ဆုံးအကြောင်းကြားလိုလျှင် ကျွန်ုပ်တို့အားထားရသည့် ကြေးနန်းသည် ယခုအခါတွင်အဆန်းမဟုတ်တော့သော်လည်း ယင်းနှင့်စပ်လျဉ်း၍ကျွန်ုပ်တို့မည်မျှသိရှိကြသနည်း။ ကြေးနန်း ရိုက်နည်းပေါ် ပေါက်လာခြင်းကိုသာမက မြန်မာတို့၏ကြေးနန်းရိုက်နည်းကို လည်းသိသင့်ပေသည်။

**ကြေးနန်းရိုက်ခြင်း။** ။ကြေးနန်းရိုက်ခြင်းသည် ကြေးနန်းကြိုးဖြင့် ရပ်ဝေးသို့ သတင်းစကား ပေးပို့ခြင်းကို ဆိုလိုသည်။ ကြေးနန်းရိုက်နည်း မပေါ်မီအခါက တနိုင်ငံနှင့် တနိုင်ငံ ဆက်သွယ်ရေးများကို စာဖြင့်သာ ပြုလုပ်ခဲ့ရသဖြင့် ပို့လိုက်သော စာများသည် ခရီးအလိုက်ကြန့်ကြာပြီးမှ လိုရာသို့ရောက်နိုင်ခဲ့ကြပေသည်။ သို့ရာတွင် ဆမ်မျူယယ် အက် (ဗ) မော့ ဆိုသူက အချက်ပြ ကြေးနန်းရိုက်နည်းကို ကြံစည်တီထွင် လိုက်ရာမှစ၍ သတင်းအပေး အပို့လွယ်ကူလာခဲ့ရာ ယခုအခါ ရပ်ဝေးရပ်နီးနှင့်တကွ နိုင်ငံရပ်ခြား တိုင်းတပါးများသို့ အချိန်အနည်းငယ်အတွင်း၌ ပို့လိုသည့် သတင်းများကို နေ့ညဥ့်မရွေးပေးပို့နိုင်ပေပြီ။

၁၈ ရာစုအတွင်း၌ သိပ္ပံပညာရှင်ကြီးတို့သည် ကြေးနန်းကြိုးတလျှောက်တွင် လျှပ်စစ်ဓါတ် စီးသွားနိုင်ပါက၊ ထိုလျှပ်စစ်ဓါတ်ကို အသုံးပြု၍ သတင်းပေးပို့လျှင် ရနိုင်ဖွယ်ရာရှိသည်ဟု ယုံကြည်ကြသည်။ ထို့ကြောင့် ကြေးနန်းဖြင့်သတင်းပို့နိုင်မည့်နည်းကို အမျိုးမျိုး ရှာဖွေကြံစည်ကြရာ ၁၉ ရာစုအတွင်းသို့ ရောက်သောအခါ ခေတ်မှီကြေးနန်း ရိုက်နည်းကို ထိရောက်အောင်မြင်စွာ တီထွင်နိုင်လာကြပေသည်။

ဂေါက်စ နှင့် ဗေးဗါးဆိုသူ ဂျာမန်ပါမောက္ခ ၂ ဦးသည် မိမိတို့နေရာ ဂေါ့တင်းဂျင်းတက္ကသိုလ်ရှိ လက်တွေ့စမ်းခန်းနှင့် မျူးနစ်မြို့ရှိ စတိုင်ဟိုင်း တက္ကသိုလ်၏ လက်တွေ့စမ်းခန်းတို့ကို ကြေးနန်းကြိုးဖြင့် ဆက်သွယ်ပြီးနောက် ထိုကြေးနန်းကြိုး အစနှင့်အဆုံးတွင် သတင်းပို့ကရိယာနှင့် သတင်းဖမ်း ကရိယာများကို တပ်ဆင်ထားကြသည်။ သတင်းပို့ရာ၌ သတင်းဖမ်း ကရိယာတွင်ရှိသော အပ်တချောင်းက စက္ကူပေါ်တွင် အစက်နှင့် မျဉ်းတို အချက်ပြ အမှတ်အသားများကို ရေးခြစ်ပေးလေသည်။ ဤနည်းမှာ နောင်အခါ မော့ တီထွင်သော ကြေးနန်းရိုက်နည်းနှင့် အလွန်တူပေသည်။ ထိုအချိန်၌ ချားဝှိစတုန်း ဆိုသူသည်လည်း အင်္ဂလန်နိုင်ငံတွင် လျှပ်စစ်ဓါတ်ဖြင့် ကြေးနန်းရိုက်နည်းတခုကို စမ်းသပ်နေဆဲဖြစ်သည်။

ထိုအချိန်လောက်မှာပင် နယူးယောက့်မြို့မှပန်းချီဆရာဆမ်မျူယယ်မော့သည် တိုင်းတပါး၌ ပန်းချီပညာကို ဆည်းပူးခဲ့ပြီးနောက် မိမိဇာတိမြို့သို့ 'ဆာလီ' ခေါ် သင်္ဘောဖြင့် ပြန်လာခဲ့လေသည်။ သင်္ဘောပေါ်တွင် မော့နှင့် ခရီးသည်အချို့သည် လျှပ်စစ်ဓါတ်အကြောင်းနှင့် စပ်လျဉ်း၍ စကားလက်ဆုံကျကြသည်။ လျှပ်စစ်ပညာမှာ ထိုစဉ်က ထွန်းကားစသာရှိသေး၍ လူတိုင်းအံ့သြနေရသော ပညာဖြစ်သည်။ ဤသို့စကားလက်ဆုံကျခိုက်တွင် ခရီးသည်တဦးက ဥရောပတိုက်မှ မိမိဝယ်ယူခဲ့သော လျှပ်စစ်သံလိုက်တခုကို မော့အားပြသ၍ ထိုလျှပ်စစ်သံလိုက်ဖြင့် ပါရစ်မြို့တော်၌ လက်တွေ့လုပ်ခဲ့သော လုပ်ငန်းများကို ပြောပြလေသည်။

မော့သည် ယေးတက္ကသိုလ်၌ ပညာသင်ကြားနေစဉ်က မိမိပြုလုပ်ခဲ့ဘူးသော လျှပ်စစ်ဓါတ်ဆိုင်ရာ လက်တွေ့စမ်း




ကြေးနန်း၏အဓိကအသုံးပြုရသော သတင်းပို့နှင့်သတင်းဖမ်းကရိယာ

သပ်မှုများကို ပြန်၍စဉ်းစားသည်။ ခရီး လမ်း ဆုံး သည့် တိုင် အောင် လျှပ်စစ်ဓါတ်ဖြင့် သတင်းပေးပို့နိုင်မည့် နည်း ကိုသာ အထပ်ထပ် ကြံစည်စိတ်ကူး၍နေမိ၏။ နယူးယော့မြို့ သို့ သင်္ဘော ဆိုက် ကပ်သော အခါ တွင် ကြေးနန်း ရိုက် နည်းကို အကြမ်းစိတ် ကူး မိပြီး ဖြစ် သည်။ သင်္ဘောပေါ် မှ မဆင်းမီ မော့သည် ကပ္ပိတန်ထံ သွားပြီး 'ဒီ ၄၊ ၅ နှစ်အတွင်း ကြေးနန်း ရိုက်နည်း ပေါ်လာယင် ဒီနည်းဟာ ခင်ဗျား ရဲ့ ဆာလီသင်္ဘော ပေါ် မှာ စတင် ကြံစည်တဲ့ နည်းဘဲလို့သာမှတ်ပေတော့' ဟူ၍ပြောခဲ့သည်။

မော့သည် နယူးယော့မြို့သို့ ပြန်ရောက်သည့်အချိန်မှစ၍ ကြေးနန်းရိုက်နည်း ကို တိုင်း ပြည်သုံး ဖြစ်စေရန် ကြိုးစားတော့၏။ ကြေးနန်း ရိုက် နည်း တွင် တိုင်း သူပြည်သားများစိတ်ဝင် စား လာစေရန်လည်း ကြိုး စား ၏။ သို့ရာ တွင် ဤ နည်း ကို ကြံစည် တီထွင် ရာ၌ ငွေအမြောက်အမြား ကုန်ကျမည်ဖြစ်ရာ မိမိမှာ ငွေကြေးချမ်းသာသူမဟုတ်သည့်အတွက် ငွေကြေးဖြင့် ကူညီမစမည့်သူများကို ရှာဖွေရလေသည်။



ကြေးနန်းလက်နှိပ်စက်ဖြင့်သတင်းပေးပို့ပုံစံနှစ်

မော့သည် ကြေးနန်းရိုက်နည်းအောင်မြင်ရန် ပါမောက္ခ ဂေး ဆိုသူနှင့် တွဲဖက် လုပ် ကိုင်၍ ဂေး ထံမှ အကြံဉာဏ်ကောင်းများကို ရယူခဲ့သည်။

၁၈၃၇ ခုနှစ်တွင် မော့သည် ကြေးနန်းရိုက်သည့် ကရိယာများကို ပြုလုပ်နိုင်ရန်အတွက် ဒေါ်လာငွေ ၂၀၀၀ ကိုအရေးတကြီးလိုလာသည်။ လိုသည့်အကြောင်းမှာ ထိုအချိန်တွင် အမေရိကန်ပြည်ထောင်စု အစိုးရက အင်္ဂလိပ်လူမျိုး ဝှိစတုန်းအား ကြေးနန်းရိုက်နည်းကို တီထွင်နိုင်ရန်အတွက် ငွေကြေးဖြင့် ကူညီရန် ရည်ရွယ်လျက် ရှိသောကြောင့် ဖြစ်သည်။ မော့၏အကြံမှာ ကြေး နန်း ရိုက် ကရိယာများ ကို အစိုးရထံသို့ အချိန်မှီ ပြုလုပ်တင်ပြပြီး အကူအညီ တောင်းယူလိုသည်။ ကံအားလျော်စွာ မော့ အလိုရှိသည့် ငွေကြေးကို ထုတ်ပေးမစမည့် အဲလဖရက် ဗေး ဆိုသူတဦးပေါ် လာသည်။ ထိုသူသည် မော့အား ငွေကြေးဖြင့်သာ ကူညီသည်မဟုတ်၊ မော့၏အချက်ပြစံနစ် ကိုပင် ကောင်း သည်ထက် ကောင်းအောင်ကိုယ်ထိလက်ရောက် ကူညီပြုပြင်ပေးပေသေးသည်။

မော့နှင့် ဗေး တို့သည် ကြေး နန်း ရိုက် ကရိယာ များ ကို တိတ် တဆိတ် ပြုလုပ် ခဲ့ကြပြီး နောက် လက် တွေ့စမ်း သပ်ကြည့်ရာ အောင်မြင်သည်ကို တွေ့ကြရလေသည်။

မော့သည် ကြေးနန်းရိုက်ရုံများ ဆောက်လုပ်ရန်အတွက် ဒေါ်လာငွေ ၃၀,၀၀၀ ထုတ်ပေးရန် ပြည်ထောင်စုအစိုးရထံ လျှောက် လိုက် ၏။ ထိုငွေကိုရလျှင် မော့သည် မိုင် ၄၀ အတွင်း သတင်းပို့နိုင်သော ကြေးနန်းရုံများကို ဆောက်လုပ်ရန် ရည်ရွယ်ထားလေသည်။ လပေါင်းများစွာကြာပြီးမှ အစိုးရက ဒေါ်လာငွေ ၃၀,၀၀၀ ထုတ် ပေး ရန် ဆုံးဖြတ်လိုက်လေသည်။ မော့သည် ကြေးနန်းရိုက် ရုံများကို ဆောက်လုပ်ပြီးနောက် ၁၈၄၄ ခုနှစ် မေလ ၂၂ ရက်နေ့တွင် ဝါရှင်တန်မြို့မှ ဗောလတီမိုးမြို့သို့ ပဌမဆုံး ကြေးနန်းစာကို အောင်မြင်စွာ ရိုက်ကြားပေးပို့နိုင်လေသည်။ (မော့ဆမ်မျူယယ် — ရှု။)

ထိုနောက်တွင် မော့၏ကြေးနန်းရိုက်နည်းသည် အမေရိကန်ပြည်ထောင်စု တခုလုံးနှင့် ဥရောပတိုက်၊ အာရှတိုက်

တို့သို့ပါ တဖြည်းဖြည်း ပျံ့နှံ့သွားလေသည်။ အတ္တလန္တိတ် သမုဒ္ဒရာကိုဖြတ်၍ ကြေးနန်းသတင်း ပေးပို့ရန်အတွက် ရေအောက်ကြေးနန်းကြိုးများကို ချသောအချိန်၌ မော့မှာ အသက်ထင်ရှားရှိသေး၏။ (ရေအောက်ကြေးနန်း — ရှု။)

အချက်ပြကြေးနန်းတွင် မူတည်သောအချက်မှာ လျှပ်စစ်ဓါတ် စီးလျက် ရှိသော ဆာကစ်ကို ဆက်ချည်တလှည့် ဖြတ်ချည်တလှည့် ပြုလုပ်ပေးခြင်းပင် ဖြစ်သည်။ ကြေးနန်းသတင်းပို့ကရိယာတွင် ခလုတ်တခုထားရှိ၏။ ထိုခလုတ်ကို ဖိနှိပ်ပေးစဉ် ဆာကစ်ဆက်မိ၍ ခလုတ်ကိုလွှတ်လိုက်လျှင် ဆာကစ်ပြတ်သွားသည်။ အစက်ဟူသော အချက်ပြအမှတ်ကို ပေးပို့လိုသော် ခလုတ်ကို ရုတ်ခြင်းနှိပ်ပြီး ပြန်လွှတ်လိုက်ရသည်။ မျဉ်းတိုဟူသော အချက်ပြ အမှတ်ကို ပေးပို့လိုသော် အစက်ရလို၍ ဖိနှိပ်စဉ်ကထက် ၃ ဆမျှ အချိန်ကြာအောင် ခလုတ်ကို ဖိနှိပ်ပေးရသည်။

ဆာကစ်လမ်းဆုံးတွင် ရှိသော ကြေးနန်းသတင်းဖမ်းကရိယာ၌ လျှပ်စစ်ဓါတ်ကြိုး ရစ်ပတ်ထားသော လျှပ်စစ်သံလိုက်နှင့်အတူ ထိုလျှပ်စစ်သံလိုက်ကို သံလိုက်ဖြစ်ပေါ်ချိန်၌ ဝင်ရိုက်မည့် သံတုံးကလေးရှိသည်။ လျှပ်စစ်သံလိုက်ကို သံတုံးကလေးက ဝင်ရိုက်လိုက်သောအခါ 'ကလစ်' ဟူ၍ အသံမြည်သည်။

သတင်းပို့ကရိယာ ခလုတ်ကို ဖိနှိပ်ချိန်တွင် ဆာကစ်ဆက်မိသွားသဖြင့် သတင်းဖမ်းကရိယာရှိ လျှပ်စစ်သံလိုက်သည် သံလိုက်ဖြစ်သွားသည်။ ခလုတ်ကို လွှတ်လိုက်သောအခါ သံလိုက်ဓါတ်ပျောက်သွားသည်။ ဤသို့ဖြင့် သတင်းပို့ကရိယာမှ အချက်ပြအမှတ်များဖြင့် ပေးပို့သမျှသည် သတင်းဖမ်းကရိယာတွင် ထိုအမှတ်များကို ပြသောအသံဖြစ်ပေါ်လာ၏။ ထိုအသံမှတဖန် မူလအမှတ်အသားများ ပြန်ရကာ သတင်းတရပ်လုံးကို ဖတ်ယူနိုင်လေသည်။ နောက်ဆုံးပေါ်နည်းများတွင် သတင်းများကို ကြေးနန်းရိုက် လက်နှိပ်စက်ဖြင့် ပေးပို့၍ အခြားတဖက်တွင် လက်ခံရရှိသောသတင်းသည် လက်နှိပ်စက်ဖြင့် ရိုက်ပြီးသား ထွက်လာလေသည်။ ကြေးနန်းရိုက်ရာတွင် လျှပ်စစ်ဓါတ်ကို အသုံးပြုသည့်အတွက် အလွန်လျင်မြန်သည်။ ခရီးဝေး၍ လျှပ်စစ်ဓါတ်အားနည်းသောနေရာများတွင် သတင်းကို အဆင့်ဆင့်ပို့ပေးရလေသည်။ (လျှပ်စစ်ဓါတ်၊ သံလိုက်ဓါတ် — ရှု။)

သိပ္ပံပညာရှင်တို့သည် မော့ကြေးနန်းရိုက်နည်းကို ကောင်းသည်ထက်ကောင်းအောင် ထပ်မံပြုပြင်လာကြရာ ယခုအခါ ငွေကုန်နည်း၍ အလုပ်တွင်သော ခေတ်မီကြေးနန်းရိုက်နည်းများ ပေါ်ပေါက်လာခဲ့ပေသည်။ မော့တီထွင်ခဲ့စဉ်က ကြေးနန်းကြိုးတချောင်းဖြင့် ကြေးနန်းသတင်းကို ပေးပို့၍၊ အခြားကြေးနန်းကြိုး တချောင်းဖြင့် သတင်းကို လက်ခံရ၏။ သို့သော် မော့ကွယ်လွန်သည့် ၁၈၇၂ ခုနှစ်၌ ဂျေဗီစတန်းဆိုသူက တချိန်တည်းတွင် ကြေးနန်းကြိုးတချောင်းတည်းဖြင့် သတင်းပေးပို့နိုင် လက်ခံနိုင်သောနည်းကို တီထွင်လေသည်။ ထို ၂ မျိုးရနည်းကို 'ဒျူးပလက်နည်း' ဟုခေါ်သည်။ နောက်တနှစ်တွင် သောမတ် အေ အက်ဒီဆင် ဆိုသူက 'ကွာဒရုပလက်' ခေါ် ၄ မျိုးရနည်းကို တီထွင်ပြန်လေသည်။ ထိုနည်းမှာ တချိန်တည်းတွင် ကြေးနန်းကြိုးတချောင်းတည်းဖြင့် သတင်း ၂ ရပ်ကိုပို့နိုင်၍ သတင်း ၂ ရပ်ကို လက်ခံနိုင်သော နည်းဖြစ်သည်။ ယခုအခါ၌မူကား သတင်း ၈ ရပ်အထိပင် တချိန်တည်းတွင် ကြေးနန်းကြိုးတချောင်းတည်းဖြင့် ပေးပို့ရယူနိုင်နေပြီဖြစ်ရာ ဤအမျိုးမျိုးရနည်းကို 'မာလတီပလက်' နည်း ဟုခေါ်ကြသည်။

တကမ္ဘာလုံး၌ ယခုအခါ လက်ခံအသုံးပြုလျက် ရှိသော မော့အချက်ပြ အမှတ်များမှာ အောက်ပါအတိုင်းဖြစ်သည်။

အက္ခရာများ

| | | | | | | | |
|---|---|---|---|---|---|---|---|
| A | ·– | G | ––· | M | –– | T | – |
| B | –··· | H | ···· | N | –· | U | ··– |
| C | –·–· | I | ·· | O | ––– | V | ···– |
| D | –·· | J | ·––– | P | ·––· | W | ·–– |
| E | · | K | –·– | Q | ––·– | X | –··– |
| F | ··–· | L | ·–·· | R | ·–· | Y | –·–– |
| | | | | S | ··· | Z | ––·· |


ဓာတ်ပုံများကိုကြေးနန်းဖြင့်ပေးပို့ရာတွင်ဤသို့လက်ခံရရှိသည်။

# ကြေးနန်းရိုက်ခြင်း

### ဂဏန်းများ

| | | | |
|---|---|---|---|
| 1 | · – – – – | 6 | – · · · · |
| 2 | · · – – – | 7 | – – · · · |
| 3 | · · · – – | 8 | – – – · · |
| 4 | · · · · – | 9 | – – – – · |
| 5 | · · · · · | 10 | – – – – – |

### အမှားပြင်ချက်

| စာမျက်နှာ | ကော်လံ | စာကြောင်းရေ | အမှား | အမှန် |
|---|---|---|---|---|
| ၁၂၇ | ပဌမ | ၆ | 10 | 0 |

မန္တလေး မြို့တည်နန်းတည် မင်းတုန်းမင်းတရားကြီးလက်ထက်၊ သက္ကရာဇ် ၁၂၃၁ ခု နှစ်ကပင် မြန်မာပြည်၌ ပဌမဦးဆုံးသော ကြေးနန်းများ ပေါ်ပေါက်ခဲ့ဘူးပေသည်။ ထိုကြေးနန်းများကို ယခုခေတ်အခါတွင် အသုံးပြုကြသကဲ့သို့ လျှပ်စစ်ဓါတ်အားဖြင့် ပြုလုပ်ခဲ့ကြ၏။ လျှပ်စစ်ဓါတ်အားကို ဓါတ်အိုးအမျိုးမျိုး အသုံးပြု၍ ထုတ်ယူကြသည်။ ယခုအခါတွင် အသုံးပြုနေကြသော မော့အချက်ပြစံနစ်ကဲ့သို့ပင် ဓါတ်အိုး၌ စီးခတ်သော အချက်ဖြင့်ရင်း၊ အမှတ်သညာပေးသော အရေးအဆွဲတို့ဖြင့်ရင်း သတင်းများကို ပေးပို့ကြပေသည်။ ထိုပြင် မီးရောင်များကိုရင်း၊ အလံများကိုရင်း၊ အသုံးပြု၍ သတင်းပေးပို့သော စံနစ် ကိုလည်း အသုံးပြုခဲ့ကြ၏။ ကြေးနန်းရိုက်ခြင်းနှင့် စပ်လျဉ်း၍ အသုံးပြုသော အက္ခရာရေးသားနည်းကို လူအများ နားလည်စိမ့်သောငှာ မြန်မာပညာရှိကြီး ယောအတွင်းဝန် ဦးဘိုးလှိုင်သည် ‘လိပိဒိပိကာ’ မည်သော မြန်မာကြေးနန်းစာရေးနည်းကျမ်းကို ရေးသားပြုစုခဲ့ပေသည်။

ထိုအခါက ကြေးနန်းများသည် ယခုခေတ် ကြေးနန်းစာများကဲ့သို့ပင် ပေးပို့လိုသော သတင်း၏ လိုရင်းအချက်များ ပေါ်လွင်အောင် တိုတိုတုတ်တုတ်ရှိသည်။ ထိုကြေးနန်းစာတွင် လက်ခံရရှိမည့် အရာရှိ၏ အမည်နှင့်ရာထူးကိုပါ ဖေါ်ပြနိုင်ကြ၏။ အင်္ဂလိပ်များနှင့် စစ်ဖြစ်နေဆဲအချိန်တွင် ပေးပို့သော ကြေးနန်းသတင်းများမှာ သာ၍ပင် တိုတိုတုတ်တုတ်ရှိသေး၏။ ဘုရင်ထံသို့ ပို့သောသတင်းများ၌ မည်သည့်အရာရှိက ပို့သည်ကိုရင်း၊ ကြေးနန်းရိုက်ပေးသော ကြေးနန်းဆရာ၏ အမည်ကိုရင်း၊ ယခုခေတ်အခါ မှာကဲ့သို့ပင် ရိုက်ပို့ပေးနိုင်ကြလေသည်။

ထိုအခါက ကြေးနန်းစာရေးသားပုံမှာ အောက်ပါအတိုင်း ဖြစ်လေသည်။

စအ၊ ကအား၊ ပရသြ၊ နအနး၊ တအနး၊ လဥပ၊ စ၏၊ သဦ၊ စအာ၊ ရ၏၊ ကရဤး၊ အ၊ သဉး၊ စအာ၊ ရဧး၊ တအို၊ စအ၊ ကအား၊ ပရသြ၊ နအနး၊ တအနး၊ ရအန၊ လအမး၊ တဝအင၊ တအိုင၊ စအိုက၊ လဥပ၊ ရအန၊ မဟအ၊ အစ၊ ရဝ၏၊ အ၊ ရအပ၊ ရအပ၊ လဥပ၊ ဆသြင၊ ရအန၊ ရဟဣ၊ သအည၊ မယအား၊ ကအို၊ ၁၂၃၁၊ ခဥ။ နဟအစ၊ အ၊ တဝအငး၊ ပရဤး၊ ပရ၏၊ သြင၊ လဥပ၊ ဆသြင၊ ကရအ၊ ရအ၊ မအည၊ ခအတ၊ လဟ၏၊ အ၊ဆအန၊ တဝအင၊ လအညး၊ မအည၊ ရဝ၏၊ မအည၊ မဟယအ၊ လဥပ၊ ဆသြင၊ ပရဤး၊ ပရ၏၊ သအည၊ မယအား၊ ကအို၊ မအ၊ ပရအတ၊ တအင၊ လဟယသြက၊ လအိုက၊ ရအ၊ မအည်။

အထက်ပါကြေးနန်းစာကို အဓိပ္ပါယ်ဖေါ်ယူသောအခါ ဤသို့ရ၏။

စ၊ကား၊ပြော၊နန်း၊တန်း၊လုပ်၊စေ၊ သူ၊ စာ၊ ရေး၊ ကြီး၊ အ၊ သုံး၊စာ၊ရေး၊တို့၊ စ၊ ကား၊ ပြော၊ နန်း၊ တန်း၊ ရန်၊ လမ်း၊ တွင်၊ တိုင်၊စိုက်၊လုပ်၊ရန်၊မှ၊ စ၊ ရွှေ၊ အ၊ ရပ်၊ ရပ်၊ လုပ်၊ ဆောင်၊ ရန်၊ ရှိ၊သည်၊များ၊ကို၊ ၁၂၃၁၊ ခု၊ နှစ်၊ အ၊ တွင်း၊ ပြီး၊ ပြေ၊ အောင်၊ လုပ်၊ဆောင်၊ကြ၊ရ၊မည်၊ခတ်၊လှေ၊အ၊ဆန်၊တွင်၊ လည်း၊မည်၊ ၍၊ မည်၊ မျှ၊ လုပ်၊ ဆောင်၊ ပြီး၊ ပြေ၊ သည်၊ များ၊ ကို၊ မ၊ ပြတ်၊ တင်၊လျှောက်၊လိုက်၊ရ၊မည်။

အင်္ဂလိပ်တို့ လက်ထက်တွင် မြန်မာနိုင်ငံ၌ ပြည်တွင်း ကြေးနန်း ဆက်သွယ်ရေးလုပ်ငန်းကို ၁၈၅၅ ခုနှစ်တွင် စတင်ဖွင့်လှစ်ခဲ့ပေသည်။ အပြည်ပြည်ဆိုင်ရာ ကြေးနန်းဆက်သွယ်ရေးကိုမူ အိန္ဒိယနိုင်ငံမှတဆင့် ၁၈၃၆ ခုနှစ်တွင် စတင်ခဲ့သည်။ ယခုအခါ ပြည်တွင်းကြေးနန်းဆက်သွယ်ရေး လုပ်ငန်းများတွင် ဗမာ့အချက်ပြ သင်္ကေတများကို မြန်မာလိုတီထွင်၍ အသုံးပြုလျက်ရှိ၏။ ထိုစံနစ်သစ်ကို သယ်ယူပို့ဆောင်ရေးဌာန နှင့် လမ်းပန်းဆက်သွယ်ရေးဌာနတို့က ဦးဆောင်ကာ တီထွင်ပေး၍ နိုင်ငံတော်အစိုးရသို့ တင်ပြရာ အသင့်လျော်ဆုံးဟု ဆုံးဖြတ်၍ ပြည်တွင်းကြေးနန်းဆက်သွယ်ရေးလုပ်ငန်းတွင် အသုံးပြုရန် ပြဋ္ဌာန်းလိုက်လေသည်။ ထိုစံနစ်သစ်အားဖြင့် မြန်မာအသံထွက်နှင့် ဖတ်မရသော စာလုံးများကိုပင် တိကျမှန်ကန်စွာ ပေးပို့နိုင်ပေသည်။ ရေးပေးသောစာလုံးသာ ပီသပါက ကြေးနန်းနှင့်ပေးပို့ရာတွင် ရာခိုင်နှုန်းအပြည့် တိကျမှန်ကန်နိုင်ပေသည်။ ပဌမ အစမ်းသဘောဖြင့် ၁၉၅၁ ခုဩဂုတ်လ ၁ ရက်နေ့တွင် ရန်ကုန်မြို့နှင့် ပုသိမ်မြို့ကို ထိုစံနစ်ဖြင့် စတင်၍ ကြေးနန်းရိုက်ခဲ့၏။ ကောင်းစွာအောင်မြင်ကြောင်းကို သေချာစွာသိရှိရသောအခါ၊ ၃ လအတွင်း မန္တလေး၊ တောင်ငူ၊ မော်လမြိုင်၊ စစ်တွေမြို့များသို့ တိုးချဲ့၍ ထိုစံနစ်သစ်ကို အသုံးပြုခဲ့ကြ၏။ ယခုအခါတွင် မြို့တိုင်း၌လိုပင် ကြေးနန်းဆက်သွယ်ရေးလုပ်ငန်းများတွင် ဗမာ့အချက်ပြ သင်္ကေတများကို အင်္ဂလိပ်လို မသုံးတော့ဘဲ မြန်မာလို အသုံးပြုလျက်ရှိလေပြီ။

သို့ရာတွင် အပြည်ပြည်ဆိုင်ရာ ကြေးနန်းဆက်သွယ်ရေး

ဌ်မှု မော့အချက်ပြ သင်္ကေတများကို အင်္ဂလိပ်စာလုံးများဖြင့် ပေးပို့ကြလေသည်။ ဤသို့ သတင်းများကို ပေးပို့ရာ၌ အလွန်လျင်မြန်သော စံနစ်ကို အသုံးပြုကြပေသည်။ထိုစံနစ်သစ်တွင် အသံနှင့်မှတ်မယူဘဲ စက္ကူကြိုးပြားကလေးများ အပေါ်တွင် အပေါက်ကလေးများ ဖြစ်ပေါ်စေခြင်းအားဖြင့် ကြေးနန်းသတင်းများကို ပေးပို့ကြ၏။ ထိုပြင် 'တယ်လီပရင်တာ' ခေါ် လက်နှိပ်စက်ကဲ့သို့သော ကြေးနန်းရိုက်စက်မျိုးဖြင့်လည်း သတင်းများကို ရိုက်ကူး၍ ပေးပို့နေကြသေးသည်။မြန်မာနိုင်ငံတွင်ဤကဲ့သို့ခေတ်မှီသည့်ကြေးနန်းဆက်သွယ်ရေးကရိယာများကို အသုံးပြုရန် စီမံကိန်းများချလျက်ဆောင်ရွက်နေပေပြီ။

**ကြေးဝါ။** ။ကြေးဝါသည် ကြေးနီနှင့်သွပ်ကို အချိုးအမျိုးမျိုး ရောစပ်၍ရရှိသည့် သတ္တုစပ်ဖြစ်သည်။ မာ၍ တာရှည်အသုံးခံသော သတ္တုဖြစ်၏။ တခါတရံ ကြေးဝါကို အဆိုပါ သတ္တုနှစ်မျိုးအပြင် ခဲပုပ်နှင့်သံဖြူကဲ့သို့သော သတ္တုမျိုးဖြင့်လည်း ရောစပ်ပေးတတ်ကြသည်။ ကြေးဝါလုပ်နည်းကို ဥရောပတိုက်တွင် လွန်ခဲ့သောနှစ်ပေါင်း ၄၀၀၀ ခန့်ကပင် သိရှိခဲ့ကြလေသည်။ ထိုခေတ်အခါက လူတို့သည် ဓါးပုဆိန်၊ မြားသွားနှင့် အခြားလက်နက်များကို ကြေးဝါဖြင့် ပြုလုပ်သုံးစွဲကြသည်။

ကြေးဝါကို အလွယ်တကူ ကျိုနိုင်၏။ ပုံသွန်းယူ၍ ရနိုင်သည့်အပြင် အသုံးအဆောင် အမျိုးမျိုးကိုလည်း လွယ်ကူစွာ ပြုလုပ်ယူနိုင်၏။ ရေငွေ့ရှိသော လေထဲတွင် ပစ်ထားသော်လည်း ချေးမတက်ချေ။ ကြေးဝါတွင် အရောင်တင်ခံနိုင်သော သတ္တိရှိခြင်းကြောင့် အလှပြ တန်ဆာပလာများနှင့် ရုပ်ပုံများ ထုလုပ်ရန်အတွက် အလွန်ကောင်းသည်။ ကြေးဝါ၏ အမျိုးအမည် များစွာရှိသည်နှင့်အမျှ အသုံးပြုပုံမှာလည်း များပြားလှ၏။ ကြေးဝါခေါင်းလောင်းများသည် အသံ အလွန်သာယာသည့်အပြင် ရာသီဥတု၏ဒဏ်ကို အချိန်အကန့်အသတ်မရှိ ခံနိုင်ကြသည်။

မြန်မာနိုင်ငံ၌ ကြေးဝါဖြင့် ပစ္စည်းများကို သွန်းလုပ်ရာတွင် ကြေးဝါကို အရည်ကျို၍ ပုံစံအတွင်းသို့ သွန်းယူလေ့ရှိကြသည်။ ကြေးသွန်းလုပ်ငန်းတွင် ကျွမ်းကျင်မှုလိုလေသည်။

ကြေးသွန်း အလုပ်မစမီ ရွှံ့စေး၊ သဲနှင့်ဖွဲ့တို့ကို သင့်သလို ရောစပ်ပြီး ပုံကို အကြမ်းအားဖြင့် လုပ်ယူသည်။ ထိုနောက် နုံးမြေဖြင့် မံပြီးလျှင် မီးသွေးမှုန့်နှင့် မြင်းချေးရောထားသော အရည်ဖြင့် လိမ်းကျံပေးသည်။

ထိုပုံစံပေါ်တွင် ဖယောင်းကို လိုသည့်ပုံ ဖြစ်လာသည့်တိုင်အောင် ကပ်ပြီး အသေးစိတ်ပြုပြင်ပေးသည်။ ထိုနောက် ဖယောင်းပုံစံပေါ်တွင် ရွှံ့စေးကိုမံပေးသည်။ လောင်းထည့်သောကြေးဝါရည် ဖေါက်ထွက်မလာနိုင်အောင် ရွှံ့စေးတွင် သဲနှင့်ဖွဲ့များကို ရောပေးသည်။ ရွှံ့စေး၊ သဲနှင့်ဖွဲ့များ မံပေးရာတွင် ကြေးဝါရည် လောင်းရန်အပေါက်နှင့် ဓါတ်ငွေ့ထွက်ရန် အပေါက်များကိုပါ တပါတည်းလုပ်သည်။ ထိုနောက် ပုံစံကို ဖိုများဖြင့်ဆိုင်ကာ မီးအပြင်းတိုက်ပေးလေသည်။ ထိုအခါဖယောင်းသည် အရည်ပျော်၍ထွက်လာသဖြင့် ရွှံ့စေး ပုံစံအတွင်းတွင် အခေါင်းသာ ကျန်ရစ်တော့သည်။ ပုံစံယူနေခိုက်တွင် အရည်ကျိုထားသော ကြေးဝါကို လောင်းထည့်သည်။ ကြေးဝါရည်သည် ဖယောင်းရှိခဲ့သောနေရာများသို့ ရောက်သွားသည်။ ထိုသို့သွန်းပြီးလျှင် အအေးခံကာ အပြင်ဖက်ရှိ ရွှံ့စေးများကို ခွာချလိုက်သည်။ သွန်းပြီး၍ ရသောပုံကို စို့၊ တစည်းနှင့် ကော်ပတ်စက္ကူများဖြင့် အချောကိုင်ပေးသည်။

ကြေးဝါပြုလုပ်ရာတွင်ကြေးနီ ၅၄.၁ ဆနှင့် သွပ် ၄၅.၉ ဆကို ရောကျိုပေးလေ့ရှိကြသည်။ ကြေးဝါကို ဘုရားရုပ်တုတော်များ သွန်းလုပ်ရာ၌ အသုံးများသည်။ ကြေးဝါဖြင့် လုပ်သည့် အသုံးအဆောင်များမှာ လက်ဆေးခံ၊ ခေါင်းလောင်း၊ ဆည်းလည်း၊ ကျွဲနွားခလောက်၊ ချူကွမ်းအစ်၊ ရေစစ်၊ ကွမ်းညှပ်၊ ဖလား၊ ထုံးဗူး၊ ကွမ်းဆုံ၊ သပိတ်ဖုံး၊ လင်းကွင်း၊ စည်း၊ နားဖါကော်၊ မောင်း၊ ကြေးနောင်၊ ကြေးစည်၊ ချိန်ခွင်၊ ထွေးခံ၊ ဇွန်း၊ မွေးညှပ်၊ ဇာဂနာနှင့် အလေးများဖြစ်သည်။



အိန္ဒိယလူမျိုးများသုံးစွဲလေ့ရှိသောကြေးဝါထည်များ

# အာကာသတခွင်ကို တန်ဆာဆင်သည့် စိန်ပွင့်များ

**အင်အားကောင်းသော မှန်ပြောင်းကြီးများဖြင့် စိတ်ရှည်စွာကြည့်ရှုလေ့လာကြသော နက္ခတ်ဆရာတို့၏ ကျေးဇူးကြောင့် အစက်ကလေးသဖွယ် မြင်ရသောကြယ်တို့၏ ပုံသဏ္ဍာန်ပမာဏကို ကျွန်ုပ်တို့သိကြရပေပြီ။ ကြယ်တို့သည် နေများဖြစ်ကြ၍ အလင်းရောင်အပူကိုပါလွှတ်သည်ဟုဆိုလျှင်ယုံဖွယ်ရှိအံ့လော။**

**ကြယ်**။ ။ညဉ့်အခါ ကောင်းကင်သို့မော့ကြည့်လျှင် မှိတ်တုတ်မှိတ်တုတ်နှင့် လင်းနေသောကြယ်များကို မရေတွက်နိုင်အောင် မြင်ကြရပေမည်။ ကြယ်တို့သည် တနေရာတည်းတွင် တည်၍ အေးမြသောအလင်းရောင်ကိုပေးသည်ဟုထင်မှတ်တတ်ကြသည်။ အမှန်မှာ ကြယ်တို့သည် နေများဖြစ်ကြ၍၊ ကျွန်ုပ်တို့၏နေကဲ့သို့ပင် အလင်းရောင်၊ အပူကိုပါလွှတ်သည်။ ကျွန်ုပ်တို့၏ နေတွင်ရှိသော ဓါတ်သဘာဝအားလုံးလိုပင် ကြယ်တွင်လည်းရှိသည်။ သို့ရာတွင် ကြယ်တိုင်းသည် ကျွန်ုပ်တို့၏နေနှင့် တရွယ်တည်းမဟုတ်ကြချေ။ အချို့ကြယ်တို့သည်နေထက်အဆပေါင်းမြောက်မြားစွာ ပင်ကြီးမားကြသည်။ နေထက်လည်း အဆပေါင်း ၃၀၀,၀၀၀ ခန့် ပိုမိုတောက်ပကြသည်။ ကြယ်တွင် ဓါတ်ငွေ့များသည် ပြော၍မယုံနိုင်လောက်အောင် ပြင်းထန်သောအပူရှိန်နှင့် တောက်လောင်နေကြသည်။ ကြယ်တို့ကို သေးသေးငယ်ငယ် မြင်ရခြင်းမှာ၊ ကြယ်တို့သည် ကမ္ဘာနှင့်နေ ကွာဝေးသည်ထက် အဆပေါင်းများစွာပို၍ ကမ္ဘာမှ ကွာဝေးသောကြောင့်ဖြစ်သည်။

ပကတိမျက်စိဖြင့် ကြည့်လျှင် ကြယ်ပေါင်း ၆၀၀၀ ခန့်လောက်ကိုသာ မြင်နိုင်သည်။ မမြင်နိုင်သော ကြယ်တို့သည်လည်း အမြောက်အမြားပင်ရှိသေးသည်။ အားကောင်းသော မှန်ပြောင်းများဖြင့်ကြည့်လျှင် ကြယ်ပေါင်း ၁၀၀,၀၀၀,၀၀၀ ကို မြင်နိုင်သည်။




ဇန္နဝါရီလ ၁ ရက်နေ့တွင်ကမ္ဘာမြေရောက်သော 'က' နေရာမှတိုင်းတာလိုသော 'စ' နေရာရှိကြယ်ကို ကြည့်ရှုသောအခါ 'ကစပ' လမ်းကြောင်း အတိုင်း တွေ့မြင်ရသည်။ ကမ္ဘာမြေသည် တနှစ်တွင်နေကို တပတ်ပတ်သွားသဖြင့်ဇူလိုင်လ ၁ ရက်နေ့တွင်ယင်း၏ သွားလမ်းပေါ်၌ ကနေရာနှင့်ဆန့်ကျင်ဖက် 'ခ' နေရာသို့ရောက်သွားသည်။ ထိုအချိန်၌ ခနေရာကမ္ဘာမှစနေရာကြယ်ကို ကြည့်လျှင်'ခစဖ'လမ်းကြောင်းအတိုင်းတွေ့မြင်ရမည်။ ကနှင့်ခနှစ်နေရာသည် ၁၈၆,၀၀၀,၀၀၀ မိုင်ဝေးသည်ကို သိရသဖြင့် စကခနှစ်နားညီတြိဂံမှကစ၏ အကွာအဝေးကိုသင်္ချာနည်းဖြင့်လွယ်ကူစွာတွက်ယူရရှိနိုင်သည်။

ဤကဲ့သို့သောကြယ်ပေါင်း ၁၀၀,၀၀၀,၀၀၀ မှာ အာကာသလောကတွင်ရှိသော ကြယ်အားလုံးကုန် မဟုတ်သေးချေ။ မှန်ပြောင်းဖြင့်ပင် ကျွန်ုပ်တို့မမြင်နိုင်သော ကြယ်ပေါင်းမြောက်မြားစွာလည်း ကျန်ရှိပေသေးသည်။ ကမ္ဘာအရပ်ရပ်ရှိ နက္ခတ်မျှော်စင်ကြီးများ၌ ကြယ်များ၏ အနေအထားပုံကို ရေးဆွဲနိုင်ခြင်းငှာ ကောင်းကင်တွင်ရှိသော ကြယ်များကို မှန်ပြောင်းများဖြင့်ကြည့်၍ ဓါတ်ပုံရိုက်ကူးယူကြသည်။ ကောင်းကင်ကို ဓါတ်ပုံရိုက်ကူး၍ စစ်ဆေးခြင်းဖြင့် ကြယ်သစ်များကို မကြာခဏပင်တွေ့ရလေသည်။

ပါမောက္ခမိုက်ကယ်လဆန်သည် ကြယ်၏ အချင်းတိုင်းနည်းကို ထွင်ခဲ့သည်။ ကြယ်များသည် အလွန်ဝေးကွာလွန်းရကား၊ မှန်ပြောင်းတွင် အစက်များသဏ္ဍာန်လောက်သာပေါ်ပေါက်သဖြင့်၊ ထိုကြယ်တို့၏ အချင်းများကို တိုင်းတာရန်မှာ မလွယ်ကူပေ။ သို့ရာတွင် မိုက်ကယ်လဆန် ထွင်လိုက်သောနည်းဖြင့် ကြယ်တို့၏အချင်းကို လွယ်ကူစွာ တိုင်းတာနိုင်ပြီဖြစ်သည်။ ထိုနည်းမှာ အောက်ပါအတိုင်းဖြစ်၏။

သေးသွယ်သော အပေါက်လျှား ၂ ချပ်ပြိုင်ယှဉ်လျက်ရှိသော မှန်ချပ်တချပ်ကို မှန်ပြောင်း၏နောက်ဖက်တွင် တပ်ဆင်ထားသည်။ ထိုအပေါက်လျှားတို့မှ ကြည့်လျှင် ကြယ်အရိပ်ပေါ်တွင် အလင်းစင်းနှင့် အမှောင်စင်းများ ဖြစ်သွားသည်ကို တွေ့ရသည်။ ထိုအပေါက်လျှားများကို တဖြည်း

ဖြည်း ခွာပေးသောအခါ အဆိုပါအစင်းများ ပျောက်သွားသည်။ (အလင်း — ရှု။) အစင်းများ ပျောက်သွားသည်အထိ ထိုအပေါက်လျား ၂ ခုကို ခွာပေးခြင်း၊ ချဉ်းပေးခြင်းဖြင့် ရသည့်အကွာအဝေးသည် ကြယ်၏ အကွာအဝေးနှင့် အချင်းတို့ကို လိုက်၍ ကြယ်တလုံးနှင့်တလုံးမှာ မတူပေ။ ထိုသို့ခွာပေးရသော အကွာအဝေးကို မူတည်၍ ကြယ်၏အချင်းကို တွက်ချက်တိုင်းတာ နိုင်လေသည်။ ဤနည်းကိုအသုံးပြု၍ မောင့်ဝီလဆန် နက္ခတ်မျှော်စင်မှ ကြယ်များ၏အချင်းကို တိုင်းတာခဲ့ရာ၊ အိုရီယန်နက္ခတ်တွင် အတောက်ပဆုံးဖြစ်သော ဗက်တဲလဂျူး ကြယ်၏အချင်းမှာ မိုင်ပေါင်း ၂၅၀,၀၀၀,၀၀၀ ရှိ၍၊ ကျွန်ုပ်တို့နေစကြာဝဠာတခုလုံး၏ ထက်ဝက်နီးပါးမျှလောက်ပင် ကြီးမားသည်ကိုတွေ့ရလေသည်။

တောက်ပခြင်းကိုလိုက်၍ ကြယ်များကို အတန်းအစားအဆင့်ဆင့်ခွဲထားသည်။ ပဌမတန်းတောက်ပသော ကြယ်အစားတွင် ကြယ်အလုံးပေါင်း ၂၀ ခန့်ပါရှိသည်။ ဒုတိယတန်းတောက်ပသော ကြယ်အစားတွင် ကြယ်အလုံးပေါင်း ၅၀ ခန့်ပါရှိ၍၊ ထိုကြယ်များတွင် ဓူဝံကြယ်ပါဝင်သည်။ တတိယတန်း တောက်ပသော ကြယ်အစားတွင် ကြယ်လုံးရေ ၁၆၀ ခန့်၊ စတုတ္ထတန်းအစားတွင်ကြယ်လုံးရေ ၅၀၀ ခန့်၊ ပဥ္စမတန်းအစားတွင် ကြယ်လုံးရေ ၁၅၀၀ ခန့်၊ ဆဋ္ဌမတန်းအစားတွင် ကြယ်လုံးရေ ၄၀၀၀ ခန့် စသည်ဖြင့် အသီးသီးရှိကြသည်။ ၁၆ ခုမြောက်နှင့် ၁၇ ခုမြောက် အတန်းစား ၂ ခုပေါင်းတွင် ကြယ်ပေါင်း ၅၀,၀၀၀,၀၀၀ (၅ ကုဋေ) ခန့်ထက်မနည်း ပါဝင်သည်ဟု ခန့်မှန်းရ၍၊ ထိုကြယ်များကို ပကတိမျက်စိဖြင့် ကြည့်၍မမြင်နိုင်ချေ။ ကောင်းကင်၌ ကြယ်များ မှိတ်တုတ်မှိတ်တုတ် ဖြစ်နေသည်ကို ကျွန်ုပ်တို့မြင်ရခြင်းမှာ ကြယ်များမှလာသော အလင်းလှိုင်းများသည် ကမ္ဘာ၏လေထုကို ဖြတ်လာကြရသောကြောင့်ဖြစ်ပေသည်။

### အလင်းမဲ့ကြယ်များ

ကိုယ်ပိုင် အလင်းရောင်မရှိသော ကြယ်ပေါင်း မြောက်မြားစွာပင် ရှိသည်။ ထိုကြယ်များကို ပကတိမျက်စိဖြင့်လည်း မမြင်နိုင်၊ မှန်ပြောင်းဖြင့်လည်း မမြင်နိုင်ချေ။ သို့ရာတွင် အချို့ကြယ်များသည် အချိန်ကျတိုင်း လင်းရာမှမှိန်သွား၍ မှိန်ရာမှ ပြန်လင်းလာခြင်းကို ထောက်ပြီးလျှင် အလင်းမဲ့ကြယ်မျိုး ရှိမှန်းကို နက္ခတ်ဆရာတို့ သိကြရပေသည်။ ထိုအလင်းမဲ့ကြယ်အချို့သည် အခြားနေစကြာဝဠာတွင် ပါဝင်သော ဂြိုဟ်များ ဖြစ်ကောင်းဖြစ်၍ အဆိုပါ လင်းရာမှမှိန်သွားသော ကြယ်များသည် ထိုစကြာဝဠာတို့၏ နေများ ဖြစ်ကောင်းဖြစ်ပေမည်။ ထိုဂြိုဟ်တို့သည် မိမိတို့၏နေကို လှည့်ပတ်သွားလာယင်း ကျွန်ုပ်တို့ကမ္ဘာနှင့် ထိုနေအကြားကို ဖြတ်သွားကြသည်။ ထို့ကြောင့် ထိုနေသည် အချိန်ကျတိုင်း လင်းရာမှမှိန်သွား၍ မှိန်ရာမှပြန်လင်းလာခြင်း ဖြစ်သည်။ ဤအတိုင်းသာမှန်ပါက အာကာသလောက၌ ကျွန်ုပ်တို့နေစကြာဝဠာကဲ့သို့သော စကြာဝဠာပေါင်း မရေမတွက်နိုင်အောင် ရှိပေလိမ့်မည်ဟု ခန့်မှန်းယူဆရပေမည်။

### ကြယ်တို့၏အကွာအဝေး

ကြယ်တို့သည် ဤကမ္ဘာမြေမှ အလွန်ဝေးကွာသဖြင့် ယင်းတို့၏ ဤကမ္ဘာမြေမှ အကွာအဝေးကို တိကျအောင် တိုင်းတာရန်မှာ ခက်ခဲလှပေသည်။ သို့ရာတွင် တနှစ်အတွင်း၌ ကြယ်တို့၏ နေရာပြောင်းရွှေ့ပုံကို မှတ်သား၍၊ ကြယ်တို့၏အကွာအဝေးကို တိုင်းတာယူနိုင်ပေသည်။ တိုင်းတာပုံမှာ ကြယ်တလုံး၏ တည်နေပုံကို ကမ္ဘာသွားရာ လမ်းကြောင်းပေါ်ရှိ တနေရာမှ ပဌမ မှတ်သားသည်။ နောက် ၆ လကြာသောအခါ ပဌမနေရာနှင့် ဆန့်ကျင်ဖက်သို့ ရောက်သောနေရာမှ ထိုကြယ်၏တည်နေပုံကို မှတ်သားပြန်သည်။ ထိုနောက် ကြယ်၏ပဌမတည်နေရာနှင့် ဒုတိယတည်နေရာ ၂ ခုအကြားရှိ ထောင့်ကိုမူတည်၍ ကြယ်၏အကွာအဝေးကို တွက်ယူရလေသည်။ ကြယ်တို့သည် ကမ္ဘာမှအလွန်ဝေးကွာသဖြင့် အဆိုပါထောင့်သည်အလွန်ကျဉ်း၏။ ထို့ကြောင့် အလွန်သိမ်မွေ့သော ကရိယာများဖြင့် ဂရုတစိုက် သေချာစွာတိုင်းတာနိုင်မှ ကြယ်၏အကွာအဝေးကို အမှန်နီးပါးမျှ ရရှိနိုင်သည်။ ကမ္ဘာနှင့် ပို၍နီးသောကြယ်များဖြစ်လျှင်၊ ယင်းတို့၏ အကွာအဝေးတို့ကို ပိုမိုမှန်ကန်အောင် တိုင်းတာနိုင်ပေသည်။

ကျွန်ုပ်တို့နှင့် အနီးဆုံးဖြစ်သောကြယ်သည်ပင် ကျွန်ုပ်တို့နှင့် ခရီးအဆမတန် ဝေးကွာပေသည်။ ထိုကြယ်မှအလင်းသည် ကျွန်ုပ်တို့ထံသို့ရောက်အောင် ၄ နှစ်နှင့် ၄ လခန့် လာရ၏။ (အလင်းရောင်ဟူသည် တစက္ကန့်လျှင် မိုင်ပေါင်း ၁၈၆,၀၀၀ ပြေးသည်။) ထို့ကြောင့် နက္ခတ်ဆရာတို့သည် ကြယ်တို့၏အကွာအဝေးကို ပြဆိုသောအခါ 'အလင်းနှစ်' ဟူသောဝေါဟာရကို အသုံးပြုလေ့ရှိကြ၍၊ ကျွန်ုပ်တို့နှင့် အနီးဆုံးဖြစ်သောကြယ်ကို ကျွန်ုပ်တို့နှင့် အလင်းနှစ် ၄⅓ နှစ် ဝေးကွာသည်ဟု ပြဆိုကြသည်။ အလင်းနှစ်ဆိုသည်မှာ တနှစ်တွင် အလင်းရောင် ရောက်သော ခရီးမိုင်ပေါင်းကို ဆိုလိုသည်။ ပကတိမျက်စိဖြင့် မြင်ရသောကြယ်တို့အနက် တဝက်ကျော်မျှသည် ကျွန်ုပ်တို့နှင့် အလင်းနှစ်ပေါင်း ၄၀၀ ခန့် ဝေးကွာကြသည်။ ကျွန်ုပ်တို့နှင့် အလင်းနှစ်ပေါင်း ထောင်သောင်းမက ဝေးသော ကြယ်များလည်း အများပင်ရှိလေသည်။



ကြယ်တို့၏သဘာဝ

ကြယ်ကြီးတခုနှင့်အရံဂြိုဟ်များတည်နေဟန်ကိုဤပုံအတိုင်းတွေ့မြင်နိုင်ပေသည်။

စကြာဝဠာသည် လုံးဝန်းသောသဏ္ဌာန်ရှိသည်ဟု နက္ခတ်ဆရာတို့ ယူဆကြသည်။ ကြယ်များနှင့် နက်ဗျူလာများဖြင့် ပြွတ်ခဲနေသော နဂါးငွေ့လမ်းကြောင်းသည် ဤလုံးဝန်းကြီး၏ အလယ်လောက်တွင် ခါးပတ်ကြီးသဖွယ် တည်ရှိသည်။ နဂါးငွေ့တွင် ပါဝင်သောကြယ်များသည် မြောက်စွန်းဖက်သို့ တဖြည်းဖြည်းပါသွားသည်ကို တွေ့ရသည်။ ကျွန်ုပ်တို့နေစကြာဝဠာသည် ထိုခါးပတ်ကြီး၏ ဗဟိုချက်အနီးတွင် ရှိတန်ရာသည်ဟုယူဆကြသည်။

## ကြယ်တို့၏အလင်းရောင်

ကြယ်တို့သည် အပူရှိန်ပြင်းစွာဖြင့် တောက်လောင်လျက်ရှိသော ဓါတ်ငွေ့လုံးကြီးများဖြစ်၍၊ ကြယ်တို့၏သက်တမ်းကို မည်သူမျှ မတွက်ချက် မခန့်မှန်းနိုင်သေးချေ။ နက္ခတ်ဆရာတို့ စစ်ဆေးလေ့လာချက်အရ၊ ကြယ်သည် အသက်နုစဉ် ကြယ်ပျိုဘဝ၌ အရွယ်ပမာဏ အလွန်ကြီးမားသည်။ ထိုအခြေ၌ အပူရှိန်မှာ ဖါရင်ဟိုက်ဒီဂရီ ၂၅၀၀ ခန့်ရှိ၍ ဖျော့သောအနီရောင် ထွက်သည်။ ထိုမှတဆင့် တဖြည်းဖြည်းကျုံ့ဝင်ယင်း အပူရှိန်တက်လာပြီးလျှင်၊ အရောင်လည်း အနီမှနီဝါ၊ နီဝါမှအဝါ၊ အဝါမှအပြာ၊ အပြာမှဖြူပြာအထိ အဆင့်ဆင့်ပြောင်းလဲလာသည်။ ဖြူပြာရောင် ထွက်ချိန်၌ အပူရှိန် အမြင့်ဆုံးဖြစ်၏။ ထိုအဆင့်မှတဖန် အပူရှိန်လျော့ကျယင်း ဖြူပြာမှ အနီရောင်သို့အထိ အဆင့်ဆင့်အရောင်ပြောင်း၍ အသက်ကြီးရင့်သော ကြယ်အိုဘဝသို့ ရောက်သွားသည်။ အပူရှိန်များမှာ နီဝါရောင်ထွက်ချိန်၌ ဒီဂရီ ၅၀၀၀ ခန့်၊ အဝါရောင်ထွက်ချိန်၌ ဒီဂရီ ၁၀၀၀၀ ခန့်၊ ဖြူပြာရောင်ထွက်ချိန်၌ ဒီဂရီ ၃၅၀၀၀ မှ ၇၀၀၀၀ ခန့် အထိရှိမည်ဟု ခန့်မှန်းရလေသည်။

ကြယ်တို့မှထွက်နေသော အဖြူ၊ အပြာ၊ အဝါ၊ အနီရောင်များကို စပက်ထရိုစကုပ်ဖြင့်ကြည့်လျှင် မည်သည့်ဒြပ်စင်များ ကြယ်တို့၌ ပါဝင်သည်ကို သိရှိနိုင်သည်။ စပက်ထရိုစကုပ် (ရောင်စဉ်ကြည့်ကရိယာ) သည် ကြယ်မှလာသော အလင်းရောင်ကို ရောင်စဉ်ဖြာထွက်စေနိုင်၍၊ ထိုရောင်စဉ်များကို စစ်ဆေးခြင်းဖြင့် ကြယ်တို့၌ အပူရှိန်မည်မျှ ရှိကြောင်းကို တိုင်းတာနိုင်သည်။ (စပက်ထရမ်နှင့် စပက်ထရိုစကုပ် — ရှု။) ထို့ပြင် ကြယ်တို့၏သက်တမ်းနှင့် အရွယ်အစားများကိုလည်း ခန့်မှန်းနိုင်သည်။ အသက်နုသေးသော ကြယ်ပျိုသည် တဖြည်းဖြည်းကျုံ့ဝင်လာစဉ်၊ တချိန်တွင် နောက်ထပ်မကျုံ့တော့ဘဲ ရပ်တန့်သွားသည်။ ထိုအခြေ၌ ကြယ်၏သိပ်သည်းခြင်းသည် ရေ၏သိပ်သည်းခြင်းလောက်ရှိ၏။နောက်ဆုံးတွင် အနီရောင်ကိုထုတ်လွှတ်ယင်း လျှင်မြန်

စွာအေးပြီး သော်အလင်း ရောင် ပျောက်ကွယ် သွား တော့သည်ဟုဆိုလေသည်။

ဒုတိယတန်းလင်း သောကြယ် အတန်းအစားတွင် ပါဝင်သည့် ဓူဝံကြယ်သည် သုံးလုံးပူးနေသော ကြယ်ကြီးဖြစ်၏။ ထိုကြယ်မှာ ကျွန်ုပ်တို့ကမ္ဘာနှင့် ဝေးကွာလွန်း၍ မျက်စိဖြင့် ကြည့်စဉ် ကြယ်တလုံးကဲ့သို့သာ မြင်ရသည်။ ဓူဝံကြယ်သည် မြောက်စူးစူးအရပ်တွင် အစဉ်တည်ရှိသောကြောင့် အထူးသဖြင့် ရေကြောင်းခရီး သွားလာသူများသည် ဓူဝံကြယ်ကို ဂရုပြု မှတ်သား၍ လမ်းပြသဖွယ် အသုံးပြုခဲ့ကြရသည်။

ကြယ်များ အားလုံး အနက် အတောက်ပဆုံး သောကြယ်သည် ကား ဆီး ရီး ယပ် ခေါ် ကြယ်ဖြစ်သည်။ ထိုကြယ်သည် နေထက် ၃ ဆမျှကြီး၍၊ နက္ခတ္တဗေဒတွင် နာမည်ကြီးသော ကြယ်ပင်ဖြစ်သည်။ ထိုကြယ်သည် ကမ္ဘာနှင့် ပဋ္ဌမအနီးကပ်ဆုံးသော ကြယ်ဖြစ်၍၊ အခြားကြယ်များ နှင့် နှိုင်းစာလျှင် ကမ္ဘာနှင့် နီးကပ်စွာရှိသည်ဟု ဆိုနိုင်ပေသည်။ နီးကပ်သည်ဟုဆိုရသော်လည်း ထိုကြယ်သည်ကမ္ဘာမှမိုင်ပေါင်း ၅၁၀,၀၀၀,၀၀၀,၀၀၀,၀၀၀ (မိုင်ပေါင်းကုဋေ ၅၁ သိန်း) မျှ ဝေးကွာပေသည်။

ဆီးရီးယပ်ကြယ်၌ ထိုကြယ်ကိုလှည့်ပတ်၍နေသော ကြယ်ရံရှိသည်။ ထိုကြယ်ရံသည် ဆီးရီးယပ်ကြယ်မှ ထွက်သော အလင်းရောင်ကို ဖုံးကွယ်သွားအောင် ကြား ခံခြင်း မရှိပေ။ သို့ရာတွင် အယ်လဂေါ်ကြယ်၌ရှိသော ကြယ်ရံသည် အယ်လဂေါ်၏ အလင်းရောင်ကို ၂½ ရက်လော်က်တွင် တကြိမ် နာရီအနည်းငယ်မျှ ဖုံးကွယ်လေ့ရှိသည်။ အဓိပ္ပါယ်မှာ အယ်လဂေါ်ကြယ်သည် ၂½ ရက်လောက်တွင် တကြိမ်မှန်မှန်ကြတ်သည်ဟု ဆိုလိုပေသည်။ အယ်လဂေါ် ကြယ်ကဲ့သို့ ကြတ်လေ့ရှိသော ကြယ်ပေါင်း ၅၀ ကျော်ကို တွေ့ရ၏။ ပျမ်းမျှခြင်း အားဖြင့် ကြယ် ၄ လုံးရှိလျှင် ကြယ်တလုံးတွင် အရံပါသည်ဟု ခန့်မှန်းရ၍၊ ယနေ့အထိ ကြယ်ရံရှိသော ကြယ်အလုံးပေါင်း ၁၃,၀၀၀ ကျော်ကို တွေ့ရသည်။

ဗီဂါကြယ်သည် နက္ခတ္တဗေဒတွင် အလွန်စိတ်ဝင်စားဖွယ်ကောင်းသော ကြယ်ဖြစ်၏။ ဗီဂါသည် မြောက်ဖက်ကောင်းကင် ရှိ လိုင် ရာ နက္ခတ် တွင် အတောက် ပဆုံးကြယ် ဖြစ်၍ နက္ခတ်ဆရာတို့ တွက်ချက်တိုင်းတာကြည့်ချက်အရ ကျွန်ုပ်တို့၏နေစကြာဝဠာကြီး တခုလုံးသည် ထိုကြယ်ဆီသို့ တမိနစ်လျှင်မိုင်၇၅၀နှုန်း(တစက္ကန့်လျှင် ၁၂½ မိုင်နှုန်း) ခန့်နှင့် ရွေ့သွား လျက်ရှိသည်ဟုဆိုသည်။ တဖန် ယခုအခါ မြောက်စူးစူး အရပ်၌ တည်ရှိသော ဓူဝံကြယ်သည် နောက်နှစ်ပေါင်း ၁၂,၀၀၀ ခန့်ကြာလျှင် အခြားတနေရာသို့ ရွေ့သွားပြီး ယခုဓူဝံကြယ်ရှိရာ မြောက်အရပ်သို့ ဗီဂါကြယ် ရောက်လာလိမ့်မည်ဟုလည်း ခန့်မှန်းကြလေသည်။



စကြာဝဠာလုံးဝန်းကြီး၏ အလယ်လောက်တွင် ခါးပတ်သဖွယ်တည်ရှိသည့် ကြယ်များ၊ နက်ဗျူလာများဖြင့်ဖွဲ့တည်ခဲ့နေသော နဂါးငွေ့လမ်း

## နိုဗာခေါ်ကြယ်သစ်များ

တခါတရံ ကြယ်တို့သည် တောက်ပသော အလင်းရောင်ကိုဖြစ်ပေါ်စေ၍၊ ပေါက်ကွဲတတ်သည်။ အားကောင်းလှသည့် မှန်ပြောင်းဖြင့်ကြည့်မှ မြင်ရသောကြယ်သည် ပကတိမျက်စိဖြင့် မြင်နိုင်လောက်အောင် ရက်တရက်အရောင် ထတောက်ပြီးနောက် အရောင်ပျောက်ကွယ် သွားတတ်၏။ ထိုကြယ်မျိုးကို နိုဗာကြယ်ဟုခေါ်၍ အဓိပ္ပါယ်မှာ ကြယ်သစ်ဟုဆိုလိုသည်။ နိုဗာကြယ်သစ်တို့သည် ကြယ်ပျံများမဟုတ်

ဟယ်လီကြယ်တံခွန်နေသို့ဦးတိုက်သွားရာလမ်းနှင့်အကွာအဝေးကိုအတိုင်းအတာနှင့်ပြထားပုံ

ကြပေ။ (ဥက္ကာနှင့် ဥက္ကာခဲများ — ရှု။) ၁၉၁၀ ခုနှစ်၌ အက်ကီလာနက္ခတ်တွင် ကြယ်တလုံး ပေါက်ကွဲခဲ့ဘူးသည်။ ပေါက်ကွဲစအချိန်တွင် ထိုကြယ်သည် ဆီးရီးယပ်ကြယ်တမျှ တောက်ပပြီးနောက်၊ တဖြည်းဖြည်း အလင်းရောင်မှိန်၍ ကွယ်ပျောက်သွားလေသည်။ ၁၉၃၄ ခု ဒီဇင်ဘာလနှင့် ၁၉၃၅ ခု ဇွန်လအကြားတွင်လည်း နိုဗာ ဟားကျူးလစ်ခေါ် ကြယ်သစ်တလုံးသည် ၂ ကြိမ်မျှ ပေါက်ကွဲခဲ့ဘူးသည်ဟု သိရလေသည်။ အဆိုပါကြယ်တို့ ပေါက်ကွဲရသည့် အကြောင်းကိုယခုတိုင် နက္ခတ်ဆရာတို့ ဖြေရှင်း၍မရကြသေးပေ။

## နက်ဗျူလာ

အချို့ကြယ်တို့၏ အနီးအနားတွင် ဖူးယော်ယော် တိမ်တောင်တိမ်တိုက်များ သို့မဟုတ် မြူနှင်းများဆိုင်းနေသည်ဟု ထင်မှတ်ရသော အရာများကို တွေ့မြင်ရသည်။ ထိုအရာများကို မှန်ပြောင်းဖြင့်ကြည့်သောအခါ ပြွတ်ခဲနေသောကြယ်စုများကို တွေ့ရသည်။ ထိုကြယ်စုမျိုးအပြင် နက်ဗျူလာများလည်း ရှိသေးသည်။ နက်ဗျူလာများတွင် အလယ်ပိုင်း၌ ကြယ်များထူထပ်စွာ စုရုံးနေတတ်ကြသောကြောင့် ကြယ်လုံးကို ကွဲကွဲပြားပြား မမြင်ရလောက်အောင်ပင် လင်းနေတတ်ပေသည်။ ကမ္ဘာမြေနှင့် အနီးဆုံးဖြစ်သော နက်ဗျူလာများသည်ကျွန်ုပ်တို့ကမ္ဘာနှင့် အလင်းနှစ်ပေါင်း ၁၅,၀၀၀ ခန့်မျှ ဝေးကွာသည်။ ယခုအခါ ကောင်းကင်ထက်၌ ထိုနက်ဗျူလာမျိုး ၂၀၀ ခန့်မျှကို တွေ့မြင်ရလေပြီ။ ကမ္ဘာမြေမှ အဝေးဆုံးဖြစ်သော နက်ဗျူလာကား ကမ္ဘာမှ အလင်းနှစ်ပေါင်း ၂၀၀,၀၀၀ ခန့်ပင် ဝေးကွာလေသည်။ (နက်ဗျူလာ — ရှု။)

## ကြယ်မြွာပူးများ

ပကတိမျက်စိဖြင့် ကြည့်လျှင် တလုံးတည်းသာ မြင်ရ၍ မှန်ပြောင်းဖြင့်ကြည့်သောအခါ နှစ်လုံးပူးမြင်ရသော ကြယ်မြွာပူးများစွာရှိသည်။ ထိုကြယ်မြွာပူးမျိုးကို ဗိုင်နရီဟုခေါ်၍၊ ယနေ့အထိ ကောင်းကင်၌ ကြယ်မြွာပူးပေါင်း ၁၅,၀၀၀ ခန့်ကို မှတ်သားစာရင်းတင် ထားပြီးဖြစ်သည်။ အချို့ကြယ်မြွာပူးတွင် ကြယ် ၂ လုံးသည် အလွန်နီးကပ်စွာ ပူးလျက်ရှိရာ မှန်ပြောင်းဖြင့်ကြည့်သော်လည်း မသဲကွဲပေ။ ထိုအခါမျိုးတွင် စပက်ထရိုစကုပ်ဖြင့် ကြည့်ရှုစစ်ဆေးမှ အမြွာပူးဖြစ်နေမှန်းကို သိရလေသည်။

ကြယ်ဟူသော မြန်မာသုံးဝေါဟာရတွင် နေ လ မှတပါး အခြားဂြိုဟ်၊ နက္ခတ်တာရာတို့ ပါဝင်သည်။ ယခုသုံးစွဲနေသော ကြယ်ဟူသောဝေါဟာရမှာကား လောကဓါတ်သုံးဝေါဟာရသာဖြစ်ပေသည်။

**ကြယ်တံခွန်**။ ။ကြယ်တံခွန်ဆိုရာ၌ တခါတရံသာလျှင် မြင်ရသော မီးရှူးသဏ္ဍာန် အရောင်တန်းထွက်နေသည့်ကြယ်ကို ဆိုလိုသည်။ ကောင်းကင်တန်ဆာ တို့တွင် ကြယ်တံခွန်များသည် အံ့သြစရာကောင်းပေသည်။ ကြယ်တံခွန်တို့သည် ရုတ်တရက်ပေါ်လာတတ်၍၊ ရက်အနည်းငယ်သော်ရင်း

ရက်ပေါင်းများစွာသော်၎င်း ကြာအောင် မြင်မြင်ထင်ထင် ရှိပြီးနောက်၊ နေမှဝေးရာသို့ ဆုတ်ခွာပျောက်ကွယ်သွားတတ်ကြသည်။ ရှေးအခါက ကြယ်တံခွန်နှင့်စပ်လျဉ်း၍ ယုံမှတ်မှုများစွာရှိခဲ့၏။ များသောအားဖြင့် ကြယ်တံခွန်ပေါ်လာလျှင် ကပ်ဘေးများ ဆိုက်ရောက်တတ်သည်ဟု ယုံကြည်ခဲ့ကြသည်။

ကြယ်တံခွန်သည် မည်သို့မည်ပုံ ဖြစ်ပေါ်လာ၍၊ မည်သည့်အရပ်သို့ ထွက်သွားသည်ကို ယခုတိုင်ရှင်းလင်းစွာ မသိကြရသေးချေ။ ကြယ်တံခွန်ကို မှုန်မှိုမှုန်မွှား သဏ္ဌာန်က စတင်၍ မြင်ရတတ်သည်။ နေဆီသို့ချဉ်းကပ်လာသောအခါတွင်မှ ဦးခေါင်း၊ ဦးခေါင်း၏ နျူးကလီးယပ်အပိုင်းနှင့် အမြီးတို့သည် ကွဲကွဲပြားပြား ပေါ်လွင်လာသည်။ ကြယ်တံခွန်၏ဦးခေါင်းတွင် နျူးကလီးယပ်အပိုင်းမှာ ပိုမိုထွန်းလင်း၍၊ ထိုအပိုင်းကို ကိုးမားခေါ် မှုန်မွှားမွှားလင်းနေသောအပိုင်းက အိမ်မွှဲကာဝိုင်းရံထားသည်။

ကြယ်တံခွန်တွင် အမြီးသည် နေနှင့်နီးကပ်လာမှ ပေါ်လာတတ်သည်။ ထိုပြင် အမြီးသည် ဦးခေါင်းနောက်၌လည်း အမြဲမနေချေ။ နေဆီသို့ ကြယ်တံခွန်ချဉ်းကပ်သွားချိန်တွင် ကြယ်တံခွန်နောက်၌ အမြီးတန်းလျက်ရှိ၍၊ နေမှဝေးရာသို့ ထွက်ခွာသွားသောအခါ အမြီးသည် ကြယ်တံခွန်၏ဦးခေါင်းရှေ့သို့ ရောက်သွားသည်။ အခြားတနည်းပြောရသော် ကြယ်တံခွန်သည် နေဖက်သို့ အမြဲဦးခိုက်နေသည်ဟု ဆိုလိုသည်။ ဤကဲ့သို့ဖြစ်ရခြင်းမှာ နေ၏မျက်နှာပြင်တွင် လျှပ်စစ် ‘ဓါတ်မ’ ရှိ၍၊ ကြယ်တံခွန်၏အမြီးတွင်လည်း လျှပ်စစ် ‘ဓါတ်မ’ ရှိသဖြင့် နေ၏ ‘ဓါတ်မ’ က ကြယ်တံခွန်အမြီး၏ ‘ဓါတ်မ’ ကို တွန်းခွာသောကြောင့် ဖြစ်တန်ရာသည်ဟုဆိုသည်။

ကြယ်တံခွန်သည် နေရှိရာသို့ ပြန်လာသည်လည်းရှိသည်။ နောက်ထပ်ပြန်မလာတော့ဘဲ တခါတည်းအစအနပျောက်သွားသည်လည်းရှိသည်ဟု ယူဆခဲ့ကြသည်။ သို့ရာတွင်ယခုအခါ နက္ခတ်ဆရာအများကပင် ကြယ်တံခွန်ကို နေစကြာဝဠာတွင် အပါအဝင်ဖြစ်သည်ဟူ၍၎င်း၊ ယင်းသည် နေနှင့်ဂြိုဟ်များ ဖြစ်ပေါ်ရာ နက်ဗျူလာကြီး၏ ပါးသောအစွန်းအနားမှ ပေါ်ပေါက်လာဟန် ရှိသည်ဟူ၍၎င်း ယုံကြည်ယူဆလာကြလေပြီ။ ကမ္ဘာမှမြင်ရသော ကြယ်တံခွန်တို့သည် ဂြိုဟ်များကဲ့သို့ပင် ကိုယ်ပိုင်လမ်းကြောင်းများဖြင့် နေကိုလှည့်ပတ်နေကြသည်။ သို့သော် ကြယ်တံခွန်၏လမ်းကြောင်းကား ဂြိုဟ်တို့၏ ဘဲဥပုံလမ်းကြောင်းတို့ထက် များစွာပို၍ရှည်လျားသည်။ ယင်းသို့လှည့်ပတ်နေကြယင်း ကြယ်တံခွန်သည် နေရှိရာသို့ ပြန်လည်ရောက်ရှိ လာမည်ဟု ယူဆကြရာ၊ ဤသို့ယူဆသည့်အတိုင်းလည်း နေရှိရာသို့ အချိန်မှန်ပြန်လှည့်လာသော ကြယ်တံခွန်များကို တွေ့မြင်ရပေသည်။ ကြယ်တံခွန်များကို အချိန်ကြာကြယ်တံခွန်နှင့် အချိန်တိုကြယ်တံခွန်ဟူ၍ ၂ မျိုး ၂ စားခွဲခြားထားသည်။ အချိန်ကြာကြယ်တံခွန်သည် အလွန်တောက်ပ၍ သာမန်မျက်စိနှင့်မြင်နိုင်သော အမြီးပါရှိသည်။ အချိန်တိုကြယ်တံခွန်ကို မှန်ပြောင်းနှင့် ကြည့်မှသာမြင်နိုင်၍၊ ထိုကြယ်တံခွန်မျိုးတွင် အမြီးမပါသလောက် ဖြစ်သည်ကိုတွေ့ရ၏။

၁၆၈၂ ခုနှစ်တွင် နာမည်ကျော်အင်္ဂလိပ်လူမျိုး သင်္ချာနှင့် နက္ခတ်ဆရာကြီး အက်ဒမန်ဟယ်လီသည် အလွန်တောက်ပသော ကြယ်တံခွန်ကြီး တလုံးကို ကြည့်ရှုစစ်ဆေးပြီးနောက်၊ ထိုကြယ်တံခွန်သည် နောက် ၇၆ နှစ်ကြာ၍၊ ၁၇၅၈ ခုနှစ်သို့ရောက်လျှင် ကမ္ဘာမှမြင်နိုင်အောင် ပြန်လာလိမ့်မည်ဟု ကြိုတင်အဟောထုတ်ခဲ့လေသည်။ ဤသို့အဟောထုတ်ခဲ့သည့်အတိုင်း ထိုကြယ်တံခွန်သည် ၁၇၅၈ ခုနှစ်၌ ပြန်လည်ရောက်ရှိလာပေသည်။ ဟောကိန်းထုတ်ခဲ့သူ နက္ခတ်ဆရာကြီး၏ အမည်ကိုအစွဲပြု၍၊ ထိုကြယ်တံခွန်ကိုလည်း ဟယ်လီကြယ်တံခွန်ဟု ခေါ်ကြသည်။

ဟယ်လီကြယ်တံခွန်သည် ၇၆ နှစ်တွင်တကြိမ် ကမ္ဘာသို့ချဉ်းကပ်လာ၍၊ နောက်ဆုံးအကြိမ် ပေါ်ခဲ့သောနှစ်မှာ ၁၉၁၀ ခုနှစ်ဖြစ်လေသည်။ အခြားထင်ပေါ်ကျော်ကြားသော ကြယ်တံခွန်များမှာ အင်ကီကြယ်တံခွန်၊ ဗီအဲလာကြယ်တံခွန်၊ ဒိုနာတီးကြယ်တံခွန်တို့ဖြစ်ကြသည်။ အင်ကီကြယ်တံခွန်သည် ၃ နှစ်နှင့် ၆ လကြာတိုင်း ကမ္ဘာသို့ တကြိမ်ချဉ်းကပ်လာသည်။ ဗီအဲလာကြယ်တံခွန်သည် ၁၈၄၆ ခုနှစ်တွင် ၂ ခြမ်းကွဲသွားပြီးနောက်၊ အစိတ်စိတ်အမွှာမွှာ ထပ်မံ၍ကွဲထွက်သွားပြန်သည်။ ဒိုနာတီးကြယ်တံခွန်မှာ ၁၉ ရာစုအတွင်းပေါ်သော ကြယ်တံခွန်တို့အနက် အထွန်းလင်းဆုံး ကြယ်တံခွန်ဖြစ်၏။

ကြယ်တံခွန်တို့သည် အရွယ်ပမာဏ အားဖြင့် အလွန်အမင်း ကြီးမားကြပေသည်။ ကြယ်တံခွန်၏ဦးခေါင်းမှာ မိုင်ပေါင်း ၁၀,၀၀၀ မှ ၁၀၀,၀၀၀ အထိ ကျယ်ပြန့်၍၊ အမြီးမှာ မိုင်ပေါင်းအသိန်းအသန်း ရှည်လျားသည်။ ကြယ်တံခွန်ဦးခေါင်း၏ နျူးကလီးယပ်အပိုင်းသည် မိုင် ၃၊ ၄ ရာမှ မိုင် ၇ ထောင် ၈ ထောင်အထိ ကျယ်ပြန့်သည်။ ကြယ်တံခွန်တို့သည် အေးစက်နေသော အလင်းမဲ့ဒြပ်ထုများ ဖြစ်၍၊ ယင်းတို့တွင် အစိုင်အခဲရေခဲဓါတ်ငွေ့များပါဝင်ကြသည်။ ကြယ်တံခွန်တို့သည် နေသို့ချဉ်းကပ်လာမှ အလင်းရောင်ထွက်လာသည်။ ထိုအလင်းရောင်သည် နေရောင်မှပြန်ဟပ်သော အလင်းရောင်ပြန်လော၊ သို့မဟုတ် နေပူရှိန်ကြောင့် ပူပြင်းတောက်လောင်ရာမှ ထွက်လာသောအလင်းရောင်လော ဆိုသည်ကိုမူ အတိအကျ မသိရသေးပေ။

နေနှင့်ဝေးချိန်၌ ကြယ်တံခွန်တို့သည် နှေးကွေးစွာရွေ့လျားကြသော်လည်း နေသို့ချဉ်းကပ်လာသောအခါ

တစက္ကန့်တွင် မိုင် ၃၀၀ (တမိနစ်တွင် မိုင်ပေါင်း ၁၈၀၀၀) နှုန်း ပေါက်အောင်ပင် ကြောက်ခမန်းလိလိ လျင်မြန်လာတတ်ပေသည်။ ကြယ်တံခွန်နှင့် ကျွန်ုပ်တို့ကမ္ဘာ ဝင်တိုက်မိသည့်အခါမျိုးနှင့် ကြုံကြိုက်ခဲ့ဘူးသော်လည်း၊ ကမ္ဘာ၌ မည်သို့မျှ ဘေးအန္တရာယ်မဖြစ်ခဲ့ပေ။ ဝင်တိုက်မိမှန်းကိုပင် မသိရချေ။

**ကြယ်ဖိုးကြီးနယ်**။ ။ကြယ်ဖိုးကြီးနယ်မှာ ကယားပြည်နယ် အနောက်ပိုင်းတွင် ပါဝင်သောနယ်တနယ် ဖြစ်သည်။ မြောက်ဖက်တွင် ဘောလခဲမြောက်ပိုင်းနယ်နှင့် မိုးဗြဲနယ်၊ အရှေ့ဖက်တွင် ကန္တာရဝတီနယ်၊ တောင်ဖက်တွင် ဘောလခဲတောင်ပိုင်းနယ်နှင့်တောင်ငူခရိုင်၊ အနောက်ဖက်တွင်တောင်ငူခရိုင်တို့ရှိသည်။ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၇၀၀ ခန့်ဖြစ်လေသည်။

ပွန်ချောင်း၏ လက်တက်ဖြစ်သော လျဒုချောင်းမှာ အရှေ့ဖက်နယ်နိမိတ်ဖြစ်၍ ပွန်ချောင်း၏အခြားလက်တက်တခုဖြစ်သော ကျောက်ကြီးချောင်းခေါ် ထူးချောင်းမှာ တောင်ဖက်နယ်နိမိတ် ဖြစ်၏။ အခြားလက်တက် တခုဖြစ်သောနန်းဖဲချောင်းသည် ဤနယ်ကို ဖြတ်သန်းစီးဆင်း၏။ အနောက်ဖက်တွင် တောတောင်ပိုမိုထူထပ်၍ အရှေ့ဖက်ပိုင်းတွင် မြေပြန့်အနည်းငယ်ရှိသည်။ ထိုမြေပြန့်ကိုဖြတ်၍ ဘောလခဲမှ မြောက်ဖက်နောင်ပုလဲ၊ လွယ်ကော်အထိ လမ်းဖေါက်လုပ်ထားသည်။

၁၉၅၁ ခုနှစ်တွင် ကြယ်ဖိုးကြီးနယ်၏ လူဦးရေမှာ ၁၄,၅၀၀ ဟုခန့်မှန်းရလေသည်။ ယခုအခါ လူဦးရေတိုးတက်ပိုမိုလိမ့်မည်ဟု ထင်မှတ်ရသည်။ နေထိုင်သော လူမျိုးများမှာ ကယား၊ ဘရက်နှင့်မနုမနောတို့ဖြစ်၍ ခရစ်ယန်နှင့် နတ်ကိုးကွယ်သူတို့ပေါများကြ၏။

ကြယ်ဖိုးကြီးနယ်တွင် တိုက်နယ် ၆ ခု၊ ကျေးရွာ ၁၂၄ ရွာပါဝင်၍ အိမ်ခြေ ၃၆၁၄ အိမ်ရှိသည်။ ကြယ်ဖိုးကြီးနယ်ကို စတင်တည်ထောင်သောမင်းမှာ ဂေးဖိုးဒူး မင်းဖြစ်သည်။ ဂေးဖိုးဒူးအမည်မှာ ကယားဘာသာစကားဖြစ်၍ ပြည်နယ်အပွင့်ကြီးဟု အဓိပ္ပါယ်ရသည်။ ထိုဂေးဖိုးဒူးမင်းကို အစွဲပြု၍ ကြယ်ဖိုးကြီး ဖြစ်လာသည်။ ရှေးအခါက ကြယ်ဖိုးကြီးနယ်၏မြို့တော်မှာ ဘောလခဲမှ နောင်ပုလဲနယ်သို့သွားသော ခရီးလမ်း ထက်ဝက်လောက်တွင်ရှိသော ကြယ်ဖိုးကြီးမြို့ဖြစ်ခဲ့သော်လည်း မင်းခြောက်ဆက်မြောက်ဖြစ်သော ခွန်ဆူးလက်ထက်ကစ၍ ဖရူးဆိုးမြို့ သည် မြို့တော်ဖြစ်လာသည်။ ဖရူးဆိုးမြို့သည် မော်ချီးလွယ်ကော် လမ်းမကြီးပေါ်တွင်တည်ရှိလေသည်။

ကြယ်ဖိုးကြီးနယ်မှမင်းများသည် မြန်မာသက္ကရာဇ် ၁၂၁၄ ခုနှစ်နောက်ပိုင်းတွင် မြန်မာမင်းများနှင့်၎င်း၊ အင်္ဂလိပ်အစိုးရနှင့်၎င်း မဟာမိတ်ဖွဲ့ကြသည်။ ပြည်ထောင်စုမြန်မာနိုင်ငံ လွတ်လပ်ရေးရသောအခါ ကြယ်ဖိုးကြီးနယ်ကို အုပ်ချုပ်ရသော ယာယီမြို့စားမှာ စောရွှေဖြစ်၏။ သို့ရာတွင် ကယားပြည်နယ်နှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်ကို သစ္စာဖေါက်ဖျက်၍ ပုန်ကန်သဖြင့် စောရွှေကို တိုက်ထုတ်မောင်းနှင်ပြီးနောက် ၁၉၅၀ ပြည့်နှစ်တွင် ကြယ်ဖိုးကြီးနယ်လူထု၏ ဆန္ဒအရ ကယားအမျိုးသားဖြစ်သော ဦးချစ်ပန်အား ကြယ်ဖိုးကြီးနယ်အုပ်အဖြစ် တင်မြှောက်ကြသည်။ (ကယားပြည်နယ် — ရှု။)

**ကြယ်သီးများ**။ ။ယခုအခါ လူတိုင်းလိုပင် ကြယ်သီးများကို တွေ့နေမြင်နေ သုံးနေကြသည်။ လူမျိုးတိုင်းသည် မိမိတို့၏အဝတ်အစားတွင် ကြယ်သီးများကို တပ်ဆင်ကြ၏။ သို့ရာတွင် ကြယ်သီးအကြောင်းကို ကျကျနနသိသူကား ရှားလှသည်။ ကြယ်သီးသည် အရွယ်အားဖြင့်သေးငယ်၍ အသုံးအားဖြင့် နုပ်ဖွဲ့သော်လည်း ကြယ်သီးအကြောင်း ရေးသားစရာ အချက်အလက်များစွာ ရှိပေသည်။

လွန်ခဲ့သော နှစ်ပေါင်းများစွာကပင် လူများသည် မိမိတို့၏ဝတ်စားတန်ဆာများ၌ ကြယ်သီးကိုတပ်ဆင်အသုံးပြုခဲ့ကြောင်း ခိုင်လုံသောအထောက်အထားများတွေ့ရသည်။ ဗြိတိန်နိုင်ငံတွင် ရှေးဟောင်းပစ္စည်းများကို တူးဖေါ်ရာ၌ ကြယ်သီးများကို တွေ့ရသည်။ ရှေးခေတ်အီဂျစ်နိုင်ငံတွင်လည်း ကြယ်သီးများကို သုံးစွဲကြကြောင်း သိရသည်။ ကြယ်သီးများကို အသုံးပြုကြသည်မှာ အဝတ်အစားများကိုယ်တွင်ချပ်ယပ်စေရန်သော်၎င်း၊ အဝတ်အစားများ ပိုမို၍ တင့်တယ်လာစေရန်သော်၎င်းဖြစ်သည်။

လူများသည် အပူအအေးဒဏ်မှခံနိုင်ရန် အဝတ်များကို ဝတ်ဆင်စပြုလာကြသည့်အခါတွင် ကြယ်သီးကို မပြုလုပ်တတ်ကြသေးချေ။ အပင်များမှ ရသောဆူးကိုသာ လိုသောနေရာတွင် မြဲစေရန်အသုံးပြုကြ၏။ ထိုအခါ မိမိတို့အလိုရှိသော ဆူးအရွယ်အစားနှင့် အရေအတွက်ကို လွယ်ကူစွာပြုလုပ်၍ အသုံးပြုနိုင်ကြလေသည်။ လက်လုပ်ဆူးများမှတဖန် ဝတ်ဆင်သောသားရေစ သို့မဟုတ် အဝတ်စတွင်ပင် အပေါက်ကလေးများဖေါက်၍ အပေါက်ကလေးများကို ကြိုးကလေးများဖြင့် ချည်နှောင်ပြီးလျှင် ကြယ်သီးသဘောမျိုးသက်ရောက်အောင် အသုံးပြုလာကြသည်။ အချို့သော လူရိုင်းများမှာမူ ယနေ့တိုင်အောင် သူတို့၏အဝတ်အစားများကို ဆူးဖြင့်တွယ်တုန်းပင်ရှိသေးသည်။ ယဉ်ကျေးသောသူတို့မှာကား တွယ်အပ်များ ကြိုးပေါက်များထက် ကြယ်သီးများကို တနေ့တခြားအသုံးများလာကြလေသည်။

ကြယ်သီးကို အင်္ကျီဖောင်းဗီတို့တွင် တပ်ဆင်ကြခြင်းမှာ အသုံးပြုရန် သက်သက်သာမဟုတ်၊ အလှအပအတွက်

တန်ဆာဆင်ခြင်းလည်းဖြစ်ပေသည်။ ယခုခေတ်တွင် ဝတ်ဆင်ကြသော ကုတ်အင်္ကျီ ယူနီဖောင်းအင်္ကျီ စသည်တို့တွင် ကြယ်သီးများ ကို လိုသည်ထက်ပို၍ အလှအပအတွက် တပ်ဆင်ကြလေသည်။

ရှေးအခါက ကြယ်သီးများသည် အလွန် အဖိုးတန်လေသည်။ အကြောင်းမူကား လူကုံထံများသည် ကြယ်သီးကို ရွှေငွေကျောက်မျက်ရတနာများဖြင့် ပြုလုပ်ကြသောကြောင့်ဖြစ်၏။ ထို့ပြင် ရှေးအခါက ကြယ်သီးတလုံးဖြစ်မြောက်ရန်အတွက် အချိန်ကြာမြင့်စွာ လုပ်ကိုင်ရသည်။ ယခုခေတ်တွင် သိပ္ပံပညာထွန်းကားမှု၏ ကျေးဇူးကြောင့် တနေ့လျှင် ကြယ်သီးအလုံးပေါင်း မြောက်မြားစွာထွက်အောင် ပြုလုပ်နိုင်ကြသည်သာမက ကြယ်သီးလုပ်သည့် ပစ္စည်းတို့မှာလည်း အမျိုးမျိုးလာလေသည်။ ယင်းတို့မှာ ရွှေ၊ ငွေ၊ ကြေးနီ၊ ကြေးဝါ၊ ဒန်၊ သံ၊ ဖန်၊ သစ်သား၊ ဝါး၊ စက္ကူ၊ အဝတ်၊ တိရစ္ဆာန်ဦးချို၊ အစွယ်၊ ခွာ၊ အရိုး၊ ကော်ဖတ်၊ ကနုကမာ၊ ပုလဲ၊ ပင်လယ်ခရုခွံ၊ လိပ်ခွံ၊ ကျဲကော် စသည်တို့ဖြစ်သည်။ ယခုအခါ ပလပ်စတစ်ကြယ်သီးများကို အသုံးများကြသည်။

ကြယ်သီးအမျိုးမျိုးတွင် ကနုကမာစစ်စစ်ကြယ်သီးမှာ အလွန်ရှားသည်။ သို့ရာတွင် ရေကြည်ကနုကမာ သို့မဟုတ် ခရုခွံကြယ်သီးများကို အမေရိကန် ပြည်ထောင်စုတွင် အမြောက်အမြား လုပ်ကိုင်ကြသည်။ ဂျပန်နိုင်ငံမှလည်း ကနုကမာကြယ်သီးများထွက်၏။ သမုဒ္ဒရာပုလဲဖြူ ကြယ်သီးများကို သြစတြေးလီးယားတိုက် အနောက်ဖက်ပင်လယ်တွင်းမှရရှိသော ပုလဲခွံအဖြူ များမှလုပ်သည်။ ပုလဲဝါ ကြယ်သီးများမှာ မနီလာမြို့မှထွက်၍ ပုလဲနက်ကြယ်သီးများကို တဟီးတီးကျွန်းမှရရှိသည်။ ထိုပုလဲကြယ်သီးများမှာ အဖိုးတန်သောကြောင့် ငွေကြေးတတ်နိုင်သူလူကုံထံများသာဝယ်ယူ တပ်ဆင်လေ့ရှိသည်။

အမေရိကန်ပြည်ထောင်စုတွင် တားဂွားခေါ် အသီးခွံများကို ကြယ်သီးပြုလုပ်ကြ၏။ ထိုတားဂွားသီးတို့ကို အက်ကွာဒေါ်၊ ကိုလံဘီယာနှင့် ပနားမားနိုင်ငံများမှ အမြောက်အမြားရရှိ၍ အမေရိကန်ပြည်ထောင်စုသို့ ယူဆောင်ပြီးနောက် သစ်သီးခွံကြယ်သီးပေါင်း တနှစ်တနှစ်လျှင် သန်းပေါင်းများစွာ ပြုလုပ်ကြလေသည်။

ကြယ်သီးများ အကြီးအကျယ်ပြုလုပ်သော အခြားနိုင်ငံများလည်းရှိသေးသည်။ အင်္ဂလန်ပြည်ရှိ ဗာမင်ဂမ်မြို့တွင် လွန်ခဲ့သည့်နှစ်ပေါင်း ၂၅၀ ခန့်အချိန်ကပင်စ၍ ကြေးဝါ ကြယ်သီးများကို ပြုလုပ်ခဲ့လေသည်။ ဖန်ကြယ်သီးများကို အများအားဖြင့် ဥရောပတိုက် ချက်ကိုဆလိုဗားကီးယားနိုင်ငံတွင်လုပ်သည်။ သို့ရာတွင် ဖန်ကြယ်သီးများ ပြုလုပ်သည့်နည်းကို အခြားနိုင်ငံများသို့ အသိမပေးဘဲ အထူးလျှို့ဝှက်ထားလေသည်။

လူများသည် ကြယ်သီးကို စတင်အသုံးပြုတတ်လာကြသည့် အချိန်ကစ၍ ရေလဲအမျိုးမျိုးနှင့် အသုံးချလာခဲ့ကြသည်။ အလှအပအတွက်သာမက အဆင့်အတန်းကိုပြရန်လည်းကြယ်သီးများတပ်ဆင်ကြ၏။ ရှေးအခါက ပစ္စည်းဥစ္စာ ချမ်းသာကြွယ်ဝသူများသည် အဖိုးထိုက်သော ရွှေကြယ်သီး၊ ငွေကြယ်သီး၊ ကျောက်မျက်ရတနာကြယ်သီးများကို တပ်ဆင်ကြ၍ ဆင်းရဲသူများကိုကား မည်သည့်ကြယ်သီးကိုမျှ မဆင်ယင်ရဟုတားမြစ်ထားသည်။ အဘယ်ကြောင့်ဆိုသော် ထိုအခါက လူတယောက်၏အဆင့်အတန်းကို ထိုသူ၏ကိုယ်တွင် တပ်ဆင်ထားသော ကြယ်သီး၏တန်ဖိုး အနည်းအများပေါ်တွင် မူတည်ကာ ဆုံးဖြတ်ကြသောကြောင့်ဖြစ်၏။

လူတယောက်၏ဂုဏ်နှင့် အဆင့်အတန်းကို ထိုသူတပ်ဆင်သောကြယ်သီးဖြင့် ပြသသည့်အလေ့အထကို ယနေ့တိုင်တွေ့နိုင်သေးသည်။ သက်သေပြရသော် ရဲဌာန အမှုထမ်းများသည် မိမိတို့ဝတ်ဆင်သောယူနီဖောင်းအင်္ကျီတွင် ရာထူးအဆင့်အတန်းကို ဖေါ်ပြသောကြယ်သီးမျိုးကို တပ်ဆင်ကြ၏။ ထို့အပြင် မီးရထားဌာနအမှုထမ်းများ၊ သစ်တောဌာနအမှုထမ်းများ၊ ကြည်းရေလေတပ်သားများ နှင့်အခြားပြည်သူ့ဝန်ထမ်းများ သည်လည်း မိမိတို့ဌာနရာထူးအဆင့်အတန်းစသည်တို့ကို ဖေါ်ပြသောကြယ်သီးများ တပ်ဆင်ကြသည်ကိုတွေ့ရ၏။ အချို့နိုင်ငံများတွင် ကျောင်းသူကျောင်းသားကလေးများသည် မိမိတို့သင်ကြားနေသော ကျောင်းအတန်းစသည်တို့ကို ဖေါ်ပြသောကြယ်သီးများကို တပ်ဆင်ကြလေသည်။ ကမ္ဘာပေါ်တွင် ကြယ်သီးကိုရှင်းရှင်း



မြန်မာအမျိုးသမီးတို့ ဆင်ယင်လေ့ရှိသည့်ကြယ်သီးများ



ရုပ်လုံးများဖေါ်ထားသောယခုခေတ်သုံးကြယ်သီးအချို့

အသုံးမပြုဘဲနေသူကား လွန်စွာပင်နည်းပါးလှသည်။ သို့ရာတွင် ထိုသူမျိုးလုံးဝမရှိဟူ၍ကား မဆိုနိုင်ပေ။ ကနေဒါနိုင်ငံရှိ ဒူကိုဗော့လူမျိုးတို့သည် မည်သည့်အခါမျှ ကြယ်သီးကိုတပ်ဆင်ခြင်းမပြုကြပေ။ ထိုသူတို့၏ အယူဝါဒဘာသာတရားက သူတပါး၏အသက်ကိုမသတ်ရန် ကျပ်တည်းစွာတားမြစ်ထားသောကြောင့် တိရစ္ဆာန်များ၏ အရိုးအစွယ် ဦးချို အခွံစသည်တို့နှင့် ပြုလုပ်လေ့ရှိသောကြယ်သီးများကို လုံးဝအသုံးမပြုဘဲ တွယ်အပ်များ ချိတ်များကိုသာ ကြယ်သီးအစား အသုံးပြုကြလေသည်။

မြန်မာလူမျိုးတို့သည်လည်း ကြယ်သီးများကို အသုံးပြုကြသည်ဖြစ်ရာ မြန်မာနိုင်ငံတွင် ကြယ်သီးများကို အများအပြားပင် လုပ်ကိုင်ကြ၏။ စိန်၊ ကျောက်စိမ်း၊ ဥဿဖယား၊ သလင်းစသော တွင်းထွက်ကျောက်များအပြင် နိုင်ငံခြားမှလာသော ချက်ကျောက်များ၊ ဖန်များကိုလည်း ကြယ်သီးပြုလုပ်ကြ၏။ ထိုပြင်ကြိုးထိုးကြယ်သီးများကိုလည်း မြန်မာယောကျ်ားမိန်းမ အင်္ကျီများတွင် တပ်ဆင်ကြသေး၏။ စစ်ပြီးခေတ်တွင် ရွှေမှုန်ကြယ်သီးနှင့် ပလပ်စတစ်ကြယ်သီးများ ခေတ်စားလာသည့်အလျောက် ထိုကြယ်သီးမျိုးများကိုလည်း ပြုလုပ်ကြသေးသည်။

ကျောက်စိမ်း၊ သလင်း၊ ဥဿဖယားစသော တွင်းထွက်ကျောက်များကို ကြယ်သီးပြုလုပ်ရာ၌ ပထမကျောက်ရိုင်းတုံးကို စက်ဖြင့် လိုသလောက်အရွယ်အစားစား ဖြတ်ယူသည်။ ထိုမှတဆင့် ပုံကြမ်းလောင်း အကွက်ဖေါ်သည်။ အကွက်ဖေါ်ပြီးကျောက်ကို အရောင်ထွက်အောင် စက်ဖြင့်သွေး၍အရောင်တင်သည်။ နိုင်ငံခြားမှလာသော ချက်ကျောက်များတွင် ပုံကြမ်းလောင်းပြီး အတုံးကလေးများလည်းရှိသည်။ ပုံကြမ်းမလောင်းရသေးသောအရှည် ၂ လက်မနန့်ရှိ ကျောက်တုံးများလည်းရှိသည်။ ကျောက်တုံးရှည်ကလေးများကို ထိပ်တည့်တည့်မှ ဆတ်၍ခွဲလိုက်သောအခါ ၂ ခြမ်းကွဲသွားသည်။ ထိုမှတဆင့် ပုံကြမ်းလောင်းခြင်း၊ အကွက်ဖေါ်ခြင်းနှင့် အရောင်တင်ခြင်းများကို တွင်းထွက်ကျောက်များ လုပ်သည့်နည်းတူ ပြုလုပ်၏။ နိုင်ငံခြားမှလာသော ပုံကြမ်းလောင်းပြီးကျောက်တုံးလေးများကိုလည်း ထိုနည်းတူပင် အကွက်ဖေါ်ခြင်း အရောင်တင်ခြင်းများပြုလုပ်သည်။ ဖန်ကြယ်သီးများလုပ်ရာတွင် ဖန်ကိုချက်၍ ပုံလောင်းပြီးမှအရောင်တင်သည်။ ဖေါ်ပြခဲ့ပြီးသော ကြယ်သီးများကို အများအားဖြင့် မြန်မာအမျိုးသမီးများအသုံးပြုကြ၏။

စစ်ပြီးခေတ် မြန်မာအမျိုးသမီးများ အသုံးပြုတပ်ဆင်လာသော ရွှေမှုန်ကြယ်သီးကား နိုင်ငံခြားမှလာသောရွှေမှုန်ကျောက်တုံးကြီးကို တွင်းထွက်ကျောက်များနည်းတူ လိုသလောက်အရွယ်ကိုဖြတ်၍ ပုံကြမ်းလောင်းခြင်း အကွက်ဖော်ခြင်း အရောင်တင်ခြင်းများကိုပြုလုပ်၍ယူသည်။

ပလပ်စတစ်ကြယ်သီးများကိုလုပ်ရာ၌မူ နိုင်ငံခြားမှ မှာယူသော ပလပ်စတစ်မှုန့် ရောင်စုံများကို လျှပ်စစ်ဓါတ်အားဖြင့် ဆက်သွယ်ထားသော ပုံသွင်းစက်ထဲသို့ ထည့်လိုက်သည်။ အမှုန့်များအရည်ပျော်၍ အောက်တွင်ခံထားသော ပုံစံခွက်ထဲသို့ကျသွားခြင်းဖြင့် ကြယ်သီးကလေးများဖြစ်လာသည်။ ယင်းကြယ်သီးများကို အပေါက်ဖေါက်ခြင်း၊ မညီညာသော အစွန်းအစများကို ညှိခြင်းများကို လက်ဖြင့်ပြုလုပ်သည်။ ပလပ်စတစ် အမှုန့်မဟုတ်ဘဲ ပလပ်စတစ်အပြားကို လုပ်သောကြယ်သီးများလည်း ရှိသေးသည်။ နိုင်ငံခြားမှမှာယူသော ပလပ်စတစ်ပြားများကို လိုသောပုံစံရေးပြီး လျှပ်စစ်ဓါတ်အားနှင့် ဆက်သွယ်ထားသောစက်တွင်ဖြတ်ခြင်းအားဖြင့် ကြယ်သီး များရနိုင်သည်။ ယင်းပလပ်စတစ်ကြယ်သီးများကို ယောကျ်ားမိန်းမ မရွေး အသုံးပြုနိုင်ရန် ပုံအမျိုးမျိုး ပြုလုပ်ကြလေသည်။

**ကြော့၊ ဦး။** ။(၁၂၀၁–၁၂၅၃) စုံနသာမြိုင်ရှာပုံတော်ကြီး သီချင်းကို ကလေးလူကြီး တိုင်းလိုလိုပင် ကြားဘူးကြသည်။ ဤသီချင်းမှာ မည်မျှလူအသိများသနည်းဟူမူ ပစ္စည်းတစုံတခုပျောက်ရှု၍ ရှာဖွေရလျှင်ပင် ရှာပုံတော်ကြီးနှင့် ရှာနေရသည်ဟု ပြောဆိုကြသည်ကို ထောက်၍သိနိုင်သည်။ ရှာပုံတော်ကြီးဆိုလျှင် စုံနံ့သာမြိုင်ကိုဆိုလိုကြောင်း သိကြသည်။ ရှာပုံတော်ကြီးဟုပညတ်သည်မှာ လင်ပျောက်၊ မယားပျောက်၊ ချစ်သူရည်းစားများ ပျောက်ရာတွင် ရှာဖွေရပုံကို ဖွဲ့နွဲ့ထားသောကြောင့်ဖြစ်သည်။ ရှေးက ရှာပုံတော်ကြီးတေးအသွားမျိုးကို ငိုချင်းရှည်ကြီးဟုခေါ်သည်။ ထိုမျှထင်ရှားသောသီချင်းကို မြန်မာ့ဂန္ထဝင်ပန်းဥယျာဉ်၌ စိုက်ပျိုးပေးသူမှာ ဦးကြော့ဖြစ်သည်။

ဦးကြော့မှာ တောင်တွင်းကြီးဦးကြော့၊ နတ်မောက် ဦးကြော့၊ စာတော်ဖတ်ဦးကြော့၊ စာရေးတော်ကြီးဦးကြော့၊ ဝန်စာရေးဦးကြော့၊စုံနံ့သာမြိုင်ဦးကြော့ဟူ၍နာမည်အမျိုးမျိုးဖြင့် ထင်ရှားလေသည်။ ထိုစာဆိုသည် နတ်မောက်မြို့တောင်ဖက် ၂ မိုင်ခန့်အကွာ ကိုင်းရွာတွင် သက္ကရာဇ် ၁၂၀၁ ခုနှစ်တွင် ဖွားမြင်လေသည်။ ဖခင်မှာ အသည်မျိုးရိုးဖြစ်သော ဦးအင်းဖြစ်၍ မိခင်မှာ မယ်ထယ်ဖြစ်၏။

ဦးကြော့၏ဆွေစဉ်မျိုးဆက်မှာ အောက်ပါအတိုင်းဖြစ်၏။ နတ်မောက်မြို့တွင် ဖိုးကန်နှင့် ဖိုးရွှေဥဟု လှည်းကုန်သည်ညီနောင် နှစ်ယောက်ရှိခဲ့ကြသည်။ ဖိုးကန်၌ သားသမီး ၈ ယောက်ထွန်းကားရာ ၆ ယောက်မြောက်သမီးမှာ မယ်နိုးဖြစ်၏။ မယ်နိုး၏သမီးမှာ မယ်ထယ်ဖြစ်၍ အသည်မျိုးရိုး ဦးအင်းနှင့် အိမ်ထောင်ကျရာ သား ၇ ယောက်၊ သမီးတယောက်မြင်သည်။ ဦးကြော့သည် ၆ ယောက်မြောက်သား ဖြစ်သည်။

ဖိုးရွှေဥတွင် ဖိုးကြွက်နှင့်ဦးကျော်ဇံ (နေမျိုးသက္ကသူရဘွဲ့ရ သမားတော်) သားနှစ်ယောက်ထွန်းကားခဲ့သည်။ဖိုးကြွက်၏ သားမှာ ဦးချက် ပထမကျော်ဖြစ်၍ ဦးကြော့အား ပညာသင်ပေးခဲ့သည်။ ဦး ကျော်ဇံ၏မြေးမှာ မန္တလေးမြို့မိုးထားတိုက်နေ ဦးဝိစယဦးပဥ္စင်းဖြစ်လေသည်။

ဦးကြော့သည် အရွယ်ရောက်လတ်သော် ကိုင်းရွာတွင် သီတင်းသုံးနေသော ဆရာတော်ဦးရွှေသီးနှင့် ဆရာတော်ငယ် ဦးရွှေပြား တို့ထံတွင် ဆည်းကပ်၍ သင်ရိုး သင်တန်းများကို သင်ယူခဲ့သည်။

ထိုနောက်ဦးကြော့သည် မိမိနှင့်ဆွေမျိုးတော်စပ်သူပထမကျော်ဦးချက်ထံတွင် စာပေကျမ်းဂန်များကို ဆက်လက်သင်ကြား ခဲ့သည်။ တေးဂီတကဗျာ များကို စိတ်ဝင်စားသည့်အလျောက် ငယ်စဉ်ကပင် လေ့လာလိုက်စားခဲ့သည်။

ဦးကြော့သည် လူပျိုလူရွယ်ရောက်ချိန်တွင် နတ်မောက်မြို့ အနောက်မြောက်ဖက်ရှိ ကန်ကြီးအောက်ရွာသို့ လာရောက်ပြီးလျှင် လူပျိုကာလသားများနှင့် ရောနှောနေထိုင်လေသည်။ ထိုအရပ်၌နေထိုင်စဉ် အခါအားလျော်စွာ ပြုလုပ်ကျင်းပသော အရပ်ဇာတ်များကို ဦးကြော့ကကြီးမှူးရှေ့ဆောင် လေ့ရှိသည်။ ဦးကြော့သည် အရပ်ဇာတ်ထဲတွင်ရသေ့ကြီးအဖြစ်၊ သဌေးကြီးအဖြစ်၊ သဌေးကတော်ကြီးအဖြစ် စသည်ဖြင့်ပါဝင်ကပြတတ်လေရာ ပရိသတ်တို့အလွန်စွဲမက်ကြသည်။ ဦးကြော့မှာ ဟာသပညာရှင်သူတဦးဖြစ်သဖြင့် ပွဲကြည့်ပရိသတ်အား ဆွဲဆောင်နိုင်စွမ်းရှိလေသည်။

ဦးကြော့အသက် ၂၀ ခန့်တွင် ဦးကြော့၏အဖိုးတော်၍ မင်းတုန်းမင်းတရားကြီး၏ သမားတော်တဦးဖြစ်သူ နေမျိုးသက္ကသူရနေဘ်ရထာဘွဲ့ရ သမားတော်ကြီး ဦးကျော်ဇံက ဦးကြော့နှင့် ဦးမင်းမောင် (ရွှေလရောင်မင်းကြီး ဦးမင်းရောင်၏ညီ) တို့ကို မန္တလေးနေပြည်တော်သို့ ခေါ်ဆောင်၍ ရွှေတိုက်ဝန်ကြီးထံတွင် အပ်နှံထားလေသည်။

ဦးကြော့မှာ ကဗျာဉာဏ်ရင့်သန်သူတဦး ဖြစ်သည့်အလျောက် များမကြာမီအတွင်း စာတော်ဖတ်ရာထူးနှင့် မင်းတုန်းမင်းထံပါးတွင် ခစားရသည်ဟု အဆိုရှိသည်။

ဦးကြော့သည် ငယ်စဉ်က ရာသီဘွဲ့များကို စွဲလမ်းနှစ်သက်ခဲ့ရကား ထိုစိတ်၏လှုံ့ဆော်မှုကြောင့် ၁၂ ရာသီတေးထပ်များကိုစီကုံး၍ မင်းတုန်းမင်းကြီးအားဆက်သရာ ဆုလာဘ်များစွာ ခြီးမြှင့်ခြင်းခံရသည်။ ထိုစဉ်အခါက စလင်းမြို့ဦးမြတ်သာထွန်းရေးသားစီကုံးသော ဟေမဝန်ဘွဲ့

အစချီသည့် မင်းသမီး ပျောက်ရှာပုံတော်ကြီးမှာ ခေတ်စားနေရကား စာတော်ဖတ်ဦးကြော့သည် မင်းသားပျောက် ရှာပုံတော်တပုဒ်ကို ရေးသားရန်အကြံဖြစ်ပေါ်လာ၏။ ထိုကြောင့် ဦးကြော့သည် စုန္ဒသာမြိုင်၊ ရဂုံတွင်း၊ ထုံသင်းငယ်ကြိုင်၊ ဂန္ဓိုင်ဟေမ၊ နွေအစ၊ ရွှေမျှော့ကလျာ၊ ဟိုခင်ကိုလျှောက် ပါလို့၊ လင်ပျောက်ကိုရှာခဲ့၊ အစချီသောရှာပုံတော်ကြီးကို အဆန်းတကြယ် စီကုံးဖွဲ့နွဲ့ပြီးနောက်၊ သမားတော်ကြီး ဦးကျော်ဇံ၏မြေး မိမိ၏ညီဝမ်းကွဲတော်ဖြစ်သူ ဦးပဥ္စင်း ဦးဝိစယနှင့် ရွှေတိုက်ဝန်ကြီးတို့အား အကဲဖြတ်စေသည်။ ထိုနောက်မင်းတုန်းမင်းရှေ့တော်တွင် မိမိကိုယ်တိုင် အသံနေအသံထားနှင့် သီဆိုဆက်သရာ မင်းတရားကြီးလည်း လွန်စွာနှစ်ခြိုက်ပေသောကြောင့် ဆုတော်လာဘ်တော် မြောက်မြားစွာ ပေးသနားတော်မူလေသည်။ ထိုအချိန်မှစ၍ ဦးကြော့၏ဂုဏ်သတင်းမှာ ပျံ့သင်းကျော်ကြားလာပြီးလျှင် သူ့အားလည်း စုန္ဒသာမြိုင်ဦးကြော့ ဟုခေါ်စမှတ်ပြုလာကြသည်။

စုန္ဒသာမြိုင်ရှာပုံတော်ကြီးမှာ မင်းသမီးက မောင်တော်မင်းသား ပျောက်၍ လိုက်လံရှာဖွေပုံကို သရုပ်ဖော်ထားသည့် ငိုချင်းရှည်သီချင်းဖြစ်သည်။ သို့သော် ရာသီဘွဲ့ တောဘွဲ့တောင်ဘွဲ့များနှင့်ဟပ်၍ မင်းသမီး၏အလွမ်းဘွဲ့ကို ထိမိစွာဖွဲ့ဆိုထားသဖြင့် နားထောင်သူတို့၏ စိတ်ကို ညှတ်နူးပျော့ပျောင်းစေသည်။ သိလွယ်မှတ်လွယ်၍ အဓိပ္ပါယ်ပေါ်လွင်သော စကားလုံးများဖြင့် ကြွယ်ကြွယ်ဝဝ သုံးနှုန်းထားသော ကဗျာလည်းဖြစ်သည်။ 'ဂန္ဓမာငူ၊ မြေတလင်း၊ နေမင်းကပူသနှင့်၊ နန်းသူဒေဝီ၊ တွေ့နိုင်ဘဲဟာမို့၊ လဲလုပြီ' ဆိုသောစာသားများသည်၎င်း၊ 'မဟေသီရုပ်၊ ဘွဲ့ကြင့်နန်းသူ၊ ပေ့ခန်းယံထူ၊ ရွှေနန်းမူဟုတ်နိုင်ဘူး၊ ဥက္ကဋ္ဌရှင်၊ ယံကကျွမ်းပါတဲ့၊ ခင်ပွန်းလင်၊ မန္ဒမ်းခင်ခုံ၊ လျှင်လျှင်ငယ်ပြေး၊ ခင်လေးကိုရှုလှဲ့ပါ၊ ဆွေးမှုထပ်ကြွယ်၊ ဖိုဖိုငယ် ရှိုက်ပါလို့၊ ငိုလိုက်မယ်။' ဆိုသောစကားသားများသည်၎င်း၊ မင်းသမီး၏ပူဆွေးသောကရောက်ပုံကို ပေါ်လွင်ထင်ရှားစွာ စပ်ဆိုထားသဖြင့် သိဂ်ါရရသနှင့်ပြည့်စုံပေသည်။ စုန္ဒသာမြိုင် ရှာပုံတော်ကြီး တခုလုံးကိုခြုံ၍ကြည့်လျှင် ဦးကြော့သည် ကြားနာဖတ်ရှုသူတို့အား လင်ပျောက်ရှာသူ မင်းသမီးအပေါ်၌ ကရုဏာစိတ်ဓါတ်များ တဖွားဖွားပေါ်ပေါက်လာအောင် ဆွဲဆောင်စပ်ဆိုသည်ကို တွေ့မြင်နိုင်ပေသည်။ ထိုကြောင့်လည်း ဦးကြော့မှာ စိန်ခြူးကြာညောင် အမျှော်စိုက်ဘောလယ်ဖြင့်ထင်ရှားသော လှိုင်ထိပ်ခေါင်တင် အိမ်ရှေ့မိဖုရားကဲ့သို့ ဤစုန္ဒသာမြိုင်ရှာပုံတော်ကြီး နှင့်ပင် စာဆိုကျော်တဦးဖြစ်လာလေသည်။

မင်းတုန်းမင်းတရားကြီးသည် မင်းကျော်ရာဇာဘွဲ့ရသော ဦးမိတ်အားမြို့ဝန်ခန့်၍တောင်တွင်းကြီးမြို့သို့စေလွှတ်ရာတွင် ဦးကြော့အား ဝန်စာရေးအဖြစ်ဖြင့် ထည့်လိုက်လေသည်။ ထိုအချိန်မှစ၍ ဝန်စာရေးဦးကြော့ဟု ထင်ရှားလာခဲ့၏။ ထိုနောက် သီပေါမင်းလက်ထက်၌၊ စတုတ္ထခရိုင်ဝန် (တောင်တွင်းကြီးခရိုင်) မင်းလှမဟာမင်းခေါင်ကျော်ထင် ဘွဲ့ရသည့် ဦးအိမ်အထံတွင်အမှုတော်ကိုထမ်းရွက်လေသည်။ မြို့ဝန်မင်း၊ မင်းကျော်ရာဇာ အနိစ္စရောက်သည်တွင် ဦးကြော့သည် ဝမ်းနည်းကြေကွဲဖြစ်မိကြောင်း လေးချိုးကဗျာရေးစပ်ခဲ့သည်။

ဦးကြော့သည် တောင်တွင်းကြီးမြို့၌ အမှုထမ်းရွက်နေစဉ် တောင်တွင်းကြီးမြို့၊ အုန်းတောရပ်သူ မယ်မင်းရှံဆိုသူနှင့် အကြောင်းပါခဲ့သည်။ မအိ ဆိုသူသမီးတယောက် ထွန်းကားခဲ့ရာ ထိုသမီးမှာလည်း ဖခင်နည်းတူ တေးကဗျာများ ရေးစပ်ခဲ့လေသည်။

မန္တလေးမြို့တွင်ကျန်ခဲ့သော ဦးကြော့၏ငယ်မိတ်ဆွေရင်းလည်းဖြစ်၊ဆွေမျိုးလည်းဖြစ်သော ဦးမင်းမောင်မှာ နောင်အခါ ပင်းမြို့၊ နတ်မောက်မြို့၊ ကျောက်ပန်းတောင်းမြို့ ၃ မြို့၏မြို့ဝန်ဖြစ်လာပြီးလျှင်ပင်းမြို့၌နေထိုင်လေသည်။

ထိုအခါဦးကြော့သည် တောင်တွင်းကြီးမြို့မှ ပင်းမြို့သို့ ရွှေပြောင်းကာ ဝန်စာရေးအဖြစ် ဆက်လက် အမှုထမ်းရွက်ပြန်လေသည်။

ဦးကြော့သည် ထီးမှုနန်းဟန်ကြွင်းဆန်သော စုန္ဒသာမြိုင်သီချင်းမျိုးကိုသာ စပ်ဆိုခဲ့သည်မဟုတ်ဘဲ ပိတောက်ပန်းဘွဲ့၊ ဒဟပ်ပန်းဘွဲ့၊ ကဆုန်လဘွဲ့ အစရှိသော တောဘွဲ့တောင်ဘွဲ့ရာသီဘွဲ့ ကဗျာများကိုလည်း ဖွဲ့ဆိုသီကုံးခဲ့သေးသည်။ ဦးကြော့သည် အသံသြဇာနှင့်ပြည့်စုံ၍ တေးသီချင်းများကို အသံနေအသံထားဖြင့် ကျနပိုင်နိုင်စွာ သီဆိုတတ်သူဖြစ်သဖြင့် မိမိရေးစပ်သော ကဗျာများကိုလည်း သူတပါးတို့ အလွယ်တကူ သီဆိုနိုင်အောင် စကားလုံး လှလှနှင့် အဓိပ္ပါယ်ပေါ်လွင်စွာ စပ်ဆိုနိုင်စွမ်းရှိလေသည်။

အမျိုးဘာသာ၊သာသနာကိုလေးစားသော မျိုးချစ်စာဆိုတဦးဖြစ်သည့်အလျောက် သီပေါမင်းကို အင်္ဂလိပ်တို့ ဖမ်းဆီးခေါ်ဆောင် သွားသည့်အခါ ဦး ကြော့သည် ဆီးဘန်းနီဆရာတော်၊ အချုပ်တန်းဆရာဖေတို့နှင့်အပြိုင် 'ကမ္ဘာ တွင်စဉ်သမိုင်းယံနှင့်၊ ရာဇဝင်စာတင်ရိုင်းလေငဲ့' အစချီသော ပါတော်မူလေးချိုးကို စပ်ဆိုခဲ့၏။ အလွမ်းစာဆိုတဦးဖြစ်သည့်အားလျော်စွာ ဦးကြော့သည် ထိုကဗျာတွင် မြန်မာနိုင်ငံ ကျဆုံးသဖြင့် မိမိဝမ်းနည်းကြေကွဲမိပုံ၊ အရှင်နှစ်ပါးတို့ဝမ်းနည်းပူဆွေးမည့်ပုံတို့ကို ပေါ်လွင်ထင်ရှားစွာ ဖွဲ့ဆိုထားလေသည်။

မြန်မာ့ဂန္ထဝင်တွင် ထိုမျှထင်ရှားကျော်စောခဲ့သော စုန္ဒသာမြိုင်၏ဖခင်၊ အမည်အမျိုးမျိုးတွင်သော အနုပညာစာဆိုကြီး ဦးကြော့သည် ၁၂၅၃ ခုနှစ်တွင် နတ်မောက်မြို့၌ ကွယ်လွန်အနိစ္စရောက်ခဲ့လေသည်။

# ကမ္ဘာကြီး၏ ခေတ်သစ်ကြော်ငြာနည်းများ

**အကြောင်းကိစ္စတခုခုကို လူများသိနားလည်အောင်ပြုခြင်းသည် ကြော်ငြာခြင်းဖြစ်၏။ ရှေးအခါမှစ၍ ကြော်ငြာခြင်းပြုလုပ်လာခဲ့ရာ သာရေးနာရေးများအပြင်၊ အထူးသဖြင့်၊ ရောင်းဝယ်ရေးတွင်၊ ထက်မြက်သည့်လက်နက်သဖွယ်အသုံးပြုခဲ့၏။ ခေတ်သစ်ကြော်ငြာနည်း ပရိယာယ်အစုစုကို တခုမကျန်ဖေါ်ပြထားရာ၊ ယခုအခါတွင် ပညာရပ်တခုဖြစ်နေ၍ စိတ်ဝင်စားဖွယ်ပင်။**

**ကြော်ငြာခြင်း။** ။အကြောင်းကိစ္စ တခုခုကို လူတစုအားဖြစ်စေ၊ လူအများအားဖြစ်စေ၊ ကြားသိနားလည်စေရန် ပြုလုပ်ပေးခြင်းကို ကြော်ငြာသည်ဟုခေါ်သည်။ သို့ရာတွင် ကုန်ပစ္စည်းရောင်းစံ့ရန်အတွက် လူအသိများအောင်ပြုလုပ်ခြင်း အမျိုးမျိုးတို့ကို ကြော်ငြာသည်ဟု ယခုအခါနားလည်နေကြသည်။

ရှေးမြန်မာမင်းများလက်ထက်က ပြည်သူလူအများနှင့် ဆိုင်သော အမိန့်တော်များကို မောင်းကြေးနင်းလည်၍ငင်း၊ စည်လည်၍ငင်း၊ ကြော်ငြာလေ့ရှိလေသည်။ တောလက်ကျေးရွာများတွင် ယနေ့ထက်တိုင် လောကဝတ် ဓမ္မဝတ် ရာဇဝတ်အရေးကိစ္စများ၌ မောင်းတီးနှိုးဆော်သော အလေ့များရှိသေးသည်။ အထူးသဖြင့် အခွန်တော်များကို မောင်းတီးကြော်ငြာ၍ ကောက်ခံလေ့ရှိသည်။ သာရေးနာရေးအလှူကိစ္စများတွင် ကြေးစည်တီး၍ ဗျိုဟစ်ကြေးကြော်ကာ နှိုးဆော်လေ့ရှိသည်။ ဤပြဆိုခဲ့သော နှိုးဆော်ခြင်းစံနစ်များသည် ကြော်ငြာခြင်း၌ အကျုံးဝင်လျက်ရှိသည်။

မြတ်စွာဘုရားအလောင်းတော် သုမေဓာသူဌေးကြီးသည် မိမိ၏ပစ္စည်းဥစ္စာများကို အရပ်လေးမျက်နှာမှ မည်သူမဆိုလာရောက်ယူဆောင် ကြကုန်လော့ဟု ကြော်ငြာကာ ပေးကမ်းလှူဒါန်းခဲ့ကြောင်း ကျမ်းဂန်များတွင်လာရှိသည်။ မဟောသဓ ဇာတ်တော်ကြီး၌လည်း စူဠနီဗြဟ္မဒတ်မင်းကြီး၏သမီးတော် ပဉ္စာလစန္ဒီမင်းသမီး လှပချောမွေ့ကြောင်းများကို တေးသီချင်းများဖွဲ့စေ၍ မိထိလာပြည်သို့သွားရောက်ကာ သဘင်သည်တို့က သီဆိုကြစေကြောင်းနှင့်ပါရှိသည်။ ဤသို့လူသိများအောင် ပြုလုပ်ခြင်းမျိုးများသည် ကြော်ငြာသည့်နည်းများတွင် အပါအဝင်ဖြစ်သည်။

သမိုင်းများအရ ရှေးနှစ်ပေါင်း ၃၀၀၀ ခန့်က သီးဗီးမြို့တွင် သူကြွယ်တဦးအိမ်မှ ကျွန်တယောက်ထွက်ပြေးသွားရာ ထိုကျွန်ကိုပြန်လည်ပေးပို့သူအား ဆုငွေပေးမည့်အကြောင်းကို ပပိုင်းရပ် (စက္ကူကျူ) ပေါ်၌ကြော်ငြာရေး၍ ဈေးလယ်တွင်ဆွဲထားခဲ့ဘူးကြောင်း အထောက်အထားများတွေ့ရှိရသည်။ ထိုသို့အကြောင်းကိစ္စတခုကို လူအများသိရှိရန် ဆောင်ရွက်ခဲ့သည်မှစ၍ နောင်အခါများတွင် ကုန်ပစ္စည်းကြော်ငြာခြင်းစံနစ်များ ပေါ်ပေါက်လာခဲ့သည်။

ရှေးခေတ်နှင့်အလယ်ခေတ်များတွင်စာမတတ်သူပေါ်များသောကြောင့် စာဖြင့်ကြော်ငြာခြင်းထက် အော်ဟစ်၍ကြော်ငြာနည်းနှင့် ဩရုပ်ပြကြော်ငြာနည်းမျိုးကို ပိုမိုအသုံးပြုကြသည်။ ပမာအားဖြင့် လှည်းဘီးမီးချပေးသောပန်းဘဲဆရာ၏အိမ်ရှေ့၌ လှည်းဘီးကြီး ချိတ်ဆွဲထားတတ်သည်။ ဥရောပနိုင်ငံများတွင် အရက်ဆိုင်များသည် အရက်ရောင်းရန်ရှိကြောင်းကို ဆိုင်ရှေ့၌ စပျစ်ရွက်များချိတ်ဆွဲခြင်းဖြင့် ကြော်ငြာကြသည်။ ဆံသဌာနများ၏ရှေ့တွင် အနီအဖြူခြယ်ထားသောတိုင်များ ထားရှိသည်မှာလည်း ဆတ္တာသည်လုပ်ငန်း၏ အထိမ်းအမှတ်ကို ကြော်ငြာခြင်းဖြစ်လေသည်။ ယခုခေတ်၌ ဆိုင်များတွင် ဆိုင်းဘုတ်ခေါ် အမှတ်အသားများ ချိတ်ဆွဲထားကြခြင်းမှာ ရှေးကြော်ငြာနည်း၏ အမွေအနှစ်ပင်ဖြစ်၏။

ခရစ် ၁၄၅၀ ပြည့်နှစ်တွင် ပေါ်ပေါက်လာခဲ့သော စာပုံနှိပ်စက်သည် ကုန်ပစ္စည်းများ ကြော်ငြာနိုင်ရေးအတွက် များစွာအထောက်အပံ့ ရရှိစေခဲ့သည်။ ၁၄၇၀ ပြည့်နှစ်တွင် ပုံနှိပ်ကြော်ငြာများ စတင်ပေါ်ပေါက်ခဲ့သည်။

၁၆၀၀ ပြည့်နှစ်တွင် နံရံကပ်ကြော်ငြာနည်းများ ပေါ်ပေါက်လာခဲ့သည်။ အင်္ဂလန်ပြည်တွင် သတင်းစာထဲ၌ ကြော်ငြာစာထည့်၍ ကြော်ငြာသည့်စံနစ်ကို ၁၆၂၅ ခုနှစ်တွင် စတင်တွေ့ရှိရလေသည်။

စက်မှုလက်မှုပညာရပ်များ ဖွံ့ဖြိုးတိုးတက်လာသော ခရစ် ၁၇၆၀ မှ ၁၈၃၀ ခုနှစ်အတွင်းလောက်တွင် ကုန်ပစ္စည်းများ အပြိုင်အဆိုင်ထုတ်လုပ်လာသည်နှင့် အမျှ အပြိုင်အဆိုင် ကြော်ငြာခြင်းများလည်း ပေါ်ပေါက်လာခဲ့သည်။

ပဌမရှေးပြေးကြော်ငြာများသည် ကုန်ပစ္စည်းအမှတ်တံဆိပ်၊ ရနိုင်သည့်နေရာနှင့် အဖိုးနှုန်းများကို အသိပေးရုံမျှသာကြော်ငြာခဲ့သော်လည်း စက်မှုလက်မှုခေတ်သို့ ရောက်ရှိလာသောအခါ ထိုအချက်အလက်များအပြင် ကုန်ပစ္စည်းတခုသည် အဘယ်ကြောင့်ကောင်းမွန်ကြောင်း၊ ဈေးနှုန်းမည်မျှသက်သာကြောင်း၊ ဝယ်သုံးသူများအတွက် အကျိုးမည်မျှဖြစ်ထွန်းကြောင်းစသည်ဖြင့် ဝယ်ယူသုံးစွဲသူတို့ ကိုယ်ပိုင်ဉာဏ်ဖြင့် စဉ်းစားဝေဖန်ယူနိုင်သော အချက်အလက်များပါဝင်လာလေသည်။

ကြော်ငြာခြင်း နည်းပရိယာယ်အမျိုးမျိုးရှိရာ အောက်ပါတို့မှာ သမားရိုးကျနည်းများဖြစ်၏။

(၁) စာစောင်များမှတဆင့် ကြော်ငြာနည်း။
(၂) နံရံကပ်ကြော်ငြာနည်း။
(၃) စင်မြင့်ပေါ်မှကြော်ငြာနည်း။
(၄) ခင်းကျင်းပြသ၍ ကြော်ငြာနည်း။







ကြော်ငြာနည်းအမျိုးမျိုးရှိရာ လူအများမြင်လွယ်မည့်နေရာတွင် မိမိကုန်ပစ္စည်းများ၏အမျိုးအမည်များကိုပြသထားခြင်းသည်အဓိကဖြစ်သည်။

အထက်ပုံ။ မြန်မာနိုင်ငံတွင် လူအစည်ကားဆုံးနေရာ၌ ပြသထားသည့်ကြော်ငြာများပုံ

အောက်ဖက်ဝဲပုံ။ အင်္ဂလန်နိုင်ငံတွင် ကုန်ပစ္စည်းများကိုညဥ့်အချိန်တွင် မီးရောင်အမျိုးမျိုးဖြင့်ကြော်ငြာထားသည့်ပုံ

အောက်ဖက်ယာပုံ။ တခါတရံ ကုန်ပစ္စည်းများပို၍ထင်ထင်ရှားရှားအဓိပ္ပါယ်ပေါ် လွင်စေရန် ရုပ်ပြောင်များရေး၍ကြော်ငြာကြသည့်ပုံ



ကောင်းကင်ပြင်တွင် စာလုံးဖေါ်၍ပြထားသော နယူးယော့မြို့မှခေတ်မှီကြော်ငြာနည်းတခု

(၅) တိုက်ရိုက်ပေးပို့သောစံနစ်ဖြင့် ကြော်ငြာနည်း။
(၆) ရုပ်ရှင်ရုပ်ငြိမ်ကားများဖြင့် ကြော်ငြာနည်း။
(၇) ရေဒီယိုမှကြော်ငြာနည်း။

စာစောင်များမှကြော်ငြာနည်းမှာ သတင်းစာမဂ္ဂဇင်းနှင့် အလားတူစာစောင်များတွင် စာသားချည်းဖြစ်စေ၊ ရုပ်ပုံ ဓါတ်ပုံများနှင့် တွဲ၍ဖြစ်စေ ကြော်ငြာသည့်နည်းများဖြစ်သည်။ စာလုံးတသောင်း ရုပ်ကောင်းတခု ဆိုသောစကားအတိုင်း စာဖြင့်ကြော်ငြာသည်ထက် ရုပ်ပုံများဖြင့် ကြော်ငြာသည်က ပိုမိုခရီးရောက်သဖြင့် ရုပ်ပုံဓါတ်ပုံများကို ရေလဲအမျိုးမျိုးဖြင့်သုံးကာ ကြော်ငြာမှုတွင် အသုံးပြုကြသည်။

နံရံကပ်ကြော်ငြာနည်းမှာ သတင်းစာမဂ္ဂဇင်းတို့တွင် ကြော်ငြာပြီးသည့်အချက်များကို လူအများအလွယ်တကူ စွဲမှတ်သွားစေရန် ထပ်မံ၍ဆောင်ပေးသော ကြော်ငြာနည်းမျိုးဖြစ်သည်။ လမ်းဆုံလမ်းခွနှင့် လူအများ မြင်သာသောနေရာများတွင် ကြော်ငြာကားချပ်များဆွဲထားခြင်း၊ ကြော်ငြာဆိုင်းဘုတ်များတွင် ဓါတ်မီးပွင့်များ ထွန်းညှိခြင်း၊ မီးရထားမော်တော်ကားများပေါ်တွင် ကြော်ငြာကတ်ပြားများ ချိတ်ဆွဲခြင်း၊ ကောင်းကင်သို့မီးရှူးမီးပန်းများလွှတ်၍ ကြော်ငြာခြင်းစသောနည်းများဖြစ်သည်။

စင်မြင့်ပေါ်မှကြော်ငြာနည်းမှာ လူကိုယ်တိုင်စင်မြင့်၊ ခုံမြင့်များပေါ်သို့တက်ရောက်၍ ဟောပြောကြော်ငြာသောနည်းဖြစ်သည်။ ဇာတ်ပွဲ၊ ကပွဲများတွင် ဇာတ်ကွက် ဇာတ်လမ်းထွင်၍ဖြစ်စေ၊ အခြားတနည်းနည်းဖြင့်ဖြစ်စေ ကြော်ငြာသည့်နည်းမျိုးဖြစ်သည်။

ခင်းကျင်းပြသ၍ကြော်ငြာနည်းမှာ မိမိဆိုင်ဥပစာအတွင်း၌ ပြခန်းသဖွယ်ပြုလုပ်၍ ကုန်ပစ္စည်းများကို ပြသထားခြင်းဖြင့် ဝယ်ယူလိုသူတို့ အလွယ်တကူ တွေ့မြင်စွဲလမ်းသွားစေနိုင်သည်။ ထို့ပြင် ပြပွဲများ လက်မှုစက်မှုပညာပြိုင်ပွဲများတွင် ပါဝင်တည်ခင်း ပြသခြင်း၊ ယှဉ်ပြိုင်ခြင်းများဖြင့်လည်း ကြော်ငြာနိုင်သည်။ မော်တော်ကားများ မီးရထားများပေါ်တွင် ပြခန်းသဖွယ်ပြုလုပ်ကာ လှည့်လည်ရောင်းချသောစံနစ်ဖြင့်လည်း ကြော်ငြာနိုင်၏။

တိုက်ရိုက်ပေးပို့သော စံနစ်ဖြင့် ကြော်ငြာနည်းမှာ လက်ကမ်းကြော်ငြာများ ဝေငှခြင်း၊ မိမိ၏ကုန်ပစ္စည်းအကြောင်း ကြော်ငြာပါသည့်စာအုပ်စာတမ်း၊ ပြက္ခဒိန်၊

အရုပ်ကား၊ မေတ္တာလက်ဆောင်ကတ်ပြား၊ နမူနာအထည်စ၊ နမူနာဆေးစသည်တို့ကို မိမိပေးပို့လိုသော ပုဂ္ဂိုလ်များထံသို့ ဖြစ်စေ၊ ဌာနများသို့ဖြစ်စေ၊ မေတ္တာလက်ဆောင်အဖြစ် တိုက်ရိုက်ပေးပို့သောနည်းဖြစ်သည်။

ရုပ်ရှင်ရုပ်ငြိမ်ကားဖြင့် ကြော်ငြာနည်းမှာ ရုပ်ရှင်ဇာတ်လမ်းများထွင်၍ ကြော်ငြာခြင်း၊ ဇာတ်ကွက်ထဲတွင် မသိမသာကြော်ငြာထည့်သွင်းခြင်း၊ ရုပ်ပြောင်ရယ်ရွှင်ဖွယ်ကားများဖြင့် သရုပ်ဖော်၍ ကြော်ငြာခြင်း၊ ရုပ်ရှင်ရုံများတွင် အားလပ်ချိန်၌ မှန်ထိုး၍ကြော်ငြာခြင်း စသည်တို့ဖြစ်သည်။

ရေဒီယိုကြော်ငြာသောနည်းမှာ မိမိရောင်းချလိုသော ကုန်ပစ္စည်းအကြောင်းကို ရေဒီယိုမှ အသံလွှင့်ကြော်ငြာသောနည်းဖြစ်သည်။ အနောက်နိုင်ငံများတွင် ကြော်ငြာလက်ခံသော အသံလွှင့်ဌာနများရှိရာ ကြော်ငြာနှုန်းပေး၍ အသံလွှင့်ခြင်း၊ သီချင်းလွှင့်ခြင်း၊ တယ်လီဗစ်ရှင်းလွှင့်ခြင်းများကို ပြုလုပ်နိုင်လေသည်။

ယခုပြဆိုခဲ့သော နည်းများအတွင်းမှတဖန် တဖက်သားသဘောကျနှစ်ခြိုက်စေရန် အသစ်အဆန်းထွင်လုံးများဖြင့် ကြော်ငြာနည်းမျိုးစုံကို အသုံးပြုကြသည်။ မိမိတို့ကုန်ပစ္စည်းအကြောင်းကို အထပ်ထပ်ကြော်ငြာပေးရမည် ဆိုသော အချက်မှာ ကြော်ငြာသမားတို့ မမေ့မလျော့အပ်သော အချက်ကြီးပင်ဖြစ်သည်။

ယခုနောက်ဆုံး ခေတ်စားလျက်ရှိသော ကြော်ငြာပုံပရိယာယ်တမျိုးမှာ၊ စိတ်ပညာနှင့် ယှဉ်သော ကြော်ငြာနည်းမျိုးဖြစ်၏။ ပမာအားဖြင့် မိန်းကလေးတဦး၏အကျင့်စာရိတကို အမွမ်းတင်ထားသောဝတ္ထုမျိုး ရောင်းလိုသူသည် ထိုစာအုပ်ကို တိုက်ရိုက်မကြော်ငြာဘဲ မိန်းမလိုချင်သည် ဆိုသော ကြော်ငြာခေါင်းစဉ်အောက်တွင် မိန်းကလေး၏ အရည်အခြင်းမှာ မည်သည့်အချက်များ ပြည့်စုံရမည်ဖြစ်ကြောင်း၊အကျင့်စာရိတနှင့်လူမှုဆက်ဆံရေးတို့မှာမည်သည့် ဝတ္ထု၌ပါသော မိန်းကလေး၏ အကျင့်စာရိတမျိုး ဖြစ်ရမည်ဖြစ်ကြောင်း စသည်ဖြင့် ကြော်ငြာလေသည်။ ဟိုတယ်ပိုင်ရှင်တဦးသည် မိမိ၏ဟိုတယ်အကြောင်းကို တိုက်ရိုက်မကြော်ငြာဘဲ လက်ကိုင်အိတ်တခု ကောက်ရထားပါသည်။ သေချာဂနစွာ ပြောဆိုနိုင်သောပိုင်ရှင်အား ပြန်ပေးပါမည်။မည်သည့်ဟိုတယ်သို့ကြွခဲ့ပါဟုကြော်ငြာလိုက်သည်။ ဤသို့ကြော်ငြာခြင်းဖြင့် လူအများက သူ့အားရိုးသားသူတဦးဟု ယုံကြည်လေးစားလာကြမည့်အပြင် သူ၏ ဟိုတယ်ကိုလည်း လူတို့စိတ်တွင်စွဲမှတ်ကျန်ရစ်ခဲ့စေနိုင်သည်။ သို့ရာတွင် ထွင်လုံးဖြင့်ကြော်ငြာနည်းမျိုးတို့ကို လူထုက ကြာရှည်စွာလက်မခံချေ။

ကြော်ငြာခြင်းပညာသည် တဖြည်းဖြည်းကျယ်ပြန့်နက်နဲလာခဲ့ရာ ယခုအခါ အတတ်ပညာတရပ်အနေဖြင့် အသိအမှတ်ပြုခြင်းခံရသည်။ ကူးသန်းရောင်းဝယ်ရေး ပညာရပ်များထဲတွင် ကြော်ငြာခြင်းအတတ်၊ ကုန်ရောင်းခြင်းအတတ်၊ ကုန်များခင်းကျင်းပြသခြင်းအတတ် ပညာများပါအကျုံးဝင်နေလေသည်။ ပန်းချီပညာရပ်များတွင်လည်း စီးပွားရေးပန်းချီပညာမှာ ကြော်ငြာခြင်းနှင့်ဆိုင်သော ပန်းချီပညာဖြစ်လေသည်။

ကြော်ငြာခြင်းသည် လူမှုဆက်ဆံရေး အဆောက်အအုံထဲတွင် အရေးပါအရာရောက်ပေသော လုပ်ငန်းတရပ်ဖြစ်သည်ဟု ဘောဂဗေဒ ပါရဂူများကဆိုသည်။ ကြော်ငြာခြင်းသည် ကုန်လုပ်သူ၊စားသုံးသူ နှစ်ဦးနှစ်ဝလုံးအတွက် အကျိုးကျေးဇူးရှိ၏။ ကုန်လုပ်သူသည် မိမိ၏ကုန်ပစ္စည်းကို ကြော်ငြာလိုက်ရာတွင် အများကြိုက်ဖြစ်လာသောအခါ ကုန်ပစ္စည်းအမျိုးအစားမခွဲခြားရဘဲ တမျိုးတည်းကိုသာလျှင် အများအစား ထုတ်လုပ်နိုင်၏။ ထိုသို့ပြုခြင်းသည် ကုန်ကျစရိတ်သက်သာရုံမျှမက ကုန်ပစ္စည်းလည်း ပိုမိုတွင်ကျယ်၏။ ကုန်ထုတ်မှုကိုလည်း ခိုင်မြဲစေနိုင်၏။ တဖန် စားသုံးသူများ အဖို့လည်း ကုန်ပစ္စည်းကို အဖိုးနှုန်းသက်သာစွာနှင့် ဝယ်ယူနိုင်စေသည့်အပြင် ကုန်ဈေးမှန်ကိုလည်း အလွယ်တကူသိရှိနိုင်စေ၏။ နိုင်ငံအတွင်း ဈေးမတည်တံ့မှု၊ ဈေးကစားမှုတို့ကိုလည်း တားဆီးနိုင်ရန် အထောက်အပံ့ပြုလေသည်။ ထို့မှတပါး ကြော်ငြာခြင်းသည် တနည်းအားဖြင့် ပြည်သူလူထုအား အသိဉာဏ်ပေးရာလည်း ကျရောက်ပေသည်။

ထို့ကြောင့် တိုးတက်သောနိုင်ငံအစိုးရများသည် ပြပွဲကြီးများ ပြိုင်ပွဲကြီးများ ကျင်းပပေးခြင်းဖြင့်၎င်း၊ နိုင်ငံတော်စီးပွားရေးကို အထောက်အပံ့ဖြစ်စေမည့် လုပ်ငန်းများနှင့် သက်ဆိုင်လာလျှင် ကြော်ငြာရှင်များအား အထောက်အကူပေးခြင်းဖြင့်၎င်း များစွာအားပေးလေသည်။ထို့ပြင် မိမိတို့နိုင်ငံမှ ထွက်သောကုန်ပစ္စည်းများကို အခြားနိုင်ငံများက ဝယ်ယူသုံးစွဲစေရန် မိမိတို့သံရုံးများတွင် ကူးသန်းရောင်းဝယ်ရေးအရာရှိများ တွဲဖက်ထားရှိကာ ကုန်ပစ္စည်း ကြော်ငြာခြင်းများကို နည်းမျိုးစုံစွာဖြင့် ပြုလုပ်လေ့ရှိကြသည်။ နိုင်ငံအစိုးရများသည် ကုန်တံဆိပ်အမှတ်အသားဆိုင်ရာ ဥပဒေများပြဋ္ဌာန်းလျက် အတုအပကုန်တံဆိပ်တပ်ခြင်း၊ အတုအယောင်များကို ကြော်ငြာလိမ်ဖြင့်ရောင်းခြင်းများကိုတားဆီးပိတ်ပင်ပေးလေသည်။

အမှန်ကိုကြော်ငြာခြင်းသည် အကောင်းဆုံး ကြော်ငြာနည်းဖြစ်သည်။ ထို့ကြောင့် ကြော်ငြာရှင်တို့လက်သုံးဆောင်ပုဒ်များမှာ

(၁) အမှန်ကိုသာကြော်ငြာပါ။ (၂) ဝယ်သူလူထု၏ အကျိုးကို ရှေးဦးစွာကြည့်ပါ။ (၃) ရောင်းသူအချင်းချင်း ပြစ်တင်ရှုံ့ချခြင်းကို ရှောင်ကြဉ်ပါတို့ဖြစ်ကြသည်။

**ကြို့ပင်**။ ။မြန်မာနိုင်ငံတွင် ပင်လယ်ပြင်မှ ပေ ၃၀၀၀ အထိမြင့်သော ကုန်းမြင့်ဒေသရှိ သစ်တောများ၌ ကြို့ပင်များကို တွေ့ရသည်။ ကြို့ပင်၏အမြင့်သည် ပေ ၈၀ အထိရှိ၍ ပင်စည်လုံးပတ်မှာ ၁၀ ပေအထိရှိသည်။ ကြို့ပင်သည် နွေအခါ၌ အရွက်များ စုံလင်ဝေဆာစွာရှိ၍ အရိပ်ကောင်းပေးနိုင်သည်။ ကြို့ပင်၏အခေါက်သည် မွဲပြာရောင်ရှိ၍ကြမ်းသည်။

ကြို့ပင်သည် မိုးပါးသောအရပ်နှင့် မိုးများသောအရပ် ၂ ရပ်စလုံး၌ ပေါက်နိုင်သည်။ ထို့ကြောင့် အိန္ဒိယနိုင်ငံ မိုးပါးခြောက်သွေ့သော ဒေသများတွင် ကြို့ပင်ကို အရိပ်ရရန် အတွက်သာမဟုတ်၊ အသီးနှင့်အရွက် ရရန်အတွက်ပါ စိုက်ပျိုးကြသည်။ အသီးကိုစားသုံးနိုင်၍ အရွက်ကို ကျွဲနွားကျွေးနိုင်သည်။ ကြို့ပင်စိုက်ရာတွင် အစေ့ကိုဖြစ်စေ၊ ကိုင်းဖြတ်ကိုဖြစ်စေ စိုက်ပျိုးနိုင်သည်။ ကြို့သီးမှည့်၏အရသာမှာ မချဉ်တချဉ်ဖြစ်၍ နွေရာသီတွင် အေးမြသောအရသာရှိသည်ဟုဆိုကြသည်။

ကြို့သား၏အရောင်မှာ နီကြန့်ကြန့်ဖြစ်သည်။ ပျဉ်းတွဲမာကျောသောကြောင့် ကြို့သားကို လွှဖြင့် ခဲခဲယဉ်းယဉ်းဖြတ်ရသည်။ သို့သော် ခိုင်ခံ့၍လေးလံသဖြင့် လှည်းဘီး ဝင်ရိုးများပြုလုပ်ရန်အလွန်ကောင်းသည်။ ထွန်၊ ထယ်၊ စူး ဆောက် လက် ကိုင် ရိုး၊ ဆီကြိတ် ဆုံ၊ ကြံကြိတ် ဒလိမ့် တုံး၊ ကျည်ပွေ့များ ပြုလုပ်ရန်အတွက်လည်း ကောင်းမွန်သည်။ ပွတ်ခုံရန်လည်းကောင်း၍ ရေနံတင်တွဲသမ္ဗန်တို့၏ကုန်းပတ်ကိုကြို့သားဖြင့်ခင်းလေ့ရှိသည်။

မြန်မာနိုင်ငံရှိ ချိပ်ရနိုင်သောအပင်များတွင် ကြို့ပင်လည်းပါဝင်သည်။ ချိပ်ချိုးချိန်မှာ တန်ခူးလနှင့် သီတင်းကျွတ်လများဖြစ်၏။ ကြို့သီး၏အစေ့ကိုကြိတ်လျှင်ဆီတမျိုးကိုရ၍ ထိုဆီကို ခေါင်းလိမ်းဆီများတွင် ထည့်သုံးလျှင် ဆံပင်သန်စွမ်းသည်ဟုဆိုသည်။ ကြို့သားမှ ပန်းဘဲမီးသွေးဖုတ်ယူကြသည်။ ကြို့ခေါက်မှာဖန်သည့်အတွက် ချုပ်ဆေးအဖြစ်ဖြင့်အသုံးဝင်သည်။

ကြို့ပင်နှင့် အမည်အားဖြင့် ဆင်တူရိုးမှားဖြစ်သော ကြို့ဖိုပင်လည်းရှိသေးသည်။ ကြို့ဖိုပင်များကို ပဲခူးရိုးမတောင်နှင့် တနင်္သာရီတိုင်းတို့၌ တွေ့ရသည်။ ကြို့ဖိုပင်သည် ကြို့ပင်လောက်ပင်ရှိသော်လည်း ပင်စည်သက်သက်၏ အလျားမှာတိုသည်။ ကြို့ဖိုသားမှာမာ၍ လှည်းပုံတောင်း ပြုလုပ်ရန်ကောင်းသည်။ ကြို့ဖိုကို တခါတရံ တောသရက်ဟုလည်းခေါ်ကြသည်။

**ကြို့ပင်ကောက်မြို့**။ ။ကြို့ပင်ကောက်မြို့သည် သာယာဝတီခရိုင်အတွင်း ရန်ကုန်ပြည်လမ်းမကြီးပေါ်၌ တည်ရှိ၍ ရန်ကုန်မြို့မှ ၁၀၉ မိုင်ဝေးကွာသည်။ ရှေးအခါက မြို့ပိုင်ရုံးစိုက်



ကြို့ပင်၏အသီးနှင့်အခက်အရွက်များ

ရာ မြို့ကြီးဖြစ်၍ ၁၉၃၄၊ ၁၉၃၅ ခုနှစ်တွင် ဇီးကုန်းမြို့နယ်ထဲသို့ ပူးပေါင်းသွတ်သွင်းခဲ့ဘူးသည်။ တဖန် ၁၉၅၁ ခုနှစ်၌ မြို့ပိုင်ရုံးစိုက်ရာမြို့အဖြစ် ပြန်လည်ဖွဲ့စည်းခဲ့ပေသည်။ ကြို့ပင်ကောက်မြို့ဟု အမည်တွင်ရခြင်းမှာ ကောက်ကွေးနေသော ကြို့ပင်ကြီး တည်ရှိခြင်းကို အစွဲပြုသမုတ်အပ်သည်ဟု အဆိုရှိလေသည်။

ကြို့ပင်ကောက်မြို့၏ မျူနီစီပယ်အဖွဲ့ကို ၁၈၉၄ ခုနှစ်က စတင်၍ဖွဲ့စည်းတည်ထောင်ခဲ့သည်။ ထိုမြို့၌ ပြည်သူ့ဆေးရုံ၊ အစိုးရအထက်တန်းကျောင်း၊ မီးရထားဘူတာရုံ၊ စျေး၊ ဆန်စက်၊ သစ်စက်နှင့် စေတနာ့ဝန်ထမ်း မီးသတ်အဖွဲ့များရှိသဖြင့် မြို့၏အခြေအနေမှာ စည်ကားသည်။ ထို့ပြင် ကြို့ပင်ကောက်မြို့နယ်၌ သူကြီးပိုင် ၅၂ ပိုင်ပါဝင်သည်။ ကြို့ပင်ကောက်မြို့မ၌မူ အိမ်ခြေ ၂၀၀၀ ခန့်နှင့် ၁၉၅၃ ခုနှစ် သန်းကောင်စာရင်း အရ လူဦးရေ ၉၈၈၈ ယောက်ခန့် နေထိုင်သည်။ မြို့ပေါ်၌ ရေရှားပါးခက်ခဲမှုကြောင့် ရေကန်ကြီးများတူးဖေါ်ထားရလေသည်။

အရှေ့ဖက်သို့လားသော် ရိုးမတောင်ခြေခံလျက် မြို့နှင့် ၇ မိုင်ခန့်အကွာ၌ မြို့တွင်းရွာဟု တွင်သောရွာတရွာရှိသည်။ ထိုမြို့တွင်းရွာ၌ ရှေးမင်းတပါး နန်းစံခဲ့ဘူးသည်ဟု အဆိုရှိ

သည်။ ကျုံး၊ မြို့ရိုး၊ မျှော်စင်နှင့် နန်းဦးစေတီတို့၏ အပျက်အစီးများကို ယခုတိုင် တွေ့မြင်နိုင်သေးသည်။ မြို့တွင်းရွာသို့ ကြို့ပင်ကောက်မြို့မှ မော်တော်ကားလမ်းပေါက်၏။ အနောက်ဖက်သို့လားသော် မိုးညိုမြို့နယ် တည်ရှိသည်။ တောင်ဖက်သို့လားသော် အုတ်ဖိုမြို့နယ်တည်ရှိ၍ မြို့လယ်ချောင်းနှင့် ကဝေစုချောင်းခေါ် ဂမုန်းချောင်းတို့ ဖြတ်သန်းစီးဆင်းကြသည်။ မြောက်ဖက်သို့လားသော် ဇီးကုန်းမြို့နယ် တည်ရှိ၍ ဝက်ကော်ချောင်းနှင့် မင်းဘူးချောင်းတို့ ဖြတ်သန်းစီးဆင်းကြသည်။

ထို့ပြင် မြို့၏အနောက်ဖက်၌ မဟာစန္ဒာသီဟ ဘုရားကြီးနှင့် အရှေ့ဖက်၌ မဟာလောကသီရိ ဘုရားကြီးများ ရှိကြသည်သာမက ထိုအရှေ့ဖက်၌ပင် မြို့နှင့် ၁၂ မိုင်ခန့် အကွာတွင် ပုဂံကျစွာမင်းကြီး တည်ထားကိုးကွယ်သည်ဟု အဆိုရှိသော ကျစွာဘုရားကြီး အထင်အရှားရှိလေသည်။

ထိုကျစွာဘုရားပွဲတော်မှာ တပေါင်းလ၌ ကျင်းပမြဲဖြစ်၍ များစွာစည်ကားလှပေသည်။

**ကြိုး**။ ။ကြိုးကြီး ကြိုးငယ် အသွယ်သွယ်တို့ကို မည်သည့်အခါက စတင်အသုံးပြုလာကြသည်ဟု အတိအကျသိရှိရန် ခဲယဉ်းလေသည်။ သို့ရာတွင် ရှေးခေတ်လူများသည် လိမ်ယှက်ကာပေါက်ရောက်နေသော နွယ်ပင်များကို တွေ့မြင်၍ ထိုနွယ်ပင်များကို အတုယူကာ ကြိုးများကို စတင်ပြုလုပ်ခဲ့ကြသည်ဟုယူဆနိုင်ပေသည်။

ယခုသိရှိရသမျှ ရှေးအကျဆုံးကြိုးမှာ အီဂျစ်နိုင်ငံ၊ ဆက်ကာရအရပ်ရှိ ဟင်မကာသ်ချိုင်းဂူမှ တူးဖော် ရရှိခဲ့သောကြိုးခွေပင်ဖြစ်သည်။ အမှန်းအဆအားဖြင့် ထိုကြိုးသည် နှစ်ပေါင်း ၅၃၀၀ ကျော်မျှ ကြာမြင့်ပြီဖြစ်သော်လည်း မပျက်မစီးဘဲ ရှိနေသေးသည်။ ၁၉၄၂ ခုနှစ်တွင် အီဂျစ်နိုင်ငံ တူးရားဂူများ၌ ပပိုင်းရပ် (စက္ကူကျူပင်) များဖြင့် ပြုလုပ်ထားသော ကြိုး ၇ ချောင်းကို တူးဖော်ရရှိခဲ့၏။ ကြိုးတချောင်းမှာ ပိရမစ်တည်ဆောက်ရာတွင် အသုံးပြုသော ၆ဝ တန်စီးသော ကျောက်တုံးကြီးကို ချည်နှောင်သည့်ကြိုးဟု ဆိုလေသည်။ ရှေးခေတ်အီဂျစ်လူမျိုးတို့သည် ကြိုးများကိုဘီသွာလျှော်၊ ပပိုင်းရပ်ပင် စသည်တို့ဖြင့်ပြုလုပ်ကြ၏။

၁၇၉၂ ခုနှစ်မတိုင်မီက ကြိုးများကို လက်ဖြင့်သာလျှင်ကျစ်ခဲ့ကြသည်။ ထိုနောက်မှ လက်ငင်ခြည်မျှင်များကို စက်ဖြင့် ကျစ်ယူကြသည်။ ထိုနောက် ခြည်မျှင်များကိုပင် စက်ဖြင့်ငင်လာကြ၏။ ၁၉ ရာစုအလယ်လောက်တွင် ရေနွေးငွေ့အား အင်ဂျင်စက်များကို အသုံးပြုနိုင်ကြသောအခါ အချင်း ၁ လက်မထက်ကြီးသော ကြိုးကြီးများသာမက ကြိုးငယ်အမျိုးမျိုးကိုလည်း ကျစ်လာနိုင်ကြသည်။ များသောအားဖြင့် ပိုက်ဆံပင်၊ ဂုံလျှော်ပင်၊ ဘီသွာလျှော်ပင်တို့မှရသောလျှော်မျှင်များကို ကြိုးကျစ်ယူကြသည်။ (ဂုံလျှော်ပင် — လည်းရှု)။ အုန်းခွံမှ အုန်းဆံကိုလည်း ကြိုးကျစ်နိုင်ပေသည်။ စက်ရုံကြီးများ၌ ကြိုးကျစ်ပုံနည်းအကျဉ်းမှာ အောက်ပါအတိုင်း ဖြစ်သည်။ ရှေးဦးစွာ လျှော်မျှင် အထုပ်ကြီးများကို စက်ရုံသို့ယူလာကြသည်။ စက်ရုံ၌ ထိုအထုပ်များကိုဖြေ၍ လျှော်မျှင်များကို အထပ်လိုက်ဖြန့်ထားသည်။ထိုနောက် ဆီပက်ဖျန်းပေးပြီးလျှင် စက်နှင့် စီမံထားသောဘီးကြမ်းကြီးများဖြင့် ဖြီးပေး၏။ ထိုနောက် အမျှင်များကိုတခုနှင့်တခု ဆက်လိမ်၍ကျစ်ယူခြင်းဖြင့် တလွန်းတည်းရှိသော အမျှင်ရှည်ကြီးများကိုရသည်။ ထိုအမျှင်ရှည်တို့ကို ဘီးလုံးများတွင် ရစ်ပတ်ထားသည်။ တဖန်ဘီးလုံးမှ အမျှင်များကို သံမဏိပြားကြီးရှိ အပေါက်တို့၌ သွင်းပြီးနောက် လွန်းတင်သောနေရာသို့ပို့၏။ ထိုနေရာမှတဆင့် လှည့်လည်၍ကျစ်ပေးသော စက်များဆီသို့ ရောက်သွားပြီးလျှင် ကြိုးကို ဗယ်ပြန်ညာပြန် ခိုင်မာသည်ထက် ခိုင်မာအောင်ကျစ်ပေးသည်။ ဤသို့ အဆင့်ဆင့်လွန်းတင်၍ ကျစ်ပေးခြင်းဖြင့် ကြိုးလုံးသေးသေးမှ သင်္ဘောကျောက်ဆူးကြိုးကြီးအထိ ကြိုးအမျိုးမျိုးကို ရရှိနိုင်သည်။

ကြိုးကျစ်ရန်အသင့်စုပုံထားသောပိုက်ဆံလျှော်မျှင်များ





သာယာစွာတွန်မြည်တတ်သောကြိုးကြာငှက်



ခေတ်မှီကြိုးစက်ရုံတရုံ၏ အတွင်းပိုင်းရှုခင်းတခုကိုမြင်ရပုံ

ကျစ်ပြီးကြိုးကြီးများကို ကတ္တရာဆီတွင်စိမ်၍ ညှစ်စက်တွင် ဖိညှစ်ပေးရ၏။ ဤသို့ဆီစိမ်ပေးသဖြင့် ကြိုးသည် ရေမဝင်နိုင်ဘဲ ကြာရှည်ခံသည်။ ယခုအခါ၌ သံ၊ သံမဏိ၊ ကြေးနီစသည့် သတ္တုနန်းကြိုးသေးများကို အထက်ပါနည်းအတိုင်း စုပေါင်း၍ သတ္တုနန်းကြိုးကြီးများရအောင် ကျစ်ယူနိုင်ပြီ ဖြစ်ရာ လျှော်ကြိုးများမှာ ယခင်ကလောက် ခေတ်မစားတော့ချေ။ ပလပ်စတစ် အမျှင်များကို ကျစ်ယူသော နိုင်လွန်ကြိုးမှာ အလွန်ခိုင်မာသဖြင့် ယခုအခါ ခြေအိတ်ထိုးရန်ကြိုး၊ လေထီးကြိုး၊ ရွက်လှေကြိုး၊ တောင်ပေါ် တက်ရန်ကြိုး စသည်တို့ကို နိုင်လွန်ဖြင့်ပြုလုပ်ယူကြသည်။

**ကြိုးကြာ**။ ။ကြိုးကြာသည် ငှက်ကျားမျိုးရင်းတွင် ပါဝင်သည်။ ကိုယ်လုံးကိုယ်ထည်ကြီး၍ အလျား ၅ ပေခန့်ရှိသည်။ ခြေတံ လည်တိုင် ရှည်၍ ' ငဟစ် ' နှင့်တူသည်။ ကြိုးကြာ၏အသံမှာ သာယာသဖြင့် သာယာသော အသံကို ကြိုးကြာသံ၊ ကရဝိတ်သံနှင့် နှိုင်းရှည့်လေ့ရှိကြသည်။ ဖိုမ အမြဲတမ်း တွဲနေတတ်၍ တကောင်ကိုသတ်ပစ်လျှင် ကျန်တကောင်မှာ ရင်ကွဲနာကျပြီး သေတတ်သည်ဟုဆိုသည်။

မြန်မာနိုင်ငံ မြောက်ပိုင်းနှင့် အလယ်ပိုင်းတွင် ကြိုးကြာကို အများဆုံးတွေ့မြင်ရသည်။ ကမ္ဘာ့အရှေ့ပိုင်း နိုင်ငံများတွင်လည်း တွေ့ရသည်။ မြန်မာနိုင်ငံရှိ ကြိုးကြာသည် နားသည့်အခါ၌ဖြစ်စေ၊ ပျံသည့်အခါ၌ဖြစ်စေ၊ အော်မြည်လေ့ရှိသည်။ ကြိုးကြာ၏အစာကား အသီးအရွက်၊ ပိုးမွှား၊ ခရုနှင့် မြွေများဖြစ်လေသည်။

ကြိုးကြာသည် အသိုက်ကို ကိုင်းရိုး၊ ကျူရိုး၊ ကောက်ရိုးတို့ဖြင့် လယ်တောပွက်တောများတွင် ပြုလုပ်တတ်သည်။ နှစ်စဉ်နှစ်တိုင်း အသိုက်ဟောင်း မပျက်မစီးဘဲ ကျန်ရှိလျှင် ထိုအသိုက်ကို ပြန်လည်အသုံးပြုလေ့ရှိသည်။ တမြုံလျှင် ဥ ၁ လုံးမှ ၃ လုံးရှိတတ်သည်။ တဥလျှင် ပျမ်းမျှ အလျား ၃.၅ လက်မမှ ၄.၅ လက်မအထိရှိ၍ ပြက်မှာ ၂.၄ လက်မမှ ၂.၈ လက်မအထိ ရှိသည်။ ဥသည် မာချော၍ အစိမ်းနုတွင် အဝါပြောက်များဖြစ်စေ၊ အညိုတွင် အမဲပြောက်များဖြစ်စေ ရှိတတ်သည်။ ကြိုးကြာကလေးများသည် မိုးဥတုအတွင်း၌ပေါက်တတ်ကြသည်။

**ကြိုးထုံးနည်း၊ ချည်နည်း၊ ထုံးနည်း**။ ။ကြိုးထုံးနည်း၊ ချည်နည်း၊ ထုံးနည်းများကို လူတို့အသုံးပြုခဲ့ကြသည်မှာ အလွန်ကြာပေပြီ။ ရှေးခေတ်အီဂျစ်လူမျိုးတို့ ကြိုးထုံးနည်း၊ ချည်နည်း အမျိုးမျိုးကို အသုံးပြုခဲ့ကြသည့် သာဓကတရပ်မှာ ရှေးနှစ်ထောင်ပေါင်းများစွာက ပြုလုပ်ထားခဲ့သော အီဂျစ်လူမျိုးတို့ ဆင်မြန်းစရာ ရတနာတခုပေါ်တွင်၊ ကြိုးချည်နည်းပုံစံတခု ထုလုပ်ထားသည်ကို တွေ့ရခြင်းပင်ဖြစ်သည်။ ရှေးခေတ် ဖိနီရှန် သင်္ဘောသားများသည်လည်း ကြိုး ၂ ချောင်းမှ တချောင်းတည်းဖြစ်လာအောင် ကြိုးဖျားချင်းဆက်သည့်နည်းကို လက်တွေ့အသုံးချလာခဲ့ကြသည်။

ယခုခေတ်သုံး ကြိုးထုံးနည်း၊ ချည်နည်း၊ ထုံးနည်းများမှာ အမြောက်အမြားပင်ရှိသည်။ ယင်းတို့တွင် ရှေးခေတ်လူတို့ အသုံးပြုခဲ့ကြသော နည်းများလည်း များစွာပါ၍၊ ခေတ်




**အသုံးများသောကြိုးထုံးနည်းနှင့်ချည်နည်းများ**

(၁) တပတ်လျှိုမိန်းမချည်နည်း (၂) စုံထွက်မိန်းမချည်နည်း (၃) မြင်းဇက်ခွချည်နည်း (၄) ဆရာဝန်ချည်နည်း (၅) တံငါထုံးနည်း (၆) ကွင်းမလျှောထုံးနည်း (၇) တိုင်ဆိုင်းကွင်းချည်နည်း (၈) ဗူးလည်သီးခတ်နည်း (၉) စောင်းကြိုးသတ်ချည်နည်း (၁၀)ယုန်နားရွက်ချည်နည်း

အလျောက် တိုးတက်ဆန်းပြားလာသော နည်းသစ်များလည်းပါသည်။ ကောင်းသောကြိုးထုံးနည်း၊ ကြိုးချည်နည်းတခုဖြစ်ရန်မှာ အချက် ၃ ချက်နှင့် ပြည့်စုံဖို့လိုပေသည်။ ယင်းတို့မှာ (၁) လွယ်ကူစွာချည်ထုံးနိုင်ခြင်း (၂) အလေးအပင်တခုခုကို ချီမရာ၌ ကြိုးထုံးပြေ၍မသွားခြင်း (၃) ကိစ္စပြီးသောအခါ လွယ်ကူစွာ ဖြေနိုင်ခြင်း တို့ပင် ဖြစ်သည်။ ကြိုးဆက်နည်းတွင်လည်း မည်သို့ဆက်သည်ဖြစ်စေ၊ ခိုင်ခံ့၍ ပြေပြစ်အောင် ဆက်နိုင်ဖို့အရေးကြီးပေသည်။

အထူးသဖြင့် လှေ၊ ဖေါင်၊ သင်္ဘောများနှင့်လိုက်ပါ၍ အသက်မွေးကြရသော ရေကြောင်းသွား အလုပ်သမားတို့သည် ကြိုးကို အလွန်အသုံးများကြသည့်အတိုင်း ကြိုးထုံးနည်း ချည်နည်း ထိုးနည်း အမျိုးမျိုးကို တတ်မြောက်ထားကြရသည်။ လှေထိုးသား၊ သင်္ဘောသားများသာမဟုတ်၊ သစ်ဝါးခုတ်သူများသည်၎င်း၊ စေတီပုထိုး၊ တိုက်တာအိမ်ယာ တည်ဆောက်သူများသည်၎င်း၊ ဆင်သမားများသည်၎င်း၊ အမေရိကန်နိုင်ငံတွင် ကောင်းဗွိုင်ခေါ် မြင်းစီးနွားကျောင်းသားများသည်၎င်း၊ကမ္ဘာအရပ်ရပ်ရှိ ကင်းထောက်များ၊ ကင်းထောက်အမျိုးသမီးများသည်၎င်း၊ ကြိုးထုံးနည်း ချည်နည်းထိုးနည်း အမျိုးမျိုးကို လေ့လာတတ်ကျွမ်း ထားကြရပေသည်။ ကြိုးများကို သူ့နေရာနှင့်သူ နည်းလမ်းတကျ မှန်ကန်စွာ ထုံးနိုင် ချည်နိုင် ဆက်နိုင် မှုသည် အလုပ်နှင့်အချိန်ကိုသာ သက်သာစေသည်မဟုတ်၊ အချို့သော ကိစ္စများတွင် လူတို့၏ အသက်ဘေးကိုပင် ကယ်တင်ကာကွယ်ပေးနိုင်သည့်အတွက် နည်းမှန်များကို တတ်ကျွမ်းထားရန်အရေးကြီးပေသည်။

ကြိုးထုံးနည်း၊ ချည်နည်း၊ ထိုးနည်းပေါင်း များစွာရှိသည့်အနက်၊ အသုံးများသော နည်းအချို့ကို အောက်တွင် ဖေါ်ပြထားပေသည်။

**တပတ်လျှိမိန်းမချည်နည်း။** ။ဤနည်းမှာ ကြိုးထုံးနည်းအားလုံးအနက် အလွယ်ဆုံးဖြစ်၏။ လက်ထဲ၌ ကြိုးစမြဲစေလိုလျှင်ဖြစ်စေ၊ ကြိုးဖျားရှိ ကြိုးလွန်းများ မပြေစေလိုလျှင်ဖြစ်စေ၊ ကြိုးကို ချော၍မသွားအောင် အစသတ်ထားလိုလျှင်ဖြစ်စေ၊ ကြိုးဖျားကို ဤနည်းဖြင့် ထုံးထားရလေသည်။
**စုံထွက်မိန်းမချည်နည်း။** ။ကြိုးစ ၂ ခုကို ချည်ရာ၌ ဤနည်းကို အများဆုံး အသုံးပြုကြသည်။ အလွန်ခိုင်မြဲ၍ လွယ်ကူစွာလည်း ပြန်ဖြေနိုင်၏။ သို့သော် ကြိုးချင်း အရွယ်တူမှသာ ဤနည်းကို အသုံးပြုရန်ကောင်းသည်။
**မြင်းဇက်ခွဆက်နည်း။** ။ဤနည်းကို အရွယ်မတူသည့် ကြိုးစ ၂ ခုကို ချည်လိုသောအခါ မျိုး၌ အသုံးပြုကြသည်။
**ဆရာဝန်ချည်နည်း။** ။ဤနည်းကို ကျပ်စည်းရာ ပတ္တီးစည်းရာ၌ အသုံးပြုလေ့ရှိသည်။ ဤနည်းမှာ ပဌမအဆင့်ချည်ပြီးနောက် ဒုတိယအဆင့်ကို ချည်လျက်ရှိစဉ်၊ ပဌမအဆင့်သည် ပြေ၍မထွက်နိုင်သော ချည်နည်းဖြစ်သည်။
**တံငါထုံးနည်း။** ။ဤနည်းကို ပိုက်ကြိုးနှင့် ဆဲကြိုးတို့ကို ဆက်ချည်ရာ၌ တံငါသည်တို့ အသုံးပြုလေ့ရှိသည်။
**ကွင်းလျှောထုံးနည်း။** ။ဤနည်းမှာ ကွင်းလျှောနည်းများအနက်အလွယ်ဆုံးဖြစ်၏။
**တိုင်ဆိုင်းကွင်းချည်နည်း။** ။ဤနည်းမှာ အကောင်းဆုံးနှင့် အသုံးအကျဆုံး ကွင်းသေချည်နည်းတနည်းဖြစ်၍ ကြိုးချည်နည်းဘုရင်ဟုပင် တခါတရံ ခေါ်ဆိုကြသည်။
**ဗူးလည်သီးခတ်နည်း။** ။ဤနည်းသည် ကြိုးချည်နည်းများတွင် လူသိအများဆုံးပင်ဖြစ်၏။ ကြိုးတင်းလေ မြဲလေဖြစ်၏။ သို့သော် လွယ်ကူစွာ ချည်နိုင်သည့်နည်းတူ အဖြေလည်းလွယ်သည်။ ကြိုးဖျား ကြိုးလယ်မရွေးဘဲ ချည်နိုင်သည့်အတွက်လည်း ဤနည်းကို အသုံးများကြပေသည်။
**စောင်းကြိုးသတ်ချည်နည်း။** ။ဤနည်းမှာ သစ်လုံးနှင့် တိုင်များကို ခိုင်မြဲစွာချည်နှောင်ရာ၌ အသုံးပြုလေ့ရှိသည့် နည်းကောင်းတခုဖြစ်သည်။
**ယုန်နားရွက်ချည်နည်း။** ။ဤနည်းမှာ ကြိုးကို လိုသလို တိုစေနိုင်သည့် နည်းပင်ဖြစ်၏။
**ကြိုးထိုးနည်းများ။** ။ကြိုးထိုးနည်းများကို နားလည်သူနည်းပါးသည်။ သို့သော် နေရာအလိုက် အသုံးကျ အဖိုးတန်သည့်အတွက် တတ်ထားအပ်ကြပေသည်။ ကြိုး ၂ ပင်ကို ဆက်လိုသည့် အခါဖြစ်စေ၊ တနေရာ၌ နာနေသောကြိုး၊ ပြတ်သွားသောကြိုးမျိုးကိုပြန်ဆက်လိုလျှင်ဖြစ်စေ၊ ကြိုးထိုးနည်းကို နားလည်ထားမှ ဆက်နိုင်ပေမည်။ အထူးသဖြင့် စက်သီးတွင် တပ်ဆင်အသုံးပြုမည့် ကြိုးမျိုးဖြစ်က၊ ဖုထုံးမရှိရအောင် ပြေပြစ်စွာဆက်နိုင်ဖို့လိုအပ်ပေသည်။
**ကျောက်ကြိုးဆက် အတိုထိုးနည်း။** ။ဤနည်းမှာ ကြိုးဆက်နည်းများအနက် အလွယ်ဆုံးဖြစ်၏။ ဤနည်းဖြင့်ဆက်လိုသော်၊ ရှေးဦးစွာ ဆက်လိုသည့်ကြိုးဖျား ၂ ခုတွင် ကြိုးလွန်းများကို ၅ ရစ်စီမျှ ဖြေထုတ်ရသည်။ ထို့နောက် ကြိုးတပင်မှ ဖြေထားသော ကြိုးလွန်းတပင်စီကို အခြားကြိုးရှိ ကြိုးလွန်းများထဲသို့ တပင်ကျော် တပင်လျှိုနည်းဖြင့် သွင်းပေး၍ အစမပေါ်အောင် သတ်ပေးရသည်။ စံနစ်တကျဆက်ပေးပါက၊ မူလကြိုးနှင့်မခြား ခိုင်ခံ့နိုင်၏။ သို့သော် ဆက်ထားသည့်နေရာတွင် ကျန်နေရာများထက် ပို၍ထူနေတတ်လေသည်။
**ကျောက်ကြိုးကွင်းထိုးနည်း။** ။ဤနည်းတွင် ကြိုးဆက်ပုံသဘောမှာ ကျောက်ကြိုးဆက် အတိုထိုးနည်းအတိုင်းပင်ဖြစ်၏။ ကြိုးဖျားတွင် အကျဉ်းအကျယ် လိုသမျှ မျက်ကွင်းဖော်ထား၍ ကြိုးဖျားကို ပင်မ ကြိုးနှင့် ဆက်ပေးခြင်း၌သာ ခြားနားပေသည်။
**ကျောက်ကြိုးဆက်အရှည်ထိုးနည်း။** ။ကြိုးတွင် ဖုထစ်ထမနေအောင် ပြေပြစ်စေလိုသောအခါ ဤနည်းဖြင့် ဆက်ပေးရသည်။ ဤနည်းတွင် ကြိုးဖျားရှိ ကြိုးလွန်းများကို အရစ်ပေါင်း အတော်များများဖြေပေးရ၏။ ထို့နောက် ကြိုးတပင်မှ ကြိုးလွန်းများကို အခြားကြိုးရှိ ကြိုးလွန်းများအကြား၌ အလိုက်သင့် ကြားညှပ်လိမ်ကျစ်ပေးရ၍၊ အဆုံးသတ်ကျမှ တပင်ကျော်တပင်လျှိုနည်းဖြင့် အစသတ်ပေးရလေသည်။

**ကြိုးမဲ့ကြေးနန်း။** ဝိုင်ယာလက် — ရှု။

**ကြိုးသီချင်း။** ။ကြိုးသီချင်းဟူသောဝေါဟာရ ဖြစ်ပေါ်လာရခြင်းအကြောင်းမှာ စောင်းတူရိယာ အတီးပညာသင်ကြားရာမှ စတင်ဖြစ်ပေါ်လာသည်ဟု မှတ်သားရသည်။ စောင်းအတီးပညာ စတင်သင်ကြားရာ၌၊ စောင်းတွင်တပ်ဆင်ဖွဲ့ညှိထားသည့် ထံကြိုး၊ တျာကြိုး၊ တေကြိုး၊ တျောကြိုး၊ ဟုခေါ်ဆိုအပ်သော ကြိုးများ၏နေရာ အနေအထား၊ အသံအနေအထားနှင့် အဆိုပါကြိုးများဖြင့်တွဲဖက်တီးလေ့ရှိသော ကြိုးတွဲကြိုးဖက်များကို ရှေးဦးစွာလေ့လာသင်ကြားရန် လိုအပ်လေသည်။ ဤသို့စောင်းကြိုးများ၏ အသံအနေအထား အတွဲအဖက်များကို လွယ်ကူစွာလေ့လာသင်ကြားနိုင်စေရန် ရည်ရွယ်၍ ရေးသားစပ်ဆိုအပ်သော သီချင်းအမျိုးအစားများကို ကြိုးသီချင်းဟူ၍ ခေါ်ဝေါ်ကြသည်။
မြန်မာလူမျိုးတို့ သီဆိုတီးမှုတ်ကြသော ရှေးသီချင်းကြီးများအနက် ကြိုးသီချင်းများသည် ရှေးအကျဆုံး သီချင်းအမျိုးအစားဖြစ်ပေသည်။ ကြိုးသီချင်းများ မည်သည့်ခေတ်အခါက စတင်ပေါ်ပေါက်ခဲ့သည်ကို အတိအကျမသိရှိရသော်လည်း ပုဂံခေတ်အခါတွင် ထွန်းကားပေါ်ပေါက်ခဲ့သော စောင်းတူရိယာများနှင့်အတူ တပြိုင်တည်းပေါ်ပေါက်ထွန်းကားခဲ့သည်ဟုယူဆရသည်။

မြန်မာသက္ကရာဇ် ၉၀၄ ခုနှစ် ရှင်အဂ္ဂသမာဓိ ရေးသားသော နေမိဘုံခန်းပျို့တွင် ဖလိကဝိမာနဘုံခန်းကိုဖွဲ့ဆိုရာ၌ 'မှုတ်တီးငြင်းစောင်း၊ ရွှေနင်းနှောင်းနှင့်၊ မိကျောင်းပြိုင်ဆော်၊ ပြည်တော်ပုလဲ၊ အောက်ပြန်လှဲလျက်၊ ခွာရှဲစံပေါက်၊ အောက် ကလပ် ကြီး၊ ကင်းပတ် ဆီးလည်း၊ သီး သီးမနိုင်၊ သာကွင်း ကိုင် လျက်၊ ကောက်ပြိုင် အဲအန်' ဟုစပ် ဆိုခဲ့သည်ကိုအထောက်အထားပြု၍၊ ကလပ်ကြီးကြိုး၊ ကင်းပတ်ကြီးကြိုး သီချင်းအမျိုးအစားများ ထိုခေတ်အခါက ထွန်းကား ပေါ် ပေါက်နေပြီ ဖြစ်ကြောင်း သိသာ ထင် ရှားလေသည်။ ထိုပြင် တောင်ဖီလာဆရာတော်၏ ဩဝါဒစာတမ်းအရ၊ သာလွန် မင်း တရား ကြီး လက် ထက် တော် အခါ က ရှေးသီချင်းရိုး ၃၇မျိုးဖော်ပြရာ၌ (၁) အချီကြီးသံ (၂) အချီငယ်သံ (၃) ဆရာတောင်းသံ (၄) ဆရာပန်သံ (၅) ဆရာညွန်းသံ (၆) အတွင်းတီးဖြေသံ (၇) အပြင်တီးဖြေသံ (၈) ဆင်ဖြူရေချသံ (၉) ရွှေပလ္လင်တည်သံ (၁၀) ဗောဓိညောင်ရွက်သံ (၁၁) ဇမ္ဗူသပြေသီးကြွေသံ (၁၂) ငါးကြင်းမြီးခတ်သံ (၁၃) ခရုသင်းသံ (၁၄) ခွက်ခွင်းသံ (၁၅) ဘီလူးမဝမ်းစည်သံ (၁၆) မြစ်တွေးလန့်တွန်သံ (၁၇) မြစ်တွေးတွန်သံ (၁၈) သိကြားအုပ်ဆောင်းသံ (၁၉) သိကြားခလုတ်သံ (၂၀) သိကြားရေကန်တည်သံ (၂၁) သိကြားလောက်ပစ်သံ (၂၂) ကင်းပတ်ကြီးသံ (၂၃) ကင်းပတ်ငယ်သံ (၂၄) ထုံးကိုးတံသံ (၂၅) မျောက်မင်းအူသံ (၂၆) မိတ္ထိလာကန်ပေါက်သံ (၂၇) သပြေလားသံ (၂၈) ပြုံးကာရယ်ရွှင်သံ (၂၉) နောက်မြင်းလှသံ (၃၀) ကသာဝန်းလည်သံ (၃၁) ပွင့်လှရွှေဝါသံ (၃၂) လုလင်ပြန်တောစည်သံ (၃၃) လက်ာကုတ္တိသံ (၃၄) မြင်းလှစာတောင်းသံ (၃၅) မြင်းလှခွာသံ (၃၆) တံငါမအဲချင်းသံ (၃၇) စကြာမင်းဘိသိက်မြှောက်သံဟူ၍ ကြိုးသီချင်းအမျိုးအစားပေါင်း ၃၇ မျိုးဖော်ပြထား သည်ကို ထောက်လျှင်၊ ကြိုးသီချင်းများမည်မျှလောက် ရှေးကျသည်ကိုခန့်မှန်းနိုင်လေသည်။ အချို့ရှေးကျသည့် ကြိုးသီချင်းများတွင် တကောင်းဖေါင်ငင်ကြိုး၊ တကောင်းဖေါင်ဆိုက်ကြိုး၊ တကောင်းဖေါင်လားကြိုးဟူ၍ ၎င်း၊ နရပတိစည် သူမင်းတရားကြီးလက်ထက် တိုင်းခန်းလှည့်လည်တော်မူရာ မဟာသမုဒ္ဒရာသို့ရောက် သောအခါ ဖြစ်ပျက် သော အခြင်း အရာများ နှင့် စပ်လျဉ်း၍ ဖွဲ့ဆိုသီကုံးထားသော ကင်းပတ်ကြီးကြိုး၊ ကင်းပတ်ငယ်ကြိုး၊ နရပတိစည်သူအမေးချင်းကြိုး၊ ဇမ္ဗူသပြေသီးကြွေသံကြိုးဟူ၍၎င်း၊ စပ်ဆိုသီကုံးခဲ့သော သီချင်းအမျိုးအစားများ တွေ့ရှိသည်ကိုအထောက်အထားပြုလျှင် ကြိုးသီချင်းများ မည်မျှရှေးကျကြောင်းကို သိကြရပေမည်။ အထူးသဖြင့် ကုန်းဘောင်ခေတ်အစလောက်မှ မြဝတီဝန်ကြီးလက်ထက်အထိ ကြိုးသီချင်းများ၏ စပ်ဆိုသီကုံးမှုများသည် ရှေးခေတ်နှင့်မတူဘဲ တမျိုးတဖုံဆန်းသစ် တိုးတက်လာခဲ့လေသည်။ ကုန်းဘောင်ခေတ်ထက်စောသော ခေတ် များ တွင် ကြိုးသီချင်းများကို စပ်ဆိုသီကုံးပြီးနောက် ယင်းသီချင်းများ၏ အလိုက်တေးသွားများကို ထံ့ဒျုံတျောတေလေဒူလေတျာ အစရှိသောအမှတ် သင်္ကေတတမျိုးဖြင့် လေ့လာမှတ်သားသိဆိုကြသောအစဉ်အလာတရပ်ပေါ် ပေါက်ထွန်းကားခဲ့သည်။ ဥပမာ၊ ငုံးမင်း ကြိုး သီချင်း နောက် ဆုံး ပိုဒ် ရှိ 'မိုးသေးကျကာမြူးဘွယ်သာ၊ ပျော်စရာလေကြူး၊ ဖေါ်မကွာလေမြူး၊ လေချိုဖြူးပါလို့၊ ဝမ်းနှုးဘွယ်လေတည့်၊ ဝမ်းနှုးဘွယ်၊' ဟူသောအပိုဒ်ကို 'ဒူတျောထပ်တျာ၊ တေးထံတျာ၊ ထပ်တျာတျော့တျော၊ ဒူလေတေလေတျော၊ တေဒူလေထံဒျန့်ဒျန့်၊ တေဒူလေထံဒျန့်ဒျန့်၊ တျောထပ်တျာလေတည့်၊ တျောထပ်တျာ' ဟူ၍ လေ့လာမှတ်သားသိဆိုတီးမှုတ်ကြသည်။ ယင်းကဲ့သို့မှတ်သားတီးမှုတ်သိဆိုကြသော အစဉ်အလာတရပ်ကြောင့် ကုန်းဘောင်ခေတ်မတိုင်မီ စပ်ဆိုသော အချို့ကြိုးသီချင်းများ၏အပိုဒ်များတွင် မူလရေးသားစပ်ဆိုခဲ့သော စာသားများကွယ်ပျောက်လျက်၊ ထိုကွယ်ပျောက်သော သီ ချင်း စာ သား များ အစား၊ ထံ တျာ ဒျန့် တျော အစရှိသော အလိုက်တေးသွားသင်္ကေတများသာရောပြွမ်း၍ ကျန်ရစ်ခဲ့လေသည်။

အလွန်ရှေးကျသောကြိုးသီချင်းများကို စပ်ဆိုသီကုံးဖွဲ့နွဲ့ကြရာ၌ အထူးသဖြင့် အရာဝတ္ထုများ၏ သဘာဝဖြစ်ပေါ်လာသောအသံနှင့် တိရစ္ဆာန်များ၏သဘာဝအပြုအမူအသံ ၂ မျိုးကို အကြောင်းပြု၍ ဖွဲ့နွဲ့စပ်ဆိုကြသည်ကိုတွေ့ရှိရသည်။ အရာဝတ္ထုများ သဘာဝဖြစ်ပေါ် သောအသံနှင့်စပ်လျဉ်း၍ စပ်ဆိုခဲ့ကြသောကြိုးသီချင်း အမျိုးအစားများမှာ (၁) နရည်းစရာခတ်သံကြိုး (၂) ပန်းတည်းခွက်ခြစ်သံကြိုး (၃) ဇယ်စေ့ထုပ်ချင်းကြိုး (၄) ကြေးခရာသံကြိုး (၅) ပိုက်ကြီးငယ်ချင်းကြိုး (၆) မိတ္ထိလာကန်ပေါက်သံကြိုး (၇) နဝရတ်ခရုသင်းသံကြိုး (၈) ကွန်လန့်သံကြိုး (၉) ခွက်ခွင်းသံကြိုး (၁၀) တောင်တမန်လှိုင်းကြက်ခွပ်သံကြိုး အစရှိသည့်ကြိုးသီချင်းများဖြစ်သည်။ တိရစ္ဆာန်များ၏ သဘာဝပြုမူသံများနှင့် စပ် လျဉ်း ၍ သီကုံးခဲ့ကြသော ကြိုးသီချင်းအမျိုးအစားများမှာ (၁) ပုစဉ်းတောင်သံကြိုး (၂) ဂဠုန်မင်းတောင်သံကြိုး (၃) နဂါးပွက်သံကြိုး (၄) မြင်းလှစာတောင်းသံကြိုး (၅) ဆင်ဖြူရေချသံကြိုး (၆) မြစ်တွေးတွန်သံကြိုး (၇) ငါးကြင်းမြီးခတ်သံကြိုး (၈) မျောက်မင်းအူသံကြိုး (၉) မြင်းလှခွာသံကြိုး (၁၀) မြစ်တွေးကွန်လန့်သံကြိုး (၁၁) ကရဝိတ်ငှက်မင်းတွန်သံကြိုး (၁၂) ငါးပြေတက်သက်သံကြိုး (၁၃) ငါးကြင်းရေဆန်သံကြိုး (၁၄) ငါးကြင်း ရေစုန် သံ ကြိုး (၁၅) မိ ကျောင်း ရေဆန် သံ ကြိုး (၁၆) မိကျောင်းရေစုန်သံကြိုး (၁၇) ပိုးတောင်တဲလွန့်



ကြာပန်းတို့ဖြင့်တင့်တယ်သောကြည်နူးဖွယ်ကန်သာယာ

သံကြိုး (၁၈) ငှက်ကြီးစာငင်ချင်းကြိုး အစရှိသည့်ကြိုး သီချင်းများဖြစ်ကြလေသည်။

အချို့ကြိုးသီချင်းအမျိုးအစားများမှာ (၁) သိကြားမင်း (၂) ရွှေပလ္လင် (၃) ဆရာများ အကြောင်းနှင့်စပ်လျဉ်း၍ စပ်ဆိုသီကုံးခဲ့သော သီချင်းအမျိုးအစားများလည်းတွေ့ရှိရသည်။ သိကြားမင်းအကြောင်းနှင့်စပ်လျဉ်း၍ စပ်ဆိုကြသောသီချင်းအမျိုးအစားများမှာ (၁) သိကြားမင်းအမေးချင်းကြိုး (၂) သိကြားမင်းတုယင်သံကြိုး (၃) သိကြားမင်းလက်လွှတ်ချင်းကြိုး (၄) သိကြားမင်းခရုသင်းသံကြိုး (၅) သိကြားမင်းအုပ်ဆောင်းသံကြိုး (၆) သိကြားမင်းတမ်းချင်းကြိုး (၇) သိကြားမင်းလေးညှို့ချင်းကြိုး (၈) သိကြားမင်းလောက်ပစ်သံကြိုး (၉) သိကြားခလုတ်သံကြိုး (၁၀) သိကြားရေကန်တည်သံကြိုး (၁၁) သိကြားမင်းရေကန်တင်သံကြိုး များဖြစ်သည်။ ရွှေပလ္လင်အကြောင်းနှင့်စပ်လျဉ်း၍ စပ်ဆိုခဲ့သောသီချင်းအမျိုးအစား ၄ မျိုးမှာ (၁) ရွှေပလ္လင်တည်သံကြိုး (၂) ရွှေပလ္လင်အောင်သံကြိုး (၃) ရွှေပလ္လင်တက်သံကြိုး (၄) ရွှေပလ္လင်သက်သံကြိုးသီချင်းများဖြစ်သည်။ ဆရာအကြောင်းနှင့်စပ်လျဉ်း၍စပ်ဆိုခဲ့ကြသောသီချင်းအမျိုးအစား ၄ မျိုးမှာ (၁) ဆရာတောင်းသံကြိုး (၂) ဆရာပန်သံကြိုး (၃) ဆရာညွန်းသံကြိုး (၄) ဆရာသွားသံကြိုးများပင်ဖြစ်သည်။

ကြိုးသီချင်းများကို နှစ်ပုဒ်တစ်စုံမှ ငါးပုဒ်တစ်စုံအထိ အတွဲလိုက်စပ်ဆိုသီကုံးကြသော အလေ့အထများ ပေါ်ပေါက်ခဲ့သည်ကို တွေ့ရှိရသည်။ နှစ်ပုဒ်တစ်စုံစပ်ဆိုခဲ့သော ကြိုးသီချင်းအမျိုးအစားများမှာ (၁) ကလပ်ကြီးကြိုး၊ ကလပ်ငယ်ကြိုး (၂) ကြာချပ်ကြီးကြိုး၊ ကြာချပ်ငယ်ကြိုး (၃) ကင်းပတ်ကြီးကြိုး၊ ကင်းပတ်ငယ်ကြိုး (၄) အချီကြီးကြိုး၊ အချီငယ်ကြိုး (၅) ကျားမကြီးရေသောက်ချင်းကြိုး၊ ကျားမငယ်ရေသောက်ချင်းကြိုး (၆) ငါးကြင်းရေစုန်ကြိုး၊ ငါးကြင်းရေဆန်ကြိုး (၇) ဝတ်တော်ရုံကြိုး၊ ဝတ်တော်သိမ်းကြိုး အစရှိသည်တို့ဖြစ်သည်။ ဘုရင်မင်းမြတ်များ ဖေါင်တော်ဖြင့်မြန်းချီထွက်တော်မူရာ အခမ်းအနားအကြောင်းများနှင့် စပ်လျဉ်း၍ ဖွဲ့ဆိုသီကုံးကြရာ၌ (၁) ဖေါင်လားကြိုး (၂) ဖေါင်ငင်ကြိုး (၃) ဖေါင်ဆိုက်ကြိုးဟူ၍ သုံးပုဒ်တစ်စုံသီချင်း အမျိုးအစားကိုစပ်ဆိုသီကုံးကြသည်။ ထိုပြင် သာနိုးပျော်ဘွယ်ဟု ခေါ်သော ကြိုးသီချင်းအမျိုးအစားစပ်ဆိုရာ၌ သုံးပုဒ်တစ်စုံမှ ငါးပုဒ်တစ်စုံအထိ စပ်ဆိုသီကုံးလေ့ရှိကြသည်။

အချို့ကြိုးသီချင်းအမျိုးအစားများသည် စပ်ဆိုသီကုံးခဲ့သည့်အရပ်ဒေသ အမည်များရှေ့မှတပ်၍ မြင်စိုင်းဆရာပန်ကြိုး၊ မြင်စိုင်းကြေးခရာသံကြိုး၊ တောင်ငူဆရာပန်ကြိုး၊ တောင်ငူဆရာတောင်းကြိုး၊ တကောင်းဖေါင်ငင်ကြိုး၊ တကောင်းဖေါင်ဆိုက်ကြိုး၊ ဟူ၍ ခေါ်ဝေါ်သုံးနှုန်းကြသည်။

ကြိုးသီချင်း၏အင်္ဂါရပ်များမှာ (၁) အခြားဘွဲ့၊ သီချင်းခံ၊ ပတ်ပျိုး၊ ယိုးဒယား၊ မွန်သီချင်းများ၏ သီချင်းပိုဒ်များလောက် ရှည်လျားခြင်းမရှိဘဲ၊ အပိုဒ်များကို တိုတိုတုတ်တုတ်စပ်ဆို သီကုံးခြင်း (၂) သီချင်းအစမှ အဆုံးအထိ တချက်စည်းဖြင့် သီဆိုတီးမှုတ်ရခြင်း (၃) သီချင်းအစတွင် ဘွဲ့သီချင်းခံပတ်ပျိုးအစရှိသည့် သီချင်းများစတင်သကဲ့သို့ အတွဲစည်းဖြင့်မစဘဲ နရည်စည်းဖြင့်စတင်ခြင်း (၄) သီချင်းအချပိုဒ်တွင် ထံတျာတေရှင်အစချီ ပုစဉ်းတောင်သံကြိုး အဆုံးပိုဒ်ရှိ တျောတေထံတျာ တေဒျန့်၊ တျောတေတျာ အပိုဒ်၏ အလိုက်တေးသွား သဘောနှင့်ကိုက်ညီခြင်း (၅) သီချင်းပိုဒ်တပိုဒ်အဆုံးတွင် တောသည့်အတောမှာ အများအားဖြင့် နှစ်စည်းနှစ်ဝါးရှိခြင်းများပင်ဖြစ်လေသည်။

ထိုင်ဆိုတီးဝိုင်းများ သီဆိုတီးမှုတ်ကြရာ၌၊ ကြိုးသီချင်းများကို တပုဒ်ချင်းအနေအားဖြင့် သီးခြားသီဆိုတီးမှုတ်ခြင်း အလေ့အထအလွန်နည်းပါးလျက်၊ ဘွဲ့သီချင်းအဆုံးမှသော်၎င်း၊ သီချင်းခံအဆုံးမှသော်၎င်း၊ ကြိုးသီချင်းများကို ဆက်စပ်သီဆိုတီးမှုတ်လေ့ရှိကြသည်။ ကြိုးသီချင်းများကိုစောင်းတူရိယာဖြင့် သီဆိုတီးမှုတ်မည်ဆိုလျှင်၊ ညှင်းလုံးသံစဉ်၌သာလျှင်သီဆိုတီးမှုတ်ရသည်။ ဆိုင်းဖြင့်သီဆိုတီးမှုတ်မည်ဆိုလျှင်၊ သံရိုးသံစဉ်၌ သီဆိုတီးမှုတ်ရသည်။ စောင်းဆိုင်းအတီးပညာများကို လေ့လာလိုက်စားလျှင်၊ သင်ရိုးသီချင်းများဟုခေါ်သော (၁) ထံတျာတေရှင်အစချီ ပုစဉ်းတောင်သံကြိုး (၂) သီတာအစချီကလပ်ကြီးကြိုး (၃) သာယာအစချီကလပ်ငယ်ကြိုး (၄) ဝေဘာဂီရိအစချီညွန့်တက်သံသာဆင်မင်းကြိုး (၅) ထွေတလာအစချီ ဗောဓိရွက်သံကြိုး (၆) ဘုံဆောင်မြင့်အစချီ ဖေါင်လားကြိုး (၇) ဇေယျာမြို့အစချီ ဖေါင်ငင်ကြိုး (၈) စိမ်းလဲ့လဲ့အစချီ ဖေါင်ဆိုက်ကြိုး (၉) သာနိုးပျော်ဘွယ်ကြိုး ၅ ပုဒ်အပါအဝင်ဖြစ်သော စံရာတောင်ကျွန်း (၁၀) ရွှေပြည်ကြီး ရော (၁၁) မြို့နန်းငယ်လေ (၁၂) ကိုးပါးပေါင်းစု (၁၃) ရွှေဘုန်းအစချီကြိုးသီချင်း ၁၃ ပုဒ်ကို အစီအစဉ်အတိုင်း ရှေးဦးစွာသင်ကြားလေ့လာကြရသည်။

အလွန်ရှေးကျသော ကြိုးသီချင်းမြောက်မြားစွာတို့ကို ရေးသားခဲ့သောစာဆိုတော်ကြီးများ၏အမည်များရှာဖွေမတွေ့ရှိရသော်လည်း ကုန်းဘောင်ခေတ်မစမီ အချိန်လောက်မှစ၍ ကြိုးသီချင်းများရေးသားစီကုံးရာ၌ ထင်ရှားကျော်စောခဲ့သည့် စာဆိုတော်ကြီးများမှာ၊ ဝန်ကြီးပဒေသရာဇာ၊ မြဝတီဝန်ကြီးဦးမြတ်လှ၊ မင်းလက်ဝဲနော်ရထာ ဦးလွန်းပြေတို့ပင်ဖြစ်သည်။ (မြန်မာဂီတ — လည်းရှု။) ဦးမြဦး။

**ကြက်**။ ။ယခုအခါ မွေးမြူနေကြသော ကြက်များသည် အာရှတိုက် တောင်ပိုင်းနှင့် အရှေ့တောင်ပိုင်းဒေသ



အထက်ပုံ။ (ဝဲ) ဗတ်မီနိုကာခေါ် ငွေနားအနက်မျိုး (ယာ) ဗားပလင်းမတ်ရော့မျိုးကြက်မများ
အောက်ပုံ။ (ဝဲ) ဝှိုက် လက် ဟွန်းခေါ် ငွေနားအဖြူမျိုးကြက်မ (ယာ) ဝှိုက်လက်ဟွန်းမျိုးကြက်ဖကြီး

တို့ရှိ တောကြက်ရိုင်းများမှ ပေါက်ဖွားလာကြသည်ဟု ဆိုပေသည်။ တရုပ်နိုင်ငံ၌ ဘီစီ ၁၄၀၀ ကပင် တောကြက်များကို ယဉ်ပါးလာအောင် မွေးမြူခဲ့ကြ၍၊ အိန္ဒိယနိုင်ငံ၌ ဘီစီ ၁၀၀၀ မတိုင်မီကပင် မွေးမြူခဲ့ကြသည်။ ထိုနောက် အာရှတိုက်မှတဆင့် ဥရောပတိုက်သို့ ကြက်များရောက်ရှိသွားကြသည်။ တဖန် ဥရောပတိုက်မှတဆင့် အမေရိကတိုက်သို့ ရောက်ရှိကြသည်ဟုဆိုလေသည်။ ယခုထက်တိုင် အာရှတိုက် တောင်ပိုင်းနှင့် အရှေ့တောင်ပိုင်းရှိ တိုင်းနိုင်ငံများတွင် တောကြက်မျိုးများကို တွေ့နေကြရသေးသည်။

ကမ္ဘာပေါ်၌ ကြက်များကို မူလမွေးမြူရာ ဒေသကိုစွဲ၍ ငါးမျိုးခွဲထားသည်။ ယင်းတို့မှာ အင်္ဂလိပ်ကြက်မျိုး၊အာရှကြက်မျိုး၊ ဥရောပကြက်မျိုး၊ အမေရိကန်ကြက်မျိုးနှင့် မြေထဲပင်လယ်ကြက်မျိုးတို့ဖြစ်ကြသည်။ ကြက်မျိုးတို့တွင် အရွယ်အစား၊ ပုံပန်းသဏ္ဌာန်နှင့် အရောင်အမျိုးမျိုးကွဲပြားကြသည်။ အာရှမျိုးဝင် ဂျပန်နိုင်ငံရှိ ယိုကိုဟားမားကြက်မျိုးတွင် အလျားပေ ၂၀ ရှည်သောအမြီးရှိ၍ အခြားကြက်တမျိုးတွင်မူ အမြီး ဟူ၍ လုံးဝမရှိပေ။ ကြက်အချို့တွင် အမောက်နှင့်လည်ဆံ ပါရှိသော်လည်း အချို့ကြက် တို့မှာမူ

အမောက်နှင့်လည်ဆံ မပါရှိကြချေ။ ကြက်တို့တွင် အများအားဖြင့် ခြေချောင်းငယ် လေးချောင်းစီသာ ရှိကြသော်လည်း အင်္ဂလိပ်ကြက်ဒေါကင်းမျိုးနှင့် ပြင်သစ်ကြက်ဟူးဒန်းမျိုးတို့တွင် ခြေချောင်းငယ် ၅ ချောင်းစီပါရှိ၏။ သို့ရာတွင် ကြက်မျိုးတိုင်း၌ တူသောအချက်များလည်း ရှိကြ၏။

ကြက်သည် ငှက်မျိုးဖြစ်သောကြောင့် ငှက်များကဲ့သို့ပင် ကြက်၌ အမွေးအတောင်များရှိ၍ သွားများမရှိချေ။ ထိုအမွေးအတောင်များသည် ကိုယ်ငွေ့ကိုထိန်းထား၍ အအေးကိုကာကွယ်ပေးသည်။ ထို့ကြောင့် ကြက်များသည် ရာသီဥတုအမျိုးမျိုး၌ နေနိုင်ကြ၍ ယင်းတို့ကို ကမ္ဘာပေါ်ရှိ တိုင်းပြည်တိုင်း၌လိုပင် မွေးမြူနိုင်ကြခြင်းဖြစ်သည်။ တကိုယ်လုံး အမွေးများဖုံးလွှမ်းနေသော်လည်း အမွေးများသည် နေရာတိုင်း၌မပေါက်ဘဲ သူ့နေရာနှင့်သူပေါက်ကြသည်။

မြေကြီးကိုယက်ပက်၍ အစာကိုရှာဖွေစားသောက်နိုင်ရန် ကြက်၌ သန်စွမ်းသောခြေထောက်၊ ခြေချောင်းငယ်များနှင့် ထက်မြက်သော နှုတ်သီးရှိသည်။ ကြက်ဖတွင် ခြေထောက်၌ အတက်များ ရှိသည်။ ထိုအတက်တို့ဖြင့် တကောင်နှင့်တကောင် ခွပ်ကြသောအခါ တကောင်ကိုတကောင် စူးရှစေကြသည်။ (ကြက်တိုက်ခြင်းလည်း — ရှု။) ကြက်ဖတို့တွင် အမောက်နှင့် တွဲလျားကျနေသော ပါးပျဉ်းရှိကြသည်။ အမောက်နှင့် ပါးပျဉ်းများသည် ကြက်ဖများတွင် ပို၍ထင်ရှားကြီးမားကာ ပုံအမျိုးမျိုးလည်း ရှိကြသည်။ အမောက်တို့မှာ ကြက်မျိုးအချို့တွင်သေးငယ်၍ အချို့တွင် ကြီးမားသည့်ပြင် တထပ်နှစ်ထပ်စသည်ဖြင့် ရှိကြလေသည်။

ကြက်၌သွားမရှိသဖြင့် အစာကို ချွန်ထက်သောနှုတ်သီးဖြင့် ပေါက်ခွဲရ၍ စားချလိုက်သောအစာကို အမြစ်ဖြင့် ချေချက်ရသည်။ ကြက်ပါးစပ်မှ စလုတ်သို့ဆက်ထားသော အစာမျိုမှာ ရှုံ့နိုင်ဆန့်နိုင်သော ပြွန်ချောင်းဖြစ်လေသည်။ ထိုအစာမျိုသည် စလုတ်မှတဆင့် အစာအိတ်ထဲသို့ ရောက်သွား၏။ စလုတ်မှာ အစာပိုများကို သိုလှောင်ထားရန် နေရာပင်ဖြစ်သည်။ ထို့ကြောင့် ကြက်သည် အစာကို အချိန်မရွေး စားနိုင်ခြင်းဖြစ်သည်။ ကြက်၏အမြစ်ထဲ၌ ကျောက်ကလေးများရှိ၍ ယင်းတို့သည် အစာကိုချေချက်ရာ၌ ကူညီကြသည်။

ကြက်၏ ညစ်ကြေးစွန့်အင်္ဂါစုသည် အခြားနို့တိုက်သတ္တဝါများ၌ရှိသော ညစ်ကြေးစွန့်အင်္ဂါစုနှင့် မတူပေ။ ကြက်သည် ကျင်ငယ်နှင့်ကျင်ကြီးကို တချိန်တည်းတွင်စွန့်သည်။ ကြက်တွန်လိုက်သောအခါ ဆီရင့်ခေါ် အသံအိုးမှ အသံထွက်လာသည်။ ထိုအသံအိုးသည် လေပြွန်မှ ဗရွန်ကပ်လေရှူပြွန်နှစ်ချောင်း ခွဲထွက်သွားရာ၌ရှိသည်။ ထိုဗရွန်ကပ်များမှာ ကြက်၏အဆုတ်တွင်းသို့ လေပို့ပေးသောပြွန်များပင်ဖြစ်ကြလေသည်။

ကြက်၏ကိုယ်ငွေ့သည် ၁၀၄° မှ ၁၀၆° အထိမျှလောက်ရှိသည်။ ကြက်သည် အခြားငှက်များကဲ့သို့ နှလုံးခုန်မြန်သည်။ ထို့ကြောင့် ဝမ်းမီးအလွန်ကောင်းသည်။ ကြက်၏အရိုးစုသည် ပေါ့၍ခိုင်ခံ့သည်။ အချို့အရိုးများမှာ ခေါင်းပွဖြစ်ကြ၍ ယင်းတို့အထဲသို့ အဆုတ်မှလေသည် ပျံ့နှံ့သွားသည်။ အဆုတ်သည် နံရိုးတွင် မြဲမြံစွာကပ်နေသဖြင့် ဖေါင်းပွအောင်မလုပ်နိုင်ပေ။

ကြက်မတွင် ဥအိမ်တခုနှင့် ဥပြွန်တခုပါရှိ၏။ အခြားတိရစ္ဆာန်များ၌မူ များသောအားဖြင့် ယင်းသို့မပါရှိကြချေ။ ဥအိမ်သည် ကိုယ်၏လက်ဝဲဖက်တွင်ရှိ၏။ ဥအိမ်နှစ်ခု၊ ဥပြွန်နှစ်ခုပါရှိသော ကြက်မများကိုလည်း မကြာခဏတွေ့ရတတ်ကြလေသည်။

အိမ်ကြက်မျိုးပေါင်း ၁၀၀ မျှရှိသည့်အနက် ဥစားကြက်မျိုး၊ ဟင်းစားကြက်မျိုးဟု အချုပ်အားဖြင့် ၂ မျိုးခွဲခြားနိုင်ပေသည်။ ဥအများဆုံး အုသောကြက်မျိုးတွင် ထင်ရှားသောကြက်များမှာ ဝှိုက်လက်ဟွန်း ငွေနားအဖြူမျိုး၊ အန်ကိုနာမျိုး၊ အန်ဒါလျူးရှင်းမျိုး၊



ဥစားရန်မွေးသောဗတ်ဖ်အော်ပင်တန်မျိုးကြက်မ

လိုက်ဆပ်ဆက်မျိုး၊ ဗားပလင်းမတ်ရော့မျိုးနှင့် မီနော်ကား ငွေနားအနက်မျိုး များဖြစ်ကြသည်။ ဟင်းစားကြက် မျိုးကောင်းများမှာတောကြက်မျိုးနှင့်ဒေါကင်းမျိုးတို့မှ စပ်ကျသောဗန္ဒတ်များ၊ ဗက်ဖရော့မျိုး၊ ဝိုက်အော်ပင်တန်မျိုးနှင့် လိုက် ဆပ် ဆက်မျိုး တို့ ဖြစ် ကြလေသည်။ ယင်းတို့အပြင် အလှသက်သက်မွေးသောကြက်မျိုးများလည်းရှိသေးသည်။

မြန် မာ အိမ် များ၊ ဘုန်း ကြီး ကျောင်း များ ၌ တွေ့ရသောကြက်တို့မှာ များသောအားဖြင့် ကြက်တိန်ညင်နှင့် စစ်တကောင်းကြက်မျိုးများဖြစ်သည်။စစ်တကောင်းကြက်မျိုးသည် ကြီးထွား၍ဟင်းစားအတွက်လည်းကောင်းသည်။ ကြက်တိန်ညင်သည် တောကြက်နှင့်နီးစပ်သော ကြက်မျိုးဖြစ်၍ အိမ်၌မွေးထားစဉ်ပင် တောစိတ်ဝင်လာ၍၊ ကြက်ရိုင်းဖြစ်သွားတတ်ကြပေသည်။ မြန်မာတို့သည် တယ်ကြက်လုပ်သော ကြက်မျိုးကိုလည်း မွေးထားတတ်ကြသေးသည်။ ကြက်တိန်ညင်ကို တယ်ကြက်အဖြစ်သုံးသည်။ တယ်ကြက်များကို အထူးလိမ်မာပါးနပ်၍နေအောင် လေ့ကျင့်ပေးထားကြသည်။ သို့ဖြင့်သာယာစွာတွန်လိုက်သော တယ်ကြက်၏ အသံကို ကြားရသောကြက်အရိုင်းတို့သည် တောထဲမှထွက်လာကြသည်။ တယ်ကြက်အနီးသို့ မရောက်မီပင် ထိုကြက်များသည် ညွှတ်ကွင်းတွင်မိကုန်ကြသည်။

ကြက်၏ထူးခြားချက်တရပ်မှာ အချိန်မှန်တွန်တတ်ခြင်းပင်ဖြစ်သည်။ ထိုကြောင့် နာရီမရှိကြသော ကျေးလက်တောရွာများ၌ သန်ကောင်လောက်အချိန်တွင် တွန်သောကြက်ကို သန်ကောင်ကြက်ဟူ၍၎င်း၊ သန်ကောင်ကျော်မှ မိုးလင်းသည့်တိုင်အောင် တွန်သောကြက်များကို ကြက်ဦးတွန်ဟူ၍၎င်း၊ လင်းကြက်ဟူ၍၎င်း အသီးသီးခေါ်ကြသည်။

# ကရုဏာရှင်များ၏လက်တွေ့ကူညီမှု

**ကမ္ဘာတဝှန်းလုံး ယဉ်ကျေးသောနိုင်ငံတိုင်းလိုလို၌ပင် ကြက်ခြေနီအသင်းများရှိနေကြပေပြီ။ ယင်း၏အဓိကရည်ရွယ်ချက်နှင့် ဖြစ်ထွန်း ပေါ် ပေါက် လာပုံမှာ စိတ်ဝင်စားမှတ်သားဖွယ် ကောင်းလှသည်။ ထို့ပြင် အသင်း၏ အထိမ်းအမှတ်ဖြစ်သော အလံ ရွေးချယ်ထားပုံမှာလည်း သင့်မြတ်လျော်ကန်သဖြင့် အားကျနည်းမှီးဖွယ်ကောင်းလှပေသည်။**

**ကြက် ခြေနီ အသင်း။** ။ကမ္ဘာပေါ် ရှိ ယဉ် ကျေးသော နိုင်ငံ တိုင်း လို လို ၌ ပင် ကြက် ခြေနီ အသင်း များ ဖွဲ့စည်းထားကြသည်။ ကြက်ခြေနီအသင်း၏ အဓိကရည်ရွယ်ချက်မှာ စစ်အတွင်းတိုက်ခိုက်ယင်း ဒဏ်ရာရရှိသူများ၊ ဖျားနာသူများ နှင့်၊ သုံ့ပန်းများ အား ကူညီပြုစုရန် ဖြစ်သည်။ အသင်း၏အထိမ်းအမှတ် ဖြစ်သောအလံမှာ အဖြူရောင်အောက်ခံတွင် အနီရောင်ကြက်ခြေကို ပေါ် လွင်စွာရေးခြယ်ထားသည်။ ထိုအလံကိုစွဲ၍ အသင်းကို ကြက်ခြေနီအသင်းဟုခေါ် လေသည်။

ကြက်ခြေနီအသင်း ပေါ် ပေါက်လာရပုံ အကြောင်းရင်းကိုရှာသော် ၁၈၅၉ ခုနှစ် ဇွန်လအတွင်းက ဒျူးနန်းဆိုသူသည် ဆော် လဖါရီး နိုး နယ်တဝိုက်တွင် ခရီးလှည့်လည်သွားလာခဲ့စဉ် လူသတ်ပွဲကြီးပမာ ပြင်းထန် ကြောက် မက်ဖွယ်ရာကောင်းလှသော ဆော်လဖါရီးနိုးတိုက်ပွဲနှင့် ကြုံခဲ့ရသည်မှ စတင်ခဲ့လေသည်။ ထိုတိုက်ပွဲတွင် ဣတလီနိုင်ငံမြောက်ပိုင်းကိုသြစတြီးယန်းလူမျိုးတို့ အာဏာစက် အောက်မှ လွတ်မြောက် ရန်အတွက် တတိယနပိုလီယန် ခေါင်းဆောင်သော ပြင်သစ်နှင့် ဆာဒင်းနီးယားတပ် များ ကတဖက်၊ သြစတြီးယန်းတပ်များကတဖက် ယှဉ်ပြိုင်တိုက်ခိုက်ကြ၏။ တိုက်ပွဲကြီး ပြီး ဆုံး သည့် အခါ စစ် မြေပြင် တွင် ကျဆုံးသူများနှင့် မချိတင်ကဲ ဝေဒနာခံစားနေရသော ဒဏ် ရာရရှိသူများမှာ ၄၀,၀၀၀ ခန့် မျှ ရှိလေ သည်။ အောင် ပွဲ များ စွာရ ခဲ့သည့် နပိုလီယန်ပင်လျှင် ထိုသို့သောဖြစ်အင်ကြောင့် စစ်ပြေငြိမ်းရန် တောင့်တမိရှာသည်ဟုဆိုသည်။

ထိုမျှဒဏ်ရာရသူတို့ အဆမတန်များပြားနေသော်လည်း စောင့်ရှောက်ပြုစုကုသပေးမည့်သူ အရေအတွက်မှာ နည်းပါးလွန်းလှသဖြင့်၊ မနိုင်မနင်းဖြစ်၍ ဒဏ်ရာရရှိ သူများမှာ မသေသင့်ဘဲ သေကြေပျက်စီးသွားရလေသည်။ ထိုအဖြစ်အပျက်ကို တွေ့မြင်ရသည်တွင် ကြင်နာစိတ်ယိုဖိတ်လျှက်ရှိသော ဒျူးနန်း သည် ဒဏ် ရာရသူများကို မိမိတတ်နိုင်သလောက် အမျိုးမျိုးကူညီပြုစုသည်။ ထို့မျှမကသေး၊ အနီးရှိရွာများမှ ဣတာလျံအမျိုးသမီးများကိုလည်း စေတနာ့ဝန်ထမ်း သူနာပြုအဖွဲ့များဖွဲ့စည်း၍ ရန်သူ မိတ်ဆွေ မရွေး ဒဏ်ရာရသူများကို ပြုစုစေသည်။ တိုက်ပွဲပြီးသည့်နောက်တွင် ဒျူးနန်းသည် 'ဆော်လဖါရီးနိုးတိုက်ပွဲ၏ သတိရစာစောင်' ခေါ် စာအုပ်ငယ်တအုပ်ကို ရေးသားခဲ့၏။ ထိုစာအုပ် တွင် စစ် မြေပြင် ၌ တွေ့ ကြုံ ခဲ့ရသည့် ဒုက္ခတို့ကို အစဉ်သတိရစေရန် ကွက် ကွက် ကွင်း ကွင်း ဖေါ် ပြပြီး သော် စစ် မြေပြင် တွင် ထိခိုက် ဒဏ် ရာ ရ ရှိ သူ များ အား ရန်သူမိတ်ဆွေမရွေး ကူညီစောင့်ရှောက် ပြုစုရန်အတွက် အသင်းအဖွဲ့ များ ဖွဲ့စည်းကြရန် အကြံဉာဏ်များပေးခဲ့သည်။

ထိုကြောင့် ၁၈၆၃ ခုနှစ်၌ ကျင်းပခဲ့သောအစည်းအဝေးတွင် စစ်အတွင်းတိုက်ခိုက်ယင်း ဒဏ်ရာရသူများအား မည်သို့မည်ပုံ ကူညီစောင့်ရှောက်နိုင်မည်ကို စုံစမ်းစစ်ဆေးရန်

# ကြက်ခြေနီအသင်း



ကြက်ခြေနီသူနာပြု၏ကရုဏာ

ထိခိုက်ဒဏ်ရာရသူများအားပြုစုရန်မှာ ကြက်ခြေနီအသင်း၏အဓိကတာဝန်တခုဖြစ်သည်။



စစ်မြေပြင်သူနာပြုများ၏လုပ်ငန်းတရပ်

ကော်မီရှင် အဖွဲ့ဖွဲ့စည်းခဲ့၏။ ထိုမှ အပြည်ပြည် ဆိုင်ရာကော်မီတီ အဖွဲ့ဖြစ်သွားသည့်အဖွဲ့ကြီးကို ဖွဲ့စည်းပြီးလျှင် နောက် နှစ် ဩဂုတ်လ ၈ ရက် နေ့ တွင် ဂျီနီး ဗား မြို့ ၌ ပင် အပြည်ပြည် ဆိုင်ရာအစည်း အဝေး တရပ် ကို ကျင်း ပ၍ ကြက် ခြေနီ စာချုပ်ကို ရေးဆွဲအတည် ပြုခဲ့ကြသည်။ ထိုစာချုပ်တွင် တိုက်ပွဲများ၌ ဒဏ် ရာ ရသူ များ ကို စောင့်ရှောက်ပြုစုရန်၊ စစ်ဆေးရုံများကို ကြားနေအဖြစ် အသိအမှတ်ပြုရန်၊ ဆေးဖက်ဆိုင်ရာ အမှုထမ်းများနှင့် အသုံး အဆောင် ပစ္စည်း များ ကို အကာ အကွယ် ပေး ရန် စ သည့် အခြေ ခံ အချက် ကြီးများ ပါဝင်လေ သည်။ ထိုပြင် ထို သို့ သော အကာ အကွယ် များ ရရှိနိုင်သည့် အထိမ်းအမှတ်အဖြစ် အဖြူရောင် အောက်ခံတွင် အနီရောင်ကြက်ခြေပါရှိသည့်အလံကို ရွေးချယ်ခဲ့လေသည်။ ကြက်ခြေနီအသင်း၏အလံမှာ ဆွစ်ဇာလန်နိုင်ငံအလံတော်ကို အရောင်များပြောင်းပြန် ပြုလုပ်၍ ရွေးချယ်ခဲ့သည် မှာလည်း၊ ကြက်ခြေနီအသင်းများ တည်ထောင်ရန် အကြံဥာဏ်များ ပေး သော ဆွစ်လူမျိုး အန်းနရီ ဒျူးနန်းအားဂုဏ်ပြုသည့်အနေနှင့် ရွေးချယ်ခဲ့ခြင်းပင်ဖြစ်လေသည်။ နိုင်ငံတကာရှိ ကြက်ခြေနီအသင်းများသည် ထိုအလံကိုပင် မိမိတို့နိုင်ငံဆိုင်ရာ အသင်း၏အလံအဖြစ်ဖြင့် အသုံးပြုလျက်ရှိကြ၏။ ထိုပုဂ္ဂိုလ်ကြီးမွေးနေ့ဖြစ်သော မေလ ၈ ရက်နေ့ကိုလည်း အပြည်ပြည်ဆိုင်ရာ ကြက်ခြေနီနေ့အဖြစ်အသိအမှတ်ပြုကာ ထိုနေ့တွင် အထိမ်းအမှတ်ပွဲများ ကျင်းပကြသည်။

အပြည်ပြည်ဆိုင်ရာ ကော်မီတီအဖွဲ့သည် စတင်ဖွဲ့စည်းသည်မှ ယခုတိုင် ဂျီနီးဗားမြို့တွင် တည်ရှိနေသည်။ နိုင်ငံအသီးသီးတွင် ရှိနေကြသော ကြက်ခြေနီအသင်းများမှာ တသီးတခြားဖွဲ့စည်း ထား သော အသင်းများပင်ဖြစ်ငြားသော်လည်း၊ အပြည်ပြည်ဆိုင်ရာ ကော်မီတီအဖွဲ့နှင့် ဆက်ထားကြ၏။ အပြည်ပြည်ဆိုင်ရာအဖွဲ့သည် နိုင်ငံအသီးသီးရှိ အသင်းများအချင်းချင်း ဆက်သွယ်မိစေရန်နှင့် အသင်းလုပ်ငန်းများကို ညီညာဖြဖြ လုပ်ကိုင်နိုင်ကြစေရန်အတွက် ဆောင်ရွက်ပေးလေသည်။ ကြက်ခြေနီအသင်း များ၏ လုပ် ငန်း ဆိုင် ရာ စာအုပ် စာတမ်း များ ကို လည်း ထုတ်ဝေလျက်ရှိသည်။

၁၉၁၉ ခုနှစ်တွင် အမေရိကန်ကြက်ခြေနီအသင်း စစ်ကောင်စီဥက္ကဋ္ဌ၏ ဆော်ဩချက်အရ ငြိမ်း ချမ်း နေချိန်တွင်လည်း ကြက်ခြေနီအသင်းများ၏ အသက်ကယ်ရေးလုပ်ငန်းများကို လုပ်ကိုင်ရန်အတွက် ပြင်သစ်၊ ဂရိတ်ဗြိတိန်၊ ဂျပန်၊ ဣတလီနှင့် အမေရိကန်ပြည်ထောင်စုနိုင်ငံများရှိ ကြက်ခြေနီ အသင်း များ သည် စုပေါင်း ကာ ကြက်ခြေနီ အသင်းချုပ်ကြီးကို ဖွဲ့စည်းခဲ့ ကြ လေ သည်။ ၁၉၂၈ ခုနှစ်တွင် အသင်းဝင်အဖွဲ့ပေါင်းမှာ ၅၀ ခန့်မျှ ရှိနေပြီဖြစ်၏။ ကြက်ခြေနီအသင်းချုပ်ကြီးသည် နိုင်ငံတိုင်းတွင် ကြက်ခြေနီစာချုပ်အတိုင်း ဖွဲ့စည်းတည်ထောင်လုပ်ကိုင်မည့် ကြက်ခြေနီ အသင်းများ ပေါ်ပေါက်ရေးကိုအားပေးရန်၊ နိုင်ငံအသီးအသီး ရှိ ကြက်ခြေနီ အသင်း များ နှင့် ပူး ပေါင်း လျက်

ကျန်းမာရေးအခြေမြှင့်တင်ရေး၊ ရောဂါကာကွယ်ရေး စသည်တို့ကို ဆောင်ရွက်ရန်နှင့် တွေ့ရှိပြီးတွေ့ရှိလတ္တံ့သော သိပ္ပံပညာနှင့် ဆေးပညာရပ်များဆိုင်ရာ အချက်အလက်များကို လူအပေါင်းတို့ အလွယ်တကူသိရှိပြီးလျှင် အကျိုးကျေးဇူး ခံစားနိုင်ကြစေရန်ရည်ရွယ်လေသည်။

အသင်းချုပ်ကြီး၏ လုပ်ငန်းစဉ်များကို အသင်းချုပ်တွင် ပါဝင်သည့် ကြက်ခြေနီအသင်းများမှ ကိုယ်စားလှယ်တဦးကျစီ ပါဝင်သောအုပ်ချုပ်မှုအဖွဲ့က စီမံအုပ်ချုပ်သည်။ အုပ်ချုပ်မှုအဖွဲ့ အစည်းအဝေး မရှိသည့်အခါ လုပ်ငန်းများကို အဖွဲ့ဝင်ဆယ်ဦးပါဝင်သော အမှုဆောင်အဖွဲ့က စီမံဆောင်ရွက်နိုင်ရန် လွှဲအပ်ထား၏။ အသင်းချုပ်ကြီး၏ အပြည်ပြည်ဆိုင်ရာ လုပ်ငန်းဆောင်တာများကို အုပ်ချုပ်မှုအဖွဲ့ဥက္ကဋ္ဌသို့မဟုတ် ဒုတိယဥက္ကဋ္ဌ တဦးဦးကကြီးကြပ်၍ အပြည်ပြည်ဆိုင်ရာ အမှုထမ်းများအားဆောင်ရွက်စေသည်။ အသင်းချုပ်ကြီး၏ လုပ်ငန်းစဉ်များကို ဆောင်ရွက်ရာတွင် ကုန်သမျှကို အသင်းဝင်များကအချိုးကျနှစ်စဉ် ထည့်ဝင်ထားသော ရန်ပုံငွေမှ ထုတ်ယူသုံးစွဲလေသည်။ အသင်းချုပ်ကြီး၏ ဌာနချုပ်ကို ယခင်ကဂျီနီဗားမြို့တွင် ထားရှိခဲ့သော်လည်း ၁၉၂၂ ခုနှစ်မှစ၍ ပါရစ်မြို့သို့ ပြောင်းရွှေ့ထားရှိ၏။

ပဌမတွင် နိုင်ငံအသီးသီး၌ ဖွဲ့စည်းခဲ့သော ကြက်ခြေနီအသင်းများမှာ သက်ဆိုင်ရာနိုင်ငံရှိ စစ်တပ်မှဆေးနှင့်သူနာပြုဌာနခွဲအား ကူညီရန် အထူးသဖြင့် စစ်အတွင်း ကူညီရန်ဖြစ်လေသည်။ ယခုအခါတွင်မူကား စစ်အတောအတွင်း၌သာမဟုတ်ဘဲ ငြိမ်းချမ်းရေးတည်မြဲချိန်တွင်လည်း မွန်မြတ်သောအသက်ကယ်ဆယ်ရေးလုပ်ငန်းများကို ဆောင်ရွက်လျက်ရှိကြသည်။ မီးဘေး၊ ရေဘေး၊ ကပ်ရောဂါဘေး၊ စစ်ဘေးစသော ဘေးဆိုးကြီးများ၏ဒဏ်ကို ခံစားနေရသူများအား အကူအညီအမျိုးမျိုး ပေးနေလေသည်။

ပဌမကမ္ဘာစစ်နှင့် ဒုတိယကမ္ဘာစစ်အတွင်းက ကြက်ခြေနီအသင်းများသည် အထူးပင်အလုပ်များခဲ့ကြသည်။ နိုင်ငံအသီးအသီးရှိ ကြက်ခြေနီအသင်းများမှ အသင်းဝင်များသည် စစ်မြေပြင်သို့သွားရောက်၍ အသက်ကယ်ဆယ်ရေးလုပ်ငန်းများကို ဆောင်ရွက်ခဲ့ကြသည်။ သူနာပြုတပ်များ၊ သူနာတင်ကားများ၊ ထမ်းစင်များ၊ ဆေးရုံသုံးပစ္စည်းများ၊ ဆေးဝါးများကို တိုက်ခိုက်နေသော ဒေသသို့အရောက် ပေးပို့ခဲ့ကြသည်။ ကြက်ခြေနီအသင်းဝင်များသည် သူနာပြုလုပ်ငန်းများကို ထိုကဲ့သို့ အသက်ဆံဖျား စွန့်စားဆောင်ရွက်ကြလေသည်။

မြန်မာအမျိုးသမီးသူနာပြုများအား တာဝန်ခံချုပ်ဖြစ်သူဗိုလ်ချုပ်ကတော်ဒေါ်ခင်ကြည် စစ်ဆေးကြည့်ရှုနေစဉ်



## ကြက်ခြေနီလူငယ်အသင်း

ပဌမကမ္ဘာစစ်အတွင်းက ကျောင်းသားများနှင့် လူငယ်များသည် လူကြီးများကဲ့သို့ပင် သူနာပြုလုပ်ငန်းများ၌ ဝင်ရောက်ဆောင်ရွက်ကြရာမှ ကြက်ခြေနီလူငယ်အသင်းများ ပေါ်ပေါက်ခဲ့သည်။ ရှေးဦးစွာ ဩစတြေးလီးယားတိုက်နှင့် ကနေဒါနိုင်ငံများတွင် ကြက်ခြေနီလူငယ်အသင်းများကို စံနစ်တကျဖွဲ့စည်းခဲ့၏။ ထိုနောက် အမေရိကန်ပြည်ထောင်စု၌လည်း အလားတူအသင်းများကို တည်ထောင်ခဲ့လေသည်။ ကြက်ခြေနီလူငယ်အသင်းများ၏ ဆောင်ရွက်ချက်သည် လူငယ်များ၏ကျန်းမာရေးနှင့် ပြည်သူ့ဝန်ထမ်းစိတ်ဓါတ် တိုးတက်ဖွံ့ဖြိုးစေသော လုပ်ငန်းတရပ်ဖြစ်ကြောင်း ကြက်ခြေနီအသင်းချုပ်ကြီးက သိရှိလာသောအခါ၊ ထိုလူငယ်အသင်းများ ဖွဲ့စည်းရေးကို အထူးပင်အားပေးခဲ့သည်။ ယင်းတို့၏လုပ်ငန်းများမှာ ကြက်ခြေနီလူကြီးအသင်းများ၏ လုပ်ငန်းများကဲ့သို့ပင် အရေးပါလှသည်။ စစ်သည်တော်များအတွက် အသုံးအဆောင် ပစ္စည်းများကိုပေးပို့ခြင်း၊ စားဖွယ်သောက်ဖွယ်များကို မေတ္တာလက်ဆောင်ပေးဝေခြင်း၊ ရန်ပုံငွေများ စုဆောင်းပေးခြင်းစသည့် မွန်မြတ်သော လုပ်ငန်းများကို ဝမ်းမြောက်ရွှင်လန်းစွာ ဆောင်ရွက်ကြလေသည်။

မြန်မာနိုင်ငံတွင် ကြက်ခြေနီအသင်းကို ဗြိတိသျှအစိုးရတို့လက်ထက်ကပင် အစပြုခဲ့သည်။ သို့သော်ထိုစဉ်က အိန္ဒိယပြည် ကြက်ခြေနီအသင်းကြီး၏ ဌာနခွဲတခုမျှသာဖြစ်သည်။ အသင်း၏ ဖွဲ့စည်းအုပ်ချုပ်ပုံဥပဒေအရ မြန်မာပြည်ဘုရင်ခံမှာ အသင်း၏ဥက္ကဋ္ဌဖြစ်လေသည်။ ၁၉၃၇ ခုနှစ်တွင် မြန်မာပြည်ကို အိန္ဒိယမှ ခွဲထုတ်လိုက်သောအခါ မြန်မာပြည်ကြက်ခြေနီအသင်းမှာ သီးခြားအသင်းဖြစ်လာသည်။ အသင်းကြီး၏ရန်ပုံငွေများကို စီမံအုပ်ချုပ်ရန်အတွက် စီမံကိန်းအသစ်များကိုလည်း ရေးဆွဲခဲ့လေသည်။ ထို့သို့သီးခြားတည်ထောင်လာသောအခါ အိန္ဒိယပြည်ကြက်ခြေနီအသင်းကြီးက ရန်ပုံငွေအချို့အဝက်ကို လွှဲပြောင်းပေးလေသည်။

မြန်မာနိုင်ငံသည် လွတ်လပ်သော အချုပ်အချာအာဏာပိုင် နိုင်ငံဖြစ်လာပြီးသည့်နောက် ၁၉၄၉ ခုနှစ်တွင် ဂျီနီဗားအစည်းအဝေးကြီး၏ ဆုံးဖြတ်ချက်များနှင့်၎င်း၊ နိုင်ငံတော်ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေနှင့် ကိုက်ညီစေရန်၎င်း၊ မြန်မာနိုင်ငံ ကြက်ခြေနီအသင်းကြီး၏ အုပ်ချုပ်ပုံအခြေခံဥပဒေကို တရားလွှတ်တော်၏ ခွင့်ပြုချက်အရ ပြင်ဆင်ခဲ့သည်။ အသင်းကြီး၏ဥက္ကဋ္ဌမှာ ထိုစဉ်က မြန်မာနိုင်ငံတော် တရားဝန်ကြီး အဖြစ်ဆောင်ရွက်လျက်ရှိသော ဆာဘဦးဖြစ်လေသည်။

၁၉၅၂ ခုနှစ်မတ်လတွင် ဆာဘဦးအား နိုင်ငံတော်သမတအဖြစ် ရွေးကောက်တင်မြှောက်လိုက်သောအခါ တရားလွှတ်တော် တရားဝန်ကြီး ဦးအောင်ခိုင်က ဥက္ကဋ္ဌအဖြစ်ဖြင့်၎င်း၊ မဟာသီရိသုဓမ္မ ဒေါ်ခင်ကြည်က အမျိုးသမီးသူနာပြု တာဝန်ခံချုပ်အဖြစ်ဖြင့်၎င်း ဆောင်ရွက်လာခဲ့ကြသည်။ ထိုနှစ်အတွင်းမှာပင် အသင်းကြီး၏ လုပ်ငန်းဆောင်တာများကို လျင်မြန်စွာရုပ်လုံး ဖေါ်နိုင်စေရန်၎င်း၊ ဒီမိုကရေစီအခြေခံသဘောတရားများနှင့်ပိုမိုကိုက်ညီစေရန်၎င်း၊ အသင်းကြီး၏ အုပ်ချုပ်ပုံအခြေခံဥပဒေကို ပြင်ဆင်ခဲ့ပြန်သည်။ ထိုပြင်ဆင်ချက်များအရ အသင်းကြီးကိုအုပ်ချုပ်ရန် အဖွဲ့ဝင်လူကြီးများ ပိုမိုရွေးကောက်ခွင့်ရရှိလေသည်။

အသင်းကြီး၏လက်အောက်တွင် သူနာပြုပညာရပ်များ တတ်မြောက်ပြီးသော သူနာပြုတပ်သားပေါင်း ၆၀၀ ကျော်ရှိ၍ သူနာပြုစုရေး၊ ကလေးသူငယ်များ ပြုစုစောင့်ရှောက်ရေးနှင့် ဒုက္ခသည်များအား ကူညီစောင့်ရှောက်ရေးလုပ်ငန်းများကို ဆောင်ရွက်လျက်ရှိသည်။ ဒုက္ခသည်များနှင့် မရှိနွမ်းပါးသူများအတွက် ဆေးဝါးများကို အသင်းကြီးက ခရိုင်ဝန်များမှတဆင့် ဝေငှဖြန့်ဖြူးလေသည်။ ရန်ကုန်မြို့ပေါ်ရှိ ဒုက္ခသည်များစခန်း၌မူ အခမဲ့ဆေးပေးခန်းတခု ဖွင့်လှစ်ထားရှိလေသည်။

အသင်းကြီး၌ သားဖွားရေးနှင့် ကလေးသူငယ်ပြုစုစောင့်ရှောက်ရေး၊ ဒုက္ခသည်များစောင့်ရှောက်ရေး၊ လက်နက်ကိုင်စစ်သားများသက်သာချောင်ချိရေး၊ တီဘီလူနာများ ပြုစုစောင့်ရှောက်ရေး၊ ဆေးကောလိပ်ကျောင်းသားများအား ထောက်ပံ့ရေးစသည်တို့အတွက် သီးသန့်ရန်ပုံငွေများ ဖွင့်လှစ်ကာ လူမှုဝန်ထမ်းလုပ်ငန်းများကို လူမျိုးမရွေး ဘာသာမရွေး အဆင့်အတန်းမရွေးဘဲ ထမ်းဆောင်ပေးလျက်ရှိပေသည်။

မြန်မာနိုင်ငံကြက်ခြေနီအသင်းကြီးသည် ပါရစ်မြို့ရှိ ကြက်ခြေနီအသင်းချုပ်ကြီးနှင့်၎င်း၊ ဂျီနီဗားမြို့ရှိ အပြည်ပြည်ဆိုင်ရာ ကော်မီတီအဖွဲ့နှင့်၎င်း ဆက်သွယ်ထားပြီးဖြစ်သည်။ မြန်မာနိုင်ငံကြက်ခြေနီအသင်းကြီးသည် အပြည်ပြည်ဆိုင်ရာ ကြက်ခြေနီနေ့နှင့် ကမ္ဘာ့ကျန်းမာရေးနေ့ အထိမ်းအမှတ်ပွဲများ၌လည်း ပါဝင်ဆင်နွှဲလျက်ရှိပေသည်။

**ကြက်ငှက်မွေးမြူခြင်း။** ။ယခုအခါ တိုင်းပြည်တိုင်း၌လိုပင် ကြက်ငှက်တို့ကို အသားစားရန်နှင့် ဥစားရန်အတွက် အနည်းနှင့်အများ မွေးမြူလျက်ရှိကြသည်။ မွေးမြူတတ်ကြသော ကြက်ငှက်တို့မှာ၊ ကြက်၊ ဝမ်းဘဲ၊ ငန်း၊ ရစ်ကြီးနှင့် ကြက်ဆင်များဖြစ်ကြသည်။ အနောက်နိုင်ငံများတွင် များသောအားဖြင့် ကြက်ဥများကိုသာ အရေးပေး၍ ရောင်းဝယ်လေ့ရှိကြသဖြင့်၊ ကြက်မွေးမြူခြင်းသည် ဝမ်းဘဲ၊ ငန်းစသည်တို့ကို မွေးမြူခြင်းထက် ပို၍အရေးပါလေသည်။

ခေတ်မီနည်းများဖြင့် ကြက်ငှက်တို့ကို စံနစ်တကျမွေး



ကြက်ငှက်မွေးမြူခြင်းသည် စီးပွါးရေးလည်းဖြစ်၍ စိတ်ပျော်ရွှင်မှုကိုလည်း ပေးပေသည်။

မြူလျှင် ကြက်ငှက်မွေးမြူခြင်းသည် အကျိုးထူးဖြစ်ပေါ်စေမည့် လုပ်ငန်းတရပ်ဖြစ်ပေသည်။ ထို့ကြောင့် တရုပ်နိုင်ငံ၊ ကနေဒါနိုင်ငံ၊ ဒိန်းမတ်နိုင်ငံ၊ အင်္ဂလန်နိုင်ငံ၊ ဩစတြေးလီးယားတိုက်၊ အမေရိကန်ပြည်ထောင်စုနှင့် အခြားတိုင်းပြည်အချို့တို့တွင် ကြက်ငှက်မွေးမြူသည့်လုပ်ငန်းကို အလွန်အရေးထား၍ လုပ်ကိုင်ဆောင်ရွက်ကြသည်။

ကြက်မွေးရာ၌ ကြက်သားကို ရောင်းစားရန်မွေးမြူသည်ထက် ကြက်ဥအတွက် မွေးမြူသည်က ပို၍ဝင်ငွေကောင်းသဖြင့်၊ ဒိန်းမတ်ကဲ့သို့သော နိုင်ငံများတွင် ကြက်ငှက်မွေးမြူသူတို့သည် အသင်းအပင်းဖွဲ့၍ စံနစ်တကျ ကြက်ဥများကို ရောင်းဝယ်ကြသည်။ ပြင်သစ်နိုင်ငံ၊ အင်္ဂလန်နိုင်ငံနှင့် အမေရိကန်ပြည်ထောင်စု တို့တွင်ကား ကြက်ငှက်မွေးမြူသူအချို့တို့သည် အကောင်ဖေါက်၍ ရောင်းချကြသည်။ အအုကောင်းသော ကြက်မမျိုးသည် ပျမ်းမျှခြင်းအားဖြင့် တနှစ်လျှင် ဥပေါင်း ၁၂၀ မျှ အုနိုင်၏။ ဥအများဆုံးအုနိုင်၍ ဆုချီးမြှင့်ခြင်းခံရသော ကြက်မတို့သည် တနှစ်လျှင်ဥပေါင်း ၃၀၀ ကျော်အထိအုနိုင်ကြသည်။ နယူးဇီလန်ကျွန်းမှ ကြက်မတကောင်သည် တနှစ်လျှင်ကြက်ဥပေါင်း ၃၆၁ လုံးမျှ အုခဲ့ဘူးလေသည်။

ကြက်များအသားထွက်ပိုရန်နှင့် ဥအရေအတွက်ပိုလာရန် မွေးမြူနည်းမှာ ကြက်အုပ်ထဲမှ မျိုးအကောင်းဆုံးကိုသာ ရွေးချယ်၍မွေးမြူခြင်းပင် ဖြစ်ပေသည်။ ဥပမာအားဖြင့် ကြက်အုပ်ထဲမှ ကြက်ဥအများဆုံး အုသောကြက်မများကို သီးသန့်ရွေးချယ်ထား၍ ထိုကြက်မတို့၏ဥများကို အကောင်ဖေါက်လိုက်ခြင်းဖြင့် ကြက်ဥများများအုသော ကြက်မျိုးကို ရရှိလာပေမည်။ တဖန် ထိုဒုတိယကြက်မအုပ်ထဲမှ ဥအများဆုံးအုသော ကြက်မများ၏ဥများကို ဆက်၍သားဖေါက်ရလေသည်။ ယင်းကဲ့သို့ ဆက်ကာဆက်ကာ မျိုးသန့်လိုက်ခြင်းဖြင့် အခြားကြက်ရိုးရိုးထက် ကြက်ဥပေါင်းများစွာ ပို၍အုနိုင်သောကြက်မျိုးကိုရရှိလာမည်ဖြစ်၏။

ကြက်များကိုမွေးမြူသောအခါ သီးသန့်ထားသောအိမ်များဖြင့် မွေးမြူရ၏။ ကြက်အိမ်များမှာ သန့်ရှင်းလျက် နေရောင်ခြည်နှင့် လေကောင်းများ ရရှိနိုင်သောအိမ်များဖြစ်ရပေမည်။ ကြက်များကို သင့်လျော်သောအစာများကိုသာ ကျွေးမွေးရမည်။ ကြက်များသည် နေအလင်းရှိသမျှ တချိန်လုံး အစာကို မြေကြီးတွင် ယက်ပက်ရှာဖွေ စားသောက်လေ့ရှိသဖြင့် စားနိုင်သမျှအစာကို လုံလောက်စွာ ပေးထားရမည်။ အနောက်နိုင်ငံများတွင် နေ့တာတိုသော ဆောင်းအခါ၌ ကြက်များဥမအုဘဲနေတတ်သဖြင့် နံနက်စောစောနှင့် ညနေစောင်းအချိန်များ၌ ကြက်အိမ်များ

တွင် မီးထွန်းပေးထားလေ့ရှိသည်။ ထိုသို့မီးထွန်းပေးထားခြင်းကြောင့် ကြက်များသည် နွေအခါကဲ့သို့ အစာကို အချိန်ကြာကြာစားရသဖြင့် ဥများမပြတ် အုတတ်ကြသည်။ ကြက်များကို ဘာသာဘာဝအလျောက် လွှတ်ထားမည်ဆိုလျှင် ၁၂ လုံးမှ ၁၅ လုံး အထိသာအု၍ ကြက်တင်းတွင် ဝပ်နေချင်တတ်ကြသည်။ ရက်သတ္တသုံးပတ်မျှဝပ်လိုက်လျှင် ကြက်ကလေးများပေါက်လာတတ်ကြသည်။ ထိုကြက်ကလေးများကို ၂ လတန်သည် ၃ လတန်သည်စသည်ဖြင့် ကြက်မကြီးက ထိန်းသိမ်းစောင့်ရှောက်နေရပြန်သည်။

ဤကဲ့သို့ ကြက်မများကိုဝပ်စေခြင်း သားထိန်းစေခြင်းဖြင့် ကြက်ဥများကို ရသင့်သလောက် မရနိုင်သောကြောင့် ကြက်မွေးသူတို့သည် ကြက်မများမဝပ်နိုင်အောင် တင်းကို ဖျက်ပစ်ရလေသည်။ ဝပ်ချင်နေသောကြက်မများကို သီးသန့်ထားသောအိမ်များ၌ လှောင်ထားလိုက်လျှင် မကြာမီ ဝပ်ချင်စိတ်များပျောက်သွားတတ်ပေသည်။ ကြက်မများ ဝပ်ချင်လာသည့်အခါတိုင်း တင်းဖျက်လိုက်လျှင် ကြက်ကလေးများ မည်သို့ပေါက်လာကြမည်နည်းဟု မေးဖွယ်ရှိ၏။

ကြက်ဥများကို အပူငွေ့ပေးခြင်းဖြင့် ကြက်ကလေးများ ပေါက်လာနိုင်ကြသည်။ အပူငွေ့ဖြင့် အကောင်ဖေါက်သည့် နည်းမှာ နည်းသစ်နည်းဆန်းမဟုတ်ပေ။ ရှေးခေတ်အီဂျစ်လူမျိုးတို့သည် အုတ်မီးဖိုများတွင် ကြက်ဥများကိုထည့်၍ နွေးရုံလောက်သာ အပူရှိန်ပေးခြင်းဖြင့် ကြက်ကလေးများကို ဖေါက်ယူခဲ့ကြသည်။ ယခုခေတ်ပေါ် ကြက်ဥဖေါက်စက်သည် ကြက်ဥများမှ အကောင်ကလေးများ ပေါက်လာရန်လိုအပ်သော သဘာဝအခြေအနေတို့ကို အတုယူ၍ ဖန်တီးထားခြင်းဖြစ်၏။ ကြက်ဥများသည် ကြက်မဝပ်နေခြင်းဖြင့် ကြက်မ၏ကိုယ်ငွေ့ အပူချိန်ကိုရရှိကြ၏။ ကြက်ဥများတွင် အပူငွေ့အညီအမျှရရှိစေရန်နှင့် လေသစ်လေအေးဝင်စေရန် ကြက်မသည် ဥများကို နှုတ်သီးဖြင့် လှန်လှောပေး၏။ ကြက်ဥဖေါက်စက်တွင် အထက်ဖေါ်ပြပါ အချက်အလက်များ စုံလင်စွာပါရှိအောင် မီးအိမ်များဖြင့် လိုအပ်သောအပူရှိန်ကို ရရှိစေသည့်ပြင် ကြက်မကြီးကဲ့သို့ ပဌမရက်သတ္တပတ်အတွင်း ကြက်ဥများကို လှန်လှောပေးနိုင်ရန် စက်ကရိယာများကိုပါ တပ်ဆင်ထားလေသည်။

ဥဖေါက်စက်ဖြင့် အကောင်ဖေါက်သည့်အခါ ၇ ရက်တကြိမ်၊ တဖန် ၁၄ ရက်တကြိမ်၊ ကြက်ဥများကိုစစ်ဆေး၍ မအောင်မြင်သော သံချောင်ဥတို့ကို ပယ်ပစ်ရသည်။ ၂၁ ရက်အကြာတွင် ကြက်ဥများအတွင်းမှ ကြက်ကလေးများ တကောင်ပြီးတကောင် ဖေါက်ထွက်လာကြသည်။ ပေါက်လာသည့်ကြက်ကလေးတို့ကို လှောင်အိမ်တွင် ထွေးထွေးနွေးနွေးထား၍ အစာရေစာများ တိုက်ကျွေးပေးရသည်။ ကိုယ်တိုင်အစာများကို ယက်ပက်ရှာဖွေစားသောက်နိုင်မှ အပြင်သို့ထုတ်လိုက်ကြသည်။ ဥဖေါက်စက် အရွယ်အစားအမျိုးမျိုးရှိသည်တွင် အချို့မှာ တကြိမ်လျှင်ကြက်ဥ ၃၊ ၄ ဒါဇင်ကိုထည့်၍ အကောင်ဖေါက်နိုင်သည်။ တကြိမ်လျှင် ကြက်ဥပေါင်း ၁၅၀၀၀ ခန့် အကောင်ဖေါက်နိုင်သော ဥဖေါက်စက်အကြီးစားများလည်း ရှိသေးသည်။ အချို့ ဥဖေါက်စက်တို့တွင် အပူငွေ့ရရှိစေရန် ဆီမီးအိမ်များကို တပ်ဆင်ထားလျက် အချို့၌မူ ရေနွေးဖြင့် အပူငွေ့ပေးကြသည်။

မြန်မာနည်းဖြင့်လည်း ကြက်ဥ၊ဘဲဥ၊များကို လွယ်ကူစွာ အကောင်ဖေါက်ယူနိုင်ပေသည်။ ဤနည်းမှာ ဥဖေါက်လိုသောကြက်ဥ၊ ဘဲဥအရေအတွက်ကို ခန့်မှန်း၍မြေကျင်း ရှည်ရှည်တူးရသည်။ ထိုကျင်းကို မြေခိုးမြေငွေ့နှင့် ပိုးမွှားများမှ ကင်းရှင်းရန် ကောက်ရိုးမီးဖြင့် သင်းပေးရသည်။ အေးသွားသောအခါ ထိုကောက်ရိုးပြာများကို ထုတ်ပစ်ပြီး ဖွဲကြမ်းများကို ကျင်းပြည့်အောင်ထည့်ရသည်။ ထိုဖွဲကြမ်းများတွင် မိမိထည့်လိုသည့် ကြက်ဥဘဲဥများကို အထက်အောက်နှစ်ထပ် တခုနှင့်တခု မထိခိုက်စေဘဲ ထည့်ရသည်။ အချို့သုံးလေးထပ် ဆင့်၍ထည့်သော်လည်း နှစ်ဆင့်ထည့်ကသာ၍ကောင်းသည်။ ဥများကိုမထိခိုက်ဘဲ ဖေါ်ယူသည့်အခါလည်းလွယ်ကူသည်။ ထိုနောက်ဖွဲကြမ်းအပေါ်မှာခနီးသက်ငယ်၊ ကောက်ရိုးတခုခုဖြင့် ဖုံးလွှမ်းထားရသည်။ ထိုသို့ထားပြီး ၇ ရက် ၈ ရက်အကြာတွင် ဖေါ်ယူ၍ နေရောင်၌ ထောင်ကြည့်ပြီးလျှင် မကောင်းသောဥများကို ထုတ်ပယ်ပစ်ရသည်။ တဖန်ကောင်းသောဥများကို ပြန်ထည့်ပြီးနောက် ၁၄ ရက် ၁၅ ရက်ကြာသောအခါ နောက်တကြိမ်ဖေါ်၍ အထက်ပါနည်းအတိုင်း စမ်းသပ်ပြီးလျှင် မကောင်းသောဥများကို ထုတ်ပစ်ရပြန်သည်။ ဥများသည် ၁၆ ရက်နှင့် ၁၇ ရက်တွင် ပေါက်တတ်ကြပေသည်။ အရက် ၂၀ အထက် မကျော်တတ်ပေ။ ဥများပေါက်ရက်နီးလာလျှင် အကောင်ကလေးများ၏အသံကို အထူးသတိထား၍ နားထောင်ရပေသည်။ ထိုကြောင့် ပေါက်ချိန်နီးလာသောအခါ ဥများကို တလွှာတည်းထားကာ ထိုဥများပေါ်၌ ဖွဲကြမ်းပါးပါးသာ ဖုံးထားရသည်။ ထိုနောက်ပေါက်လာသော အကောင်ကလေးများကို အပူအအေးမှကာကွယ်နိုင်အောင် အထူးသတိပြုမွေးမြူကြရလေသည်။

ကြက်ငှက်များကို မွေးမြူရာ၌ ယင်းတို့၏ကျန်းမာရေးကို အထူးဂရုစိုက်ကြရသည်။ အနေအထိုင် မသန့်ရှင်း၍သော်၎င်း၊ အစားအသောက် မကောင်းမွန်၍သော်၎င်း၊ ကြက်ငှက်တို့၌ အနာရောဂါများ ဖြစ်ပေါ်တတ်ကြသည်။ ကြက်ချေးစသော အညစ်အကြေးများကို သုတ်သင်ပေး၍ ကြက်ငှက်များ အဖို့ သင့်တင့်မည့်အခြေအနေကို ဖန်တီးပေးနိုင်လျှင် ကြက်ငှက်ရောဂါများကို ကာကွယ်နိုင်ပေသည်။ အထူးအားဖြင့် ကြက်သန်းနှင့် ကမျဉ်းနီကောင်များသည်





ကြက်ငှက်မွေးမြူခြင်းလုပ်ငန်း

ပါ်(ဝဲ)။ ကြက်ဘဲများကိုအစာကျွေးနေပုံ။ အပေါ် (ယာ)။ ကြက်အိမ်များတွင်သီးသန့်မွေးထားပုံ။ (အလယ်)။သားဖေါက်ပြီး၍ မိခင်နှင့် မခွဲခွါသေးမိပုံ။

ာက်(ဝဲ)။ လျှပ်စစ်အနွေးဓါတ်ဖြင့်ပေါက်ဖွားစေသောခေတ်မှီဥပေါက်စက်။

ာက်(ယာ)။ ဥစားသက်သက်အတွက်ဥများကောက်ယူနေပုံ။







ကြက်ငှက်များကို အမျိုးမျိုးဒုက္ခပေးတတ်ကြသဖြင့် ယင်းတို့ကို အထူးဂရုစိုက်ကြရပေသည်။ ပိုးသတ်ဆေးမှုန့်များကို အသုံးပြုခြင်းအားဖြင့် ယင်းတို့ကို ကာကွယ်နိုင်ပေသည်။ အစားအသောက်များကိုလည်း မျှတအောင် ချိန်ဆကျွေးကြရသည်။ ကြက်ငှက်များ သောက်ရန်ရေကိုလည်း သန့်ရှင်းစွာထားရှိရသည်။ သောက်ရေကို သန့်ရှင်းအောင်ပြုလုပ်ရာ၌ ကာဗော်လစ်အက်ဆစ်နှင့် ပိုတက်ဆီယမ် ပါမန်ဂနိတ် အနည်းငယ်ထည့်ပေးခြင်းအားဖြင့် သောက်ရေကို စင်ကြယ်အောင်ပြုလုပ်နိုင်ပေသည်။ အများအားဖြင့် ကြက်ငှက်ရောဂါများသည် ကုသ၍မရနိုင်အောင် ဖြစ်တတ်သည်။ ထို့ကြောင့် ဤရောဂါများ မပြန့်ပွားရလေအောင် ရောဂါဖြစ်နေသော ကြက်ငှက်များကို ကျန်းမာသောကြက်ငှက်များနှင့် ရောမထားဘဲ သီးခြားထားရပေသည်။ ကြက်ငှက်ရောဂါများ ဖြစ်ပေါ်လာလျှင် ကြက်ငှက်အဆုံးအရှုံးများခြင်း၊ ဥထွက်လျော့သွားခြင်း၊ အကောင်ကြုံလှီသွားခြင်းစသောနစ်နာမှုများရှိလိမ့်မည်။ (ကြက် — ရှု။)

**ကြက်ဆူပင်**။ ။ကြက်ဆူပင်သည် နွေးသောရာသီဥတုရှိသည့်ဒေသများ၌ အပေါက်ရောက်ဆုံးဖြစ်သည်။ အများအားဖြင့် နှစ်ကြာခံပင်မျိုးဖြစ်၍ မြေဩဇာကောင်းသော အရပ်၌ ပေ ၃၀ အမြင့်အထိ ရှည်နိုင်သည်။ အေးသောဒေသများ၌ကား တနှစ်သာလျှင်ခံ၍ အပင်၏အမြင့်မှာ ၄ ပေကျော်ခဲသည်။

ကြက်ဆူပင်၌ လက်ခြားရွက်ကြီးများရှိသည်။ အစေ့သည် အရွယ်အမျိုးမျိုး ပုံအမျိုးမျိုးရှိ၍ ယင်း၏အရောင်မှာ ညိုမှိုင်းမှိုင်းဖြစ်သည်။ အသီး၌ အမွေးကြမ်းများရှိသည်။ အရွက်ကို ပိုးမျှင်ကောင်များစားသည်။ အစေ့မှရသောအဆီကို ဝမ်းနုတ်ဆေးအဖြစ်သုံးရသည့်ပြင် ချောဆီ၊ လှည်းဆီ၊ သားရေ၊ ဆပ်ပြာများလုပ်ရာ၌လည်း သုံးရသည်။ ကမ္ဘာတွင် ကြက်ဆူစေ့အများဆုံး ထုတ်ရောင်းနိုင်သောနိုင်ငံများမှာ ဗရာဇီးနိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့ဖြစ်သည်။

မြန်မာနိုင်ငံ အထက်ပိုင်း၌ အလေ့ကျပေါက်သောကြက်ဆူပင် အများအပြားကိုတွေ့ရသည်။ တခါတရံ ကြက်ဆူပင်များကို စိုက်ပျိုးယူကြသည်။ ကြက်ဆူရိုးကြီး၊ ကြက်ဆူရိုးနီ၊ ကြက်ဆူရိုးဖြူတို့ရှိကြရာ ကြက်ဆူရိုးကြီးသည် အရွက်ကြီးသောကြက်ဆူပင်မျိုးဖြစ်သည်။ ယင်းကို သင်္ဘောကြက်ဆူဟုလည်းခေါ်သည်။ ကြက်ဆူရိုးနီသည် အရိုးနီသော ကြက်ဆူပင်မျိုးဖြစ်၍ ကြက်ဆူရိုးဖြူသည် အရိုးဖြူသော ကြက်ဆူပင်မျိုးဖြစ်သည်။ ကြက်ဆူရိုးကြီးအရွက်မှ ရသောအစေးကို အနာလိမ်းဆေးအဖြစ်သုံးရသည်။ အစေ့မှရသော ဆီကို ဝမ်းနုတ်ဆီ၊ အန်ဆေးအဖြစ်များသုံးရ၍ ဆပ်ပြာ၊ ဖယောင်းတိုင်၊ ချောဆီများလုပ်ရာ၌လည်း သုံးရသည်။ ရှေးအခါက ကြက်ဆူရိုးဖြူ အရိုးကိုပြာချ၍ သစ်သားသင်ပုန်းချေရာတွင် အသုံးပြုကြသည်။



ကြက်ဆူပင်၏အသီးနှင့်အရွက်ပုံ

**ကြက်ဆင်**။ ။ကြက်ဆင်သည် ရစ်မျိုးရင်းတွင်ပါဝင်သည်။ ကြက်ဆင်၏ဇာတိဒေသမှာ မြောက်အမေရိကတိုက်ဖြစ်သည်။ ၁၆ ရာစု အဦးပိုင်းတွင် စပိန်လူမျိုးတို့သည် မက္ကဆီကိုနိုင်ငံမှ ကြက်ဆင်ကို စပိန်နိုင်ငံသို့ ယူလာခဲ့ကြလေသည်။ ထိုအချိန်မှစ၍ ကြက်ဆင်များကို ဥရောပတိုက်တွင် မွေးမြူလာကြသည်ဟုဆိုသည်။ ယခုအခါ ကြက်ဆင်ကို ကမ္ဘာအရပ်ရပ်တွင် ဟင်းလျာအလို့ငှာ မွေးမြူနေကြသည်။ မြန်မာနိုင်ငံ၌ပင် ကြက်ဆင်ကို အလှအပ မွေးမြူကြသူများရှိသည်။

ကြက်ဆင်သည် ၄ ပေခန့်အထိမြင့်၍ ပေါင် ၃၀ အထိ အလေးချိန်စီးသည်။ ကြက်ဆင်၏ အမွေးအတောင်များသည် အစိမ်းရောင်၊ ကြေးနီရောင်တို့ဖြင့် တောက်ပြောင်နေကြသည်။ အမြီးတွင် အမြီးမွေး ၁၄ ချောင်းမှ ၁၈ ချောင်းအထိ ရှိတတ်၏။ ဦးခေါင်းနှင့်လည်ကုပ်တွင် အမွေးအတောင်များ လုံးဝမရှိဘဲ အသားပကတိအတိုင်း ပေါ်နေသည်။ ဦးခေါင်းမှာနီ၍ ယင်းမှအသားပိုသည် တွဲလျားကျနေသည်။ ငှက်ဖို၏ရင်ပတ်တွင် အမွေးရှည်များပေါက်နေ၍ ခြေထောက်တွင်လည်း အတက်များရှိသည်။

နွေဥတုတွင် ကြက်ဆင်ငယ်များပေါက်၏။ ကြက်ဆင်ဖိုသည် အမြီးကို ယပ်တောင်သဖွယ်ဖြန့်၍ အမွေးအတောင်များကိုဖွလျက် ကြက်ဆင်မကို ကပြလေ့ရှိသည်။ ကြက်ဆင်မသည် ဥများကို မြေကြီးပေါ်တွင်အု၏။ ကြက်ဆင်ဖိုခွဲပစ်မည်စိုးရိမ်သည့်အတွက် ကြက်ဆင်မသည် ဥများကို သစ်ရွက်ခြောက်များဖြင့်ဖုံးအုပ်ထားတတ်သည်။ တမြုံလျှင်

၁၃ ၉ လုံးမှ ၁၅ လုံးအထိရှိသည်။ တခါတရံ ထိုထက်များပြား တတ်သည်။ ဥအရောင်မှာ များသောအားဖြင့် အဖြူဖြစ်၍ အညိုပြောက်များလည်းပါရှိသည်။

ကြက်ဆင်၏အသားသည် အလွန်အရသာ ရှိသဖြင့် ခရစ်ယန်တို့သည် နှာတာလူးပွဲတော်ချိန်တွင် ကြက်ဆင်သားကိုအထူးစားဖွယ်အဖြစ်စားသုံးကြသည်။



အမြီးကိုယပ်သဖွယ်ဖြန့်လျက်ကနေသောကြက်ဆင်ဖို

**ကြက်တူရွေး။** ။ကြက်တူရွေးသည် လုပသောငှက်မျိုးဖြစ်သည်။ ကြက်တူရွေး၏နှုတ်သီးသည် ပေါက်ပြွင့်ကဲ့သို့နိရဲ၍ ကောက်ချိတ်သည်။ အမွေးအတောင်များသည် ပေါက်ရွက်ကဲ့သို့ စိမ်းစိုကြသည်။ ကြီးသောဦးခေါင်း၊ ရှည်၍သေးသွယ်သောအမြီးနှင့် တိုသောခြေထောက်များရှိသည်။ခြေချောင်းများသည် ရှေ့နှင့်နောက်သို့ တစုံစီ ထွက်နေကြသည်။ ကြက်တူရွေးအမျိုးမျိုးကို ကမ္ဘာပေါ်တွင် ဥရောပတိုက်မှအပ ကျန်တိုက်များနှင့် ကမ္ဘာ့အပူပိုင်း ဒေသများ၌ တွေ့မြင်ရသည်။

ကြက်တူရွေးတို့သည် အုပ်သင်းဖွဲ့ကာ နေတတ်ကြသည်။ သစ်ပင်ကို ကုပ်ခြစ်တက်တတ်၍ ပင်မြင့်တွင်သာ ကျက်စားတတ်ကြသည်။ ယာခင်း၊ စပါးခင်း၊ ဥယျာဉ်တို့၌ သီးနှံများကို စားသောအခါ ဆူညံစွာမြူးထူးလျက် မိမိတို့စားနိုင်သည်ထက် ပိုမိုကိုက်ဖြတ် ဖျက်ဆီးတတ်ကြသည်။

ကြက်တူရွေးသည် အသိုက်မလုပ်ဘဲ သစ်ခေါင်းတွင် အုလေ့ရှိသည်။ ဥ၏အရောင်မှာ ဖြူသည်။ အရွယ်မှာ ပျမ်းမျှအလျား တလက်မသာသာရှိ၍ ပြက် ၂ လက်မ သာသာရှိသည်။ 'တမာလည်းနု ကျေးလည်းအို' 'တမာလည်းရင့် ကျေးလည်းလွင့်' ဆိုသောစကားအတိုင်း နွေရာသီတွင် အုံ၍ နွေရာသီတွင်ပင် ပေါက်ကြသည်။ ဤငှက်မျိုးသည် အသက် ၇၀ အထိပင် နေနိုင်သည်ဟုဆိုသည်။ ကြက်တူရွေးသည် လူစကားပြောသံကို အတုခိုးတတ်သည်။ စကားလုံးအနည်းငယ်သင်ထားလျှင် လိုက်ပြောနိုင်သည်။ 'ကြက်တူရွေးကတော်တော်၊ မယ်ဘော်ကကဲ' ဟူသောစကားပုံသည် စကားမပီကလာပီကလာ ပြောတတ်သောကြက်တူရွေးများကြောင့် ဖြစ်ပေါ်လာပေမည်။ ကြက်တူရွေးကို ကျေးဟူ၍လည်းခေါ်သည်။

မြန်မာနိုင်ငံတွင် တွေ့ရသောကြက်တူရွေးများကို ပါဠိဗေဒအလိုအားဖြင့် ၇ မျိုး ခွဲပြသည်။ ယင်းတို့မှာ ကြက်တော၊ ကျေးကျုတ်၊ ကျေးတမာ၊ ကျေးကုလား၊ ကျေးကုလားမ၊ ကျေးသဇ္ဇာနှင့် မလေးကြက်တူရွေးတို့ ဖြစ်ကြသည်။ နောက်ဆုံးအမျိုးကို တနင်္သာရီတောင်ပိုင်းတွင်သာ တွေ့ရသည်။ ဝေါဟာရလိနတ္ထဒီပနီကျမ်းပါ မြန်မာအစဉ်အလာအရ ကျေးရှစ်မျိုးရှိသည်။ ယင်းတို့မှာ ဖေါင်းကား၊ တမာ၊ ကျေးသဇ္ဇာ၊ ကျေးဝါ၊ ကျေးချုတ်၊ ကြက်တော၊ ကုလား၊ ကျေးပုဏ္ဏားတို့ ဖြစ်ကြသည်။ ကြက်တောသည် အလျား ၂၂ လက်မခန့်ရှိ၍ မြန်မာနိုင်ငံ၌ တွေ့ရသောကျေးမျိုးများအနက် အကြီးဆုံးဖြစ်သည်။ ငှက်မနှင့်ငှက်ကလေးများတွင် အခြားကြက်တူရွေး များမှာကဲ့သို့ နှင်းဆီသွေး



စကားပြောသံကိုအတုလိုက်၍ပြောတတ်သောချစ်စဖွယ်ကျေးငယ်

လည်ရစ်နှင့် နှုတ်ခမ်းမွေးအနက်တို့ မရှိကြချေ။ ကွင်းပြင်နှင့်အင်တိုင်းတောများတွင်နေ၍ မြန်မာနိုင်ငံ မိုးခေါင်ရေရှားရပ်ဝန်းတွင် အများဆုံးတွေ့ရသည်။ ကြက်တောကို ကျေး ဖေါင်း ကားဟူ၍ လည်းခေါ် ၏။

ကျေးကျွတ်သည် မြန်မာနိုင်ငံ အပူပိုင်းဒေသက ငှက်မျိုးဖြစ်သည်။ ဧရာဝတီမြစ်ဝှမ်း၊ စစ်တောင်းမြစ်ဝှမ်းတို့တလျှောက်တွင်ပျံ့နှံ့စွာနေသည်။ ရှမ်း ပြည် နယ်နှင့် ကယား ပြည် နယ် တွင် လည်း နေတတ်သည်။ သို့ရာတွင် မြန် မာနိုင်ငံ မြောက်ပိုင်း နှင့် တနင်္သာရီတိုင်း တွင် ရှိဟန်မတူချေ။ ကျေးကျွတ်သည် အလျား ၁၆½ လက် မခန့် ရှိ၍ တကိုယ်လုံး တွင် အပြာနုရောင် လွှမ်းနေသည်။ ကျေးကျွတ်အဖိုကလေး များ တွင် ၃ ခါလည်ကျမှ နှင်းဆီရောင်လည် ရစ်နှင့် အမဲရစ် ကိုတွေ့ရ၍ ငှက် မများ ၌ မထင်ရှား သော အစိမ်းရစ်ကိုတွေ့ရသည်။

မြန် မာနိုင်ငံ အလယ် ပိုင်း၊ ရှမ်း ပြည်နယ်နှင့်တနင်္သာရီတိုင်းတို့တွင် ကျေးတမာကို တွေ့ရတတ်သည်။ ကျေး တမာသည်အလျား ၁၃½ လက်မခန့်ရှိသည်။ ပျံသန်းသည့်အခါ အမြီးဖျားရှိ အဖြူမှတ်ကလေးကို ထင်ရှားစွာမြင်ရသည်။ ငှက်ကလေးများတွင် တကိုယ်လုံး အစိမ်းရောင်လွှမ်းနေသည်။ နှုတ်သီးအရောင်မှာအဝါနုရောင်ဖြစ်သည်။ ကျေးတမာသည် အလွန်လျင်မြန်စွာ ပျံသန်းနိုင်၍ ဒေသရွှေ့ပြောင်းနေတတ်သည်။

ကျေးကုလားသည် အလျား ၁၆ လက်မမှ ၁၈ လက်မထိရှိ၍ ကျယ်လောင်စူးရှစွာ အော်တတ်သည်။ ငှက်မ အတောင်၌ အနီအမှတ်မရှိချေ။ ငှက်ကလေး များ သည် တကိုယ်လုံးစိမ်းနေ၍ အခါလည်လျှင် ဦးခေါင်းမည်းလာ၏။ ကျေးကုလားသည် ကွင်းပြင်ကိုရှောင်၍ ကျွန်းတောများတွင် ကျက်စားသည်။ ပေ ၅၀၀၀ အမြင့်အထိ နေနိုင်သည်။ ဤငှက်မျိုးကို ပဲခူးရိုးမတောင်တန်းနှင့် မေမြို့တဝိုက်တွင် တွေ့ရတတ်လေသည်။

ကျေးကုလားမကို ကုလားမကျေး၊ ကုလားမကြက်တူရွေးဟုလည်းခေါ်ကြသည်။ မြန်မာနိုင်ငံရှိ ကြက်တူရွေးများတွင် အသံအကျယ်ဆုံး အော်နိုင်သောအမျိုးဖြစ်၏။ ငှက်မဦးခေါင်းသည် မွဲခြောက်၍ အပြာရောင်သော်၎င်း၊ အစိမ်းရောင်သော်၎င်း၊ ရောလျက်ရှိသည်။ ရင်အုပ်မှာ အနီရင့်ရောင်ပေါက်နေသည်။ ငှက်ကလေးများတွင် တကိုယ်လုံးစိမ်း၍ အညိုရောင်များလည်း ရောနှောနေတတ်လေသည်။

ကျေးသန္တာကို မြန်မာ နိုင်ငံ ၌ အနည်း ငယ် သာ တွေ့ရသည်။ ထိုငှက်သည် စိုစွတ်ထိုင်းမှိုင်းသောတော၌ ကျက်စားသည်။ သစ်ကိုင်းတွင် ဦးခေါင်းစောက်ထိုးထားလျက် တွဲလွဲနေတတ်သည်။ ဤအကျင့်ကိုအစွဲပြု၍ ယင်းကို ဂျမ်းထိုးငှက် ဟုလည်းခေါ် သေးသည်။ ဂျမ်းသန္တာလန် ဟူသော စကားသည် ဤကပင်ဆင်းသက်လာသည်။ အခြားကြက်တူရွေး တို့ ကဲ့ သို့ ဆူညံခြင်း မရှိဘဲ တိတ်ဆိတ်စွာနေတတ်သည်။ ကျေးသန္တာတွင် လည်ပင်း၊ လည်ကုပ်နှင့် ကျောပိုင်းတို့၌ အပြာရောင်သန်းနေ၍ အတောင်၌ အစိမ်းနှင့် အနီရောင်များရောနေသည်။

မြန်မာနိုင်ငံတွင် ကျေးနီ၊ ကျေးဝါနှင့် ကျေးပုဏ္ဏားစသော ကျေးမျိုးကို တွေ့ရသည်ဆိုသော်လည်း ယင်းတို့အကြောင်းကိုစုံလင်စွာမသိရသေးချေ။



အိမ်မွေးကျေး၏သဘာဝမှာတန်းပေါ် တွင် ဤသို့နေလေ့ရှိသည်။

**ကြက်တိုက်ခြင်း။** ။လူတို့ပျော်ရွှင်မှုခံစားပုံကို အချုပ်အားဖြင့် ၂ မျိုးခွဲခြားနိုင်သည်။ တမျိုးမှာ မိမိကိုယ်တိုင်

ပါဝင်ဆောင်ရွက်ရသော ပျော်ရွှင်မှုများဖြစ်၍ ကျန် တမျိုးမှာ အခြားသူများ ပါဝင်ဆောင်ရွက်သည်ကို ကြည့်ရှုနှစ်သိမ့်သော ပျော်ရွှင်မှုများဖြစ်သည်။ ဥပမာ၊ လူအများနှင့် စုပေါင်းယှဉ်ပြိုင်ရသော ဘောလုံးကန်ခြင်း၊ အပြေးပြိုင်ခြင်း၊ လှေပြိုင်ခြင်းစသော ကစားနည်းမျိုးတို့သည် ပါဝင်ဆောင်ရွက်သူများနှင့် ကြည့်ရှုသူများကိုပါ ပျော်ရွှင်စေလေသည်။ သို့ရာတွင် လက်ဝှေ့ ထိုးခြင်း၊ နပန်းလုံးခြင်း၊ ဓါးခုတ်ခြင်းစသော တဦးချင်းယှဉ်ပြိုင် ကစားနည်းများ၌မူ ကိုယ်တိုင်ဆောင်ရွက်သူများထက် ကြည့်ရှုသူများက ပိုမို၍ ပျော်ရွှင်မှုရနိုင်လေသည်။ ထိုသို့ယှဉ်ပြိုင်ကစားနည်း နှစ်မျိုးရှိသည့်အနက် လူတို့သည် ရံဖန်ရံခါ အသင်းအဖွဲ့နှင့် ယှဉ်ပြိုင်ရသောပွဲများကို ကြည့်လိုကြ၍ ရံဖန်ရံခါ တဦးချင်းယှဉ်ပြိုင်ရသော ပွဲများကိုကြည့်ရှုလိုကြသည်။ ထိုကြောင့်လူလူချင်းယှဉ်ပြိုင်ရသောပွဲများကိုသာမက နွားတိုက်ပွဲ၊ ကျဲတိုက်ပွဲ၊ ကြက်တိုက်ပွဲစသော တိရစ္ဆာန်တိုက်ပွဲများကိုလည်း ပြုလုပ်ကျင်းပလေ့ရှိကာ ပျော်ရွှင်မှုကို ရှာဖွေကြံဖန်ယူတတ်ကြသည်။

တိရစ္ဆာန်တိုက်ပွဲများအနက် ကြက်တိုက်ပွဲကို နိုင်ငံတကာတိုင်းမှာလိုပင် ပြုလုပ်လေ့ရှိသည်မှာ ကြက်သည် အတိုက်အခွပ်သန်၍ အလွယ်တကူရရှိနိုင်သော အိမ်မွေးတိရစ္ဆာန်မျိုး ဖြစ်သောကြောင့်ဟု တွေးထင်ရသည်။

ကမ္ဘာပေါ်တွင် ကြက်တိုက်ပွဲများ မည်သည့်အချိန်ကစတင်ပေါ်ပေါက်ခဲ့သည်ကို အတိအကျမသိရှိရသော်လည်း လူတို့သည် ကြက်ကိုစတင်မွေးမြူသည့် အချိန်မှစ၍ ကြက်တိုက်ပွဲများ စတင်ခဲ့သည်ဟုထင်ရသည်။ ကြက်တိုက်ခြင်းသည် မြန်မာလူမျိုးများ၏ မျိုးရိုးစရိုက် ပျော်ရွှင်မှုတခုဖြစ်၍ မင်းညီမင်းသားမှအစ သူဆင်းရဲများအထိ ကြက်တိုက်ခဲ့ကြသည်။ တိုက်ကြက်မှာ အတိုက်အခွပ်သန်သော ကြက်မျိုးမှ သီးသန့်ဖေါက်ယူရရှိသော ကြက်မျိုးဖြစ်၍ သာမန်ကြက်များထက် သန်မာပြီးလျှင် ဇွဲရှိသဖြင့်အတိုက်အခွပ်ကောင်းလေသည်။



သဲသဲမဲမဲဗိုလ်လုပွဲဆင်နေကြသောတိုက်ကြက်ဖ ၂ ကောင်

တိုက်ကြက်များကို အမွေးအရောင်အလိုက် အမည်များပေးလေ့ရှိသည်။ အနီရောင်ပေါ်လွင်လျှင် နီ ဟူ၍ရင်း၊ ဘုတ်မွေးရောင်ရှိလျှင် ဘုတ်မွေးဟူ၍ရင်း၊ အဖြူရောင်ပါလျှင် ဖေါင်းဟူ၍ရင်း၊ စသည်ဖြင့် ခေါ်ဝေါ်ကြသည်။ တိုက်ကြက်ကောင်း၏ လက္ခဏာများမှာ ဘုတ်ငှက်အရောင်ကဲ့သို့အမွေးမျိုးရင်မှာသက်ရမည်။ အတက်နက်၍ အမောက်ချွန်းရမည်။ အမြီးမှာ ဖွာလန်ခြင်းမရှိဘဲ ထင်းစည်းကဲ့သို့ စည်းစည်းလုံးလုံး ရှိရမည်။ ခြေထောက်မှ အကြေးဖတ်မှာ ၃၀ ရှိရမည်ဟုဆိုလေသည်။ ထိုကြောင့် 'ဘုတ်မွေးရင်သက်၊တက်နက်မောက်ချွန်း၊ မြီးစွန်းထင်းစည်း၊ မောက်လုံးကြီးနှင့်၊ ခြေကြေးသုံးဆယ်၊ ဝိုင်းကြီးပယ်၊' ဟုတိုက်ကြက်လက္ခဏာများကို ဖေါ်ပြထားလေသည်။ ခြေကြေးပတ် ၃၀ ကို ရေတွက်ပုံမှာ ခြေခလယ်အကြေးပတ်မှ အတက်နှင့်တည့်တည့် အကြေးပတ်အထိ အကြေးပတ်ပေါင်း ၃၀ ရှိရမည်ဟုဆိုလိုသည်။

ဖေါင်းအမျိုးအစားထဲမှ ကြက်ကောင်းလက္ခဏာမှာကျောနှင့်ရင်နေရာများတွင် ဖေါင်းရောင်သက်

ရမည်။ အဖိုမွေး၊ ချေးခံမွေး၊ ဒူးကွပ်မွေးများမှာလည်း ဖေါင်းရောင်ရှိရမည်။ ထိုပြင် နှုတ်သီးအရောင်နှင့်ခြေထောက်အရောင်တို့တူရမည်ဟုဆိုလေသည်။

တိုက်ကြက်ကို အိပ်တန်းသီးသန့် ထားပေးရသည်။ နံနက်တိုင်း အစာကြေမကြေသိရှိရန် စလုတ်ကို ဂရုစိုက်၍ ကြည့်ရှုရသည်။ ကြက်ချေးမာလျှင် ကြက်ကျန်းမာနေသည်ဟု သိရသည်။ ကြက်ကို နံနက်တိုင်း ရေ ၀၀ တိုက်ပေးရသည်။ ထိုနောက် ခြေထောက်ကို ဒူးဆစ်အထိ ရေစိမ်ပေးပြီးလျှင် တောင်ပံကို ရေမစွတ်စေဘဲ ရင်အုပ်နှင့် ပေါင်တံများကို ဆုပ်နယ်ပေးရသည်။

ထိုပြင် ကြက်ကောင်းကြိုးမကွာ ဆိုသည့်စကားအတိုင်း ကြက်မများနှင့် ရောနှောမနေစေရန် ငုတ်စိုက်၍ ကြိုးဖြင့်တည်းထားရသည်။ အနောက်နိုင်ငံများတွင်လည်း ကြက်ဝါသနာအိုးများသည် ငွေကြေးအကုန်အကျခံကာ ဆေးဝါး အကူအညီတို့ဖြင့် တိုက်ကြက်များကို မွေးမြူကြ၏။ အနောက်နိုင်ငံများ၌ ခေတ်စားသော တိုက်ကြက်မျိုးများမှာ ပလင်းမတ်ရော၊ ဝိုင်ယန်ဒေါ့ ဂျာစီဂျိုင်းယင့်၊ ရတ်ကျွန်းအနီ၊ နယူးဟမ္ပရှိုင်ယာ၊အောပင်တန်စသည်တို့ဖြစ်ကြသည်။

ကြက်တိုက်ပွဲ စည်းကမ်းချက်များမှာ တနေရာနှင့်တနေရာ မတူကြချေ။ ဥပမာ၊ မြန်မာနိုင်ငံ၌ တိုက်ကြက်များကို နဂိုမူလအတက်နှင့် တိုက်လေ့ရှိသည်။ အိန္ဒိယနိုင်ငံ၌ ကြက်အတက်တွင် ဓါးသွားငယ်များ တပ်၍တိုက်လေ့ရှိသည်။

မြန်မာနိုင်ငံ၌ ကြက်ပွဲကျင်းပပုံမှာ ရှေးဦးစွာ ကြက်ပွဲစည်းမျဉ်းများကို နားလည်သူတဦးအား ဒိုင်ခန့်ရသည်။ ထိုပြင် ကြက်များကို ကုသရန် အတွက် ကြက်ဆွဲနှစ်ဦးကိုလည်း ခန့်ထားရသည်။ ဒိုင်လုပ်သူက သတ်မှတ်ပေးသော စည်းကမ်းချက်များကို ကြက်ရှင်များကကျေနပ်လျှင် ကြက်များကိုဆိုင်ပေး၍ ကြက်တိုက်ပွဲစလေတော့၏။ ထိုသို့တိုက်ရာတွင် တကောင်ကောင်ပိုင်းပိုင်းလဲလျှင်ရင်း၊ ပြားပြားဝပ်အရှုံးခံလျှင်ရင်း၊ စည်းဝိုင်းအပြင်ဖက်သို့ ထွက်ပြေးလျှင်ရင်း၊ ကြက်ပွဲပြီး လေသည်။ အင်အား ချင်းမျှ၊ စွမ်း ရည်ချင်း တူသော ကြက်များခွပ်ကြလျှင် တခါတရံ ၂ နာရီနီးပါးကြာ တတ်ကြသည်။ အခြား စည်းကမ်းချက်အချို့မှာ၊

(၁) ကြက် ၂ ကောင်ခွပ်နေစဉ် ဝိုင်းအတွင်းမှ ကြက်ကိုလည်းမထူရ။ ကြက်နှုတ်သီး၌ ကြက်မွေးများ အကယ်၍ကပ်နေလျှင်လည်းမဖယ်ရချေ။



မြန်မာကျေးရွာမှစိတ်ဝင်စားဖွယ်ရာကြက်ပွဲကလေးတခု
ကြက်ဆွဲကြက်ကိုင်တို့နှင့်မြိုင်လှသောကြက်ပွဲသည်မြန်မာတို့၏ပျော်ရွှင်မှုတခုဖြစ်ပေသည်။

(၂) ရေဖွာမှုတ်၍မကူရ၊လေကိုသာမှုတ်၍ကူပေးနိုင်၏။

(၃) ကြက်၌ရရှိသော ဒဏ်ရာများကို ဆီးဖြူသီးခြောက်၊ ဖန်ခါးသီးခြောက် စသည့်သွေးတိတ်ဆေးများဖြင့် မကုသရ။ ကြက်ဝိုင်းအတွင်းမှရသော ဖုံမှုန့်မြေမှုန့်၊ ကြက် မွေး တို့ကို သာအသုံးပြုနိုင်သည်။

(၄) သတ်မှတ်ထားသောစည်းပေါ် သို့ အမြီးထောက်မှ ကောက်ယူရမည်။

(၅) စည်းဝိုင်းအတွင်း၌ ကြက် ၂ ကောင် အခွပ်ရပ်ဆိုင်း နေလျှင် ၃ ခါစီ လေဖြင့် မှုတ် ပေး နိုင် သည်။ သို့ဖြင့် မခွပ်သေးလျှင် ဒိုင်ကခွင့်ပြုသော် ကြက်ဆွဲများက ကောက်ယူကုသနိုင် သည်။ ကု သ ပုံ မှာ ကြက်၏ အာ ခေါင် တွင်း မှ ချွဲများကို ကြက်တောင်ဖြင့်ကျပ်၍ ထုတ်ပစ်ခြင်း၊ ကြက်ကို ရေဖြင့်မှုတ်ပေးခြင်း၊ လက်ပူတိုက်ခြင်း၊ အညောင်းဆန့်ပေးခြင်း များဖြစ်သည်။ အချို့ကြက်များသည် ပွဲဦးထွက်စ၌ အသင့်အတင့်မျှသာ ခွပ်ပြီးလျှင် တရေနှစ်ရေ ထိုးပြီးသော အခါမှ အထူးအခွပ်ကောင်းလာတတ်လေသည်။

အကယ်၍ကြက်များသည် တကောင်နှင့်တကောင် ခုန်ပျံ၍မခွပ်နိုင်ကြသော အခြေအနေသို့ရောက်နေလျှင် ဒိုင်က တတောင်ပတ်လည် စည်းဝိုင်းရေးပေးလေသည်။ ကြက်များကို ထိုစည်းဝိုင်းအတွင်းသို့ အသာအယာ လက်ဆုပ်ဖြေလွှတ်ကာ တွေ့ဆိုင်ပေးရသည်။ ကြက်များ အကယ်၍စည်းအပြင်ဖက် သို့ ရောက် သွား လျှင် ချက် ခြင်း ကောက် ယူ၍ ကုသခြင်းမပြုဘဲ စည်းဝိုင်းထဲသို့ လွှတ်ပေးရသည်။ ထိုကဲ့သို့ ၃ ခါကောက်ယူပြီးမှ တခါကုသနိုင်သည်။ တခါကုသလျှင် လက်ပူ ၃ ခါသာထိုးရသည်။ ၃ ခါလွှတ်ပြီးသည့်နောက် ပိုင်း၌ တကောင် ၃ ချက်ဆိတ်၍ ကျန်တကောင်က ပြန် မဆိတ်နိုင်လျှင် ထိုပြန်မဆိတ်နိုင်သောကြက်သည် ရှုံးပြီဟု ဒိုင်ကကြေညာလေသည်။ မြန်မာနိုင်ငံတွင် ကြက်ပွဲများကို စပါးပေါ် ချိန် ဆောင်းရာသီလများတွင် ကျင်းပလေ့ရှိသည်။ ပွဲရသောကြက် များ ပါဝင် သောခွပ်ပွဲကြီး များ သည် အထူးစည်ကား၍ အလောင်းအစားပြုရာတွင်လည်းကြေးပါလှ၏။

တိုက်ကြက်များ မိမိရရခွပ်ပုံမှာ ကြည့်ရှု၍ကောင်းလှသည်။ ထို့ကြောင့် မြန်မာလူမျိုးတို့သည် ကြက်ခွပ်ခြင်းကို ဇကားတင်စား ပြောဆိုရေးသားကြသည်။ ဥပမာ၊ စကားကြီး ၁၀ ခွန်းတွင် ကြက်ဆုတ်ခွပ်ပစ်ဟူ၍ရင်း၊ မြန်မာစကားပုံတွင် ကြွေတလက်၊ ကြက်တခုန်ဟူ၍ရင်း၊ ပြောဆိုရေးသား ကြသည်။ ရေ သည် ပြဇာတ် တွင်မူ 'သို့ သော် လဲ ယောကျ်ား၊ ကံရှေ့သွား၊ ကံထား ရာဟဲ့၊ မနုန့်နဲ့ ပါဘူး၊ အလှဲ့ သင့်ချက်ပိုင်၊ ကြက်ကန်းခွပ်လို့၊ ပွဲကျွတ်အောင်နိုင်သေး သပ' ဟုဦးပုညကဖွဲ့ဆိုခဲ့သည်။

ရှေးအခါက မြန်မာလုလင်ပျိုများ တိုက်ကြက်နှင့်စောင်းများ ခင်တွယ်ပုံကို ရှေးဟောင်းအိုင်ချင်းတပုဒ်၌ 'မဲလီပင်



ဗာလီကျွန်းတွင်လည်းကြက်ပွဲသည်လူတို့၏ပျော်ရွှင်မှုတခုဖြစ်သည်။

နှင့်ဒန်းပင်နှံ့နောင်း၊ ရှက်ကာငယ်ပေါင်း၊ ကင်းကြောင်းဆိပ်ဝယ်၊ ထိုးဝါးငယ်ဝယ်၊ တကယ်စုန်ဖြစ်မလားတော်။ စုန်မယ်ဆို၊ စုန်မဲ့ရက် ဆက်ဆက်မစုန်၊ တီးသည့်စောင်းနှင့် လောင်းသည့်ကြက်ကို၊ ပိုက်လိုင်ယင်ငို၊ မောင့်ကိုကုန်သွား ထည့်သလားတော်' စသဖြင့် စပ်ဆိုဖွဲ့နွဲ့ထားလေသည်။

ကြက်များခွပ်သည်ကို အတုယူ၍ မိန်းကလေးများက ကြက်ခွပ်တမ်းကစားလေ့ရှိကြသည်။ ကြက်ဖတိန်ညင်၊ တောကိုဝင်၊ မောင်ရင်လာမှ လေးနဲ့ပစ် အစချီသော ကြက်ခွပ်သီချင်းမှာ လူသိအများဆုံးကလေးသီချင်းတပုဒ်ဖြစ်၏။

ကမ္ဘာ့အရပ်ရပ်တွင် ကြက်တိုက်ပွဲများကို နှစ်ပေါင်းများစွာကပင် သာသနာရေးဖက်နှင့် အခြားတိရစ္ဆာန် ကာကွယ်ရေးအသင်းအဖွဲ့များက အပြင်းအထန် ကန့်ကွက်ခဲ့ကြသော်လည်း ကြက်တိုက်ပွဲများမှာ ယခုတိုင် ပုံလုပ်မြဲပြုလုပ်နေကြသေးသည်။ အင်္ဂလန်နိုင်ငံနှင့် အမေရိကန်ပြည်ထောင်စုနိုင်ငံများတွင် ၁၈၅၀ ခုနှစ်ကပင် ကြက်ပွဲများကို တားဆီးပိတ်ပင်နိုင်သော ဥပဒေများ ထုတ်ပြန်ခဲ့သည်။ မြန်မာနိုင်ငံတွင်လည်း ၁၈၉၉ ခုနှစ် ဧပြီလတွင် ပြဋ္ဌာန်းခဲ့သော မြန်မာပြည် လောင်းကစားမှု အက်ဥပဒေအရ ကြက်တိုက်လောင်းတမ်းကစားခြင်းကို အရေးယူခဲ့သည့်အတိုင်း ယခုအခါ အပျော်သက်သက် ကြက်တိုက်ပွဲများ လောက်သာကျန်ရှိနေတော့သည်။

**ကြက်တောင်ရိုက်ကစားခြင်း။** ။ယခုအခါ မြန်မာနိုင်ငံတွင် ဗက်မင်တန် ခေါ် ကြက်တောင်ရိုက်ကစားခြင်းအလေ့သည် မြို့နယ်အနှံ့ပင် ခေတ်စားနေလေသည်။ ကြက်တောင်ရိုက်ကစားခြင်းကိုရှေးဦးစွာ အိန္ဒိယနိုင်ငံမှ စထွင်လိုက်သည်။ အိန္ဒိယကို ဗြိတိသျှတို့ စစ်နိုင်သောအခါ အိန္ဒိယမှတဆင့် အင်္ဂလန်ပြည်သို့ ထိုကစားနည်း ရောက်ရှိသွားသည်။ အင်္ဂလန်ပြည်မှ တဖန် ကမ္ဘာ့အရပ်ရပ်သို့ ပျံ့နှံ့သွားလေသည်။ အင်္ဂလန်နိုင်ငံတွင် ၁၈၇၃ ခု နှစ်လောက်ကစ၍ ကြက်တောင်ရိုက် ကစားခြင်းသည် ခေတ်စားလာခဲ့၏။ ဗက်မင်တန်ဟူသော အမည်မှာ အင်္ဂလန်နိုင်ငံတွင် ပဌမဆုံး ကြက်တောင်ရိုက်ကစားသော နေရာတခု၏ အမည်ကိုယူ၍မှည့်ခေါ်ထားခြင်းဖြစ်လေသည်။

၁၈၉၅ ခုနှစ်တွင် အင်္ဂလန်နိုင်ငံ ကြက်တောင်ရိုက်အသင်းကြီးကို တည်ထောင်၍ ကြက်တောင်ရိုက်ကစားခြင်းနှင့်ဆိုင်သော စည်းမျဉ်းဥပဒေများကို ရေးဆွဲကြလေသည်။ ထိုစည်းမျဉ်း ဥပဒေများကို အခြားနိုင်ငံများကလည်းအသိအမှတ်ပြုကာ လိုက်နာလျက်ရှိကြသည်။

ကြက်တောင်ရိုက်ကစားရာတွင် လိုအပ်သောဝတ္ထုပစ္စည်းများမှာ ဗက်တံ ၂ ချောင်း သို့မဟုတ် ၄ ချောင်း၊ ကြက်တောင်ဖော့လုံး ၁ ခု၊ အလျား ၁၇ ပေမှ ပေ ၂၀ နှင့် အနံ ၂ ပေခွဲရှိသော ပိုက် ၁ ခုနှင့် ညီညာသော ကစားကွင်းဖြစ်သည်။ ကစားကွင်း၏ ပမာဏမှာ အလျား ၄၄ ပေ၊ အနံ ပေ ၂၀ သို့မဟုတ် ၁၇ ပေရှိသည်။ နယ်နိမိတ်မျဉ်းကြောင်းများ၏ အကျယ်မှာ ၁½ လက်မရှိသည်။ အများအားဖြင့် နယ်နိမိတ်မျဉ်းကြောင်း၏ အရောင်မှာ အဖြူရောင်ဖြစ်သည်။ ပိုက်ကို ကစားကွင်းအလည်တည့်တည့်၌ ကန့်လန့်ဖြတ်ရှိစေရန် ဘေးမျဉ်းကြောင်းများ တဖက်တချက်၌ စိုက်ထားသော တိုင် ၂ တိုင်တွင် ချည်နှောင်ထားရသည်။ ပိုက်၏အမြင့်မှာ အလည်ခေါင်တွင် ၅ ပေရှိ၍ ဘေးတဖက်တချက်ရှိ တိုင်ထိပ်တို့တွင် ၅ ပေ ၁ လက်မရှိသည်။ ဖော့လုံး



ကြက်တောင်ရိုက်ကစားပွဲတွင်စိတ်ဝင်စားဖွယ်ကစားနေသောတံခွန်စိုက်ဆုရအမျိုးသမီး

တွင် ကြက်တောင်ဖြစ်စေ၊ ငှက်တောင်ဖြစ်စေ၊ ၁၄ ချောင်းမှ ၁၆ ချောင်းအထိပါရှိသည်။ ဖေါ့လုံး၏အချင်းမှာ ၁ လက်မမှ ၁⅛ လက်မထိရှိ၍ ကြက်တောင်များ၏ အရှည်မှာ ၂⅜ လက်မမှ ၂⅞ လက်မအထိ ရှိရသည်။

ကစားရာတွင် တဖက်လျှင် တယောက်စီဖြစ်စေ၊ ၂ ယောက်စီဖြစ်စေ ကစားနိုင်သည်။ အရှုံးအနိုင်အမှတ်ကို ရေတွက်ရာတွင် အချို့က ၁၅ မှတ်အထိ ရေတွက်၍ အချို့ကမူ ၂၁ မှတ်အထိ ရေတွက်လေ့ရှိကြသည်။ ကြက်တောင်ရိုက်ကစားခြင်း စည်းမျဉ်းများမှာ မည်သည့်နိုင်ငံတွင်မဆို အတူတူပင်ဖြစ်သည်။ တဖက်တယောက်စီနေ၍ ကစားသည့်ကစားကွင်းမှာ အနံ ၁၇ ပေသာရှိ၍၊ တဖက် ၂ ယောက်စီနေ၍ ကစားသည့်ကွင်းမှာ အနံပေ ၂၀ ရှိသည်။ အလျားမှာမူကား အတူတူပင်ဖြစ်၏။ ကြက်တောင်ရိုက်ကစားခြင်းသည်နှုးညံ့သိမ်မွေ့၍လက်မှခြေထောက်အထိတကိုယ်လုံးလှုပ်ရှားပြေးလွှားရသောကြောင့် ချွေးများထွက်ပြီးလျှင်ဇ္ဈာယာပုထ်မျှတသောကစားမျိုးဖြစ်လေသည်။ အချို့ဝါသနာထုံ၍ ကျန်းမာလိုသောသူများမှာ နွေမိုးမရှောင်ဘဲ ကြက်တောင်ရိုက်ကစားကြသည်။

**ကြက်ပေါင်စေး။**　။ကော်ဖတ် — ရှု။

**ကြက်ပေါင်ပင်။**　။ကြက်ပေါင်ပင် (အာဆီအိုလာ အက်စကူလင်တာ) သည် ကော်ဖတ်ပင်၏ မျိုးစိတ်ဖြစ်၍ အသားထူ နွယ်ပင်မျိုးဖြစ်သည်။ အကိုင်း အခက် အရွက်များချောမွတ်ပြောင်လက်၍ အရွက်ချင်းအညှာဆိုင်သည်။ အပွင့်များမှာဖြူ၍သေးငယ်ကြ၏။

အစိမ်းရောင်ရှိသော ကြက်ပေါင်သီးသည် ရှည်လျားလျားဖြစ်၍ အရင်းတုပ်ကာ အဖျားဖက်သို့ ရှူးသွားသည်။ အသီးကိုချိုးလိုက်လျှင် အဖြူရောင်အစေးထွက်လာသည်။ အသီး၏အရသာမှာ ချဉ်၍ ယင်းကို မြန်မာလူမျိုးတို့ အထူးသဖြင့် ငပိနှင့်တို့စားကြသည်။ တခါတရံလည်း လက်သုတ်သုတ်၍သော်၎င်း၊ ချဉ်ရေချက်၍ သော်၎င်း စားသုံးကြသေးသည်။ ကြက်ပေါင်ပင်သည် အလေ့ကျပေါက်၍ စိုက်ပျိုးလိုသော် အစေ့ကိုစိုက်ပျိုးရသည်။



အရသာချဉ်၍နုစ်သက်ဖွယ်ကောင်းသည့်ကြက်ပေါင်သီး

ညောင်ကြက်ပေါင်ဟူ၍ ညောင်ပင်မျိုးဝင် အပင်တမျိုးလည်း ရှိသေးသည်။ ထိုအပင်သည် အာသံပြည်နှင့် မြန်မာနိုင်ငံတို့၌ စိမ်းလန်းစိုစွတ်သော ချိုင့်ဝှမ်းများတွင် ပေါက်သည်။ အမြင့်ပေ ၁၀၀ အထိ ရှိနိုင်သည်။ အရွက်သည် ၆ လက်မခန့်ရှိ၍ အသားထူသည်။ အသီး၏အရောင်မှာ စိမ်းဝါရောင်ဖြစ်သည်။ ပြန့်ကားနေသော အကိုင်းတို့မှ အမြစ်များသည် မြေသို့ကျဆင်းလျက်ရှိသည်။ ထိုအမြစ်တို့သည်ပင်စည်များသဖွယ်ဖြစ်ကြသည်။

**ကြက်မောက်ပင်။**　။ကြက်မောက်ပင်ကို လူတိုင်းမမြင်ဘူးသော်လည်း ထူးခြားချိုအေးသော ကြက်မောက်သီး၏ အရသာကိုမူ လူအများပင် ခံစားဘူးကြပေမည်။ လတ်လတ်ဆတ်ဆတ် မစားဘူးသည့်တိုင်အောင် စည်သွတ်ထားသောကြက်မောက်သီးကိုကား စားသုံးဘူးသူများပေမည်။ ကြက်မောက်သီးသည် ဘဲဥပုံ လုံးလျားလျားဖြစ်၍ အရွယ်မှာ မျိုးကိုလိုက်၍၎င်း၊ ရာသီဥတုနှင့် မြေဩဇာကိုလိုက်၍၎င်း အချင်း ⅞ လက်မမှ ၂ လက်မခန့်အထိရှိသည်။ အချို့သောအမျိုးတွင် အသီး၌အမွေးရှိ၍ အချို့အမျိုး၌ အဖုကလေးများကိုသာတွေ့ရသည်။ အခွံ၏အရောင်မှာ အနီ၊ အဝါ၊ နီညို စသည်တို့ဖြင့် အရောင်အမျိုးမျိုးရှိသည်။ ကြက်မောက်သီးတွင် တခုတည်းသောအစေ့ကို နို့နှစ်ရောင်ကဲ့သို့ ဖြူဖွေးကြည်လင်သော အသားကဖုံးထားသည်။ အစေ့ကပ်မျိုး၌ အသားသည် အစေ့နှင့်ကပ်နေ၍ အကောင်းစားမျိုး

ဖြစ်သော အစေ့ကျွတ်မျိုးတွင် မူကား အသားသည် အစေ့နှင့် ကွာနေသည်ကို တွေ့ရလေသည်။

ကြက်မောက်သီးကို လတ်လတ်သော်၎င်း၊ စည်သွတ်၍ သော်၎င်း၊ အခြောက်လှန်း၍ သော်၎င်း ရောင်းချကြသည်။ ကြက်မောက်အမျိုးမျိုး ရှိသည့်အနက်၊ မြန်မာနိုင်ငံတွင် (တရုပ်) ကြက်မောက်၊ တောကြက်မောက်နှင့် မော်လမြိုင်ကြက်မောက်သုံးမျိုးကိုထင်ရှားစွာတွေ့ရ၏။

## (တရုပ်) ကြက်မောက်

တရုပ်ဆီး ဟုခေါ် သော ကြက်မောက်မျိုးကို မြန်မာနိုင်ငံ၌ ဗန်းမော်ခရိုင်၊ မြစ်ကြီးနားခရိုင်နှင့် ရခိုင်တိုင်းတို့တွင် အရိုင်းပေါက်နေကြသည်ကို တွေ့ရသည်။ မြန်မာနိုင်ငံတောင်ပိုင်းမိုးများသည့်ဒေသအချို့၌လည်းအနည်းအကျဉ်း တွေ့ရ၏။ သို့သော် မြောက်ပိုင်းဒေသမှာ လောက် အသီးကောင်းစွာမဖြစ်ထွန်းချေ။ ဗန်းမော်ခရိုင် ၌ တရုပ်ဆီးသီးဟုဆိုမှ လူသိများ၏။ ဤကြက်မောက်မျိုးသည်တရုပ်နိုင်ငံတောင်ပိုင်းမှ စတင်ပေါက်ပွားသော အပင်မျိုးဖြစ်၍ လိုင်ချီပင်ဟုခေါ် သည်။

ယင်းကို တရုပ်လူမျိုးတို့ အထူးကြိုက်နှစ်သက်ကြ၍၊ တရုပ်နိုင်ငံ၌ အကြီးအကျယ် စိုက်ပျိုးကြသည်။ ကွမ်တန်တနယ်တည်းမှာပင် တနှစ်တနှစ်လျှင် ကြက်မောက်သီးပေါင်ချိန် ၂ ကုဋေမှ ၃ ကုဋေအတွင်း၊ တန်ဖိုးအားဖြင့် မြန်မာငွေ ၄ သန်းမှ ၆ သန်းခန့်အထိထွက်သည်ဟု အဆိုရှိသည်။ ကြက်မောက်ပင်သည် တရုပ်နိုင်ငံမှတဆင့် အိန္ဒိယနိုင်ငံနှင့်အာရှတိုက်ရှိ အခြားဒေသများသို့၎င်း၊ အမေရိကတိုက်ရှိ ကာလီဖိုးနီးယားပြည်နယ်၊ ဖလော်ရီဒါပြည်နယ်၊ ကျူးဗားကျွန်း၊ ဗရာဇီးနိုင်ငံနှင့် ဟာဝိုင်းယန်းကျွန်း များသို့၎င်း၊တဖြည်းဖြည်းပျံ့နှံ့သွားသည်။

ဤကြက်မောက်ပင်မျိုးသည် အမြင့် ၃၅ ပေမှ ပေ ၅၀ အထိရှိနိုင်သည်။ အပူပိုင်းဒေသတွင်ပေါက်၍၊ မိုးများပြီး ရေမဝပ်သော ထုံးကျောက်မြေမျိုးကို နှစ်သက်သည်။ အပူပိုင်းဒေသ အပင်မျိုးဖြစ်သော်လည်း၊ သမပိုင်းဇုန်နှင့်နီး၍ ဆောင်းတွင်းအအေးကို အသင့်အတင့်ရသော အပူလျော့ပိုင်းဒေသများ၌ ပိုမိုဖြစ်ထွန်းသည်။ များသောအားဖြင့် အစေ့မှမျိုးပွားယူလေ့ရှိရာ၊ စိုက်ပျိုးသောအခါ တပင်နှင့်တပင် ပေ ၃၀၊ ၃၅ ပေခန့်ခွာ၍ စိုက်ပျိုးသင့်သည်။ အကိုင်းအခက်များကိုလည်း လိုအပ်သလိုချိုင်ပေးရသည်။ မြေနှင့်ရာသီဥတု အခြေကောင်းလျှင် ၇ နှစ် ၈ နှစ်ကြာ တွင် ၄က်စာဆော်တတ်၍ တခါတရံတွင်မူကား ၁၅ နှစ်ခန့်ကြာမှ သီးတတ်သည်ဟုသိရသည်။

ဤကြက်မောက်ပင်မျိုးသည် ဒီဇင်ဘာလကုန်လောက်မှ ဖေဖွာရီလအတွင်းပွင့်၍ ဧပြီလလယ်လောက်မှ မိုးဦးကျစ



ချိုအေးသောအရသာရှိသည့်ကြက်မောက်သီး

ချိန်တိုင်အောင် အသီးများမှည့်လေ့ရှိသည်။ အသီး၏ အရွယ်မှာ မြန်မာနိုင်ငံ၌ အချင်းတလက်မခန့်ရှိသည်။ အခွံသည်ခြောက်၍နောင်တဖြည်းဖြည်း ကြွပ်လာသည်။ အသီးတွင်အမွှေးမရှိဘဲ အသားထူ၍ အစေ့ကျွတ်သည်၊ ကြက်မောက်အားလုံးအနက်အရသာအကောင်းဆုံးကြက်မောက်မျိုးဖြစ်၏။ နှစ်စဉ်နှစ်တိုင်းမြန်မာနိုင်ငံသို့ တရုပ်နိုင်ငံအပါအဝင် နိုင်ငံခြားများမှ စည်သွတ်ကြက်မောက်ယိုဗူး (နှင်းသီးဗူး) များကို အမြောက်အမြား တင်သွင်းလျက်ရှိသည်။ မြန်မာနိုင်ငံ၌ ဤကြက်မောက်မျိုးကို တိုးချဲ့စိုက်ပျိုးနိုင်ပါက အကျိုးများစရာအကြောင်းရှိလေသည်။

## တောကြက်မောက်

တောကြက်မောက်ကို မြန်မာနိုင်ငံ၌ မိုးများသောဒေသရှိ သဲမြေနှင့် ဂဝံမြေများတွင်တွေ့ရသည်။ အထူးသဖြင့် မရန်းနှင့်သရက်ခြံများအတွင်း၌ ပေါက်လေ့ရှိသည်။ တရုပ်ကြက်မောက်ကဲ့သို့ပင် တောကြက်မောက်သည် တရုပ်နိုင်ငံမှ စတင်မျိုးပွားလာသည်ဟု ယူဆရ၏။ စိုက်ပျိုးသောအခါ အစေ့ကိုစိုက်ပျိုးရသည်။

တောကြက်မောက်ပင်သည် အမြင့်ပေ ၅၀ ခန့်အထိ ရှိနိုင်သည်။ ဆောင်းရာသီ၊ ဒီဇင်ဘာလနှင့် ဇန္နဝါရီလတို့ အတွင်းပွင့်၍ မတ်လနှင့်ဧပြီလတို့အတွင်း အသီးများမှည့်လေ့ရှိသည်။ အသီး၏အရွယ်မှာ အချင်း ၄ လက်မခန့်ရှိ၍၊ အခွံ၏အရောင်မှာ နီဝါရောင်ဖြစ်သည်။ အသားပါး၍ အရသာတွင်လည်း တရုပ်ကြက်မောက်လောက် မကောင်းချေ။

## မော်လမြိုင်ကြက်မောက်

မော်လမြိုင်ကြက်မောက် သည် မလ္လာယုကျွန်း ဆွယ်နှင့် ကျွန်းစုများမှ စတင်ရရှိသော ကြက်မောက်မျိုးဟု ယူဆရသည်။ မြန်မာနိုင်ငံ၊ တနင်္သာရီတိုင်း၌ ပင်လယ်ကမ်းခြေနှင့် တောင်ခြေများတွင် စိုက်ပျိုးကြသည်။ မိုးများ၍ ရေမဝပ်သော ဂဝံမြေမျိုးတွင် ပိုမိုဖြစ်ထွန်းသည်။

မြန်မာနိုင်ငံ၌ ဤကြက်မောက်မျိုးကို အစေ့မှစိုက်ပျိုးယူကြသည်။ သို့သော် မြေထုပ်စည်းနည်း မျက်စိဆက်နည်းတို့ဖြင့်လည်း စိုက်ပျိုးနိုင်သည်။ ထိုသို့စိုက်ပျိုးသောအခါ တပင်နှင့်တပင် ပေ ၃၀ ခန့်ခွာ၍ စိုက်ပျိုးသင့်သည်။ အစေ့ကိုစိုက်ပျိုးလျှင် ၁၅ နှစ်ခန့် ကြာမှ အသီးစားရလေသည်။ ထိုထက်စောစော သီးစေလိုလျှင် အကောင်းဆုံး နည်းမှာ ကိုင်းကူးခြင်းနှင့် မျက်စိဆက်ခြင်းတို့ဖြင့် စိုက်ပျိုးနည်းပင်ဖြစ်ပေသည်။

မော်လမြိုင် ကြက်မောက်ပင်သည် အခြားအခြား ကြက်မောက်မျိုးများ နည်းတူပင် မြင့်မားသည်။ ဒီဇင်ဘာလမှ စတင်ပွင့်၍ မိုးဦး ကျချိန်ဖြစ်သော မေလနှင့်ဇွန်လတို့တွင်အသီးများ မှည့်ကြသည်။ အသီး၏အရွယ်မှာ အချင်း ၃ လက်မမှ ၂ လက်မခန့် အထိရှိသည်။ အခွံ၏အရောင်မှာအနီ၊ နီညိုစသည်ဖြင့် အရောင်အမျိုးမျိုး ရှိတတ်သည်။ အရသာမှာ ကား တရုပ်ကြက်မောက်လောက် မကောင်းသော်လည်း ယင်းကိုအခိုင်လိုက်ခူး ဆွတ်၍ ရောင်းချစားသောက်လေ့ရှိကြသည်။ မော်လမြိုင်ကြက်မောက်သီးတွင် အစေ့ကပ်နှင့် အစေ့ကျွတ် နှစ်မျိုးရှိသည်အနက်၊ ဒုတိယအမျိုးက အသားပိုထူ၍ အရသာမှာလည်းပို၍ကောင်းပေသည်။



နိမိတ်ကောက်ယူသည့်ကြက်ရိုး

**ကြက်ရိုးထိုးခြင်း။** ။ကြက်ရိုးဖြင့် နိမိတ်ကောက်၍ အကောင်းအဆိုး ဆုံးဖြတ်ဟောပြောခြင်းကို ကြက်ရိုးထိုးခြင်းဟု ခေါ်ဆိုသည်။ ကြက်ရိုးထိုးပုံ နှစ်နည်းရှိသည်။ တနည်းမှာ ကြက်အရှင်၏ ခြေနှစ်ချောင်းကို ပေါင်နှင့်ဒူးဆစ်မှ ဖြတ်ပြီးနောက်၊ နှီးစဖြင့်ထိုး၍ နိမိတ်ကောက်ယူသော နည်းဖြစ်သည်။ အခြားတနည်းမှာ ကြက်သေ၏ အရိုးကို သိမ်းဆည်းထားပြီးနောက်၊ အလိုရှိသည့်အခါ ပေစာအကြား၊ ထန်းဖူးစာအကြားများသို့ ထိုအရိုးကိုထိုး၍ ကျရာစာ၏အဟောကို ဖတ်ယူသည့်နည်းဖြစ်သည်။ ယခုခေတ် စာကလေးဗေဒင်များ ကြည့်ပုံနှင့် ဆင်တူသည်။ ကြက်ရိုးထိုး၍နိမိတ်ယူရန် စီရင်ရေးသားထားသော ပေစာထုပ်များကို ကြက်ရိုးစာဟု ခေါ်ဆိုကြသည်။

ကြက်ရိုး ထိုး၍ နိမိတ်ကောက်ယူသော နည်းများကို ရှေးအခါက မြန်မာတိုင်းရင်းသား အများပင် ပြုလုပ်လေ့ရှိကြောင်း အထောက်အထားများ တွေ့ရှိရသည်။ မြန်မာများ ပြုလုပ်လေ့ရှိသောနည်းမှာ ပေစာထုပ် အကြားသို့ ကြက်အရိုးဖြင့် ထိုးကြည့်သောနည်း ဖြစ်မည်ဟုထင်ရသည်။ ဤပညာရပ်များမှာ ရှေး ပုဂံခေတ် အရည်းကြီးများလက်ထက်မှ စတင်ပျံ့ပွား လာခဲ့သည်ဟုထင်ကြောင်း မြန်မာမင်းအုပ်ချုပ်ပုံစာတမ်းတွင်ဆိုသည်။

ပုဂံရာဇဝင် ပုံပြင်များ၌ ဗေဒင်တတ်ကျွမ်းလှသော ငမှန်ကန်းသည် ရှင်ငယ်တဦးအား ဗေဒင်ဟောရာ မမှန်သဖြင့် မိမိ၏ဗေဒင်ကျမ်းတို့ကို မီးရှို့ပစ်လိုက်သည်။ ထိုပြာကို ကြက်ကလူးယက်စားလေသောကြောင့် ငမှန်ကန်း၏ဖခင်က ကမ္ဘာအစကျမ်းကို မီးတိုက်ရာ ပြာကို (ကြက်သည်) စားသည်၊ ယက်သည်၊ လူးသည်၊ ဖြစ်သောကြောင့် အရိုးကိုကမ္ဘာပြုကြက်ရိုးထိုး၍ ဟောပြောခြင်းကို ကမ္ဘာမကြေမခြင်း ပြုလိမ့်မည်ပြောကြောင်းနှင့်လာရှိသည်။ ယခုအခါ ဤသို့ နိမိတ်ကောက်ယူဟောပြောခြင်းမျိုးကို များသောအားဖြင့် တောင်တန်းဒေသများတွင် တွေ့နိုင်သေးသည်။

မင်္ဂလာအခါယူရန်ဖြစ်စေ၊ အကြောင်းကိစ္စတခုခု ဆောင်ရွက်ရန်သင့်မသင့်ကို သိရန်ဖြစ်စေ၊ မိမိတို့၏ ပြဿနာများအတွက် အကောင်းအဆိုး သိလိုသောအခါဖြစ်စေ၊ ကြက်ရိုးထိုး၍ နိမိတ်ကောက်ယူလေ့ရှိကြသည်။ အထူးသဖြင့် တောင်ယာမြေသစ်တခုခု ခုတ်ထွင်မည့်အခါ၌ ကြက်ရိုးဗေဒင်အရ လိုက်နာကျင့်သုံးလေ့ရှိကြသည်။

ကြက်ရိုးထိုးပုံမှာ နတ်ဆရာလုပ်သူက အမိဋ္ဌာန်ပြုကာ ကြက်တကောင်ကိုသတ်၍ ပေါင်နှင့်ဒူးဆစ်မှဖြတ်ယူရသည်။

ထိုနောက် ဒူးဆစ်ဖက်မှနေ၍ နှီးစဖြင့် အရိုးတွင်းသို့ထိုးသွင်းလိုက်ရသည်။ အရိုးပေါ်ရှိ အပေါက်များမှ သွေးများစို့ထွက်လာသောအခါ ထိုအပေါက်ကလေးများကို မှတ်သားထားရ၏။ ညာဖက်ခြေထောက်တွင် သွေးစို့ထွက်သော အပေါက်က ဗယ်ဖက်ခြေထောက်တွင် သွေးစို့ထွက်သော အပေါက်ထက် မြင့်နေလျှင် နိမိတ်ကောင်းသည်၊ အောင်မြင်မည်ဟု ယူဆကြသည်။ အကယ်၍ ဗယ်ဖက်ခြေထောက်ရှိ အပေါက်ကသာမြင့်နေလျှင် မူကား နိမိတ်မကောင်း ရှုံးနိမ့်မည်ဟုယူဆကြသည်။

ကြက်ရိုးထိုးခြင်း အလေ့အထကို မုံရွေးဆရာတော် ရေးသားသော ပဉ္စာဝုဓပျို့တွင် 'ဘုရားမေးကာ၊ နတ်မေးကာနှင့်၊ မှန်စာကြက်ရိုး၊ ထိုးကာဖွင့်ကာ၊ အိပ်တံုပါသော်' ဟူ၍၎င်း၊ ဦးကြင်ဥ၏ တပေါင်းလဘွဲ့တွင် 'ငွေနားပန်ရှင်၊ တောင်မီးခင်လဲ၊ မနှင်ထွန်တိုက်၊ ချွန်းစူးယယ်စိုက်လို့၊ အလိုက်ကယ်စာရေ၊ စဉ်ဆက်မျိုးလာ၊ ကြက်ရိုးစာနှင့်၊ ဘာသာယယ်ပွေ့သည်' ဟူ၍၎င်း စပ်ဆိုရေးသားခဲ့သည်ကို တွေ့ရလေသည်။

စဉ့်ကူးမင်း မိဖုရားကြီးရှင်မင်းသည် မောင်တော်ဘုရားမလာသောကြောင့် စိတ်သောကဖြစ်ပြီးလျှင် ကြက်ရိုးထိုးခြင်း၊ မှန်စာချခြင်း၊ စနည်းနာခြင်း၊ ဗေဒင်မေးခြင်းများကိုပြုလုပ်ရကြောင်း ဖေါ်ပြသော မျှော်တော်စိုက်တေးတပ်တွင် 'စောင့်စားလို့တာရှည်သည်၊ နေခြည်မှာပန်းကဲ့သို့ညိုး။ ချနေကျမှန်စာကို၊ အခါခါမယ်ထိုး။ ။စနည်းပုံရွှေကြက်ရိုးရယ်က၊ အကျိုးယယ်မထင်။ ရွှေတိုင်ထူနတ်ကိန်းက၊ တိမ်းယိမ်းလို့မမှန်လေကျောင်' ဟုဖွဲ့ဆိုထားလေသည်။

**ကြက်ဝက်ခြောက်ကောင်ငှက်။** ။တောလုံငှက် — ရှု။

**ကြက်သွန်။** ။ကြက်သွန်ပင်မျိုး များစွာရှိသည့်အနက် ထန်းကြက်သွန်၊ ကြက်သွန်နီ၊ ကြက်သွန်ဥကြီး၊ ကြက်သွန်ဖြူတို့မှာထင်ရှားသည်။

အလွန်ရှေးကျသော ခေတ်အခါမှစ၍ ကြက်သွန်ဥကြီးကို စိုက်ပျိုးလာခဲ့ကြသည်။ ကြက်သွန်ဥကြီး၏ မူလပေါက်ရောက်ရာအရပ်မှာ အာရှတိုက်အလယ်ပိုင်း ဒေသပင်ဖြစ်မည်ဟု ခန့်မှန်းရသည်။ အချို့ကလည်း အာရှတိုက်အနောက်ပိုင်းဟု ဆိုကြသည်။ ကြက်သွန်ဥကြီးသည် မြေဥပ်ပင်စည်ဖြစ်၍ အပင်အတွက်အစာကို အထပ်ထပ်ရှိသော အဖတ်များ၌ သိုမှီးထားသည်။ ကြက်သွန်ဥကြီးများသည် ဥတလုံး



ကြက်သွန်နီ၊ ဥနှင့်အမြိတ်များ
မြန်မာများဟင်းစီစဉ်ရာတွင်မပါမဖြစ်သောအမွှေးအကြိုင်တခု

အဖြစ်များလျက် အချို့တို့မှာသာ အတက်ပွားများနှင့်ဖြစ်ကြသည်။ ဥတလုံးလျှင် အလေးချိန် အစိတ်သားကျော်ကျော်ခန့်ရှိသော ကြက်သွန်ဥကြီးမျိုး များလည်းရှိသည်။

ကြက်သွန်စိုက်ရာတွင် အစေ့များကို၎င်း၊ ဥကလေးများကို၎င်း စိုက်ကြရ၏။ ထိုနှစ်နည်းတွင် အစေ့ကိုပျိုး၍ စိုက်သောနည်းကို အသုံးများသည်။ အစေ့မှ ဥရအောင်စိုက်နည်း၌ နှစ်မျိုးရှိပြန်သည်။ တမျိုးမှာ အစေ့များကို ပြုပြင်ထားသောစိုက်ခင်းတွင် တခါတည်းစိုက်၍ အပင်ကလေးများ ပေါက်လာသောအခါ ကျပ်မနေစေရန် နုတ်ပစ်ခြင်းဖြစ်သည်။ အခြားနည်းမှာ ပျိုးခင်းထောင်၍ အပင်ကလေးများ အတော်အတန်ကြီးလာသည့်အခါ စိုက်ခင်းသို့ ရွှေ့ပြောင်းစိုက်ရခြင်းဖြစ်သည်။ မြန်မာနိုင်ငံတွင် ပျိုးထောင်၍ စိုက်သည့်နည်းကို ဆည်ရေသောက်မြေများ၌သာ အသုံးပြုသည်။

ပူအိုက်စိုစွတ်သော ရာသီဥတုတွင် ကြက်သွန်ပင်များ၌ မှိုရောဂါကျရောက်တတ်သည်။ မှိုရောဂါကျသောအခါ ကြက်သွန်ပင်အရင်းမှ သုံး လေးလက်မခန့် အမြင့်ရှိသော အရွက်အမြိတ်များ၏ အထက်ပိုင်းတွင် ကော်ဖြူမှုန့်ကဲ့သို့

အမှုန့်ကလေးများ ထွက်ပေါ် လာတတ်သည်။ ထိုအမှုန့် ကလေးများသည် တပင်လုံးသို့ ပြန့်ပွားသွားသောအခါ ညိုမဲမဲအရောင်ပြောင်းသွားသည်။ ထိုအခါ အမြိတ်ညွန့် ကလေးများသည် ညွတ်ကျလျက် တဖြည်းဖြည်းခြောက် သွေ့သွားကြပြီးလျှင် အပင်များမှာ အားတိတ်သွားကြ၏။ ဤမှိုရောဂါသည် ကြက်သွန်ဥများကို တိုက်ရိုက်မထိခိုက် သဖြင့် ဥများ ဆွေးခြင်း ပုပ်ခြင်းမရှိကြချေ။ သို့ရာတွင် အပင် များမှာ အားတိတ်၍ နွမ်းခြောက်သွားတတ်သဖြင့် ကြက် သွန်ဥအထွက်ဥ၌ညံ့သွားတတ်သည်။ ထိုမှိုရောဂါကို ကာကွယ် ရန် နည်းများမှာ ကောင်းသောမြေဩဇာကို သုံးခြင်း၊ အမှုက်သရိုက်ပေါင်းပင်များကို မီးရှို့ပစ်ခြင်းတို့ဖြစ်သည်။

အခြားကျရောက်တတ်သော အနာတမျိုးမှာ အူတိုင်ပုပ် သော အနာဖြစ်၏။ ထိုအနာမျိုးကို ကာကွယ်ရန်အတွက် ကြက်သွန်စိုက်ပျိုးစဉ်၌ရင်း၊ နုတ်သိမ်းပြီးနောက် သိုလှောင် ထားရာ၌ရင်း၊ ကြက်သွန်ဥများကို တတ်နိုင်သမျှ ခြောက် သွေ့အောင်ထားရခြင်းဖြစ်သည်။

ကြက်သွန်ဖြူပင်သည်၊ ကြက်သွန်နီပင်နှင့် တူသော်လည်း ကြက်သွန်ဖြူပင်၏ အရွက်များမှာ လုံးမနေဘဲ ပြားနေသ ဖြင့် မြက်နှင့်တူသည်။ အမြင့်သည် နှစ်ပေအထိရှိသည်။ ထိပ်ဖျားတွင် အဖြူ ရောင်ပန်းပွင့်များနှင့် ပန်းဥကလေးများ ရောကာ ပွင့်သည်။ ကြက်သွန်ဖြူပင် တွင် ဥကိုသာ အသုံးပြုနိုင်သည်။ ကြက် သွန်နီကဲ့သို့ အနံ့ပြင်းသည်။ ထိုဥကို ဟင်းခတ်အမွှေးအကြိုင်အဖြစ် အသုံး ပြုကြသည်။ ပါးပါးလှီး၍ကြော်ထား သောကြက်သွန်ဖြူကြော်ကို မြန်မာတို့ သည်လက်ဖက်၊ ချင်းသုတ်၊ အစုံသုတ် တို့တွင်ထည့်၍ စားတတ်ကြသည်။ ကြက်သွန်ဖြူမှရသည့် အယ်လီဆာလ ဖိုက် (ဒ) သည် အမြစ်ခြောက်နာကို ပျောက်ကင်းစေနိုင်သည်ဟုဆိုကြ၏။

ဂျူးမြစ်သည် ရက္ခဗေဒ အလို အရ ကြက်သွန်မျိုးစဉ်တွင်ပါဝင်လေသည်။

ဒေဝကုမ္ဘာန်ပြဇာတ်မှ ဝင်္ကိယဘီလူးမက မင်းသားငယ်အားချော့မြှူနေဟန်



**ကြင်ဥ။ ဦး။** ။ဦးကြင်ဥသည် ကုန်းဘောင်ခေတ် ဒုတိယပိုင်းတွင် ထင်ရှားသောစာဆိုတဦး ဖြစ်လေသည်။ သရက်မြို့စီရင်စု ဆင်ပေါင်ဝဲမြို့တွင် မွေးဖွား၍ ဘကြီးတော်ဘုရား၊ ရွှေဘိုမင်းနှင့် ပုဂံမင်းတို့ လက်ထက်တော်တွင် ကဗျာလင်္ကာအများ ပြုစုရေးသားသည်။ ဦးကြင်ဥသည် ကိုယ်ပိုင်စိတ်ကူးဥာဏ်ဖြင့် ဖန်တီးရေးသားသော ညချင်းပေါက် ကပြနိုင်သည့် ဒန္တရီပြဇာတ်များကို စတင်တီတွင်ခဲ့သည်။

ပြဇာတ်များကို လင်္ကာသွား နဘေထပ်များဖြင့် ဖွဲ့နွဲ့ရေးသား၍ အခန်းကဏ္ဍအလိုက် သီချင်းများကိုလည်း ထည့်သွင်းရေး သားသည်။ နိပါတ်တော်လာ မဟောသဓပြဇာတ်၊ဝေဿ န္တရာပြဇာတ်နှင့် ထိုးဇာတ်ဖြစ်သော ဒေဝကုမ္ဘဏ်ပြဇာတ်၊ ဝင်္ကန္တပြဇာတ်၊ ပါပဟိန်ပြဇာတ်၊ ကာဠကဏ္ဏိပြဇာတ် တို့မှာ ဦးကြင်ဥ၏ ထင်ရှားသောပြဇာတ်များဖြစ်သည်။

ဦးကြင်ဥသည် ပြဇာတ်များကိုသာမက ရာသီဘွဲ့စသည့် ညည်းချင်းများကိုလည်းရေးသည်။ သူ၏ပြဇာတ်များတွင် ဇာတ်ကွက်နှင့်ဆိုင်သော နတ်စကား၊ ဇော်ဂျီစကား၊ မုဆိုး စကား၊ မင်းသားကြီးစကား၊ ဆိုင်းဆင့်စကား စသည်တို့ ပါဝင်သည်။ ထိုစာစုများနှင့် ဆဲ့နှစ်ရာသီဇာတ်ချင်းများကို စုပေါင်းလျက် ပဒေသာသီချင်းများ အမည်ဖြင့် ယခုအခါ အထင်အရှားအသုံးပြုလျက်ရှိသည်။

ဦးကြင်ဥသည် နန်းတွင်းစာဆိုတဦး မဟုတ်ငြားသော် လည်း စကားအသုံးအနှုန်း ယဉ်ကျေးဖွယ်ရာရှိပြီးလျှင် ထီးမူနန်းဟန်ပါအောင်ရေးစပ်နိုင်သည်။ ဇာတ်ကွက်များကို လည်း အလင်္ကာရသပေါ်အောင် ဖော်ထုတ်နိုင်လေသည်။

အသက်အရွယ်ကြီးရင့်သောအခါ ဇာတိဆင်ပေါင်ဝဲမြို့သို့ ပြန်ရောက်နေထိုင်၍၊ ပုသိမ်ခရိုင် မော်တင်စွန်းသို့ ဒေသန္တရ

ဗဟုသုတအလို့ငှာ လှည့်လည်သည်။ မော်တင်စွန်း၌ တွေ့မြင်ရသော ရှုမျှော်ခင်းကို၊ 'ကြုံစဖူး၊ မြင်ဘူးမှယုံစဖွယ်။ ဖြူနီဝါပြာတစုနှင့်၊ ခရုထွေလာဆန်း၊ ကမ်းကျွေပတ်လယ်။ ရွှေမင်တံ သံပချုပ်နှင့်၊ ဟန်ရုပ်ပြ သွယ်သွယ်၊ နတ်မယ်လျှဆံထိုး။ ဝင်ကစွပ်၊ မြင်ဆွတ်ကကြည်ဖို့ရာ၊ ထိုသို့လာသည်သို့သွားနှင့်၊ အငှားခန္ဓာမြှောင်ရတယ်၊ ဆန်းခေါင်ထိမျိုး။' ဟူ၍လေးဆစ်ချိုးဖြင့် မှတ်တမ်းတင်ခဲ့လေသည်။

ဦးကြင်ဥ၏စာများသည် အဆီအနှစ်နှင့် ပြည့်စုံသည့်ပြင် အရပ်သားများ နားလည်လွယ်သော စကားများဖြင့် ရေးသားထားသောကြောင့် လူကြိုက်များလေသည်။ စာပေကိုလိုက်စားသော မင်းတုန်းမင်းကိုယ်တော်တိုင်က စလေဆရာကြီး ဦးပုညရေးသော ဝိဇယပြဇာတ်ထက် ဦးကြင်ဥရေးသော ဒေဝကုမ္ဘဏ်ပြဇာတ်က တိုတုတ်၍အပိုအလိုမရှိ၊ ထိမိသိပ်သည်း စည်းစံနစ်ကျသည်။ ပြဇာတ်ရေးမှုတွင် စံတင်သင့်သည်ဟု မိန့်ဆိုဘူးကြောင်း အမှတ်အသားကျန်ရစ်လေသည်။ ထိုသို့ဘုရင်မင်းမြတ် ချီးမွမ်းခြင်းခံရသော ပြဇာတ်ရေးဆရာ စာဆိုကြီးဦးကြင်ဥသည် မည်သည့်ခုနှစ်တွင် ကွယ်လွန်သွားသည်ကို အမှတ်အသားမရှိ၍ မသိရသည်မှာ ဝမ်းနည်းဖွယ်ရာဖြစ်လေသည်။



သိုးမွေးကဲ့သို့ရှည်လျားသောအမွေးများရှိသည့်ပါရှင်းကြောင်ပြာမျိုး

**ကြောင်**။ ။ကြောင်သည် ခွေးကဲ့သို့ပင် လူနှင့်ရင်းရင်းနှီးနှီး နေထိုင်သောအိမ်မွေးတိရစ္ဆာန်ဖြစ်သည်။ သို့သော် ခွေးနှင့် ကြောင်တို့၏ အပြုအမူများမှာ လုံးဝမတူကြချေ။ ခွေးသည် မိမိအရှင်သခင်၏ ပစ္စည်းဥစ္စာကို အသက်စွန့်၍စောင့်ရှောက်ကာကွယ်တတ်သည်။ သခင်အပါးမှ ထက်ကြပ်မကွာလိုက်တတ်သည်။ သခင်အား အမြီးနန့်လျက် အားရဝမ်းသာ ခရီးဦး ကြိုလည်း ပြုတတ်သည်။ ထိုသို့ကျေးဇူးသိတတ်မှုကြောင့် လူတို့၏ ခင်မင်အားကိုးခြင်းကို ခံယူရပေသည်။ ကြောင်မှာမူ သခင့်အပါးသို့လည်း မချဉ်းကပ်၊ အမြီးနန့်ခြင်း၊ ကြိုဆိုခြင်းလည်း မလုပ်တတ်ပေ။ ကြောင်သည် ကျွန်ုပ်တို့နှင့်အတူ အိမ်တွင်နေထိုင်ခြင်းမှာ လူတို့၏ အယုအယကို ခံယူလိုသောကြောင့်ပင်ဖြစ်၏။ အိမ်တွင်နေသည့်အခါ များသောအားဖြင့် နွေးသောနေရာမျိုးတွင် ချောင်ကုပ်၍နေတတ်သည်။ လူတို့နှင့် များစွာရင်းနှီး ရောနှောခြင်းမရှိ။ အကယ်၍ရောနှောနေပြန်ကလည်း ခင်မင်မှုကြောင့်မဟုတ်ဘဲ များသောအားဖြင့် စားစရာတခုခုကို အလိုရှိ၍သော်၎င်း၊ လူတို့၏ကိုယ်ငွေ့ကို ခံယူလို၍သော်၎င်း၊ နေခြင်းသာဖြစ်သည်။ လူတို့ကို ကျေးဇူးတုံ့ပြန်ခြင်း မရှိလှပေ။ ကြောင်သည် အိမ်တွင်နှောင့်ယှက်ဖျက်ဆီးနေသောကြွက်များကို ဖမ်းဆီးတတ်သည်။ သို့သော် သူ့ဆန္ဒအလျောက်ဖမ်းယူခြင်းမျှသာဖြစ်၏။ ထိုကြောင့်ပင် 'ခွေးသည်လူကိုခင်၍၊ ကြောင်မှာ အိမ်ကိုသာခင်သည်' ဟု ဆိုစမှတ်ပြုကြပေသည်။

ကြောင်ကား သားရဲတိရစ္ဆာန် မျိုးရင်းကြီးထဲကဖြစ်၏။ ခြင်္သေ့နှင့်ကျားတို့မှာ ကြောင်၏မျိုးရင်းဝင်များဖြစ်ကြသည်။ ထိုကြောင့်ပင် ကြောင်သည်အိန္ဒြေကြီး လှလျက် မိမိ၏ဇာတိမာန်ကိုလည်း မဖျောက်နိုင်ဘဲ၊ အခွင့်ကြုံမည့်အခါများတွင် အစွမ်းပြလေ့ရှိသည်။ ကြောင်၏ မျိုးရိုးစဉ်ဆက်မှာ အထူးသဖြင့် အမဲလိုက် ကောင်းလေသည်။ ကြောင်၏ပုံသဏ္ဌာန်ကို ကြည့်လျှင်လည်း အမဲလိုက်ရာ၌ လျင်မြန်ပေါ့ပါးအောင် သဘာဝက ဖန်တီးပေးထားပုံကို တွေ့နိုင်သည်။

ကြောင်၏ကိုယ်ခန္ဓာကိုလေ့လာလျှင် လုံးသောဦးခေါင်း၊ ရှည်လျား သေးသွယ်သောကိုယ်၊ တိုတုတ် သန်မာသော ခြေလက်၊ အဖျားသွယ်သော အမြီးတို့ကို တွေ့ရပေမည်။ ခြေဖဝါးအောက်တွင် လမ်းလျှောက်သည့်အခါ အသံမကြားရအောင် ပျော့ပျောင်းသောအသားဖု ခံထားလျက်ရှိသည်။ ကြောက်လက်သည်းများမှာ ထက်မြက်မာကျော၍ အသုံးမလိုသည့်အခါ ဝှက်ထားနိုင်သည်။

ကြောင်တကိုယ်လုံးတွင် အထူး မှတ်သားဖွယ် ကောင်းသည်မှာ မျက်စိဖြစ်၏။ မျက်စိအတွင်းရှိ သူငယ်အိမ်သည် နေ့ခင်းဖက် အလင်းရောင်အားကြီးသည့်အချိန်၌ မျှင်မျှင်

ကလေး သေးသွယ်ကျဉ်းမြောင်းသွား၏။ ညဖက်မှောင်မိုက်သည့်အချိန်တွင်မူ ကျယ်ဝန်းကြီးမားကာ ဝိုင်းစက်လာသည်။ ထိုကြောင့် ကြောင်သည် ညဖက်တွင် အရာဝတ္ထုများကို ကောင်းစွာမြင်နိုင်သည်။ သို့သော် လုံးဝမှောင်မဲနေသည့် နေရာ၌ကား မြင်နိုင်စွမ်းမရှိချေ။ ကြောင်၏နှုတ်ခမ်းမွေးများမှာ အတွေ့အထိကို စမ်းသပ်နိုင်သည့် အင်္ဂါတမျိုးပင်ဖြစ်လေသည်။

ကြောင်သည် ခွေးနည်းအတူ ခြေဖျားထောက်၍ လမ်းလျှောက်လေ့ရှိသည်။ သို့သော် ခွေးကဲ့သို့ အပြေးမသန်လှ။ အပြေးမသန်လှသော်လည်း ရန်သူလိုက်၍ပြေးရသောအချိန်မျိုးတွင် သစ်ပင်ပေါ်သို့ တက်ပြေးခြင်းဖြင့်၎င်း၊ နံရံတံတိုင်း တခုခုပေါ်သို့ ခုန်တက်ခြင်းဖြင့်၎င်း၊ လွတ်အောင်ရှောင်



**တက်စမေးနီးယားဝံပုလွေမျိုးတွင်ပါဝင်သည့်ဩစတြေလီးယားတိုက်ကြောင်တမျိုး**

တိမ်းနိုင်သည်။ အလွန်ပေါ့ပါး လျင်မြန်သောခွေးပင်လျှင် ကြောင်ကိုတော်ရုံလောက်နှင့် မိအောင်မလိုက်နိုင်ပေ။

ကြောင်သည် ခွေးလောက် သင်လွယ်တတ်လွယ်လှသော တိရစ္ဆာန်မဟုတ်သော်လည်း လိမ်မာပါးနပ်၏။ ငယ်ရွယ်စဉ်ကစ၍ စိတ်ရှည်လက်ရှည်နှင့် သင်ကြားလေ့ကျင့်ပေးလျှင် ကြီးပြင်းလာသည့်တိုင်အောင် ကောင်းစွာမှတ်သား လိုက်နာတတ်လေသည်။ ကြောင်တွင် အထူးသဖြင့် အမြင်၊ အတွေ့၊ အကြားအာရုံများ အလွန်ထက်သန်၍ ဝေးဝေးက ကြွက်၏ခြေသံကို ကောင်းစွာကြားနိုင်၏။

ကြောင်မျိုးရင်းထဲတွင် ကျား၊ ကျားသစ်၊ ခြင်္သေ့၊ တောကြောင်စသည်တို့ ပါဝင်ကြသည်။ ယင်းတို့အနက် အချို့၌အမြီးတိုသည်။ အချို့မှာ အမြီးလုံးဝ မပါသည်ကို တွေ့ရသည်။ သို့ရာတွင် ကြောင်အနွယ်ဝင် တိရစ္ဆာန်အားလုံးတို့၏ အမူအကျင့်တို့မှာ အတူတူလိုပင် ဖြစ်ကြသည်။ ကျားနှင့်ခြင်္သေ့တို့မှလွဲလျှင် ကြောင်မျိုးရင်းဝင် အားလုံးသည် သစ်ပင်အတက်ကောင်းသည်သာများသည်။ ကြောင်မျိုးရင်းဝင်အားလုံးသည် ည အချိန်၌ အစာရှာရန် ပိုမိုနှစ်သက်ကြ၍၊ သားကောင်ကို ပုန်းကွယ်ကာ ရုတ်တရက် ခုန်အုပ်ပြီး ဖမ်းလေ့ရှိသည်။ အစာရှာထွက်ရာ၌ အဖော်မပါဘဲ တကောင်တည်းထွက်တတ်သည်။

အိမ်ကြောင်များနှင့် အမျိုးတော်စပ်သော တောကြောင်ရိုင်းများကို ဩစတြေးလီးယားတိုက်မှ လွဲလျှင် ကမ္ဘာပေါ်ရှိ တိုက်အသီးသီး၌ပင် အနှံ့အပြားတွေ့ရသည်။ ကြောင်အမျိုးဝင် တိရစ္ဆာန်တို့သည် သားတခါမွေးလျှင် အမျိုးအစားကိုလိုက်၍ ၂ ကောင်မှ ၇ ကောင်အထိ မွေးတတ်သည်။ ခြင်္သေ့များကား တကြိမ်မွေးလျှင် ၂ ကောင် ၃ ကောင်ထက် ပို၍မမွေးတတ်ကြပေ။ အကောင်ကလေးများသည် အချို့အမျိုးတို့တွင် မျက်စိပွင့်လျက်သား မွေးကြ၍၊ အချို့အမျိုးမှာမူကား ၉ ရက်ခန့်ကြာမှ မျက်စိပွင့်လာကြသည်။

ကျွန်ုပ်တို့နှင့် ယဉ်ပါးနေသော အိမ်ကြောင်များ၏ ဇာစ်မြစ်ကို စိစစ်ရာတွင် သိပ္ပံကဝိအများပင် အချင်းချင်း တယောက်နှင့်တယောက်သဘောအယူအဆ မတူညီကြပေ။ ထိုကြောင်များ၏ဇာစ်မြစ်နှင့် စပ်လျဉ်း၍ ရှေးအကျဆုံးသော အထောက်အထားကို အီဂျစ်နိုင်ငံတွင် တွေ့ရ၏။ ယင်းအထောက်အထားအရ အီဂျစ်နိုင်ငံ၌ကြောင်များသည် ရှေးနှစ်ပေါင်း ၃၀၀၀ ခန့်ကပင် အိမ်မွေးတိရစ္ဆာန်များ ဖြစ်ခဲ့ကြသည် ဟုဆိုသည်။ အဆိုပါကြောင်အမျိုးအနွယ်ကိုအာဖရိကတိုက်တွင် ယခုတိုင် တွေ့ရှိနိုင်သေးသည်။

ရှေးခေတ်အီဂျစ်လူမျိုးတို့သည် ကြောင်ကိုအစွဲအလမ်းအလျောက် ထူးဆန်းစွာ ကြောက်ရွံ့လေးစားကြသည်။ ကြောင်ကို အိမ်သားတယောက်ပမာ ပြုစုယုယကြ၏။ ရှေးခေတ် အီဂျစ်အဆောက်အအုံပျက်များအောက်တွင် ဆေးစိမ်ထားသော ကြောင်အလောင်းများကို မကြာခဏပင် တွေ့ရလေသည်။ ရှေးခေတ်ခရစ်ယန်တို့သည်လည်း စုန်းနှင့် ကြောင် အဆက်အသွယ် ရှိသည်ဟူ၍ အယူရှိကာ စုန်းကို ကြောင်နက် ရုပ်ပုံဖြင့် ဖော်ပြလေ့ရှိကြသည်။ ယဉ်ကျေးသောတိုင်းပြည်ကြီးများမှာပင် ကြောင်နှင့် စပ်လျဉ်းသည့် ထူးဆန်းသောအစွဲအလမ်းများ ယနေ့အထိရှိကြသေးသည်။ မြန်မာနိုင်ငံ၌မူ ကြောင်တကောင်လုံးနက်လျှင် ကာယသိဒ္ဓိအတွက် ကောင်းသည်ဟုအဆိုရှိသည်။

အိမ်ကြောင်အမျိုးမျိုးတွင် ယိုးဒယားကြောင်မှာ အရှားပါးဆုံးနှင့် အဖိုးအတန်ဆုံး ဖြစ်သည်။ ယင်း၏မျက်နှာ ခြေလက်နှင့်အမြီးတို့မှာ အညိုရောင်ဖြစ်၍၊ ကိုယ်မှာဆွတ်ဆွတ်ဖြူလျက်၊ မျက်စိမှာ ပြာလဲ့လဲ့အရောင်သန်းလျက်ရှိသည်။ အန်ဂိုးရား သို့မဟုတ် ပါးရှင်းကြောင်မျိုးသည် အရွယ်ကြီးမားသောကြောင့်၎င်း၊ရှည်လျား၍ သိုးမွေးကဲ့သို့

သောအမွေးများ ရှိသောကြောင့်ရင်း၊ အသားရောင်ရှိသော နှုတ်ခမ်းနှင့် ခြေဖဝါးလက်ဖဝါးများ ရှိသောကြောင့်ရင်း ထင်ရှားသည်။ စပိန်နိုင်ငံတွင် လိပ်ခွံကွက်ကြောင်မျိုးကို အသိဉာဏ်ကောင်းသောကြောင့် အလွန်လူကြိုက်များသည်။ ကြောင်ထဲတွင် အိုင်းအော့မန်းကျွန်းမှ မန်ကြောင်မျိုးမှာ အမြီးလုံးဝမရှိသည့်အတွက် အကျည်းတန်ဆုံးဖြစ်၏။

ကြောင်သည် ရေကိုကြောက်၏။ သို့သော် တိရစ္ဆာန်အပေါင်းတွင် ကြောင်လောက်သန့်ရှင်းသောအမျိုးမှာ မရှိသလောက် ရှားသည်။ ကြောင်သည် မိမိ၏အမွေးအမှင်များကို လျှာဖြင့်အထပ်ထပ်လျက်၍ သန့်ရှင်းစင်ကြယ်စေသည်။ အကယ်၍ ကြောင်တကောင်တွင် အမွေးအမှင်များ သပ်ယပ်စင်ကြယ်ခြင်းမရှိလျှင် ထိုကြောင်ကို မကျန်းမမာဖြစ်နေပြီဟု သိအပ်၏။ မိခင်ဖြစ်သော ကြောင်မကြီးသည် မိမိ၏သားငယ်များကို လျှာဖြင့် မရမက လျက်ပေးခြင်းဖြင့် သန့်ရှင်းစင်ကြယ်စေတတ်သည်။ အထူးသဖြင့် ကြောင်ကလေးများကို လှပသောကြောင့်တကြောင်း၊ အမြဲမပြတ်မြူးထူးခုန်ပေါက်၍ ဆော့နေတတ်သောကြောင့်တကြောင်း၊ လူတိုင်းပင် ချစ်နှစ်သက်ကြသည်။ ယင်းတို့သည် ငယ်စဉ်မှစ၍ သားကောင်ချောင်းဖမ်းသော အကျင့်ကို အလိုအလျောက် ရရှိလာကြသည်။

ကြောင်တို့သည် မွေးရှည်၊ မွေးတို၊ အဖြူ၊ အနက်၊ မြီးရှည်၊ မြီးတိုစသည်ဖြင့် အမျိုးများပြားကြသည်။ အချို့ကြောင်များမှာ ၂ မျိုး ၃ မျိုးရောစပ်ထားသော ကြောင်မျိုးစပ်များ ဖြစ်ကြ၏။ ယင်းတို့အနက် အမွေးတိုသော ကြောင်မျိုးမှာအကြမ်းခံနိုင်ရည် အရှိဆုံးနှင့် ကြွက်လိုက်အကောင်းဆုံးဖြစ်သည်။ (ကျား။ ကျားသစ်။ ခြသေ့်—လည်းရှု။)

**ကြောင်မျက်ရွဲ။** ။ကျောက်မျက် — ရှု။

**ကြောင်မြီးတို။** ။ကြောင်မြီးတိုသည် ကြောင်မျိုးရင်းဝင်ဖြစ်သည်။ ဥရောပတိုက်၊ အာရှတိုက်နှင့် မြောက်အမေရိကတိုက်တို့၏ မြောက်ဖက်ပိုင်းတွင် နေသည်။ ထိုဒေသများတွင် ယင်းကို လင့်ဟူ၍ခေါ်သည်။ ကြောင်မြီးတိုတွင် အမြီးငုတ်တို၊ ရှည်လျားသောခြေတံလက်တံ၊ ထောင်နေသော နားရွက်များရှိ၏။ ကြောင်မျက်စိ သူငယ်အိမ်ကဲ့သို့ပင်



ကြောင်တို့၏ချစ်စဖွယ်သဘာဝကြောင့်လူများသည်အိမ်တွင်မွေးမြူထားလေ့ရှိကြသည်။



မြန်မာနိုင်ငံမှရှေးခေတ်သုံးကြေးမုံတခု

ကြောင်မြီးတို မျက်စိသူငယ် အိမ်သည် နေ့ဖက်အလင်း များချိန်တွင် မျှင်မျှင်ကလေး သေးသွယ်ကျဉ်းမြောင်း သွား၍၊ ညဥ့်ဖက်မှောင်ချိန် ရောက်မှ ကြီးမားဝိုင်းဝန်း လာသည်။

ကြောင်မြီးတိုသည် အလွန် မျက်စိရှင်လေသည်။ ယုန် ပေါသောအချိန်များတွင်ယုန် ကိုဖမ်းယူစားသောက်၏။ ယုန်မရသောအခါတွင် ကြက် ငှက်နှင့် တိရစ္ဆာန်ငယ်တို့ကို သတ်ဖြတ်စားသည်။ သစ် ပင်အတက်၊ ရှဉ့်အလိုက် အလွန်ကောင်းလှသည်။ အသိုက်တွင်းငှက်ငယ်များကို သတ်ဖြတ်ရာ၌၎င်း၊ တော ကောင်ကလေးများကို ချောင်းမြောင်း ခုတ်ဖမ်းရာ၌၎င်း၊ ကြောင်မြီးတိုသည် ကျင်လျှင်သည်။

ဆောင်းရာသီကျရောက်၍ ရေခဲများဖုံးလွှမ်းသောအခါ အစာတော်ပြတ်နေသည့် သတ္တဝါကလေးများကိုခုတ်ဖမ်း၏။ အစာအလွန်ရှားပါးသောအခါများ၌ ငှက်သေများကိုပင် စားတတ်သည်။ အအေးဒဏ်ကိုခံနိုင်ရန် ကြောင်မြီးတို့၌ ထူထဲသော သားမွေးရှိ၏။ ဆောင်းတွင်းအခါ ထိုသားမွေး သည် ပို၍ရှည်လာသည်။ ကြောင်မြီးတိုကို အချို့လူများ က သားမွေးရလို၍ ဖမ်းဆီးကြ၏။ သို့သော် ယင်းကိုဖမ်းရန်မှာ မလွယ် ကူလှပေ။ အခုန်အပေါက် အပြေး အလွှားကလည်းမြန်၊ ရေကူးက လည်းသန်သောကြောင့် ကြောင်မြီး တိုသည် တမဟုတ်ခြင်း ပျောက် ကွယ်သွားတတ်သည်။

ညအခါ ကြောင်မြီးတိုအော်လိုက် သောအသံသည် ကြောက်မက်ဖွယ် ကောင်း၏။ စူးရှစွာတချက်အော် လိုက်ပြီးနောက် တိတ်ဆိတ်သွား တော့သည်။ ထိုသို့အော်ရာတွင် အကြောင်းရှိ၏။ ကြောင်မြီးတို သည် သားကောင်ကလေးများကို လိုက်လံဖမ်းဆီးသောအခါ သား ကောင်ကလေးများသည် ရန်သူ မမြင်နိုင်အောင် ငြိမ်သက်စွာ ဝပ် နေတတ်ကြ၏။ ကြောင်မြီးတိုသည် ခုတ်ရန်ချိန် ရွယ်ထားပြီးနောက် စူးရှစွာအော်လိုက်သည်။ ထိုအခါ သားကောင်ကလေးတို့သည် ကြောက် လန့်၍ ထခုန်လိုက်သည်နှင့်တပြိုင်နက် ခုတ်ဖမ်း လိုက်သည်။

ကနေဒါနိုင်ငံ၌ရှိသော ကြောင်မြီးတို၏ သား မွေးသည်မီးခိုးရောင်အောက်ခံတွင် အညိုပြောက် များရှိ၍ အလွန်အဖိုးတန်သည်။

ဆန်ဖရန်ဝစ္စကိုမြို့ရှိတိရစ္ဆာန်ရုံတွင်းမှကြောင်မြီးတိုတကောင်၏ပုံ



**ကြည့်မြင်တိုင်**။ ။ရန်ကုန် — ရှု။

**ကြည့်မှန်**။ ။ကြည့်မှန်သည် ရှုကြည့်ရန်မှန်ကို ဆိုလိုသည်။ ယခုခေတ်တွင် ကြည့်မှန်အမျိုးမျိုး လုပ်နိုင်ကြသော်လည်း၊ သမိုင်းမစမီ ရှေးပဝေဏီ အခါကမူ ကြည့်မှန်များကိုမပြုလုပ်တတ်ကြသေး ချေ။ ထိုခေတ်လူများသည် မိမိတို့အရိပ်ကို ကြည့် မြင်လိုက ရေအိုင်များ၌သာလျှင် မြင်နိုင်ကြသည်။ တဖြည်း ဖြည်း ယဉ်ကျေးလာကြသောအခါ ကြေးပြားကြီးများ ကို ချောမွတ်ပြောင်လက်အောင် တိုက်ချွတ်အရောင် တင်၍ မိမိတို့၏အရိပ်ကို ကြည့်ကြသည်။ အီဂျစ်၊ဂရိ၊ရောမ လူမျိုးတို့သည် ထိုကြေးပြားကြီးမျိုးကို ကြေးနီနှင့်သံဖြူ ရောစပ်ပြုလုပ်၍ အချောပွတ်ကာ သုံးစွဲခဲ့ကြသည်။ ယင်း သို့ အရိပ်ထင်အောင် အချောပွတ်ထားသော ကြေးစသည့် သတ္တုပြားကို မြန်မာတို့က 'ကြေးမုံ' ဟုခေါ်ဆိုကြသည်။

မှန်ချပ်၏တဖက်တွင် ခဲရည်၊ သို့မဟုတ် သံဖြူရည် သုတ်

ထားသော ကြည့်မှန်များသည် ၁၃ ရာစုအတွင်းတွင်မှ ပေါ်ပေါက်လာခဲ့၏။ ကြည့်မှန် ပြုလုပ်ပုံနည်းသည် အဆင့်ဆင့် တိုးတက်လာရာ၊ ၁၇ ရာစုသို့ ရောက်သောအခါ ဗင်းနစ်မြို့သားတို့သည် ပြဒါးနှင့် သံဖြူ ရောစပ်ထားသည့် သတ္တုရည်ဖြင့် သုတ်ထားသော မှန်များကို တီထွင်လာကြလေသည်။ ဤသို့ ပြဒါးကို အသုံးပြုရာ၌ ပြဒါးခိုးဟပ်၍ ပြုလုပ်သူအများ သေကြေပျက်စီးရခြင်း၊ ကြည့်မှန်တချပ်ပြီးရန် ရက်ပေါင်းများစွာ ကြန့်ကြာ ခြင်းများ ရှိသော်လည်း ဤနည်းကို ၁၈၅၅ ခုနှစ်တိုင် သုံးစွဲခဲ့ကြ၏။ ထိုနှစ်သို့ ရောက်သောအခါ မှန်ချပ်များ၏ ကျောဖက်ကို ဆီးလဗားနိုက်ထရိတ်ဖြင့် သုတ်ပေးသောနည်းပေါ် ပေါက်လာ၏။ဤသို့သောနည်းကောင်း ပေါ်လာစေကာမူ အပေါစား ကြည့်မှန်များအတွက် ပြဒါးသုတ်သည့် အလုပ်မှာ သုံးမြဲသုံးနေသေး၏။ အကောင်းစား ကြည့်မှန် လုပ်ရာ၌ တလက်မ၏ ၄ ပုံ ၁ ပုံထူသော မှန်ချပ်ကို လိုသောအရွယ်အတိုင်း စိန်ဖြင့် ဖြတ်ယူသည်။ ထိုနောက် စက်ကရိယာများဖြင့် ရေနှင့်သဲကို အသုံးပြုကာ ချောမွတ်အောင်တိုက်သည်။ ထောင့်များကို သဲကျောက်ဖြင့်စား၍ ကြိတ်သက္ကလတ်ထူထူနှင့် ပွတ်တိုက်ပြီး စောင်းသတ်ပေးသည်။ ဤသို့ပြုလုပ်ပြီးနောက်၊ ငွေရောင် သုတ်သောအခန်းတွင် စောင်ထူထူခင်းထားသည့် ပူနွေးသော စားပွဲပေါ်၌ ထိုမှန်ချပ်ကို တင်ထားသည်။ ထိုနောက် ဆီးလဗားနိုက်ထရိတ်၊ အမ်မိုးနီးယား၊ တာတာရစ်အက်ဆစ်တို့ ပေါင်းထားသောအရည်ကို လောင်းချသောအခါ ငွေသားသည် အောက်ခံစားပွဲ၏ အပူရှိန်ဖြင့် မှန်တွင် စွဲကပ်သွားသည်။ နောက်ခံငွေသား ခြောက်သွားသောအခါ ငွေသားနှင့်လေ မထိမိအောင် ထိုငွေသားပေါ်တွင် ဆေးသုတ်ပေး၏။ ဤနည်းဖြင့်ကြည့်မှန်အရွယ်အမျိုးမျိုး ကို တနာရီအတွင်း ပြုလုပ်ပြီးစီးနိုင်သည်။

ယခုခေတ်တွင် သိပ္ပံပညာများထွန်းကားလာသည့်အတိုင်း သိပ္ပံပညာရပ်များတွင် အသုံးပြုရန်အတွက် မျက်နှာပြင်ညီသော ကြည့်မှန်များ အပြင် ကြည့်မှန်အခုံးများ၊ကြည့်မှန်ခွက်များကို ပြုလုပ်ယူကြသည်။ မျက်နှာပြင်ညီညာသော ကြည့်မှန်ပေါ်တွင် ကြည့်သူ၏အရိပ်သည် ပကတိအတိုင်း တည့်တည့်မတ်မတ် ကြည့်မှန်ရှေ့၌ ကြည့်သူဝေးသလောက် ကြည့်မှန်နောက် ဝေးဝေးတွင် အရိပ်ထင်သည်။ သို့ရာတွင် ဗယ်နှင့်ညာကား မှားလျက်နေသည်။ ထိုအရိပ်ကို ပုံရိပ်ယောင်ဟုခေါ်သည်။ ပုံရိပ်ယောင် ဆိုသည်မှာ ကားချပ်ပေါ်တွင် ထင်အောင် ဖမ်းယူ၍ မရနိုင်သောပုံရိပ်ကိုဆိုလိုသည်။

မျက်နှာပြင်ခုံးသော ကြည့်မှန်ပေါ်တွင် ကြည့်သူ၏အရိပ်သည် ကြည့်မှန်နောက်တွင် မတ်တတ်ပေါ်သော်လည်းပုပုကွကွဖြစ်ကာ ပကတိထက် အရိပ်တိုနေသည်ကို တွေ့ရပေမည်။ ထိုအရိပ်မှာ ပုံရိပ်ယောင်ဖြစ်သည်။ မျက်နှာပြင်ခွက်သော ကြည့်မှန်ပေါ်တွင်မူ ကြည့်သူသည် ကြည့်မှန်နှင့်ကြည့်မှန်၏ အလင်းဆုံချက်တို့ အကြားတွင်ရှိလျှင် ကြည့်သူ၏အရိပ် ကြည့်မှန်နောက်တွင် မတ်တတ်ပေါ်သော်လည်း ပကတိထက်ပို၍ အရိပ်ရှည် ထွက်နေသည်ကို တွေ့ရပေမည်။ ထိုအရိပ်မှာလည်း ပုံရိပ်ယောင်ပင် ဖြစ်သည်၊ အကယ်၍ ကြည့်သူသည်ကြည့်မှန်ခွက်၏ ဗဟိုချက်ကို လွန်၍ရပ်နေလျှင် ကြည့်သူ၏ အရိပ်သည် ကြည့်မှန်ရှေ့တွင် စောက်ထိုးပေါ်၍ ပကတိထက် အရိပ်တိုသည်ကို တွေ့ရပေမည်။ ထိုအရိပ်ကား ပုံရိပ်စစ်ဖြစ်သည်။ ပုံရိပ်စစ်ဆိုသည်မှာ ကားချပ်ပေါ်တွင် အရိပ်ထင်အောင် ဖမ်းယူ၍ရနိုင်သော ပုံရိပ်ကိုဆိုလိုသည်။ ထိုအချက်ကို သိသာရန် ကြည့်မှန်ခွက်တခုဖြင့် နေ၏အရိပ်ကို မှန်ရှေ့မှာထောင်ထားသော စက္ကူပေါ်သို့

ခေတ်မှီမှန်ခုန်ရှေ့တွင်အလှပြင်နေသောမိန်းကလေးတဦး



ကျရောက်အောင် ဖမ်းယူလျှင် စက္ကူကို မီးစွဲလောင်သည်ကို တွေ့ရပေမည်။

နက္ခတ်တာရာများ ကြည့်ရန်အတွက် စီမံပြုလုပ်ထားသော အဝေးကြည့်မှန်ပြောင်းကြီးများတွင် ကြည့်မှန်ခွက်များကို အသုံးပြုကြသည်။ အမေရိကန်နိုင်ငံ မောင့်ပလိုမာ၌ ရှိသော နက္ခတ်တာရာကြည့် မှန်ပြောင်းတွင် အသုံးပြုသော ကြည့်မှန်ခွက်ကြီးမှာ အချင်းလက်မ ၂၀၀ ရှိ၍ ကမ္ဘာပေါ်တွင် အကြီးဆုံးဖြစ်သည်။ ထိုကြည့်မှန်ခွက်ကြီး၏မှန်သားမှာ ပဌမတန်းစားဖြစ်၍ ချောမွတ်ပြောင်လက်အောင် ပြုလုပ်ရာ၌ လပေါင်းများစွာချောမွတ်အောင်လုပ်ရသည်။

# မြေပြင်တလက်မမျှ ရန်သူ့လက်မပါအောင် ကာကွယ်သူများ

**တိုင်းပြည်ကာကွယ်ရေးအတွက် အသက်ကိုပမာမထားနိုင်ဘဲ တာဝန်ကိုမညည်းမညူထမ်းဆောင်ရသူများအဖို့ စံနစ်တကျဖွဲ့စည်းထားအပ်သောစစ်တပ်သာလျှင် ရန်သူအားတွန်းလှန်ဖြိုဖျက်နိုင်ရာသည်။ စစ်တပ်သမိုင်းများကို စိစစ်ကြည့်လျှင် ဤအတိုင်းပင် မှန်ကန်သည်ကို တွေ့ရပေမည်။ ရှေးအီဂျစ်ခေတ်မှသည်ယခုမျက်မှောက်ခေတ်အထိ စစ်တပ်မည်သို့ဖွဲ့သည်ကို လေ့လာကြည့်ကြစို့။**

**ကြည်းတပ်**။ ။ကြည်းတပ်ဟူသည်မှာ အရပ်သားအခေါ်အဝေါ်အားဖြင့် ကုန်းတပ်ပင်ဖြစ်သည်။ ယခုခေတ်သုံး စစ်တပ်ဟူသောဝေါဟာရတွင် သာမန်အားဖြင့် လက်နက်ကိုင်တပ်များ အားလုံးပါဝင်သည်ဟု ယူဆကြသော်လည်း၊ အကယ်စင်စစ်မှာ ကြည်းတပ်ကို ဆိုလိုသည်။ ရေတပ်နှင့်လေတပ်များမပါဝင်ချေ။

## မြန်မာတို့၏ကြည်းတပ်ဖွဲ့စည်းပုံ

မြန်မာတို့၏ကြည်းတပ်ဖွဲ့စည်းပုံမှာ စစ်သား ၅ ဦးလျှင် ၁ အိုးစားဟူ၍ အခြေခံကာဖွဲ့စည်းပြီးလျှင် ထို ၅ ဦးထဲမှ သွက်လက်ချက်ခြာသူတဦးက လူကြီးအဖြစ် ဆောင်ရွက်ရသည်။ ၂ အိုးစားခေါ် လူ ၁၀ ယောက်လျှင် အကြပ် ၁ ယောက်ခန့်သည်။ တပ်ကြပ် ၅ ဦးတို့ စုပေါင်းသောအဖွဲ့ကို ၁ သွေးသောက်ဟုခေါ်၍ ယင်းကိုသွေးသောက်ကြီး ၁ ဦးက အုပ်ချုပ်ရသည်။ ထို့ကြောင့် ၁ သွေးသောက်တွင် လူပေါင်း ၅၆ ယောက်ပါဝင်သည်။ သွေးသောက်ကြီးက မြင်းစီး၍ ကြပ်မလိုက်ပါရသည်။ ထိုမှတဖန် သွေးသောက် ၂ ဖွဲ့လျှင် ၁ တပ်မှူး၊ ၅ တပ်မှူး ၁ ဗိုလ်ဖွဲ့စည်းပြန်သည်။ ဗိုလ် ၁ ဗိုလ်အုပ်ချုပ်ရသောတပ်ကို သာမန်အားဖြင့် ၅၀၀ တပ်ဟုခေါ်သော်လည်း တပ်သားစုစုပေါင်း ၅၆၇ ယောက်ပါဝင်သည်။ ယင်းတို့တွင် တပ်ရေး ၁ ယောက်၊ နားခံ ၁ ယောက်နှင့် ဗိုလ် ၁ ယောက်တို့ပါဝင်သည်။

၅၀၀ တပ်ဗိုလ်သည် တတပ်တည်း ချီတက်ရလျှင် တပ်ပေါင်းဗိုလ်အခွင့်အာဏာများကို ရရှိလေသည်။ ထိုမှတဆင့် တပ်ဗိုလ်၊ တပ်ပေါင်းဗိုလ်၊ ဗိုလ်ချုပ်ဗိုလ်မှူး၊ စစ်ဘုရင်ဟု အဆင့်ဆင့်ခန့်ထားလေသည်။ စစ်ချီတက်ရာတွင် ဘုရင်ကိုယ်တိုင်ပါလျှင် ဘုရင်က တနိုင်ငံလုံးရှိတပ်ပေါင်းစုကို ဦးစီးသောစစ်ဘုရင်အဖြစ်ဖြင့် စီမံအုပ်ချုပ်ရသည်။

ဤသို့တပ်ဖွဲ့ပုံနှင့်စပ်လျဉ်း၍ လှိုင်ထိပ်ခေါင်တင်မင်းသမီးသည် ဝိဇယကာရီ နန်းတွင်းဇာတ်တွင် **'တပ်မတပ်ဦး၊ ရာထူးဖြည့်လျော်က်၊ ငါးယောက်တအိုး၊ တပိုးတသွယ်၊ တဆယ်တကြပ်၊** လူမှတ်စလေ့၊ ငါးဆယ်ပြည့်လျှင်၊ မရွေထပ်လှော်က်၊ တသွေးသောက်နှင့်၊ ယုံလောက်သည်မှာ၊ ငါးရာတဗိုလ်၊ မပြိုမကွဲ၊ နှစ်စစ်ကဲနှင့်၊ မလွဲအုပ်ချုပ်၊' စသည်ဖြင့်ဖွဲ့ဆိုရေးသားခဲ့သည်။

ရှေးမြန်မာမင်းများလက်ထက်က စစ်တပ်ထဲသို့ အသက် ၂၀ မပြည့်သူနှင့် အသက် ၅၀ ကျော်သူများကို ဝင်ရောက်ခွင့်မပြုချေ။ ထိုပြင်လည်း မျက်စိမှုန်သူ၊ ပန်းနာရောဂါရှိသူ၊ ဒူလာရောဂါအားကြီးသူ၊ တက်သောရောဂါ ရှိသူများနှင့် ကိုယ်လက်အင်္ဂါမသန်စွမ်းသူများ စစ်မှုထမ်းရန်ခွင့်မပြုချေ။

## မြန်မာ့သေနင်္ဗျူဟာ

စစ်ဆင်စစ်တက်ပုံများမှာလည်း လောကီသကဂုကျမ်းလာ စစ်သေနင်္ဗျူဟာနည်းများအရ ချီတက်လေ့ရှိသည်။ ပဒုမဗျူဟာခေါ် ပဒုမာကြာပန်းကဲ့သို့စစ်ဆင်နည်း၊ စက္ကဗျူဟာခေါ် စက်ဝန်းကဲ့သို့ အဝန်းအဝိုင်းစစ်ဆင်နည်း၊ သကဋဗျူဟာခေါ် လှည်းဦးကင်းသဏ္ဌာန်စစ်ဆင်နည်းဟူ၍ ၃ မျိုးရှိသည်။ ထို့ပြင်တဖန် ဒဏ္ဍဗျူဟာခေါ် ယင်ပေါင်တန်းချီတက်ခြင်း၊ ဘောဂဗျူဟာခေါ် ကိုယ်ချင်းထိကပ်၍ ချီတက်ခြင်း၊ မဏ္ဍလဗျူဟာခေါ် ဝန်းဝိုင်းချီတက်ခြင်း၊ အသံဟတဗျူဟာခေါ် လူချင်းခွဲခွာ၍ချီတက်ခြင်းသို့မဟုတ် ခုံလောက်ကဲ့သို့ချီတက်ခြင်းဟူ၍ စစ်ဆင်နည်း ၄ မျိုးရှိသေးသည်။ ထို့မှတပါး ဂဠုန်တောင်ဆင်နည်း၊ ဉဿဘချီနည်း အစရှိသော စစ်ဆင်နည်း ၆ မျိုးတရပ်၊ မိုးတိမ်ကဲ့သို့ချီနည်း၊ ဖါးခုန်သကဲ့သို့ချီနည်း၊ မြွေသွားသကဲ့သို့ချီနည်းစသော စစ်ဆင်နည်း ၁၀ မျိုးတရပ် ရှိပြန်သည်။

မြန်မာတို့စစ်ဆင်မှုတွင် စစ်အင်္ဂါ ၈ ပါးဟု သတ်မှတ်ထားသည်။ ယင်းတို့မှာ စစ်ရင်ဘတ်၊ စစ်ဝဲဖက်ပခုံး၊ ယာဖက်ပခုံး၊ စစ်ဝမ်းပိုက်၊ စစ်ကျောက်ကုန်း၊ ဝဲဖက်စစ်နံ၊ ယာဖက်စစ်နံနှင့် စစ်လျှင်များဖြစ်လေသည်။ စစ်လျှင်မှာ စစ်ရင်ဘတ်၊ စစ်ပခုံးစသော တပ် ၇ တပ်ရှေ့မှ အလျှင်သွားရသောတပ်ကိုခေါ်လေသည်။ ဤတပ်သည် တဖက်ရန်သူ၏အခြေ

အနေကို စုံစမ်းရသော ရှေးတော်ပြေးတပ်ပင်ဖြစ်လေသည်။ မြန်မာမင်းများ လက်ထက်၌ စစ်တက် စစ်ချီ စစ်ရေးပြရာတို့တွင် ယခုခေတ်ကဲ့သို့ ဒရိန်းပြသောသဘော မပါဝင်ချေ။ သို့သော် အလောင်းမင်းတရားကြီး လက်ထက်တော်ကကဲ့သို့ အနောက်နိုင်ငံမှ စစ်တပ်များနှင့် မြန်မာတို့တိုက်ခိုက်ကြရသည့် အခြေသို့ရောက်သောအခါ၊ အနောက်နိုင်ငံ နည်းနိသျတို့သည် မြန်မာစစ်တပ်ဖွဲ့စည်းမှု၌ အရိပ်အငွေ့ပါလာကြသည်။ မင်းတုန်းမင်း၏ လက်ထက်တော်၌ကား၊ စစ်တပ်ဖွဲ့စည်းမှုသည် အတန်ငယ်မျှ အနောက်နိုင်ငံ၏ နည်းနိသျကိုမှီလာသည်။ သီပေါမင်းခေတ်က စစ်ရေးပြသည်ကို တွေ့မြင်လိုက်ကြသော အနောက်နိုင်ငံသားများ၏ မှတ်တမ်းအရ ထိုခေတ်က ဆင်တူအဝတ်အစား ဝတ်ဆင်ခြင်းနှင့် ဒရိန်းပြခြင်းတို့သည် စစ်တပ်ဖွဲ့စည်းမှု၏ စည်းကမ်းတွင်ပါရှိနေသည်ကို တွေ့ရသည်။ ဥဒါဟရုဏ်အားဖြင့်၊ ထိုခေတ်က ဗိုလ်ကြီးတို့၏ ကိုယ်ရံတော်များသည် ခေါင်းပေါင်း အကျီပုဆိုးဆင်တူဝတ်ဆင်ကြရသည်။

သီပေါမင်းခေတ်၌ စစ်ရေးပြသည့်အခါ၊ ဗိုလ်ကြီးက ရှေ့မှဆင်စီး၍ ၎င်း၊ သေနတ်သောက်တို့က ဗိုလ်ကြီး၏နောက်၌ မြင်းစီး၍ ၎င်း၊ ထိုနောက် ထီးတော်မိုး၊ ကွမ်းရည်ကိုင်၊ ရေတံခွန်ကိုင်၊ ကြေးနောင်ဝိုင်း၊ အမှုထမ်းတို့ လိုက်ပါကြရသည်ကို၎င်း၊ မှတ်တမ်းတင်ထားသည်ကို တွေ့ရသည်။ ထိုခေတ်က ရေတပ်သား (လှေသင်းတပ်များ) သည် စစ်တပ်စည်းကမ်း ရှိသည် ဟုလည်း အမှတ်အသားရှိလေသည်။ အထက်အဆိုပါအမှုထမ်းများပြီးလျှင်၊ အမြောက် သေနတ်များကို ကိုင်ဆောင်ရသော လက်နက်ကိုင် တပ်တို့က လိုက်ပါရသည်။ထိုနောက်မှ ရှေးခေတ်က ကျော်ကြားခဲ့သော ကသည်းမြင်းတပ်နှင့်အမြောက်တပ်တို့က ရှေ့နောက်ထက်ကြပ်လိုက်ပါရသည်။ဤကား မြန်မာမင်းတို့၏ နောက်ဆုံးခေတ်၌ စစ်တပ်များစီမံခန့်ခွဲပုံကို အကြမ်းအားဖြင့် ဖော်ပြခြင်းတည်း။

### ယခုခေတ်စစ်တပ်ဖွဲ့စည်းပုံ

ယခုခေတ်၌ မြန်မာ့တပ်မတော်ကို ဖွဲ့စည်းပုံမှာ ခေတ်မှီသောအနောက်နိုင်ငံတို့၏ ဖွဲ့စည်းပုံနည်းနာနိသျအတိုင်းပင်ဖြစ်၏။ ထို့ကြောင့် အနောက်နိုင်ငံတို့၏ စစ်တပ်ဖွဲ့စည်းပုံကို အကျဉ်းမျှဖော်ပြလိုသည်။

ကြည်းတပ်၏ အစိတ်အပိုင်းဖြစ်သော ခြေလျင်တပ်ဖွဲ့စည်းရာတွင် တပ်ရင်း (ဗတယ်လျံ) ကို မူတည်၍ဖွဲ့စည်းသည်။ တပ်ရင်း ၁ ခုတွင် လူ ၁၀၀၀ ခန့်ပါသည်။ တပ်ရင်းတခုကို တပ်ခွဲ (ကုမ္ပဏီ) ၄ ခုခွဲထား၏။ တပ်ခွဲ ၁ ခုတွင် တပ်စု ၃ ခုမှ ၄ ခုအထိပါဝင်၍ တပ်စု ၁ ခုကို ဗိုလ် သို့မဟုတ် ဒုတိယဗိုလ် ၁ ယောက်ကအုပ်ရ၏။ တပ်စု ၁ ခုတွင် သာမန်အားဖြင့် လူ ၅၀ မှ ၇၅ ယောက်အထိပါရှိလေသည်။ ဥရောပနိုင်ငံအချို့တွင် အသုံးပြုလျက်ရှိသောစံနစ်အရဆိုသော် တပ်ရင်း ၃ ခု (ရုရှစံနစ်အရ၄ခု)ပါဝင်သောတပ်ကို တပ်ရင်းကြီး (ရဲဂျီးမင့်) ဟုခေါ်၍ တပ်ရင်းကြီး ၂ တပ်ပေါင်းကို တပ်မဟာ (ဗရစ်ဂိတ်) ဟုခေါ်ပြီးလျှင် တပ်မဟာ ၂ ခုပါဝင်သောတပ်ကို တပ်မ (ဒီဗီးဇံ) ဟုခေါ်လေသည်။

သံချပ်ကားတပ်တွင် တပ်ရင်းကြီးကို မူတည်၍ဖွဲ့စည်းသည်။ တပ်ရင်းကြီး ၁ ခုတွင် တပ်ခွဲ (စက္ကာဒရွန်) များစွာပါဝင်လေသည်။ တပ်ခွဲ ၁ ခုတွင် သံချပ်ကားတပ်သား ၁၅၀ ခန့်ပါရှိ၏။ ထို ၁၅၀ ကိုတဖန် တပ်စု ၄ ခုခွဲပြန်၏။ တပ်စု ၁ ခုကို ခြေလျင်တပ်မှာကဲ့သို့



ကင်းစောင့်နေသောတပ်မတော်သားတဦး



မြင်းများဖြင့်စစ်လက်နက်ပစ္စည်းများကိုသယ်ယူနေကြသည့်မြန်မာ့တပ်မတော်ကြည်းတပ်စုတစု

မြန်မာ့တပ်မတော်အမြောက်တပ်သားများစစ်ရေးလေ့ကျင့်နေကြခြင်း



ဒုတိယဗိုလ် သို့မဟုတ် အရာခံဗိုလ်တဦးဦးက အုပ်ချုပ်ရလေသည်။ သံချပ်ကားတပ်တွင် တပ်ခွဲ ၃ ခုမှ ၆ ခုအထိ အမျိုးမျိုးရှိ၍ တပ်သားဦးရေမှာလည်း ၅၀၀ မှ ၁၀၀၀ အထိရှိတတ်လေသည်။ သံချပ်ကားတပ် တပ်ရင်းကြီး ၂ တပ်ကို တပ်မဟာ ဟုခေါ်သည်။ ဗြိတိသျှစစ်တပ်များတွင် ကားတပ်ရင်းကြီး ၃ တပ်မှ တပ်မဟာ ၁ တပ်ဖြစ်သည်။ သံချပ်ကားတပ် တပ်မဟာ ၂တပ် သို့မဟုတ် ၃ တပ်ကို တပ်မ ဟုခေါ်လေသည်။

အမြောက်တပ်ခွဲ (ဗက်ထရီ) ၁ တပ်လျှင် သာမန်အားဖြင့် အမြောက် ၈ လက် (ပြင်သစ်စံနစ်အရ ၄ လက်၊ ရုရှစံနစ်အရ ၈ လက်) ပါဝင်၏။ အမြောက်တပ်စိတ် ၁ ခုလျှင် အမြောက် ၂ လက်ပါဝင်၍ ယင်းကို ဒုဗိုလ် သို့မဟုတ် ဗိုလ်တဦးဦးက အုပ်ချုပ်ရသည်။ အမြောက်တပ်ခွဲ ၃ တပ်ကို တပ်စုဟုခေါ်၍ တပ်စု ၂ စုမှ ၃ စုအထိကို တပ်ရင်းကြီးဟုခေါ်လေသည်။

စစ်တပ်များတွင် ရာထူးအဆင့်အတန်းများမှာ အကြီးဆုံးသော စစ်သေနာပတိမှ အောက်ဆုံးဖြစ်သော ရဲဘော်တပ်သားအထိရှိသည်။ ပြန်တမ်းဝင်ရာထူးများမှာ စစ်သူကြီး၊ ဗိုလ်ချုပ်မှူး၊ ဗိုလ်ချုပ်ကြီး၊ ဗိုလ်ချုပ်၊ ဗိုလ်မှူးချုပ်၊ ဗိုလ်မှူးကြီး၊ ဒုတိယဗိုလ်မှူးကြီး၊ ဗိုလ်မှူး၊ ဗိုလ်ကြီး၊ ဗိုလ်နှင့်ဒုတိယဗိုလ်တို့ဖြစ်ကြသည်။ ထိုအောက်တွင် အရာခံဗိုလ် (၁) အရာခံဗိုလ် (၂) တပ်ကြပ်ကြီး၊ တပ်ကြပ်၊ ဒုတိယတပ်ကြပ်နှင့် တပ်သားရိုးရိုးများရှိလေသည်။

### ရှေးခေတ်စစ်တပ်များ

ဤခေတ်စစ်တပ်ဖွဲ့စည်းပုံမှာ ရှေးခေတ်မှစ၍ တစတစ ပြုပြင်ပြောင်းလဲလာခဲ့သော စံနစ်များ အရဖြစ်လေသည်။ ထို့ကြောင့် ရှေးခေတ်ကစစ်တပ်များ၏အခြေကို ပြန်ပြောင်းကြည့်ရှုသုံးသပ်ရန် လိုပေလိမ့်မည်။

လူတို့၏ ယဉ်ကျေးမှုသမိုင်းတွင် စစ်တိုက်ခြင်းအားဖြင့် အသက်မွေးသောလူတန်းစားဟူ၍ စတင်ပေါ်ပေါက်ခဲ့သည်မှာ အီဂျစ်ခေတ်က ဖြစ်သည်ကိုတွေ့ရ၏။ ထိုခေတ်အခါက အီဂျစ်နိုင်ငံတွင် စစ်သည်တော်များအား ကြည့်ရှုထောက်ပံ့ရေးအတွက် ဥပဒေများပြုလုပ်ထားလေသည်။ အီဂျစ်စစ်တပ်တို့တွင် ခြေလျင်တပ်၊ စစ်ရထားတပ်၊ လေးသမားတပ်ဟူ၍ တပ် ၃ မျိုးပါရှိ၏။

ထို့နောက် အဆီးရီးယန်းနှင့် ဗက်ဗီလုံးနီးယန်းလူမျိုးတို့၏ စစ်တပ်တို့မှာလည်း အီဂျစ်စစ်တပ်ကဲ့သို့ပင် ဖွဲ့စည်းထားကြ၏။ သို့ရာတွင် ထူးခြားချက်တရပ်ကား စစ်ရထားတပ်များအပြင် မြင်းတပ်များ ဖွဲ့စည်းပါရှိခြင်းပင်ဖြစ်လေသည်။



ကြည်းတပ်တွင်အရေးပါလှသောသံချပ်ကား











ကြည်းတပ်၏ အစိတ်အပိုင်းများ

အပေါ်ပုံ (ဝဲ) လက်နက်ထောက်ပံ့ရေး

အပေါ်ပုံ (ယာ) အမြောက်တပ်၏ဆောင်ရွက်ရေး

အလယ်ပုံ (ဝဲ) အချက်ပြဆက်သွယ်ရေး

အလယ်ပုံ (ယာ) သံချပ်ကားတပ်၏ဆောင်ရွက်ရေး

အောက်ဆုံးပုံ စက်မှုလက်မှုတပ်၏လမ်းပန်းဆက်သွယ်ရေး

မျက်မှောက်ခေတ် စစ်တပ်ဖွဲ့စည်းပုံနှင့် သဘောချင်းတူသည့်စစ်တပ်များကို ၂ မျိုးခွဲခြားထား၏။ တမျိုးမှာ မြို့စောင့်တပ်ဖြစ်၍ အခြားတမျိုးမှာ နယ်လှည့်တပ်ဖြစ်လေသည်။ ထိုတပ်တို့တွင် မြင်းတပ်မှာ အရေးအပါဆုံးဖြစ်၏။ ဂရိခေတ်တွင် စစ်တပ်တို့သည် ခြေလျင်တပ်သားများကို အထူးအားကိုးကြသည်။ စစ်တပ်များတွင် အသုံးပြုသော လက်နက်များမှာ လှံတို၊ လှံရှည်၊ ဓါးရှည်၊ လေးမြားနှင့် ဒိုင်းလွှားတို့ဖြစ်ကြ၏။ ဂရိခေတ်က ထင်ရှားကျော်စောကြသောစစ်သားများမှာ စပါးတန်းစစ်သားများဖြစ်သည်။

ရောမခေတ်အစလောက်၌ ရောမစစ်တပ်တွင် စစ်မှုထမ်းသူများကို မျိုးကြီးဆွေကြီးများမှသာ ရွေးချယ်ကြလေသည်။ ထိုစစ်သားများမှာလည်း ယခုခေတ် စစ်သားများကဲ့သို့ လခရိက္ခာရကြသည်မဟုတ်ဘဲ၊ စစ်လက်နက်ကရိယာများကို မိမိတို့ငွေနှင့် စိုက်ထုတ်ဝယ်ယူကြရ၏။ ပစ္စည်းဥစ္စာကြွယ်ဝသူများမှာ မြင်းတပ်ဖွဲ့ရန် တာဝန်ယူကြရ၍ ကျန်လူများမှာ ခြေလျင်တပ်တွင် ဝင်ရောက်အမှုထမ်းကြရသည်။ ဆင်းရဲသားများမှာမူ အရံတပ်သားအဖြစ်ဖြင့် အမှုထမ်းလိုကထမ်း၍၊ မထမ်းဘဲနေလိုက နေနိုင်ကြသည်။

ရောမစစ်တပ်တွင် ခြေလျင်တပ်များမှာ အဓိကဖြစ်သော်လည်း ခြေလျင်တပ်တိုင်းတွင် မြင်းတပ်များ တွဲဖက်ပါရှိလေသည်။ စစ်သည်ရဲမက်တို့သည် သံခမောက်များနှင့်ဒိုင်းလွှားများကို ကာကွယ်ရန်အတွက် အသုံးပြု၍ ဓါးရှည် လှံရှည်နှင့် လှံတိုများကို တိုက်ခိုက်ရန်အတွက်အသုံးပြုကြသည်၊ မြို့ကိုဝန်းရံထွင်း ဖေါက်လိုသောအခါ ဘီးတပ်ထားသော စင်မြင့်ကြီးများကို မြို့ရိုးနှင့်တညီတည်းရှိအောင် ဆောက်လုပ်၍မြို့ရိုးကိုချဉ်းကပ်ပြီးလျှင် စစ်သည်များသည်မြို့ရိုးပေါ်သို့ခုန်တက်တိုက်ခိုက်ကာ မြို့တံခါးများကို ဖွင့်ကြ လေသည်။ စစ်ဆင်စစ်တက်ရာတွင် မြားဦးပုံချီတက်တိုက်ခိုက်လေ့ရှိ၏။

အလယ်ခေတ်က တနိုင်ငံနှင့်တနိုင်ငံ စစ်တိုက်ကြရာဝယ် မိမိတို့ပြည်တွင်းရှိ စစ်သည်အင်အားနှင့် မလုံလောက်လျှင် ကြေးစားစစ်သားများကို ငှားရမ်းအသုံး ပြုလေ့ရှိသည်။ နိုင်ငံတခုမှ စွန့်စားလိုသောလူငယ်များသည် အခြားနိုင်ငံများသို့ သွားရောက်ပြီးလျှင် ကြေးစားစစ်သားများအဖြစ် အမှုထမ်းကြ၏။ သို့ရာတွင် စစ်တိုက်ရာ၌ကား မိမိနိုင်ငံအတွက်တိုက်သကဲ့သို့ပင် စွန့်စွန့်စားစားတိုက်ခိုက်ကြသည်။

အလယ်ခေတ်တွင် စစ်တပ်တို့၏ အင်အား တောင့်တင်းသည် သို့မဟုတ် အားနည်းသည် ကို သံချပ်အင်္ကျီဝတ် မြင်းစီး သူရဲကောင်းတို့၏ အရေအတွက်ဖြင့် ချိန်ထိုးခဲ့ကြ၏။ သို့ရာတွင် ၁၄ ရာစုနှစ်၌ ယမ်းမှုန့်ပေါ်လာပြီးနောက် ထိုယမ်းမှုန့်ကို စစ်လက်နက်များတွင် ထည့်သွင်းအသုံးပြုလာကြသောအခါ စစ်အင်အား တောင့်တင်းမှုနှင့် စစ်ပြင်ဆင်မှုနည်းစနစ်တို့သည်လုံး ဝပြောင်းလဲသွား သည်။

**မျက်မှောက်ခေတ်စစ်တပ်များ**

ယခုခေတ်၌ ဖွဲ့စည်းကြသောစစ်တပ်များတွင် ထင်ရှားသောဌာနကြီး ၃ ဌာနရှိကြစမြဲဖြစ်၏။ ယင်းတို့မှာ (၁) ရန်သူနှင့် ရင်ဆိုင်တိုက်ရသောတပ် (၂) အရံတပ်နှင့် စီမံခန့်ခွဲရေးတပ် (၃) စစ်ဦးစီးဌာနတို့ဖြစ်ကြသည်။ ပါဝင်သောတပ်များမှာ ခြေလျင်တပ်၊ မြင်းတပ် ၊သို့မဟုတ်သံချပ်ကားတပ်နှင့် အမြောက်တပ်တို့ဖြစ်ကြ၏။ ထို့ပြင်လမ်းပန်းအဆောက်အဦးနှင့် တန်တားစသည်တို့ကို ပြင်ဆင်ရသောအင်ဂျင်နီယာတပ်နှင့် စစ်တပ်တတပ်မှ တတပ်သို့ ဝိုင်ယာလက် (ကြိုးမဲ့ကြေးနန်း) စသည်တို့ဖြင့် ဆက်သွယ်ရသောအချက်ပြဆက်သွယ်ရေး တပ်များလည်း ပါဝင်လေသည်။ ထိုတပ်များသည် အမြဲလိုပင် ရှေ့တန်းစစ်မျက်နှာသို့ အခြားတပ်များနှင့်အတူ ချီတက်ရသော်လည်း တခါတရံမှသာ ရင်ဆိုင်တိုက်ပွဲများကို ဆင်နွဲ ရလေသည်။ တမိနစ်လျှင် အချက်ပေါင်းများစွာထွက်သော စက်သေနတ်များ ပေါ်ပေါက်လာသောအခါ ထိုစက်သေနတ်များကို သံချပ်ကားတပ်နှင့် ခြေလျင်တပ်များတွင် အသုံးပြုလာကြသည်။ စစ်တပ်စီမံခန့်ခွဲရေး ဌာနသည် စစ်တပ်တခုလုံး၏ အဝတ်အထည် အစားအသောက်နှင့် ဆေးဝါးအကူအညီ စသည်တို့ကိုစီမံရလေသည်။

**စစ်တပ်၏အခြေခံအင်အား**

ကမ္ဘာပေါ်ရှိ စစ်တပ်တိုင်းသည် အောက်ပါအခြေခံ အင်အားကြီး ၃ ခုပေါ်တွင် အမှီပြုလျက်ရှိပေသည်။ ယင်းတို့မှာ အမျိုးသားစိတ်ဓာတ်အင်အား၊ လက်နက်အင်အားနှင့် လူအင်အားတို့ဖြစ်ကြသည်။

အမျိုးသားစိတ်ဓာတ်အင်အားဆိုသည်မှာ စစ်မှုတာဝန်တို့ကို မညည်းမညူခံယူလိုသည့်ပြင် စစ်ပွဲတို့တွင် ရဲဝံ့စွာတိုက်ခိုက်လိုစိတ် ပေါ်ပေါက်အောင် စစ်သည်တော်များ အား မြှောက်စားချီးမြှင့်တတ်သော ပြည်သူလူထု၏ စိတ်ဓာတ်အင်အားဖြစ်သည်။

လက်နက်အင်အားဆိုသည်မှာ စစ်တိုက်ခိုက်ရေးအတွက် လိုအပ်သည့်ခေတ်မှီစစ်လက်နက် အမြောက်အမြားကို ထုတ်လုပ်နိုင်သော အမျိုးသားစက်မှုလုပ်ငန်း အစီအစဉ်များဖြစ်သည်။

လူအင်အားမှာ ခေတ်သစ်စစ်ဆင်ရေးအတွက် လက်နက်တပ်ဆင်ပြီး စည်းရုံးပြီး လေ့ကျင့်ပြီး စစ်သားအများဆုံးဖန်တီးပေးနိုင်ခြင်းပင်ဖြစ်သည်။

ထိုအချက်ကြီး ၃ ချက်နှင့် လိုလေသေးမရှိ ပြည့်စုံမှသာ အဆင့်အတန်းမြင့်၍ အားကိုးလောက်သော စစ်တပ်ကြီးကို ဖွဲ့စည်းတည်ထောင်နိုင်ပေမည်။









ယခုခေတ်ကြည်းတပ်၏ဆောင်ရွက်ရသည့်အလုပ်တာဝန်များ

အပေါ်ပုံ (ဝဲ) စစ်ပြေပြင်တွင်ဒဏ်ရာရသူများကိုဆေးတပ်သည်ဤသို့တာဝန်ယူ၍ဆောင်ရွက်ရသည်။

အပေါ်ပုံ (ယာ) အမြောက်တပ်သည်မော်တာလက်နက်မည်သို့ဆင်၍မည်သို့ပစ်ရမည်ကိုတာဝန်ယူရသည်။

အောက်ပုံ (ဝဲ) ခြေလျင်တပ်တွင်စက်သေနပ်ကြီးတပ်သည်မည့်သို့နေရာယူ၍ပစ်ရမည်ကိုတာဝန်ယူရသည်။

အောက်ပုံ (ယာ) ပို့ဆောင်ရေးနှင့်ရွှေပြောင်းရေးတပ်တို့ကားဆက်သွယ်မှုကိုတာဝန်ယူရသည်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ကာကွယ်ရေး

ဒုတိယကမ္ဘာစစ်ကြီးမဖြစ်မီက မြန်မာပြည်ကာကွယ်ရေးအတွက် ဗြိတိသျှအစိုးရက ဖွဲ့စည်းတည်ထောင် ထားရှိခဲ့သော စစ်တပ်အင်အားမှာ ဗြိတိသျှခြေလျင်တပ်ရင်း ၂ တပ်နှင့် ချင်း၊ ကချင်၊ ကရင်၊ စစ်သားများဖြင့် ဖွဲ့စည်းထားသော ဗားမားရိုင်ဖယ်တပ်ရင်း ၄ တပ်မျှသာဖြစ်ခဲ့သည်။ ထိုတပ်များကို ဗြိတိသျှဗိုလ်ချုပ်တဦးက အုပ်ချုပ်ရေးအတွက် အိန္ဒိယနိုင်ငံစစ်သေနာပတိအား တာဝန်ခံရ၍ မြန်မာပြည်ကာကွယ်ရေးအတွက် မြန်မာပြည်ရှိ ဗြိတိသျှဘုရင်ခံအား တာဝန်ခံရလေသည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်း၊ မြန်မာ့လွတ်လပ်ရေးကို ကြိုးပမ်းကြရသောအခါ၊ မြန်မာ့သူရဲကောင်းအာဇာနည်ဗိုလ်ချုပ် အောင်ဆန်းအမှူးရှိသည့် လွတ်လပ်ရေးတပ်မတော်သည် ထွန်းပေါ်လာခဲ့သည်။ မြန်မာနိုင်ငံကို ဂျပန်တို့လွှမ်းမိုးနေခိုက်တွင်ပင် သူတပါးလက်အောက်ခံဘဝ၌ လောင်းရိပ်ကျနေသော မြန်မာ့စစ်သွေးစစ်မာန် တို့သည် ပြန်လည်ထွန်းကားလာခဲ့သည်။ ဂျပန်ခေတ်တွင်း၌ပင်လျှင် ဗမာ့လွတ်လပ်ရေးတပ်မတော်သည် ဗမာ့ကာကွယ်ရေးတပ်မတော်ဟု အမည်ပြောင်းခဲ့ရသည်။ သို့ရာတွင် ဂျပန်တော်လှန်ရေးခေတ်သို့ရောက်ပြန်သော်ဗမာ့အမျိုးသားတပ်မတော်ဟူ၍၎င်း၊ ဗမာ့မျိုးချစ်တပ်မတော်ဟူ၍၎င်း၊ ၂ မည်ရသည့် မြန်မာတို့၏တပ်မတော်သည် ပေါ်ထွန်းလာခဲ့ပြန်ရသည်။ သို့ရာတွင်ဒုတိယကမ္ဘာစစ်ကြီးအပြီးအင်္ဂလိပ်အစိုးရတို့ မြန်မာပြည်သို့ ပြန်ဝင်လာသောအခိုက်အတန့်၌ကား ဗြိတိသျှတို့က မြန်မာပြည်စစ်တပ်အင်အားတိုးချဲ့၍ အသစ်ပြုပြင်ဖွဲ့စည်းပြီးနောက် စစ်တပ်အားလုံးကို အင်စပက်တာဂျင်နရယ်ခေါ် စစ်ဗိုလ်ချုပ်တဦးက အုပ်ချုပ်စေခဲ့သည်။ ထိုဗိုလ်ချုပ်ကား ဗြိတိသျှ ၁၂ နံပတ် စစ်တပ်ဦးစီးဗိုလ်ချုပ်၏ လက်အောက်ခံဖြစ်၏။ ၁၉၄၇ ခုနှစ် မေလ ၁ ရက်နေ့၌ကား မြန်မာပြည်အတွက် စစ်ဦးစီးဌာနချုပ်တခုကိုဖွင့်လှစ်၍၊ ယခင်က အင်စပက်တာဂျင်နရယ်ခေါ် ဗိုလ်ချုပ်ကို တပ်မှူးချုပ်ဟုအမည်ပေးကာ အုပ်ချုပ်စေသည်။ ၁၉၄၈ ခုဇန္နဝါရီလ ၄ ရက်နေ့ မြန်မာနိုင်ငံ လွတ်လပ်ရေးရသောအခါ၌မူကား၊ ယခုရှိရင်းစွဲဖြစ်သော တပ်မတော်ကြီးသည် မြန်မာ့တပ်မတော် ဟူသောအမည်ဖြင့် အထင်အရှားဖြစ်ထွန်းလာလေသည်။ (မြန်မာ့တပ်မတော် — ရှု။)

ကြံ့ခိုင်ကာ။ ။နက္ခတ် ၂၇ လုံး — ရှု။



မြန်မာ့ကြည်းတပ်မတော်သားတို့၏စစ်ရေးပြချီတက်အလေးပြုအခမ်းအနားတရပ်

**ကြတ်နန်ပင်**။ ။ကြတ်နန်ပင်ကို ကျနပင်၊ ပင်လယ်အုန်းပင်ဟူ၍လည်း ခေါ်ကြသေးသည်။ ထိုအပင်မျိုးကို မြစ်ဝကျွန်းပေါ်ဒေသများနှင့် ရခိုင်ကမ်းရိုးတန်းနှင့်တနင်္သာရီကမ်းရိုးတန်းတလျှောက်၌လမုပင်၊ လမဲ့ပင်များပေါက်ရောက်ရာ စိမ့်မြေအရပ်များတွင် တွေ့မြင်နိုင်သည်။

ကြတ်နန်ပင်သည် ထန်းပင်အုန်းပင်တို့ကဲ့သို့ ပေ ၄၀ မှ ၅၀ ခန့်အထိ မြင့်၍ဖြောင့်မတ်သည်။ သို့သော် လုံးပတ်မှာ ၄ ပေမျှသာရှိသဖြင့် ပျဉ်ပြားအနံကျယ်ကျယ်ရအောင် ခွဲစိတ်ရန်မဖြစ်နိုင်ချေ။

ရခိုင်တိုင်းနှင့် မြစ်ဝကျွန်းပေါ်ဒေသတွင် အိမ်တိုင်ထူရန်အတွက် ကြတ်နန်သားကို အသုံးပြုကြသည်။ အထူးသဖြင့်မြိတ်နယ်အတွင်းရှိ ဝိတိုရိယအငူတဝိုက်မှရသော ကြတ်နန်သားသည် ချောမောဖြောင့်စင်းသဖြင့် စံမှီပြီးလျှင် အရွယ်အလောတော် ပျဉ်များကိုလည်းရနိုင်သည်။

ကြတ်နန်သားသည် နီရဲရဲအရောင်ရှိ၍ ခိုင်ခံ့သည်။ လွှဖြင့်ဖြတ်ရန် လွယ်ကူသော်လည်း ရွှေပေါ်ထိုးရန်နှင့် ပုံထွင်းရန်ခဲယဉ်းသည်။ အသားသေအောင် ပြုလုပ်ပြီးမှ သုံးစွဲသင့်သည်။ ကြတ်နန်သားကို အိမ်ဆောက်ရန်၊ လှေစပ်ရန်၊ စူးဆောက်တန်ဆာပလာတို့ လက်ကိုင်ရိုးပြုလုပ်ရန်နှင့် လှည်းဘီးထောက်များပြုလုပ်ရန် အသုံးချနိုင်သည်။ သေနတ်ဒင်နှင့် ရေယာဉ်ပံ့အောက်ခြေဘောများ ပြုလုပ်ရန်အတွက်လည်း သင့်လျော်သောအသားဖြစ်သည်။ မဟော်ဂနီသားနှင့် အနီးစပ်ဆုံးဖြစ်သဖြင့် အိမ်သုံးပစ္စည်းများအတွက် အလွန်ကောင်းသော အသားဖြစ်သည်။ (မဟော်ဂနီပင် — လည်းရှု။)

**ကြိတ်သက္ကလတ်**။ ။ကြိတ်သက္ကလတ်သည် သိုးမွေး၊ သားမွေး၊ အမွေးအမှင်တို့ကို ရက်မယူဘဲ ရေနွေးငွေ့ပေး၍ ဒလိမ့်ဖြင့် ကြိတ်ဖိယူသည့် အထည်တမျိုးဖြစ်သည်။ ဒလိမ့်ဖြင့်ကြိတ်ဖိပြီးသောအထည်သည် စိုနေသဖြင့် အခြောက်လှန်း၍ မီးပူထိုးပေးရသေးသည်။ အထည်ရက်လုပ်နိုင်သော အမှင်တိုင်းလိုလိုကို အသင့်အတင့် ကြိတ်သက္ကလတ် ပြုလုပ်နိုင်သော်ငြားလည်း အကောင်းဆုံးအမှင်များမှာ သိုးမွေး၊သားမွေးနှင့် အမွေးအမှင် အချို့တို့သာဖြစ်ကြသည်။ သိုးမွေး၊ သားမွေးတို့သည် အမွေးအမှင်ချင်း ချိတ်တွယ်နေနိုင်ကြသဖြင့် ကြိတ်သက္ကလတ်ပြုလုပ်ရန်အတွက် အထူးသင့်လျော်သည်။ ယခုအခါ ဦးထုပ်၊ မွေ့ရာ၊ ကော်ဇောကြမ်း၊ ဗိလယက်ခုံအခင်း၊ အနာစည်းပတ္တီး စသည်တို့ကို ကြိတ်သက္ကလတ်ဖြင့် ပြုလုပ်ယူကြသည်။ အာရှတိုက်နိုင်ငံများ၌ အလွန်ရှေးကျသော ခေတ်အခါမှစ၍၊ ကြိတ်သက္ကလတ်ကို ကော်ဇောကြမ်းအဖြစ် အသုံးပြုလာခဲ့ကြသည်။ ကြိတ်သက္ကလတ်ကို ပြုလုပ်သုံးစွဲခဲ့သည်မှာ အထည်အလိပ်ကို ရက်လုပ်သုံးစွဲခဲ့သည်ထက်ပင် ရှေးကျသေးသည်ဟုဆိုလေသည်။ (အထည်အလိပ်။ ဦးထုပ်များ — လည်းရှု။)



ကြိတ်သက္ကလတ်ကိုအတွင်းမှခံလျက်မွေ့ရာချုပ်နေစဉ်

**ကြံ့**။ ။ခြေလေးချောင်းသတ္တဝါများထဲတွင် ဆင်ကလွဲလျှင် ရေမြင်းနှင့် ကြံ့တို့သည် အကြီးဆုံးဖြစ်ကြသည်။ ကြံ့သည် အလျား ၁၃ ပေခန့်ရှိ၍ ပခုံးတွင် ၆ပေခွဲခန့် မြင့်သည်။ အလေးချိန် ၃ တန်မျှရှိသည်။

ကြံ့ကို အာရှတိုက်တောင်ပိုင်း၊ အာဖရိကတိုက် အလယ်ပိုင်းနှင့်တောင်ပိုင်းတို့၌သာ တွေ့ရသည်။ ကြံ့၏ကိုယ်မှာ အလွန်ကြီးမား၍ အကြည့်ရလည်းဆိုးသည်။ တကိုယ်လုံး၌ အရေပြားထူကြီး ဖုံးထားသဖြင့် အလွန်ချွန်ထက်သော လှံသွား၊ ကျားခြေသည်း၊ ခြင်္သေ့စွယ်တို့ကိုပင် ကြံ့ကြံ့ခံနိုင်သည်။ ကြံ့၏နှာတံပေါ်တွင် ချွန်ထက်မာကျောသော ဦးချိုရှိသည်။ အချို့ကြံ့မျိုးတွင် ရှေ့နောက်ယှဉ်နေသော ဦးချိုနှစ်ချောင်းရှိ၍ အချို့ကြံ့မျိုးတွင် ဦးချိုတချောင်းသာရှိသည်။ ဦးချိုတချောင်းနှင့်ကြံ့မျိုးကို ကြံ့ဆင်ဟုခေါ်၍၊ ဦးချိုနှစ်ချောင်းနှင့်ကြံ့မျိုးကို ကြံ့ရှော်ဟုခေါ်ကြသည်။ ထိုခိုင်မာသောဦးချိုမှာ သစ်ပင်ချုံဖုတ်များကိုတွန်း



အာဖရိကတိုက်တွင်တွေ့ရသောဦးချို ၂ ချောင်းပါသည့်ကြံ့ရှော်မျိုး

လှဲဖြိုဖျက်ရန်နှင့် ရန်သူကို ခုခံတိုက်ခိုက်ရန် အသုံးဝင်သည်။ ကြံ့သည် ပင်ကိုယ်သဘာဝအားဖြင့် ရန်လိုကြမ်းကြုတ်သော သတ္တဝါမျိုးမဟုတ်ချေ။ ရန်ကိုရှောင်တတ်သော်လည်း စိတ်ခက်ထန်ဖွယ်ရာ တွေ့ရှိလာသည့်အခါ၊ တရှူးထိုးလိုက်တတ်သည်။ မျက်လုံးအလွန်သေး၍၊ အဝေးသို့မမြင်၊ မျက်စိလည်းမရှင်ချေ။ သို့ရာတွင် အနံ့ခံကောင်း၍ အနံ့သိလွယ်သည့်ပြင်၊အလွန်နားကင်းပါးသည်။

ကြံ့၏ခြေထောက်များသည် ဆင်ခြေထောက်နှင့် ခပ်ဆင်ဆင်တူသော်လည်း ယင်းတို့၌ ခြေချောင်း သုံးခုသာလျှင်ရှိသည်။ ကြံ့နှုတ်သီးမှာ ရှည်မျောမျောဖြစ်၍ အထက်နှုတ်ခမ်းသည် အောက်နှုတ်ခမ်းထက် ပို၍ထွက်နေသည်။ နားရွက်များမှာ ရှည်လျား၍ထောင်နေ၏။ တကိုယ်လုံးအမွေးမရှိသော်လည်း၊ နားရွက်ဖျားနှင့် အမြီးဖျားတို့တွင် အတန်ရှည်သော အမွေးအမှင်များ စု၍ပေါက်နေသည်။ အမြီးမှာ သတ္တဝါနှင့်မလိုက်အောင်ပင် တိုလေသည်။ ရှေးခေတ်က ရေခဲပြင်ကြီးများတွင် နေထိုင်ကြသော ကြံ့မျိုးတို့၌ကား အမွေးရှည်များ ရှိကြသည်ဟုဆို၏။

ကြံ့မျိုးတွင် ထင်ရှားသောအမျိုး ငါးမျိုးရှိရာ သုံးမျိုးကို အာရှတိုက်၌ တွေ့ရ၍ ကျန်နှစ်မျိုးကို အာဖရိကတိုက်၌ တွေ့ရသည်။ အာဖရိကတိုက်တွင် တွေ့ရသောကြံ့မျိုးမှာ ကြံ့ရှော်မျိုးဖြစ်၍၊ ယင်းကို ကြံ့မဲနှင့်ကြံ့ဖြူဟူ၍ နှစ်မျိုးခွဲထား၏။ ကြံ့မဲနှင့်ကြံ့ဖြူဆိုသော်လည်း အရောင်မှာ မတိမ်းမယိမ်းပင်ဖြစ်၏။ ကြံ့မဲမှာ မဲပြာရောင်ဖြစ်၍ ကြံ့ဖြူမှာ မီးခိုးရောင်ညစ်ညစ်ဖြစ်သည်။

ကြံ့မဲကို အာဖရိကတိုက် အလယ်ပိုင်းနှင့် တောင်ပိုင်းတို့တွင် အနှံ့အပြားတွေ့ရသည်။ အမြင့် ၅ ပေခွဲခန့်ရှိ၍ အလျား ၁၀ ပေခန့်ရှိသည်။ အကောင်ကြီးတို့သည် တတန်မှနှစ်တန်အထိ အလေးချိန်စီးကြ၏။ အမြီးမှာ တိုတုတ်တုတ်ဖြစ်သည်။ ဦးချို ၂ ချောင်းအနက်၊ အရှေ့ဖက်၌ရှိသောဦးချိုမှာ ပို၍ရှည်လျက် ၁၃ ပေမှ သုံးပေကျော်ကျော်ခန့်အထိ ရှည်တတ်သည်။ ကြံ့မဲသည် အလွန်လျင်မြန်၍ သတ္တိလည်းရှိသည်။ စိတ်ထွက်သည့်အခါ တနာရီလျှင် မိုင်အစိတ်မိုင်သုံးဆယ်အမြန်နှုန်းနှင့်တရှူးထိုးလိုက်တတ်သဖြင့် မုဆိုးတို့သည် ထိုကြံ့မဲမျိုးကို အလွန်ကြောက်ကြ၏။ ကြံ့မဲမျိုးတွင် အမသည် သုံးနှစ်တကြိမ်ခန့် သားတကောင်ကျလေ့ရှိသည်။

ကြံ့ဖြူကို တွေ့ရသော ဒေသတို့မှာ အာဖရိက တိုက်ရှိယူဂန်းဒါးနယ်နှင့် ငုံးလူးလန်တို့ဖြစ်၏။ ကြံ့ဖြူကို နှာဖျားကားကား၊ ပါးစပ်ကျယ်ကျယ် ရှိခြင်းကြောင့် ပါးစပ်ပြဲကြံ့မျိုး ဟူ၍လည်းခေါ်ကြ၏။ အလျား ၁၄ ပေ၊ အမြင့် ၆½ ပေခန့်ရှိပြီးလျှင် အလေးချိန် သုံးတန်နီးနီးမျှ ရှိတတ်ကြသဖြင့် ကြံ့ရှော်တွင် အကြီးဆုံးသောကြံ့မျိုးဖြစ်သည်။ အထက်နှုတ်ခမ်းဖျားမှာ တပြောင့်တည်းဖြစ်နေ၍၊ သစ်ရွက်သစ်ကိုင်းများကို မစားနိုင် မြက်ကိုသာ အများအားဖြင့်

စားသည်။ ဦးချိုနှစ်ချောင်းအနက် အရှေ့ဖက်ရှိဦးချိုမှာ လက်မ ၃၀ မှ လက်မ ၆၀ အထိပင် ရှည်တတ်၍ နောက်ဖက် ဦးချိုမှာမူ အတန်ငယ်တိုသည်။ ကြံ့ဖြူသည် ကြံ့မဲလောက် သတ္တိမရှိချေ။

အာရှတိုက်တွင် တွေ့ရသောကြံ့သုံးမျိုးမှာ အိန္ဒိယကြံ့၊ ဂျားဗားကြံ့နှင့် ဆူမတြားကြံ့များ ဖြစ်၏။ အိန္ဒိယကြံ့မျိုးမှာ အတန်ငယ်ရှားပါးလျက်ရှိရာ အာသံပြည်၌သာ တွေ့နိုင်တော့သည်။ အာဖရိကတိုက်ရှိ ကြံ့မဲမျိုးနှင့် အရွယ်၊ စားသောက်ပုံ၊ စိတ်ခက်ထန်ပုံတို့တူသည်။ သို့ရာတွင် အရေပြားမှာ ကြံ့မဲထက်ပို၍ အတွန့်များပြီးလျှင် ဦးချိုမှာလည်း တချောင်းတည်းရှိ၍ အရှည်တပေခန့်ရှိသည်။ ဂျားဗားကြံ့တို့သည် အိန္ဒိယကြံ့အောက် သိသိမျှငယ်၍ အလေးချိန်တတန်မျှပင်မရှိချေ။ ထိုကြံ့မျိုးမှာ ဦးချိုတချောင်းတည်းရှိသော ကြံ့ဆင်မျိုးဖြစ်၍ ယင်းတို့ကို ဗင်္ဂလားပြည်နယ်၊ မြန်မာနိုင်ငံ၊ မလ္လာယုကျွန်းဆွယ်နှင့် အရှေ့အိန္ဒိယကျွန်းစုတို့တွင် တွေ့ရတတ်သည်။ ဆူမတြားကြံ့မျိုးမှာ အငယ်ဆုံးအမျိုးဖြစ်၍ ဦးချိုတိုတို ၂ ချောင်းပါရှိသည်။ အမြင့် ၄ ပေ၊ ၄½ ပေခန့်ရှိတတ်၍ အလေးချိန် တတန်စီးသော အကောင်မှာ အတန်ပင်ရှားသည်။ ကိုယ်ပေါ်တွင် အထူးသဖြင့် အမြီးနှင့်နားရွက်များပေါ်တွင် အမွေးအမှင်အတော်များများပေါက်တတ်၏။ ယင်းတို့ကို မြန်မာနိုင်ငံ၊ ဗော်ညီကျွန်းနှင့် မလ္လာယုကျွန်းဆွယ်တို့တွင် တွေ့ရတတ်သည်။

အိန္ဒိယနိုင်ငံ မြန်မာနိုင်ငံစသော အရှေ့တိုင်းနိုင်ငံများတွင် ကြံ့သွေးကို ဆေးဝါးဖော်စပ်ရာ၌ အသုံးပြုကြသည်။ ထို့ကြောင့် ကြံ့ကို တန်ဖိုးထားကာ မုဆိုးများက လိုက်လံသတ်ဖြတ်၍ စီးပွားရှာကြသဖြင့် ကြံ့မျိုးပြုတ်လုမတတ်ဖြစ်ခဲ့ရာ အစိုးရက ကြံ့များကို မသတ်ဖြတ်ရန် ဥပဒေဖြင့် တားမြစ်ထားရသည်။ ကြံ့သွေးသည် နုလုံးသွေးပျက်၍ တုန်လှုပ်သောအနာ၊ သည်းခြေပျက်၍ ထိတ်လန့် ရူးသွပ်သောအနာ၊ စိတ္တဇနာ၊ ခံတွင်းသွေးထွက်သောအနာ၊ အော့အန်သောအနာ၊ အိပ်စက်မပျော်သောအနာ၊ အလွန်ပူသောအနာတို့ကို ငြိမ်းစေတတ်ဟု၏ဆိုသည်။

**ကြံ့သူတော်**။ ။ကြံ့သူတော်ကိုတရရှူးဟုလည်းခေါ်ကြသည်။ ကြံ့သူတော်သည် ကြောက်တတ်သောတိရစ္ဆာန်မျိုးဖြစ်၍ တောနက်ကြီးများထဲ၌ တကောင်ချင်း အေးအေးဆေးဆေး နေတတ်သည်။ နွေးသောရာသီဥတုကိုကြိုက်နှစ်သက်သဖြင့် ယင်းတို့ကို ကမ္ဘာ့ပေါင်းကမ္ဘာသစ်ရှိ ပူအိုက်သောဒေသများတွင်တွေ့ရလေ့ရှိသည်။အထူးသဖြင့်မလ္လာယုကျွန်းဆွယ်၊ အာရှတိုက်အလယ်ပိုင်းနှင့် တောင်အမေရိက



တကောင်ချင်းနေလေ့ရှိသောကြံ့သူတော်

တိုက်တွင် အတွေ့ရများလေသည်။ ကမ္ဘာဟောင်းရှိ ကြံ့သူတော်တို့သည် ကမ္ဘာသစ်ရှိ ကြံ့သူတော်များထက် ပိုမိုကြီးမားကြသည်။ မလ္လာယုကျွန်းဆွယ်ရှိ ကြံ့သူတော်သည် အလျား ၈ ပေခန့်ရှိ၍ ပခုံးတွင် ၃ ပေ ၃ လက်မမျှမြင့်၏။

ကြံ့သူတော်သည် ဆင်လည်းမမည်၊ ဝက်လည်းမကျဖြစ်သောကြောင့်၊ ပုံပန်းသဏ္ဌာန်မှာ အတော်ပင်အချိုးမကျချေ။ ယင်းတွင် နှာမောင်းတခုပါရှိရာ၊ ထိုနှာမောင်းမှာ အတိုစား ဖြစ်သဖြင့်၊ ခပ်လှမ်းလှမ်းမှ ကြည့်လျှင် ကြံ့သူတော်သည် ဦးချိုမပါသော ကြံ့နှင့်ဆင်တူသည်။ ကြံ့သူတော်၏ကိုယ်တွင် ချောမွတ်သောအမွေးတိုများ ဖုံးလွှမ်းလျက်ရှိ၏။ အာရှတိုက်ရှိ ကြံ့သူတော်မျိုးတွင် ခြေလက်နှင့်ကိုယ်ရှေ့ပိုင်းတို့သည် အနက် သို့မဟုတ် အညိုရင့် ရောင်ရှိ၍၊ ကိုယ်ဘေးနှင့်နောက်ပိုင်းတို့၌ ဖြူညစ်ညစ်အရောင်ရှိသည်။ အမေရိကတိုက်ရှိ ကြံ့သူတော်များ၌ တကိုယ်လုံးပင် အညိုရောင် သို့မဟုတ် အနက်ရောင် ရှိကြသည်။ တောင်အမေရိကတိုက် ဗရာဇီးနိုင်ငံရှိ ကြံ့သူတော်မျိုးမှာ တောထူထပ်သောဒေသများတွင်သာ နေလေ့ရှိသည်။ အန်းဒီးတောင်တန်း၌ တွေ့ရသောအမျိုးမှာ ပေ ၇၀၀၀၊ ၈၀၀၀ ကျော်မြင့်သော ကုန်းမြင့် ဒေသများ၌ နေလေ့ ရှိသည်။ အမေရိကတိုက် အလယ်ပိုင်း၌လည်း လူသိနည်းသော ကြံ့သူတော်အငယ်စား နှစ်မျိုးရှိသေးသည်ကို တွေ့ရပေသည်။

ကြံ့သူတော်တို့၏ အမိကအစာမှာ သစ်ရွက်နုနှင့် သစ်သီးသစ်ဖုများဖြစ်သည်။ ကြံ့သူတော်သည် ရှေးကျသော တိရစ္ဆာန်ဖြစ်၏။ ယင်းတို့သည် တခါက မြောက်ကမ္ဘာလုံးခြမ်းတွင် အနှံ့အပြားနေထိုင်ခဲ့ကြဘူးသည်။ ထိုနောက်မှ အမေရိကတိုက်နှင့် မလ္လာယုကျွန်းဆွယ် အစွန်အဖျားဒေသတို့သို့ အပျံ့အနှံ့ ရောက်ရှိသွားကြခြင်းဖြစ်လေသည်။

ကြံ့သူတော်တို့သည် တကြိမ်လျှင်တကောင်ကျသာ မွေးလေ့ရှိသည်။ အရွယ်မရောက်သေးသော ကြံ့သူတော်ကလေးများတွင် အနက်ရောင်ရှိသောကိုယ်ပေါ်၌ အဝါနှင့်အဖြူ အစင်းကျားများပါရှိလေသည်။ ကြံ့သူတော်တို့သည် အကြောက်အလန့်ကြီးသည်မှာ မှန်သော်လည်း၊ ကြံ့သူတော်သားအုပ်မတို့ကား၊ မိမိတို့၏သားငယ်များကို အသက်ပေး၍ ကာကွယ်စောင့်ရှောက်လေ့ရှိကြသည်။ မြန်မာနိုင်ငံ၌၊ ထားဝယ်နယ်၊ မြိတ်နယ်ဖက်တွင် ကြံ့သူတော်များကိုတွေ့ရသည်။

**ကြံခင်းမြို့**။ ။ကြံခင်းမြို့သည် ဟင်္သာတခရိုင် ကြံခင်းမြို့နယ်၏ ရုံးစိုက်ရာမြို့ဖြစ်၍၊ ဟင်္သာတခရိုင်၏ မြောက်ဖက်အစွန်ဆုံး မြို့နယ်ဖြစ်သည်။ ဧရာဝတီမြစ်၏ အနောက်ဖက်



**ကြံခင်းမြို့တွင်ထင်ရှားသောလောကသဃမ္ဘူစေတီ**

ကမ်းပေါ်တွင်ရှိသည်။ မြို့ပေါ်တွင် အင်းလပ်၊ ရွာသစ်နှင့် မြို့မဟူ၍ အပိုင်းကြီးသုံးပိုင်းရှိရာ မြို့မရပ်ကွက်ကို မြန်မာ သက္ကရာဇ် ၁၁၅၀ ပြည့်နှစ်ခန့်က မွန်လူမျိုးများက စတင် တည်ထောင်ခဲ့သည်။ အင်းလပ်ရပ်ကွက်ကို သက္ကရာဇ် ၁၁၁၅ ခုနှစ်ခန့်က အထက်အညာအင်းလပ်အရပ်မှ မောင်ကျောင်း ဆိုသူသည် နောက်လိုက်နောက်ပါများနှင့် အတူပြောင်း ရွှေ့လာရောက်နေထိုင်ပြီးလျှင် အင်းလပ်ဟုအမည်ပေးခဲ့လေ သည်။ ရွာသစ်ရပ်ကွက်ကိုလည်း ထိုအချိန်နှင့်မရှေးမနှောင်း ခန့်တွင် စတင်တည်ထောင်လာခဲ့လေသည်။

ကြံခင်းဆိုသောအမည်မှာ မွန်ဘာသာ ကျာံကင်း မှဆင်း သက်လာသည်ဟုဆို၏။ အဓိပ္ပါယ်မှာ ကျောက်မီးကျောင်း ရုပ်ရှိသော ကင်း (အကောက်ရုံး) ဖြစ်သည်။ အချို့ကမူ ကြံခင်းသည် မွန်ဘာသာအားဖြင့် ကျာံင်ဖြစ်၍ မိကျောင်း ရဲဟူ၍အဓိပ္ပါယ်ရသည်ဟုဆိုကြသည်။

ကြံခင်းမြို့၏ မျူနီစီပါယ်အဖွဲ့ကို ခရစ်နှစ် ၁၈၈၆ ခုနှစ် မှစ၍ ဖွဲ့စည်းတည်ထောင်ခဲ့သည်။

ကြံခင်းမြို့သည် ဟင်္သာတမြို့မှ မီးရထားလမ်းအတိုင်း ၆၄ မိုင်ကွာဝေး၍ ဟင်္သာတကြံခင်း မီးရထားလမ်းဆုံးမြို့လည်း ဖြစ်၏။ မြို့၏အကျယ်အဝန်းမှာ စတုရန်း ၂ မိုင်ခန့်ဖြစ်၍ ၁၉၃၁ ခုနှစ် သန်းကောင်စာရင်းအရ လူဦးရေ ၆၀၄၀ ယောက်ခန့်ရှိ၏။ မြို့ပေါ်တွင် တရားရုံး၊ဆေးရုံနှင့်နိုင်ငံတော် အထက်တန်းကျောင်းအပြင် ဆန်စက်များနှင့်သစ်စက် များလည်းရှိသည်။ လောကသယမ္ဘူနှင့် ချမ်းသာကြီး စေတီတော်တို့မှာ မြို့ပေါ်တွင်ထင်ရှားသော စေတီတော် များဖြစ်ကြသည်။

ကြံခင်းမြို့မှအနောက်ဖက် ၈ မိုင်အကွာတွင် ဖက်ရဲရွာကြီး တည်ရှိသည်။ထိုရွာမှတဆင့် ရခိုင်ရိုးမကိုဖြတ်ကျော်လျှင် ရခိုင်တိုင်းသို့ပေါက်ရောက်နိုင်သည်။ကြံခင်းမြို့မှ ရေဝတီမြစ် စဉ်အတိုင်း မြောက်ဖက်ရှိပြည်မြို့သို့ ၄၇ မိုင်၊ တောင်ဖက် ဟင်္သာတမြို့သို့ ၆၆ မိုင်ဝေးကွာသည်။ ဆိပ်ကမ်းကောင်းမွန် သဖြင့်၊ မီးသင်္ဘော၊လှေကြီးလှေငယ်တို့ ဆိုက်ကပ်နိုင်ပြီး လျှင် အရောင်းအဝယ်စည်ကားသောကြောင့် မြို့ပေါ်တွင် ကုန်သည်ကြီးငယ်တို့များပြားပေသည်။

ပိုးထည်များရက်လုပ်ကြ၍၊ ကြံခင်းပိုးထည်မှာ ထင်ရှား လှပေသည်။ ကြံခင်းမြို့နယ်မှ ငှက်ပျောခြောက်လည်း အများအစားထွက်လေသည်။

# မြန်မာနိုင်ငံ၏စီးပွားရေးတရပ်ဖြစ်သောကြံပင်

**ကြံ၏အရသာကို မြန်မာတိုင်းသိကြပေသည်။ သို့သော်ကြံပင်သည် မည်သည့်အရပ်၌စတင်ပေါ်ပေါက်၍ မည်သို့ပျံ့နှံ့သွားသည် ကိုမူ သိကြမည်မဟုတ်ပေ။ ထို့ပြင် ကြံမှထွက်သောသကြားသည် တိုင်းပြည်စီးပွားရေးအတွက် မည်မျှအရေးပါနိုင်သည်ကို ချိန်ဆပြီးလျှင် မြန်မာနိုင်ငံသည် ကြံစိုက်၍မည်မျှဖြစ်ထွန်းနိုင်ကြောင်းကို လေ့လာသင့်သည်။**

**ကြံပင်။** ။ကြံပင်ကိုမမြင်ဘူးသူဟူ၍ မြန်မာနိုင်ငံ၌ ရှိမည် မထင်ချေ။ မြင်ဘူးကြရုံမက ကြံလတ်လတ်ဆတ်ဆတ်ကို ၎င်း၊ အရည်ညှစ်၍ရသော ကြံရည်ကို၎င်း၊ ကြံရည်မှကျို ချက်၍ရသော ကြံသကာနှင့်သကြားကို၎င်း စားဘူးကြ သဖြင့် ကြံ၏အရသာကိုလည်း လူတိုင်းပင်သိကြသည်။

ကြံပင်သည် အာရှတိုက်အရှေ့ပိုင်း၌ ရှေးဦးစွာပေါက် သည်ဟု ထင်မှတ်ရသည်။ အာရပ်လူမျိုးတို့က ကြံပင်ကို အိန္ဒိယနိုင်ငံမှတဆင့် ဥရောပတိုက်သို့ ယူဆောင်ပြီးသော် အီဂျစ်နိုင်ငံ၊ စစ္စလီကျွန်းနှင့် စပိန်နိုင်ငံများ၌ စိုက်ပျိုးကြ သည်။ ထို့နောက် ပေါ်တူဂီလူမျိုးတို့ကတဖန်၊ ဗရာဇီးနိုင်ငံ သို့ ယူဆောင်သွားခဲ့သည်တွင်၊ ထိုနိုင်ငံနှင့် အနောက် အိန္ဒိယကျွန်းစုတို့၌ ကြံပင်ကို အကြီးအကျယ် စိုက်ပျိုး လာကြပြန်သည်။ ဥရောပတိုက်တွင် ကြံမှရရှိသောသကြား ကို မသုံးနိုင်မီက ပျားရည်ကို သုံးစွဲခဲ့ကြရသည်။ သို့သော် နပိုလီယန်စစ်ပွဲများ ဖြစ်ပွားသောခေတ်အတွင်းက ဥရောပ တိုက်တွင် အချိုအရသာအတွက် သကြားမုန်လာပင်များ ကို စတင်စိုက်ပျိုးခဲ့ကြသည်။ သကြားမုန်လာပင်သည် သမပိုင်းဒေသများ၌ စိုက်ပျိုးနိုင်သော အပင်ဖြစ်၍ ကြံပင် ကိုမူ အပူပိုင်းနှင့် အပူလျော့ပိုင်းဒေသများတွင်သာ စိုက်ပျိုး နိုင်သည်။ (မုန်လာဉနီ — ရှု။)

အိန္ဒိယနိုင်ငံ၊ ကျူးဗားကျွန်း၊ ဂျားဗားကျွန်း၊ ဖိလစ် ပိုင်ကျွန်း၊ အမေရိကန်ပြည်ထောင်စုနှင့် ပွားတိုရီးကိုးကျွန်း တို့မှာ ယခုအခါ ကမ္ဘာပေါ်၌ ကြံပင်အကြီးအကျယ်စိုက်ပျိုး ၍သကြားအမြောက်အမြားထွက်သောဒေသများ ဖြစ်ကြ ပေသည်။

မြန်မာနိုင်ငံ ခရိုင်တိုင်းလိုမှာပင် ကြံပင်စိုက်ပျိုးနိုင်သည်။ သို့ရာတွင် အထူးတလည် အောင်မြင်ဖြစ်ထွန်းသောဒေသ တို့မှာ သထုံ၊ မြစ်ကြီးနား၊ ရမည်းသင်း၊ တောင်ငူ၊ ပဲခူး နှင့် ကျောက်ဆည်ခရိုင်တို့ဖြစ်ကြသည်။ ကြံသကာ လုပ်ငန်းသည် ရမည်းသင်းခရိုင်၊ ပျဉ်းမနားနယ်တွင် အထူးထင်ရှား၍ သကြားလုပ်ငန်းမှာ မြစ်ကြီးနား၊ တောင်ငူနှင့် သထုံခရိုင်များတွင် စတင်အမြစ်တွယ်ကာထွန်း ကားလာနေပေပြီ။ မြစ်ကြီးနားခရိုင်ရှိ ဆားမော်သကြား စက်၊ တောင်ငူခရိုင်ရှိ ဇေယျဝတီသကြားစက်နှင့် သထုံ ခရိုင်ရှိ နှင်းပုလဲသကြားစက်တို့သည် မြန်မာနိုင်ငံ သကြား လုပ်ငန်း၏ အခြေခံဌာနများပင်ဖြစ်ကြလေသည်။

ကြံပင်သည် သန်စွမ်းကြီးထွားရေးအတွက် ပူအိုက်သော ရာသီကိုလိုသည်။ သို့သော် ရာသီအမျိုးမျိုး အခြေအနေ အမျိုးမျိုးရှိသော ဒေသတို့၌လည်း ပေါက်နိုင်သည်ကိုတွေ့ရသဖြင့် ရာသီဥတုနှင့်စပ်လျဉ်း၍ ပုံသေကားချ ပြောဆိုရန် မလွယ်ကူချေ။ ကြံပင် သည် ကြီး ပွား ဆဲအ ချိန် ၌ ရေ အ မြောက် အမြား လို သော် လည်း ရင့် ရွမ်း ချိန် တွင် သွေ့ ခြောက်သောအခြေအနေကို ကြိုက်နှစ်သက်သည်။ မျိုးဖြတ်ကိုင်းကလေးများသည် မိုးမရွာသော်လည်း စိုက်ခင်းမြေအတွင်း၌ အစိုဓါတ်ရှိနေပါက အမြစ်တွယ်၍ အပင်ပေါက်နိုင်သည်။ ကြံကောင်းထွက်ရန် မိုးရေချိန်တနှစ်လျှင် လက်မ ၅၀ ခန့်လိုသော်လည်း မိုးမှာပမာဏမဟုတ်။ စိုက်ခင်းတွင်ရေတော်သင့်အောင်ရမှုသာလျှင်အရေးကြီးသည်။

နုံးမြေသည် ကြံစိုက်ရန်အထူးသင့်လျော်၍ မြစ်ကမ်းရိုး၊ ချောင်း ကမ်း ရိုး တ လျှောက်ရှိ မြေ စေး နုံး မြေနက်များမှာ အကောင်းဆုံးဖြစ်သည်။ မြေစေးနုံးမြေများတွင် ကြံစိုက်ပျိုးလိုပါက ရေထုတ်မြောင်းများ ရှိဖို့လိုအပ်သည်။

ကြံစိုက်ပျိုးရာ၌ အနာအဆာကင်း၍ မျက်ကွက်ပါသော မည်သည့်အပိုင်းအဆစ်ကိုမဆို စိုက်ပျိုးနိုင်သည်။ အဖျားပိုင်းရှိအဆစ်များ ရှစ်ဆစ်မှဆယ်ဆစ်တို့သည် မျိုးအတွက် အသင့်ဆုံးဖြစ်သည်။

မြန်မာနိုင်ငံ၌ ကြံစိုက်ပျိုးသည့်အချိန်မှာ တနေရာနှင့် တနေရာမတူချေ။ အောက်မြန်မာနိုင်ငံတွင် ချောင်းကမ်းပါးများ၌ဖြစ်စေ၊ ကုန်းမြေများ၌ဖြစ်စေ၊ မိုးနှောင်းမိုးလို ကြံပင်များ သောက်သုံးနိုင်စေရန် တော်သလင်းလပြည့်မှ သီတင်းကျွတ်လပြည့်တိုင်အောင် စိုက်ပျိုးကြသည်။ မြန်မာနိုင်ငံအလယ်ပိုင်း၊ ပျဉ်းမနားနယ်၌ နတ်တော်လ၊ ပြာသိုလများလောက်တွင် စတင်စိုက်ပျိုးကြ၍ တခါတရံ တပေါင်းလတိုင်အောင်စိုက်ကြသည်။ ရေသွင်းပေးနိုင်သော ဒေသများတွင်မူ ကြံပင်စိုက်ရန် အကောင်းဆုံး အချိန်အဖြစ် တပေါင်းလကိုသတ်မှတ်ကြသည်။

ကြံခင်းမြေကို တတ်နိုင်သမျှနက်အောင် ထယ်ထိုးပေးလျှင် အထူးကောင်းမွန်သည်။ နွားချေးကို အမှုန့်ချေလျက် ကြံပင်စိုက်သည့်အတန်းလိုက် ချပေးပါက ကြံပင်များသန်စွမ်းသည်။ နွားချေးမှုန့်ကို ဤနည်းအတိုင်း ကြံပင်များ ကြီးမြင့်လာ သည့် တိုင် အောင် နှစ်ကြိမ်သုံးကြိမ်စသည်ဖြင့် လိုသလိုချပေးသင့်သည်။ အခြားမြေသြဇာကောင်းများမှာ နှမ်းဖတ်၊ ဝါစေ့ဖတ်၊ မြေပဲဖတ်နှင့် ကြက်ဆူစေ့ဖတ်များဖြစ်ကြသည်။ သို့ရာတွင် ကြံစိုက်သည့်နည်းလမ်းတို့သည် ကြံစိုက် သည့် အချိန် ကဲ့ သို့ပင် အမျိုး မျိုး နေ ရာ ဒေသ အလိုက် ကွဲပြားကြသည်။



**သကြားစက်ရုံတရုံရှေ့သို့ဆိုက်ရောက်နေကြသောကြံပုံကြီးများ**



ကြံပင်များကိုခုတ်သိမ်းနေသောဂျာဗားကျွန်း၏စိုက်ခင်းတခု

ကြံစိုက်သည့်အချိန်မှ ၁၀ လ ၁၂ လခန့်ကြာလျှင် ဖြတ်သိမ်းရန်တော်လောက်ပြီ။ သို့သော် ကြံသကာနှင့်သကြား ချက်ရန်အတွက်ဖြစ်မူ ၁၂ လလောက်ထားပြီးမှ ဖြတ်သိမ်းလျှင်ပို၍ကောင်းသည်။ ကြည့်ရှုပြုစုကောင်းပါက မြန်မာနိုင်ငံတွင် မြေတဧကလျှင်ကြံချောင်းရေ၁၀,၀၀၀မှ ၂၀,၀၀၀ အထိ ထွက်နိုင်ကြောင်းသိရသည်။

မြန်မာနိုင်ငံ၌ အညာကြံ၊ ကြံနက်၊ ကိုင်းကြံ၊ ကျောက်ကောင်းကြံစသည်ဖြင့် အမျိုးပေါင်းများစွာ ရှိသော်လည်း အကြီးအကျယ် စိုက်ပျိုးရန်ကောင်းသော မြန်မာကြံ မျိုးကောင်းနှစ်မျိုးမှာ ပျဉ်းမနားကြံနီနှင့် တောင်ငူကြံဝါတို့ ဖြစ်ကြသည်။ ပျဉ်းမနားကြံသည် မိုးပါးသောမြန်မာနိုင်ငံ အထက်ပိုင်း၌ အထူးဖြစ်ထွန်း၍ တောင်ငူကြံဝါမှာ မိုးများသော မြန်မာနိုင်ငံအောက်ပိုင်းနှင့် ရေသွင်းပေးနိုင်သော ဒေသများတွင် သင့်လျော်သည်။ သို့သော် တောင်ငူကြံဝါသည်အပင်လဲ၍ပေါက်တတ်သည်ကို သတိပြုရမည်။

အထက်ပါကြံများအပြင် ယခုအခါ နိုင်ငံခြားမှရရှိသော ကြံမျိုးများစွာကိုလည်း မြန်မာနိုင်ငံ၌ စမ်းသပ်စိုက်ပျိုးကြရာ ကောင်းစွာဖြစ်ထွန်းကြောင်းတွေ့ရသည်။ နိုင်ငံခြားကြံမျိုးများအနက် ပီ၊ အို၊ ဂျေ (၂၈၇၈) နှင့် ပီ၊ အို၊ ဂျေ (၂၈၂၇) တို့သည် ကြံချောင်းရေအထွက်၌၎င်း၊ သကြားအထွက်၌၎င်း၊ များစွာကောင်းမွန်သဖြင့် ယခုအခါ မြန်မာနိုင်ငံအနှံ့ အပြားမှာပင် စိုက်ပျိုးလုပ်ကိုင်နေကြပြီ။ ကိုယ်ဗာတူး ကြံမျိုး ကိုလည်း စိုက်ပျိုးလျက် ရှိကြပေသည်။

**ကြိမ်ပင်။** ။ရှေးအထက်ကျော်ကာရီကစ၍၊ ကြိမ်သည် မြန်မာလူမျိုးတို့အဖို့ ဝါးနှင့်တန်းတူ အရေးကြီးအသုံးဝင်ခဲ့သော ပစ္စည်းဖြစ်သည်။ အိမ်ဆောက်ရာ၌၎င်း၊ လှေလှည်းလုပ်ရာ၌၎င်း၊ ဖေါင်ဖွဲ့ရာ၌၎င်း၊ အထုပ်အပိုးများ ချည်နှောင်ရာ၌၎င်း၊ ကြိမ်ကိုအသုံးပြုကြသည်။ ကျွဲနွားရိုက်ရန်နှင်တံအဖြစ်ဖြင့်လည်း အသုံးချကြသည်။ ကြိမ်ဖြင့် တောင်း ပလုံး ခြင်း စသည်များကိုလည်း ရက်လုပ်ကြသည်။ (ခြင်းနှင့်တောင်းများ — ရှု။)

ကြိမ်ပင်သည် အုန်းပင်ထန်းပင်တို့နှင့်အတူ ထန်းမျိုးရင်းတွင်ပါဝင်၍၊ ဆူးနှင့်အဆစ်များ ပါရှိသောနွယ်ယောင်ပင်ယောင် တမျိုးဖြစ်သည်။ ကပေါင်းကြိမ်၊ ကြိမ်ခါး၊ ရေကြိမ်၊ ကြိမ်နီ၊ ထားဝယ်ကြိမ်၊ ယမထာကြိမ်၊ ဝါးပိုးကြိမ်၊ သိုင်းကြိမ်၊ စသည်ဖြင့် ကြိမ်အမျိုးမျိုးရှိ၍၊ အရွယ်မှာ လက်သန်းလုံးတဝက်ခန့်မှ လက်မခြေမအရွယ်တိုင်အောင် အမျိုးမျိုး ရှိကြသည်။ ကမ္ဘာတွင် ကြိမ်ပင်ပေါက်ရာ ဒေသများမှာ အရှေ့အိန္ဒိယကျွန်းစု၊ မလ္လာယုကျွန်းဆွယ်၊ တရုပ်၊ မြန်မာ၊ ယိုးဒယား၊အိန္ဒိယ၊ သီဟိုဠ်နိုင်ငံများ အပြင် ဩစတြေးလီးယားနှင့် အာဖရိကတိုက်တို့ဖြစ်ကြသည်။ မြန်မာနိုင်ငံ၌၊ ကွင်းပြင်နှင့် တောင်နိမ့်ပိုင်းရှိ စိုစွတ်သောသစ်တောများတွင်ကြိမ်ပင်ကိုအနှံ့ အပြားတွေ့နိုင်ပေသည်။

ကြိမ်ပင်သည် နဂိုအတိုင်း အစိမ်းရောင်ရှိ၍၊ ခြောက်လျှင် အဝါရောင်၊ အညိုရောင်ဖြစ်လာသည်။ အဆစ်များ၌အရွက်ပေါက်သည်။ ကြိမ်ကို အမျိုးမျိုးအသုံးချနိုင်ခြင်းမှာ၊ ပေါ့



ကြိမ်ဖြင့်ရက်လုပ်ထားသည့်မြန်မာအသုံးအဆောင်ပစ္စည်းများ

ပါးခြင်း၊ ရှည်လျားခြင်း၊ ခိုင်ခံ့ခြင်းနှင့် ကွေးညွတ်၍ရခြင်း စသောဂုဏ်သတ္တိများကြောင့်ပင်ဖြစ်သည်။

ကြိမ်သည် ဆိုခဲ့သည့်အတိုင်း ကြိုး၊ နှီး၊ နှင်တံစသည် အဖြစ်ဖြင့် အသုံးဝင်ရုံသာမက၊ ကုလားထိုင်ဖင်နှင့် နောက်မှီများ ထိုးရန်၊ လက်ကိုင်တုတ်နှင့်ထီးရိုးများ ပြုလုပ်ရန် အတွက်လည်း အသုံးကျသည်။ လက်ကိုင်တုတ်လုပ်ရသော ကြိမ်အမျိုးများအနက် မလ္လာယုကျွန်းဆွယ်မှထွက်သော ကြိမ်သည် ကမ္ဘာတွင်ထင်ရှား၍ မြန်မာနိုင်ငံ၌ မြိတ်ကြိမ်သည်ကျော်ကြား၏။ မြန်မာနိုင်ငံတွင် ရာသီအလိုက်ပေါ်သော ကြိမ်သီးကိုစားကြ၍၊ ကြိမ်စေ့ကိုစိပ်ပုတီးလုပ်ကြ၏။

ကမ္ဘာတွင်ကြိမ်ကိုအများဆုံး ဖြန့်ချိရောင်းချသော ဒေသများကား ဗတေးဗီးယားမြို့၊ ဆရားဝပ်နယ်၊ စင်္ကာပူ၊ ပီနန်မြို့နှင့် ကာလကတ္တားမြို့တို့ဖြစ်ကြသည်။

**ကွားလားကောင်။** ။ကွားလားကောင်သည် ဩစတြေးလီးယားတိုက်တွင် တွေ့ရသော သားပိုက်ကောင်တမျိုးဖြစ်၍ ဝက်ဝံနှင့်တူသည်။ ယင်း၌ ဝဖိုင့်သောကိုယ်လုံး၊ တိုတုတ်သောခြေထောက်နှင့် ထူထဲသောအမွေးနုများရှိ၍ အမြီးမရှိ။ နားရွက်တို့သည်ဝိုင်း၍ နှာခေါင်းမှာပြားနေ၏။

ကွားလားကောင်သည် သစ်ပင်ပေါ်၌နေ၍ အကိုင်းတခုမှ တခုသို့ ကူးသန်းသွားလာတတ်၏။ လေတိုက်၍ သစ်ကိုင်းများယိမ်းယိုင်နေသော်လည်း အောက်သို့မကျအောင် ခိုင်မာသောခြေသည်းတို့ဖြင့် ကုပ်တွယ်ထားနိုင်သည်။ မြေပေါ်ထက် သစ်ပင်ပေါ်မှာနေရခြင်းကိုပိုမိုနှစ်သက်သည်။



ကွားလားကောင်သည် သားပိုက်ကောင်မျိုး ဖြစ်သည့်အလျောက် သားငယ်ကို သုံးလသားတိုင်အောင် သားအိတ်တွင်ထည့်ကာ သယ်ယူသွားလာသည်။ သုံးလကျော်သောအခါ သားငယ်သည် သားအိတ်ထဲ၌မနေတော့ဘဲ မိခင်၏ ကျောပေါ်တွင် တွယ်ကပ်၍နေသည်။ အတန်ကြီးသည့်တိုင်အောင်ပင် ဤကဲ့သို့လိုက်ပါနေ၏။ ကွားလားမသည် သားငယ်ကို ကျောပေါ်၌သည်ပိုး၍ သစ်ပင်ထက်၌ တကိုင်းမှ တကိုင်းသို့ကူးလူးသွားလာနိုင်လေသည်။

ကွားလားကောင်သည် ယူကလစ်တပ်ပင်၏ အရွက်ကို



ယူကလစ်တပ်ရွက်ကိုကြိုက်သည့်ကွားလားကောင်

အလွန်ကြိုက်နှစ်သက်သဖြင့်၊ ပါးစောင်ထဲတွင် ထိုအရွက်ကို ငုံထားတတ်သည်။ ဆာလောင်သောအခါမှ စားလေ့ရှိ၏။ မြေကြီးပေါ်တွင် မနေလိုသော်လည်း မကြာခဏ သစ်ပင်ကို နောက်ပြန်ဆင်းလာတတ်၏။ ပြန်တက်သောအခါ ခုန်ဆွခုန်ဆွနှင့် တက်သွားတတ်သည်။ ရန်သူနှင့် ရုတ်တရက်တွေ့သောအခါ ထွက်ပြေးခြင်းမရှိ။ ကလေးငယ်ပမာ မိမိအား ရန်မူမည်မဟုတ်သကဲ့သို့ ကြည့်နေတတ်သည်။

**ကွီနိုင်။** ။ကွီနိုင်သည် စင်ကိုးနားပင်၏ အခေါက်ကို ချက်ယူသော ဆေးခါးဖြစ်သည်။ စင်ကိုးနားပင် ပေါက်ရောက်ရာမူလဒေသမှာ တောင်အမေရိကတိုက်ဖြစ်သည်။ ယခုအခါ အိန္ဒိယနိုင်ငံ၊ ဂျားဗားကျွန်း၊ အင်ဒိုနီးရှားနိုင်ငံတို့၌လည်း စင်ကိုးနားပင်များကိုစိုက်ပျိုးသည်။ (စင်ကိုးနားပင်—ရှု။)

ကွီနိုင်သည် ငှက်ဖျားရောဂါအတွက် ဆေးဖြစ်သည်။ ငှက်ဖျားရောဂါကို သက်သာစေနိုင်သော်လည်း ပျောက်ကင်းအောင်ကား မစွမ်းနိုင်ချေ။ (ငှက်ဖျားရောဂါ — ရှု။)
ဗိုလတ်တုပ်ကွေး ဖြစ်လျှင်သော်၎င်း၊ အကြောကိုက်ရောဂါဖြစ်လျှင်သော်၎င်း၊ ခေါင်းကိုက်လျှင်သော်၎င်း၊ ကွီနိုင်သောက်လျှင် သက်သာသည်။ ကွီနိုင်ကို ဆံပင်သန်စွမ်းအောင်လုပ်သောဆေးတွင် ထည့်သုံးကြသည်။ အစားအသောက် ပျက်သူများအတွက် ဆေးအဖြစ်ဖြင့်လည်း ဖော်စပ်၍ သုံးစွဲကြသည်။



မြောက်အမေရိကတွင်အလှပဆုံးဟုဆိုသောကွီဗက်မြို့၏ရှုခင်းသာတရပ်

ကွီနိုင်အများအပြားစားသောက်မိလျှင် နားအူတတ်သည်။ မူးဝေတတ်သည်။ ခေါင်းကိုက်တတ်သည်။ ထိုပြင်သွေးအားကိုလည်း ထိခိုက်ပျက်ပြားစေ၍ အသက်ပင် ဆုံးရှုံးရတတ်သည်။ အပူပိုင်းဒေသများတွင် ငှက်ဖျားရောဂါ စွဲကပ်သူပေါ်များရာ ထိုရောဂါ မပျံ့ပွားရန် ကာကွယ်ရာ၌ ကွီနိုင်သည် အဓိကဆေးကြီးဖြစ်သည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်း (ခရစ်နှစ် ၁၉၃၉–၄၅) ၌ အနောက်နိုင်ငံများရှိ အချို့ဒေသတို့တွင် ကွီနိုင်ကို လုံလောက်စွာမရရှိနိုင်ကြသဖြင့် ဓါတုဗေဒ ပညာရှင်များသည် ကွီနိုင်နှင့် သတ္တိချင်းတူသောဆေးကို ဓါတ်ပေါင်းစပ်၍ ဖော်ယူကြသည်။ ထိုဓါတ်စပ်ဆေးမှာ မက်ပါကရင်ဟိုက်ဒရိုကလိုရိုက်ဖြစ်၍ ယင်းသည် သဘာဝအလျောက် ရသော ကွီနိုင်ဆေးထက်ပင် တန်ခိုးထက်မြက်သည်ကို တွေ့ရသည်။

**ကွီဗက်ပြည်နယ်။** ။ကွီဗက်သည် ကနေဒါ ဒိုမီနီယန်နိုင်ငံတွင် ပါဝင်သောပြည်နယ်များအနက် အကြီးဆုံးဖြစ်၍ ကနေဒါနိုင်ငံ အရှေ့မြောက်ဖက်ပိုင်းတွင် တည်ရှိသည်။



စင်ကိုးနားခေါက်များကိုနေလှန်းနေသောဂျားဗားအမျိုးသမီးများ



ကွီနိုင်ဆေးလုံးများကိုစက်မှအသင့်ခံယူနေစဉ်

ကွိဗက်ပြည်နယ်ရှိစက်မှုလုပ်ငန်းကြီးများအားရေအားအသုံးပြု၍လည်စေသောအိုင်းမလိုင်းဓါတ်အားပေးစက်ရုံကြီး



အဆောက်အအုံများဖြင့်လှပတင့်တယ်သောကွီဗက်အောက်မြို့၏ရှုခင်းတရပ်

ကွီဗက်ပြည်နယ်၏ အနောက်ဖက်နှင့် အနောက်တောင်ဖက်တို့၌ အွန်တေးရီးယိုးပြည်နယ်နှင့် ဟဒ်ဆန်ပင်လယ်အော်၊ မြောက်ဖက်၌ ဟဒ်ဆန်ရေလက်ကြားနှင့် အန်ဂေဗာပင်လယ်အော်၊ အရှေ့ဖက်၌ လားဗရာဒေါနှင့် တောင်ဖက်၌ နယူးဗရန်ဇွစ်ပြည်နယ်၊ မိန်းပြည်နယ်တို့ဖြင့် နယ်နိမိတ်သတ်ထားလေသည်။ နယ်၏အကျယ်အဝန်းမှာ ကနေဒါတနိုင်ငံလုံး၏ ၆ ပုံတပုံခန့်ရှိ၍ စတုရန်းမိုင်ပေါင်း ၅၉၄,၈၆၀ ရှိလေသည်။

ကွီဗက်ပြည်နယ်၏ သမိုင်းသည် ၁၅၃၅ ခုနှစ်တွင် ဇက်ကာတီယေးဆိုသူ စိန်လောရင့် မြစ်ဝကို ဝင်ရောက်သည့်အချိန်မှ အစပြုခဲ့၏။ (ကာတီယေး, ဂျေ — ရှု။) ထိုနောက် ၁၆၀၈ ခုနှစ်တွင် ရှမ်ပလိန်ဆိုသူသည် ကွီဗက်မြို့ကို စတင်တည်ထောင်ခဲ့သည်။ (ရှမ်ပလိန် — ရှု။) ကွီဗက်ပြည်နယ်သည် နှစ်ပေါင်း ၁၅၀ ကျော်မျှ ပြင်သစ်လက်အောက်ခံအဖြစ် နေခဲ့၏။ သို့ရာတွင် ၁၇၅၆ ခုနှစ်၌ ခုနစ်နှစ်စစ်ပွဲ ဖြစ်ပွားသောအခါ အင်္ဂလိပ်တပ်များက ကွီဗက်မြို့ကို ပြင်သစ်တို့လက်မှ ၁၇၅၉ ခုနှစ်တွင် သိမ်းယူခဲ့လေသည်။

ကွီဗက်ပြည်နယ်တွင် နေထိုင်သူများသည် များသောအားဖြင့် ကနေဒါနိုင်ငံဖွား ပြင်သစ်အမျိုးသားများ ဖြစ်ကြသည်။ ခရစ်ယန်သာသနာ ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်ကြပြီးလျှင် ပြင်သစ်စကားကိုပြော၍ ပြင်သစ်ဓလေ့ထုံးစံများကိုလိုက်နာကြလေသည်။ ကွီဗက်ပြည်နယ်သည် ပြင်သစ်လက်အောက်တွင် နှစ်ပေါင်းများစွာ နေခဲ့ရသဖြင့် မည်သည့်နေရာ၌မဆို လွန်ခဲ့သည့်နှစ်ပေါင်း ၂၀၀ ကျော်လောက်က ပြင်သစ်လူမျိုးများ ဝတ်ဆင်လေ့ရှိခဲ့သော ကိုယ်ရုံများကို ဆင်မြန်းထားသည့် ဘုန်းကြီးများနှင့် မယ်သီလများကို တွေ့ရမည်ဖြစ်၏။ သာသနာရေးကျောင်းများတွင် ကျောင်းသားများသည် ယခုထက်တိုင် အပေါ်ဝတ်ရုံရှည်ကို အဖြူကွပ်၍ ခါးပတ်အစိမ်းပတ်ကာ ဝတ်ဆင်ကြလျက်ပင်ရှိကြသေးသည်။ မြို့ကြီးပြကြီးများ၌ ခေတ်မှီမော်တော်ယာဉ်အမျိုးမျိုးရှိသော်လည်း ရှေးခေတ်က အသုံးပြုလေ့ရှိသည့် လှပပေ့ါပါးသောရထားများနှင့် ဆောင်းရာသီသုံး စွတ်ဖါးများကိုလည်း ယခုတိုင် တွေ့ရှိနိုင်ပေသည်။ ကွီဗက်ပြည်နယ်ရှိ တောင်သူလယ်သမားတို့သည် သူတို့၏ဘိုးဘေးများ



ကွီဗက်မြို့ကိုစိန်လောရင့်မြစ်တွင်းမှရှုသော်ဤသို့ခန့်ညားစွာတွေ့မြင်နိုင်ပေသည်။

ကဲ့သို့ပင် ရှေးရိုးအဝတ်အစားများ ဆင်မြန်းကြသည်ကို ယခုထက်တိုင်တွေ့မြင်နိုင်ပေသေးသည်။

ကွီဗက်ပြည်နယ်မှာ ပြင်သစ်နိုင်ငံထက်ကြီး၍ ဟဒ်ဆန်ပင်လယ်အော်မှ အရှေ့ဖက်အတ္တလန္တိတ် သမုဒ္ဒရာအထိ ကျယ်ပြန့်လေသည်။ ၁၉၁၂ ခုနှစ်တွင် အန်ဂေဗာနယ်ကြီးကို သိမ်းပိုက်လိုက်သည့် အချိန်အခါမှစ၍ ကွီဗက်ပြည်နယ်၏ အကျယ်အဝန်းမှာ ပြင်သစ်၊ ဗဲလဂျီယမ်၊ စပိန်၊ နော်ဝေး၊ ဆွီဒင်နိုင်ငံများ စုစုပေါင်းအကျယ်အဝန်းနီးပါးမျှ ကျယ်ပြန့်လာခဲ့သည်။ ဤမျှကျယ်ပြန့်သော ပြည်နယ်ကြီး၌ အပူချိန်သည်တနေရာနှင့်တနေရာ များစွာကွာခြားလျက်ရှိ၏။ သို့ရာတွင် တနယ်လုံးကို ခြုံကြည့်မည်ဆိုသော် ရာသီဥတုမှာ ကျန်းမာရေးနှင့်ညီညွတ်၏။ ဆောင်းရာသီမှာ လွန်စွာချမ်းအေးလှ၍ တာရှည်သော်လည်း ခြောက်သွေ့သောလေ တိုက်ခတ်ခြင်းကြောင့်မပြင်းထန်လှချေ။

ကွီဗက်ပြည်နယ်တွင် စိုက်ပျိုးရေးလုပ်ငန်းသည် အဓိကလုပ်ငန်းကြီးဖြစ်၏။ စိမ်းစိုသာယာသော လယ်ကွင်းများသည် ပြည်နယ်၏ကျက်သရေကို ဆောင်နေဘိသကဲ့သို့ ရှိလေသည်။ မြေဩဇာထက်သန်သည့် ဒေသများတွင် ကနေဒီယန်တောင်သူလယ်သမားများသည် အာလူး၊ ဂျုံ၊ မုယောနှင့် ပြောင်းဖူးများကို ထွန်ယက်စိုက်ပျိုးကြသည်။ သစ်သော့သီး၊ ပန်းသီးစသော သစ်သီးများကိုလည်း စိုက်ပျိုးကြ၏။ အရှေ့ဖက်ကျသော ဒေသများတွင် နွားမွေးမြူခြင်းလုပ်ငန်းကို လုပ်ကိုင်ကြသဖြင့် ထိုဒေသများမှ ထောပတ်၊ ဒိန်ခဲစသည်တို့ အမြောက်အမြား ထွက်လေသည်။ တံငါလုပ်ငန်းများမှာလည်း အရေးပါသော လုပ်ငန်းဖြစ်ပေသည်။ စက္ကူလုပ်သော သစ်သားများမှာ ကနေဒါနိုင်ငံတွင် ကွီဗက်ပြည်နယ်မှ အများဆုံးထွက်သည်။

ကွီဗက်ပြည်နယ်ရှိ သစ်တောများ၏ ဧရိယာအကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၂၆၄,၁၅၀ ဖြစ်၍ အချို့သစ်တောများကို ဗြိတိသျှတို့က ပိုင်ဆိုင်ကြ၏။ ပေါက်ရောက်သောသစ်ပင် အမျိုးအစားများအနက် အချို့မှာ စပရုထင်းရှူး၊ ဆီဒါထင်းရှူး၊ ထင်းရှူးဖြူ၊ ထင်းရှူးနီ၊ အက်ရှပင်၊ မေပယ်ပင်၊ ချယ်ရီပင်၊ ဗေါလဆမ်ဖါးပင်နှင့် ပေါ်ပလာပင်တို့ဖြစ်လေသည်။ သို့ဖြစ်ရာ သစ်လုပ်ငန်းသည် ကွီဗက်ပြည်နယ်တွင် ဒုတိယအရေးအကြီးဆုံး လုပ်ငန်းဖြစ်လေသည်။ ဓါတ်သတ္တုတူးဖေါ်ရေး လုပ်ငန်းသည်လည်း တဖြည်းဖြည်းတိုးတက်လျက်ရှိ၏။ ဤပြည်နယ်မှထွက်သော သတ္တုအချို့မှာ သံ၊ ကြေးနီ၊ ဘော်၊ ခဲမဖြူ စသည်တို့ဖြစ်သည်။ တကမ္ဘာလုံးတွင် အသုံးပြုသော ကျောက်ဂွမ်းများ၏ သုံးပုံနှစ်ပုံမှာ ကွီဗက်ပြည်နယ်မှဖြစ်လေသည်။

ကွီဗက်ပြည်နယ်၏ အဓိကထွက်ကုန်များမှာ ကျောက်ဂွမ်း၊ ကြေးနီ၊ ရွှေ၊ ခဲမဖြူ၊ သွပ်၊ လချေး၊ ခဲပုပ်၊ ဂျုံ၊ မြင်းစားဂျုံ၊ မုယော၊ အာလူး၊ ပြောင်းဖူး၊ သစ်၊ စက္ကူ၊ ဆေးရွက်၊ ဆေးလိပ်စသည်တို့ဖြစ်၏။ ထိုကုန်များကို ကွီဗက်၊ မွန်းထရီး

အောနှင့် ဗားဒန်းမြို့တို့မှတင်ပို့ကြ၏။ ကွီဗက်ပြည်နယ်ရှိ မြို့ကြီးများမှာ ကွီဗက်မြို့၊ မွန်းထရီးအောမြို့နှင့် ဗားဒန်းမြို့များဖြစ်သည်။ မွန်းထရီးအောမြို့မှာ အကြီးဆုံးမြို့ဖြစ်၍ လူဦးရေ ၁,၀၂၁,၅၂၀ ယောက်ရှိသည်။ မြို့တော်မှာကား ကွီဗက်မြို့ဖြစ်၍ လူဦးရေ ၁၆၄,၀၁၆ ယောက်ရှိသည်။ စိန်လောရင့်မြစ်၏ လက်ဝဲဖက်ရှိ ဒိုင်းမွန်းအငူပေါ်တွင် တည်ထား၍၊ မြို့ရိုးကြီးများ၊ ရှေးဆန်သောအဆောက်အအုံများနှင့် ကျောက်လုံးခင်းသော လမ်းများရှိခြင်းကြောင့် လွန်ခဲ့သည့်နှစ် ၅၀၀ ကျော် ၆၀၀ ခန့်က ပြင်သစ်နိုင်ငံနှင့် တူလေသည်။ ကွီဗက်မြို့ကို အထက်မြို့၊ အောက်မြို့ဟူ၍ ၂ ပိုင်းခွဲထား၏။ အထက်မြို့တွင်ကား ခေတ်မှီသောအိမ်ယာတိုက်တာ အဆောက်အအုံများရှိလေသည်။ ထိုအဆောက်အအုံများတွင် အထင်ရှားဆုံးမှာ ပါလီမန်လွှတ်တော်နှင့် အစိုးရအဆောက်အအုံများပင်ဖြစ်၏။ မြောက်အမေရိကတိုက်တွင် အလှပဆုံးမြို့တမြို့ဖြစ်လေသည်။

**ကွေ့လူမျိုး။** ။ကွေ့လူမျိုးသည် လဟူဟုခေါ်သော ရှမ်းလူမျိုးစုတွင် ပါဝင်သည်။ လဟူတို့ကို ရှမ်းတို့ကမူ မုဆိုးလူမျိုးဟု ခေါ်ဝေါ်ကြသည်။ လဟူတို့သည် ယခုအခါ မိုင်းဆပ်၊ မိုင်းပန်ဒေသများနှင့် ကျိုင်းတုံမြို့အနီးတဝိုက်တွင် နေထိုင်ကြသည်။ သူတို့သည် ရှေးနှစ်ပေါင်းများစွာက သံလွင်မြစ်၏မြောက်ဖက် တရုပ်မြန်မာနယ်စပ်တွင် တည်ရှိသောမိုင်းလင်းဒေသမှ ပြောင်းရွှေ့လာခဲ့ကြသည်။

လဟူလူမျိုးစုထဲတွင် လဟူနနှင့် လဟူစီဟု အုပ်စုနှစ်မျိုးကွဲပြန်သေးသည်။ လဟူစီအုပ်စုကို ကွေ့လူမျိုးဟုခေါ်ကြသည်။ အုပ်စုတခုနှင့်တခု စကားအသုံးအနှုန်း ဓလေ့ထုံးစံများ အနည်းငယ်စီ ကွဲပြားခြားနား ကြသော်လည်း၊ အခြေခံအယူဝါဒ၊ အလေ့အကျင့်တို့မှာ တူညီကြသည်။ ကွေ့တို့သည် မိုင်းလင်းဒေသတွင် နေထိုင်ကြစဉ်က တရုပ်နှင့် မြန်မာနှစ်နိုင်ငံသို့ အခွန်ပဏ္ဏာများ ဆက်သရလေသည်။

ကွေ့တို့သည် တောင်ကုန်းမြင့်များပေါ်တွင် ရွာတည်လေ့ရှိသည်။ အိမ်များမှာ သစ်ဝါးများဖြင့်ဆောက်လုပ်သော မြေစိုက်အိမ်ငယ် ကလေးများ ဖြစ်ပေသည်။ တခါတရံ အိမ်ထောင်စု ၁၄ ခု စုပေါင်း၍ တအိမ်တည်း၌ နေထိုင်တတ်ကြသည်။ ရွာဝင်ဝများတွင် တိုင်နှစ်ခုစိုက်ထူ၍ သစ်သားကန့်လန့်များဖြင့် ပြုလုပ်ထားသောတံခါးများ တပ်ဆင်ထားလေ့ရှိသည်။ သို့ရာတွင် ထိုတံခါးများမှာ ကောရွာများတွင် ပြုလုပ်ထားလေ့ရှိသော တံခါးများလောက် မမြင့်ချေ။ သူတို့သည် တောင်ယာများတွင် ပဲ၊ ပြောင်း၊ ဆန်၊ စပါးနှင့် ဘိန်းများကိုစိုက်ပျိုးကြသည် ။

ကွေ့ရွာတိုင်းတွင် ကျောင်းဆောင်ငယ် တဆောင်စီနှင့် ဆင်းတုတော်တဆူစီ ကိုးကွယ်ထားလေ့ရှိသည်။ တခါတရံ ထိုကျောင်းဆောင်များတွင် တရုပ်စာများကို တွေ့ရတတ်သည်။ လပြည့်နေ့နှင့် လကွယ်နေ့များမှာ ကွေ့လူမျိုးတို့ ဘုရားရှိခိုးသော နေ့ထူးနေ့မြတ်များဖြစ်သည်။

ကွေ့တို့သည် တလင်၊ တမယားစံနစ်ကို လက်ခံလိုက်နာကြသည်။ ခင်ပွန်း သို့မဟုတ် ဇနီး သေဆုံးပြီးမှဖြစ်စေ၊ သို့မဟုတ် ကွာရှင်းပြီးမှဖြစ်စေ နောက်ထပ်အိမ်ထောင်ပြုကြသည်။ သတို့သားနှင့်သတို့သမီးတို့ မင်္ဂလာဆောင်သည့်အခါ ခန်းဝင်ပစ္စည်း တင်ရသောထုံးစံမရှိချေ။ လက်ထပ်ပွဲများတွင် ကြက်ဝက်များသတ်ဖြတ်ကာ အရက်သေစာများနှင့် ရပ်သူရွာသားများအား ညှော့ခံလေ့ရှိသည်။ သတို့သားနှင့်သတို့သမီး လက်ထပ်ပြီးသည့်နောက် မိန်းကလေး မိဖအိမ်တွင် ၄ နှစ်၊ ယောကျ်ားကလေးမိဖအိမ်တွင် ၃ နှစ် တလှည့်စီ နေထိုင်ကြရသည်။ ထိုနောက်မှ အိုးအိမ်ခွဲခြား၍ နေလိုကနေနိုင်သည်။ အကယ်၍ မိန်းကလေးသည် သူ၏မိဖအိမ်မှ ခွဲခွာလာခဲ့ပြီးမှ လင်ယောကျ်ား သေဆုံးခဲ့လျှင် မိဖအိမ်သို့မပြန်တော့ဘဲ မိမိနေထိုင်သည့် လက်ရှိအိမ်မှာပင် ဆက်လက်နေထိုင်လေ့ရှိသည်။ အိမ်ထောင်ပြုလိုကလည်း ထိုအိမ်မှပင် နောက်ထပ်အိမ်ထောင်ပြုလေသည်။ ကွေ့လူမျိုးများသေလျှင် သစ်သားခေါင်းများဖြင့်ထည့်၍ မြှုပ်နှံကြသည်။ ပစ္စည်းဥစ္စာကြွယ်ဝသူများသေလျှင် ရွှေငွေအဝတ်အစားများကို သေသူနှင့်အတူထည့်၍ မြှုပ်နှံလေ့ရှိသည်။

ကွေ့လူမျိုးများတွင် မိဖသေဆုံးက သားယောကျ်ားများသည် မိဖ၏ အမွေအနှစ်ကို အညီအမျှခွဲဝေယူကြသည်။ သမီးမိန်းမများကား အမွေကိုလုံးဝမရရှိကြချေ။ မြန်မာနိုင်ငံအတွင်း မှီတင်းနေထိုင်ကြသော တိုင်းရင်းသားများအထဲတွင် ဤထုံးစံမျိုး မရှိသလောက်ပင်ဖြစ်သဖြင့် ကွေ့တို့သည် ဤဓလေ့ထုံးစံများကို တရုပ်လူမျိုးများထံမှ ရရှိဟန်တူသည်။ ကွေ့တို့သည် နတ်များကိုလည်း ယုံကြည်ကိုးကွယ်ကြသည်။ တနှစ်လျှင် ၃ ကြိမ်မျှ ကြက်ဝက်များကို သတ်ဖြတ်၍ နတ်ပူဇော်လေ့ရှိသည်။ ထိုသုံးကြိမ်အနက် တကြိမ်မှာ အကြီးအကျယ်ဆုံးဖြစ်သည်။ ထိုအခါမျိုးတွင် ရွာတွင်းသို့ အပြင်လူများအား ဝင်ခွင့်မပြုချေ။

ကွေ့တို့အသုံးပြုလေ့ရှိသော တူရိယာတမျိုးမှာ ကန်းဆိုသောပြွေတမျိုးပင်ဖြစ်သည်။ ကန်း တူရိယာမှာ ဗူးသီးအခြောက်ကို တူရိယာအိမ်အဖြစ်ထားလျက် ၁ ပေမှ ၂ ပေခွဲထိ ရှည်သော ဝါးပြွေ ၄ ခုမှ ၁၄ ခုအထိ တပ်ဆင်ထားသည်။ သူတို့သည် ကန်းပြွေကြီးကို ဈေးနေ့များ၌ ဈေးသွားဈေးလာစဉ် တီးမှုတ်လေ့ ရှိကြသည်။ တခါတရံ ရှေးအစဉ်အလာကပွဲများကျင်းပ၍ တီးမှုတ်သီဆိုကြသည်။ ခြေတဖက်ကို မြေတွင်ထောက်၍ ကရသောကနည်းမျိုးကို ကျွမ်းကျင်ကြသည်။ ပြွေသမားများမှာ များသောအားဖြင့် အကကောင်းသူများဖြစ်ကြသည်။ သူတို့သည် တရုပ်

လူမျိုးများကို တုပဝတ်ဆင်လေ့ရှိကြသည်။ နက်ပြာရောင် အင်္ကျီဗောင်းဘီများကို အများအပြားဝတ်ဆင်ကြသည်။

ရွှေဘိုမှ အလောင်းဘုရားဦးအောင်ဇေယျသည် တတိယ မြန်မာနိုင်ငံတော်ကြီး ပြန်လည်ထူထောင်မည် ပြုသည့် အချိန်တွင် ဂုဏ္ဏအိန်ဆိုသူဦးစီး၍ ကွေ့တို့လည်း အင်အား ဖြည့်တင်းကာ အာဏာသိမ်းရန် ကြိုးစားကြသည်။ ကွေ့ ဂုဏ္ဏအိန်က လူပေါင်း ၂၀ စေလွှတ်၍ ဦးအောင်ဇေယျကိုပင် မိမိ၏ သစ္စာခံရန် အကြောင်းကြားခဲ့သည်။ သို့ရာတွင် ဦးအောင်ဇေယျက သစ္စာမခံဘဲ ကွေ့တို့ကို တိုက်ခိုက်ချေမှုန်း လိုက်သည်။ အလောင်းဘုရား နတ်ရွာစံပြီးနောက် နောင်တော်ကြီးလက်ထက်တွင် ကွေ့တို့က တဖန်ခြားနား ပုန်ကန်ကြပြန်ရာ မြန်မာ့တပ်မတော်များကို စေလွှတ်၍ နှိမ်နင်းရပြန်သည်။ ထိုအချိန်မှစ၍ ကွေ့တို့၏အကြောင်းကို မြန်မာနိုင်ငံသမိုင်းတွင် မတွေ့ရတော့ချေ။

**ကွိုက်ပစ်ကစားခြင်း**။ ။ရှေးဂရိလူမျိုးများထံမှ ယခု ခေတ်လူများ အမွေဆက်ခံရလိုက်သည့် ကစားနည်းအမျိုး မျိုးတို့အနက်၊ ကွိုက်ပစ်ကစားနည်းသည် တမျိုးအပါအဝင် ဖြစ်သည်။ ကွိုက်ပစ်ကစားနည်းမှာ လက်ချိန်လက်ဆ ကောင်းရန် အထူးလိုအပ်သော သံကွင်းပစ် ကစားခြင်းပင် ဖြစ်လေသည်။

ကွိုက်ပစ်ကစားရာတွင် အသုံးပြုသောသံကွင်းမှာ အချင်း ၈ လက်မရှိ၍ အလေးချိန် ၇ ပေါင်မှ ၉ ပေါင်အထိရှိပြီးလျှင် ဘေးအနားပတ်တလျှောက်ကို ထက်အောင်ပြုလုပ်ထား လျက်၊ တဖက်တွင်ခုံး၍ တဖက်မှာပြားနေလေသည်။ ထိုသံ ကွင်းကို ကစားကွင်း တဖက်တချက်တွင် စိုက်ထားသော သံချွန်ငုတ် တခုမှတခုသို့ စွပ်မိစေရန် သို့မဟုတ် အနီးဆုံး ရောက်စေရန် လှမ်း၍ပစ်ရသည်။

သံချွန်ငုတ် တခုနှင့်တခုသည် ၁၈ ကိုက်မျှကွာ၏။ ထို သံချွန်ငုတ်တို့သည် မြေပြင်ပေါ်တွင် တလက်မခန့်မျှသာ ပေါ်ထွက်နေကြပြီးလျှင်၊ ယင်းတို့၏ဘေးပတ်လည်၌ မြေ ပျော့ကွက် အဝိုင်း တခုစီ ရှိလေသည်။ ကစားသူသည် သံချွန်ငုတ်တခုမှ အခြားသံချွန်ငုတ်တခုသို့ သံကွင်းကို လှမ်းပစ်ရာတွင် သံကွင်းသည် သံချွန်ငုတ်ကို ခွင်ကျစွပ်ကာ၊ မြေပျော့၌စိုက်ဝင်ခဲ့လျှင် ၂ မှတ်ရ၏။ သံကွင်းသည် သံချွန် ငုတ်ကိုမစွပ်မိသော်လည်း၊ ယှဉ်ပြိုင်ကစားသူ၏သံကွင်းထက် သံချွန်ငုတ်နှင့် ပို၍နီးကပ်ခဲ့လျှင်၊ ၁ မှတ်ရလေသည်။ ပစ်လိုက်သောသံကွင်းသည် ပြားသောဖက်နှင့် ကျခဲ့လျှင် ကား၊စည်းကမ်းမကျသဖြင့် တမှတ်မျှမရတော့ချေ။

ကွိုက်ပစ်ကစားနည်းကို တမျိုးပြုပြင်လျက်၊ ပင်လယ်ကူး သင်္ဘောများ ကုန်းပတ်ပေါ်တွင် ကစားလေ့ ရှိကြသေး၏။ ထိုကစားနည်းမျိုးကား ဒက်ကွိုက်ကစားခြင်း ဖြစ်ပြီးလျှင်၊ သံကွင်းအစား ရော်ဗာကွင်းကိုရင်း၊ တလက်မ သံချွန်ငုတ် အစား၊ ၁၈ လက်မ သစ်သားငုတ်တိုင်ကိုရင်း၊ အသုံးပြု လျက်၊ ၁၅ ပေအကွာမှ လှမ်း၍ပစ်သည်။ အချို့တို့သည် သစ်သားငုတ်တိုင်အစား၊ အမှတ်စဉ်လိုက် တပ်ထားသော စက်ဝိုင်းသုံးထပ်ကို ပစ်ကွင်းအဖြစ်ဖြင့် အသုံးပြုကြ၏။

ကွိုက်ပစ်ကစားနည်းကို ပြုပြင်ထား၍ ခေတ်စားလာ သော အခြားကစားနည်းတခုမှာ၊ တင်နီကွိုက်ကစားခြင်း ပင်ဖြစ်၏။ တင်နီကွိုက်ကစားရာတွင် လိုအပ်သောအရာတို့ မှာ ကော်ဖတ် (ရော်ဗာ) ကွင်းတခုနှင့် ပိုက်တန်းတခု ပါဝင်ရလေသည်။

**ကွင်းစလန်ပြည်နယ်**။ ။ဤပြည်နယ်သည် ဩစတြေး လီးယားတိုက်တွင် အရှေ့မြောက်ဖက်ပိုင်း၌ရှိ၍ ဒုတိယ အကြီးဆုံးပြည်နယ်ဖြစ်သည်။ သို့သော်ပြည်နယ်၏ အကျယ် အဝန်းနှင့်မမျှအောင် လူဦးရေနည်းပါးလှ၏။ ထိုပြည်နယ် ၏မြို့တော်မှာ ဗရစ္စဗိန်းမြို့ ဖြစ်သည်။

ထိုပြည်နယ်သည် စတုရန်းမိုင်ပေါင်း ၆၇၀,၅၀၀ မျှကျယ် ဝန်း၍ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၁,၂၁၈,၆၀၆ ယောက်ရှိလေသည်။ အရှေ့ဖက်ပိုင်းမှာတောင် ထူထပ်၍၊ ဂရိတ်ဒဗိုက်ဒင်း တောင်တန်းကြီးသည် တောင်



ပင်လယ်ကူးသင်္ဘောပေါ်တွင်ဒက်ကွိုက်ပစ်ကစားကြပုံ



**ကွင်းစလန်ပြည်နယ်မှထင်ရှားကျော်စောသောအမျိုးသားဥယျာဉ်ကြီး**

နှင့်မြောက် ဖြတ်သန်းလျက်တည်ရှိ၏။ ကွင်းစလန်ပြည်နယ် အလယ်ပိုင်းနှင့် အနောက်ပိုင်းတို့တွင် ကျယ်ပြန့်လှသော စားကျက်ကွင်းများရှိသည်။ ထိုဒေသများမှာ ခြောက်သွေ့နေသော်လည်း အဝီစိတွင်းများ အောင်မြင်စွာတူးဖော်နိုင်သဖြင့် ရေလုံလောက်စွာရရှိလေသည်။ ကမ်းခြေတလျှောက်တွင် သစ်တောကြီးများ ထူထပ်စွာပေါက်ရောက်သည်။ အထူးသဖြင့် ပင်လယ်ကမ်းစပ်တွင် ဒီချောင်းတောများ ရှိလေသည်။

ဤပြည်နယ်ရှိ မြစ်များအားလုံးလိုလိုပင် ဂရိတ်ဒိုက်ဒင်းတောင်တန်းမှ မြစ်ဖျားခံ၍၊ အချို့သည်တောင်ဖက်သို့ရင်း၊ အချို့သည်အနောက်ဖက်သို့ရင်း၊ စီးဆင်းကြ၏။ အချို့မြစ်များကား အနောက်တောင်ဖက်သို့စီးဆင်းကာ ဩစတြေးလီးယားတိုက် အလယ်ပိုင်းရှိ အဲယားအိုင်တွင်းသို့ စီးဝင်၏။

ကွင်းစလန်ပြည်နယ်တပိုင်းမှာ အပူပိုင်းတွင်ကျရောက်၏။ သို့သော် အခြားအပူပိုင်းဒေသများနှင့် မတူချေ။ အခြားအပူပိုင်းဒေသများကဲ့သို့ စိုစွတ်ထိုင်းမှိုင်းသော သစ်တောများနှင့် စိမ့်မြေညွန်ပျောင်းများမရှိချေ။ ထို့ကြောင့် အပူပိုင်းတွင် ကျရောက်လေ့ရှိသော ရောဂါမျိုးများနှင့် ငှက်ဖျားရောဂါမှကင်း၏။ ကွင်းစလန်ပြည်နယ်တွင် မည်သည့်နေရာမှ အပူချိန် ၆၅ ဒီဂရီ ဖါရင်ဟိုက်ထက် မကျော်ပေ။ အရှေ့ဖက်ကမ်းခြေတလျှောက်တွင် မိုးသည်းထန်စွာရွာသွန်းလေသည်။ အထူးသဖြင့် အရှေ့ဖက်ကမ်းခြေ မြောက်ပိုင်းတွင် မိုးရေချိန်မှာ တနှစ်လျှင်ပျမ်းမျှ လက်မ ၁၆၀ ဖြစ်၏။ အနောက်ဖက်များတွင်ကား မိုးပါးလွန်းလှရာ တနှစ်လျှင် ၆ လက်မခန့်သာ ရွာသွန်းလေသည်။ တောင်ခြေများတွင် သစ်တောများ ထူထပ်စွာပေါက်ရောက်၍ သစ်မှာ ပြည်နယ်၏အရေးပါအရာရောက်ဆုံး ထုတ်ကုန်တရပ်ဖြစ်သည်။ တောင်များမှ ရွှေ၊ ငွေ၊ သံဖြူ၊ ကြေးနီ၊ ကြွပ်စသည့် အဖိုးတန်သတ္တုများထွက်၏။ ကျောက်မီးသွေးမှာ ကွင်းစလန်ပြည်နယ်အရှေ့ပိုင်းမှထွက်လေသည်။

ကွင်းစလန်သည် လယ်ယာလုပ်ငန်းထွန်းကားသော ပြည်နယ်ဖြစ်၏။ အရေးအပါဆုံးသော လယ်ယာလုပ်ငန်းထွက်ကုန်များမှာ အစဉ်အလိုက်အားဖြင့် ကြံ၊ ဂျုံ၊ ပြောင်းဖူးတို့ဖြစ်၏။ ထို့ပြင် ဝါ၊ ဆေး၊ မြေပဲနှင့် အပူပိုင်းဒေသထွက်သစ်သီးအမျိုးမျိုးလည်း စိုက်ပျိုးလုပ်ကိုင်ကြသည်။ သိုးမွေးမြူခြင်းမှာ ကွင်းစလန်ပြည်နယ်၏ အဓိကလုပ်ငန်းကြီးတရပ်ဖြစ်၏။ အနောက်ဖက်ရှိ ခြောက်သွေ့သောလွင်ပြင်များတွင်၊ ဩစတြေးလီးယားတိုက်ရှိ နွားကောင်ရေ စုစုပေါင်း၏ ထက်ဝက်ခန့်ကို မွေးမြူကြလေသည်။ ကြံစိုက်ပျိုးလုပ်ကိုင်၍ အထူးဖြစ်ထွန်းသည့်အလျောက် ခရိုင်တိုင်း၌




ကွင်းစလန်ပြည်နယ်၏မြို့တော်ဗရင်ဇဗိန်းမြို့

လိုလိုပင် သကြားစက်များရှိလေရာ ယင်းတို့ကို သမဝါယမ စံနစ်ဖြင့် လယ်သမားများက တည်ထောင် လုပ်ကိုင်ကြလေသည်။ ကွင်းစလန်ပြည်နယ်၏ ထွက်ကုန်များမှာ သိုးမွေး၊ အမဲသား၊ သကြားနှင့် သားရေများဖြစ်လေသည်။ ကွင်းစလန်ပြည်နယ်တွင် မူလတန်းပညာ မသင်မနေရဟု အက်ဥပဒေ သတ်မှတ်ပြဋ္ဌာန်း ထားသည့်ပြင် အခလွတ်ပညာ သင်ကြားခွင့်ရသဖြင့် လူတိုင်းလိုလိုပင် စာရေးတတ် ဖတ်တတ်သည်။ ယောကျ်ားကလေးကျောင်း မိန်းကလေးကျောင်းများဟူ၍ အထက်တန်းကျောင်းများ သီးသန့်ဖွင့်လှစ် ထားရှိ၏။ ကွင်းစလန် တက္ကသိုလ်ကို ၁၉၁၁ ခုနှစ်မှ စတင်၍ ဗရစ္စဗိန်းမြို့တွင် ဖွင့်လှစ်ထားလေသည်။

ထိုပြည်နယ်အနီးသို့ ပဌမဆုံးရောက်ရှိခဲ့သော ဥရောပ တိုက်သားများမှာ ပေါ်တူဂီလူမျိုးတို့ဖြစ်၍၊ ၁၆၀၆ ခုနှစ်က ကွင်းစလန်ကမ်းခြေသို့ရောက်ရှိခဲ့သည်။ ၁၇၇၀ ပြည့်နှစ်တွင် ကက်ပတိန်ကွတ်သည် ထိုဒေသတိုက်သို့ ရောက်ရှိလာ၍၊ အင်္ဂလိပ်ပိုင်နယ်မြေအဖြစ် သိမ်းယူခဲ့ပြီးလျှင်၊ နယူးဆောက်သဝေးဟု အမည်ပေးခဲ့သည်။ (ကွတ်,ကက်ပတိန် — ရှု။) ၁၈၂၆ ခုနှစ်၌ မောတင်ပင်လယ်အော် ကမ်းခြေသို့ ဗြိတိသျှအကျဉ်းသမားတို့ လာရောက်နေထိုင်ကြရာမှ ထိုသူတို့ အခြေစိုက်နေထိုင်ရန်ဒေသအဖြစ် ၁၈၄၂ ခုနှစ်တွင် ဖွင့်လှစ်ပေးခဲ့သည်။ ထိုပြည်နယ်သည် ၁၈၅၉ ခုနှစ်တွင်မှ သီးခြားပြည်နယ်တခုဖြစ်လာသည်။ ၁၈၆၇ ခုနှစ်တွင် ထိုပြည်နယ်၌ ရွှေကိုတွေ့ရှိလေရာ၊ လူဦးရေမှာလည်း တိုးတက်ခဲ့၏။ ၁၉၀၀ ခုနှစ်တွင် ဩစတြေးလီးယား မနသဟာယ နိုင်ငံစုထဲတွင် ပါဝင်သော ပြည်နယ်တခုဖြစ်လာသည်။ ထိုပြည်နယ်ကို ဗြိတိသျှဘုရင်မင်းမြတ်က ခန့်ထားသော ဘုရင်ခံကအုပ်ချုပ်၏။ သူ့ကို အမှုဆောင်ဝန်ကြီး ၁၀ ဦးကကူညီသည်။ လွှတ်တော်တရပ်သာပါဝင်သော ပြည်နယ်ပါလီမန်သို့ တက်ရောက်ရသော အမတ်ပေါင်းမှာ ၆၂ ယောက်ဖြစ်သည်။ ဩစတြေးလီးယား ဗဟိုပါလီမန်သို့ ကွင်းစလန်ပြည်နယ်မှ အောက်လွှတ်တော်အမတ် ၁၀ ဦးနှင့် အထက်လွှတ်တော်အမတ် ၆ ဦးစေလွှတ်နိုင်လေသည်။ ကွင်းစလန်ပြည်နယ်တွင် ယောကျ်ားမိန်းမမရွေး မဲပေးနိုင်၏။

ထိုပြည်နယ်၏ အံ့ချီးဖွယ်ရာတခုမှာ ဂရိတ်ဗဲရီးယားရီခေါ် သန္တာကျောက်တန်းကြီးဖြစ်၏။ ထိုကျောက်တန်းကြီးမှာ ရေထဲမှ တောင်တန်းကြီးတခု ထိုးထွက်နေသကဲ့သို့ တည်ရှိသည်။ ကွင်းစလန်ပြည်နယ်မှာ သဘာဝပစ္စည်းပေါများကြွယ်ဝသော်လည်း၊ အလုပ်သမားနည်းပါးသဖြင့် လုပ်ငန်းများတိုးတက်သင့်သလောက်မတိုးတက်ခဲ့ချေ။

ဩစတြေးလီးယားတိုက်သို့ ဦးစွာလာရောက် အခြေစိုက်သူများက အပူပိုင်းကျရောက်သောဒေသများသည် သူတို့ကျန်းမာရေးနှင့် သင့်တော်မည်ဟုမထင်ကြချေ။ ထိုကြောင့် ပဌမ၌ ကွင်းစလန်ပြည်နယ်သည် လူနေနည်းပါးလေသည်။ သို့သော် နောင်အခါ၌ ကျန်းမာရေးကို မထိခိုက်ကြောင်း သိလာသောအခါ ပြည်နယ်၏လူဦးရေမှာ တဖြည်းဖြည်း တိုးတက်လာလေသည်။•

**ကွစ်ဇလင်း, ဗွီ၊ အေ** (ခရစ် ၁၈၈၇–၁၉၄၅)။ ဗစ်ဒကွန် အေဗရာဟမ် ကွစ်ဇလင်းကား ဒုတိယကမ္ဘာစစ်ကြီးအတွင်း နိုင်ငံနှင့်လူမျိုးကို သစ္စာဖေါက်၍၊ နာဇီဂျာမန်တို့အား အလုပ်အကျွေးပြုခဲ့သော နော်ဝေးနိုင်ငံရေးသမား တယောက်ဖြစ်သည်။ ၁၈၈၇ ခုနှစ် ဇူလိုင်လ ၁၈ ရက်နေ့တွင် ဖီရက်စဒယ်အရပ်၌ ဖွားမြင်ခဲ့သည်။ နော်ဝေးစစ်တက္ကသိုလ်တွင် စစ်ပညာသင်ကြားခဲ့ရာ ၁၉၁၁ ခုနှစ်တွင် အောင်မြင်ခဲ့သည်။ ၁၉၁၈၊ ၁၉၊ ခုနှစ်တွင် ရုရှားနိုင်ငံ၌၎င်း၊ ၁၉၁၉၊ ၂၁ ခုနှစ်တွင် ဖင်လန်နိုင်ငံ၌၎င်း၊ စစ်ဖက်ဆိုင်ရာ တွဲဖက်သံအရာရှိအဖြစ်ဖြင့် အမှုထမ်းရွက်ခဲ့၏။ ၁၉၂၉ ခုနှစ်တွင် နော်ဝေးနိုင်ငံသို့ ပြန်လာခဲ့ပြီးနောက် နိုင်ငံရေးလောကထဲသို့ ဝင်ရောက်ခဲ့သည်။ ကွစ်ဇလင်းမှာ ကွန်မြူနစ်ဆန့်ကျင်ရေး ခေါင်းဆောင်ဖြစ်သည်။ သူသည် ၁၉၃၁ ခုနှစ်တွင် ကာကွယ်ရေးဝန်ကြီးအဖြစ် ထမ်းရွက်ပြီးနောက်၊ နော်ဝေးအမျိုးသား ညီညွတ်ရေးအဖွဲ့ကို တည်ထောင်၍ ခေါင်းဆောင်ခဲ့သည်။ ထိုအဖွဲ့ကား ဖက်ဆစ်ပါတီပင်ဖြစ်သည်။ ၁၉၄၀ ပြည့်နှစ် ဧပြီလ ၉ ရက်နေ့တွင် ဖက်ဆစ်ဂျာမန်တို့သည် နော်ဝေးနိုင်ငံအား ရုတ်တရက်ကျူးကျော် တိုက်ခိုက်သောအခါ ကွစ်ဇလင်းသည် ဂျာမန်တို့ဖက်မှ ကူညီတိုက်ခိုက်ခဲ့သည်။ နော်ဝေးကို ဂျာမန်တို့ သိမ်းပိုက်ပြီးသောအခါ၊ ကွစ်ဇလင်းကိုဝန်ကြီးချုပ်အဖြစ်ခန့်အပ်သည်။ ၁၉၄၂ ခုနှစ်တွင် ကွစ်ဇလင်းသည် နော်ဝေးနိုင်ငံ၏ သမတအဖြစ် ခန့်အပ်ခြင်းခံရပြန်သည်။ ထိုမှစ၍ နော်ဝေးနိုင်ငံမှာ ဖက်ဆစ်နာဇီတို့၏ဩဇာခံ ကွစ်ဇလင်းရုပ်သေးအစိုးရ၏ ခြယ်လှယ်ညှဉ်းပန်းခြင်းကိုခံခဲ့ရလေသည်။

သို့ရာတွင် ကွစ်ဇလင်းအစိုးရသက်တမ်းမှာ ကြာရှည်စွာမတည်မြဲချေ။ ၁၉၄၅ ခုနှစ်တွင် ဂျာမန်တို့စစ်ရေးရှုံးနိမ့်၍ ကွစ်ဇလင်းသည် နော်ဝေးတပ်မတော်သို့ လက်နက်ချဝင်ရောက်ရလေသည်။ သူ့အား အော့စလိုမြို့တော် စစ်တရားခုံရုံးတွင် စစ်ဆေးပြီးနောက် သစ္စာဖေါက်အဖြစ်ဖြင့် ၁၉၄၅ ခုနှစ် အောက်တိုဘာလ ၂၄ ရက်နေ့တွင် ကွပ်မျက်လိုက်လေသည်။ ယင်းသို့အားဖြင့် နိုင်ငံနှင့်အမျိုးသားအား သစ္စာဖေါက်ခဲ့သော ကွစ်ဇလင်းသည် သစ္စာဖေါက်တို့၏ သွားရာလမ်းသို့ လိုက်ပါသွားရလေသည်။ ထိုမျှမကသေး၊ စစ်ပြီးခေတ်တွင် ကွစ်ဇလင်းဟူသော သူ၏အမည်သည်လည်း သစ္စာဖေါက်ဟူသော ဝေါဟာရနှင့် ဒွန်တွဲလျက်ကျန်ရစ်ခဲ့ပေသည်။

# ဗြိတိန်အတွက်ဩစတြေးလီးယားတိုက်တွင်နယ်သစ်ရှာပေးသူ

**ကက်ပတိန်ကွတ်ကို ထင်ရှားသောဗြိတိသျှရေကြောင်းခရီးသည်ဟုလူသိများလေသည်။ သို့သော် ထိုသို့ဖြစ်လာနိုင်ရန် မည်မျှကြိုးစားလုပ်ကိုင်လာရကြောင်းကိုမူ သိကြမည်မဟုတ်ပေ။ သာမန်သင်္ဘောသားဘဝမှ လေ့လာသင်ယူမှု၊ စူးစမ်းရှာဖွေမှု၊အမြော်အမြင်ရှိတတ်မှုတို့ကို လက်ကိုင်ပြုကာဆောင်ရွက်လာခဲ့ခြင်းကြောင့် ဗြိတိသျှသမိုင်းတွင် ဥဒါန်းတွင်ရစ်သူ ဖြစ်လာရကြောင်းများကို အောက်တွင်ဖော်ပြထားပေသည်။**

**ကွတ်၊ ကက်ပတိန်** (ခရစ် ၁၇၂၈–၁၇၇၉)။ ကက်ပတိန်ဂျိမ်းကွတ်သည် နာမည်ထင်ရှားသော ဗြိတိသျှရေကြောင်းခရီးသည် တဦးဖြစ်သည်။ ယော့ရှိုင်ယာခရိုင်၌ ၁၇၂၈ ခုနှစ် အောက်တိုဘာလ ၂၇ ရက်နေ့တွင် ဆင်းရဲသော မိဖများမှ ဖွားမြင်ခဲ့သည်။ ငယ်စဉ်က ပညာလုံလောက်စွာမသင်ခဲ့ရဘဲ ဆယ့်သုံးနှစ် အရွယ်ကပင် ကမ်းရိုးတန်းမြို့ကလေးတမြို့ရှိ ဆိုင်တဆိုင်တွင် အကူဝင်၍ လုပ်ခဲ့ရ၏။ ပင်လယ်နှင့် နီးနီးကပ်ကပ် နေရသောအခါ ကွတ်သည် သင်္ဘောသားအလုပ်ကို သဘောကျလာ၍ သင်္ဘောသားအဖြစ်လုပ်ကိုင်ခဲ့ရာ အသက် ၂၇ နှစ်အရွယ်တွင် သင်္ဘောငယ်တစင်း၏ မာလိန်ဖြစ်လာခဲ့သည်။ ၁၇၅၅ ခုနှစ်တွင် ဘုရင့်ရေတပ်မတော်၌ ဝင်ရောက်အမှုထမ်းခဲ့၏။

လေးနှစ်မျှကြာသောအခါ ကွတ်၏ အရည်အချင်းကို သဘောကျကြသဖြင့် ရာထူးတိုးမြှင့် ပေးလေသည်။ ထိုနောက် မြောက်အမေရိကတိုက်ရှိ ကွိဗက်မြို့ကို တိုက်ခိုက်မည့် ဗိုလ်ချုပ်မှူးဝုအား ကူညီရန်စစ်ကူပို့သော မာကျူရီအမည်ရှိသင်္ဘောတွင် ရေကြောင်းပြအဖြစ် လိုက်ပါသွားခဲ့လေသည်။ စစ်ဆင်ရေးအတွက် လိုအပ်သည့်အတိုင်း ကွတ်သည် စိန်လောရင့်မြစ်၏ အတိမ်အနက်ကို ဘေးအန္တရာယ်များအကြားတွင် အသက်ကိုစွန့်၍ တိကျမှန်ကန်စွာ စူးစမ်းတိုင်းထွာပြီးလျှင် မြေပုံဆွဲပေးခဲ့သည်။ သို့ဖြစ်၍ ကွိဗက်မြို့ကိုသိမ်းပိုက်နိုင်ခဲ့သည်မှာ တစိတ်တဒေသအားဖြင့် သူ၏ကြိုးပမ်းချက်ကြောင့် ဖြစ်သည်ဟု ဆိုရပေမည်။ ထို့ပြင် သူသည် နျူးဖေါင်းလန်းကျွန်းနှင့် လာဗရာဒေါကမ်းရိုးတန်းတဝိုက်ကို စူးစမ်းတိုင်းထွာ၍ မြေပုံများရေးဆွဲပေးခဲ့၏။ ဤသို့ဖြင့် ကွတ်သည် တိကျသေချာစွာ စူးစမ်းတိုင်းထွာတတ်သော မြေပုံဆွဲကောင်းအဖြစ် ကျော်ကြားလာလေသည်။ မကြာမီ ဗြိတိသျှတော်ဝင်အသင်းကြီးက ကွတ်အား ဂရုပြုလာလေသည်။ ထိုအတောအတွင်း ကွတ်သည်ပညာဗဟုသုတ ပြည့်စုံသူတဦး ဖြစ်မြောက်လာရန်အတွက် ရနိုင်သမျှသော စာအုပ်စာတမ်းများကို လေ့လာမှတ်သားဆည်းပူးခဲ့လေသည်။

၁၇၆၈ ခုနှစ်တွင် ဗြိတိသျှတော်ဝင်အသင်းကြီး၏ တိုက်တွန်းချက်အရ သောကြာဂြိုဟ် ဖြတ်ကျော်မည့်လမ်းကို သေချာစွာစောင့်ကြည့်မှတ်သားရန် ကွတ်အားစေလွှတ်၏။ ထို့ပြင် ပစိဖိတ်သမုဒ္ဒရာတောင်ပိုင်း၌ ရှိသည်ဆိုသော တိုက်သစ်ကို ရှာဖွေရန်နှင့် ဤသို့စူးစမ်းရှာဖွေ တွေ့ရှိသမျှကို ဗြိတိန်နိုင်ငံအတွက် သိမ်းယူရန်တာဝန်များကို ပေးအပ်လိုက်သည်။ သို့ဖြင့် သိပ္ပံကဝိများပါဝင်သောအဖွဲ့ကို ကွတ်သည် ခေါင်းဆောင်၍ ခရီးထွက်ခဲ့လေသည်။ သောကြာဂြိုဟ်ကျော်ဖြတ်မည်ကို မြင်နိုင်မည့်ဒေသမှာ ယခု တဟီးတီး ဟုခေါ်သောကျွန်းဖြစ်သည်။ ထိုကျွန်းသို့ ချောမောစွာရောက်ခဲ့ပြီးနောက်၊ ၁၇၆၉ ခုနှစ် ဇွန်လ ၃ ရက်နေ့တွင် သောကြာဂြိုဟ်ဖြတ်ကျော်သည်ကို ကောင်းစွာတွေ့မြင်ကြရသည်။ ထိုနောက် တောင်ပိုင်းတိုက်သစ်ကိုရှာဖွေရန် ထွက်ခဲ့ရာတွင်၊ တောင်လတ္တီတွဒ် ၄၀ အထိ ရောက်ရှိပြီးမှ နယူးဇီလန်ကျွန်းများရှိရာ အနောက်ဖက်သို့ ခရီးလှည့်ခဲ့သည်။ နယူးဇီလန်ကျွန်းကမ်းခြေတလျှောက်ကို လှည့်ပတ်စူးစမ်းတိုင်းထွာပြီးနောက်၊ ဩစတြေးလီးယားတိုက် အရှေ့ဖက်ကမ်းကိုရောက်၍၊ ထိုဒေသကို ဗြိတိန်နိုင်ငံအတွက် သိမ်းယူခဲ့လေသည်။ ထိုစဉ်က ဩစတြေးလီးယားတိုက်ကို နယူးဟော်လန်ဟုခေါ်ကြသည်။ ကွတ်သည် ဩစတြေးလီးယားနှင့် နယူးဂင်းနီကျွန်းတို့အကြားရှိ၊ ရေလက်ကြားတလျှောက် သင်္ဘောလွှင့်ခဲ့ပြီးသော် ဗတေးဗီးယားတွင် ခရီးတထောက်နားကာ၊ ဂွတ်ဒဟုပ်အငူကိုပတ်၍ပြန်ခဲ့၏။ ၁၇၇၁ ခုနှစ် ဇူလိုင်လတွင် အင်္ဂလန်ပြည်သို့ ပြန်ရောက်၍၊ ကွတ်မှာ သင်္ဘောသူကြီး (ကွန်မန်ဒါ) ရာထူးသို့ တိုးမြှင့်ခန့်ထားခြင်းခံရသည်။

ကွတ်သည် ၁၇၇၂ ခုနှစ်မှ ၁၇၇၅ ခုနှစ်အထိ လေးနှစ်အတွင်း ဒုတိယအကြိမ် ခရီးထွက်ပြန်ရာ၊ အများယုံကြည်ခန့်မှန်းကြသောတောင်ပိုင်းတိုက်သစ်မှာ အကယ်ပင်ရှိမရှိကို စူးစမ်းဇေ့ငုလို၍ဖြစ်သည်။ သုံးနှစ်ကျော်မျှ လှည့်လည်စူးစမ်းခဲ့ပြီးနောက်၊ တောင်ပိုင်းတိုက်သစ်မရှိကြောင်းကို ထုတ်ဖေါ်ပြောဆိုနိုင်ခဲ့သည်။ သို့ရာတွင် အန္တာတိတ်ဒေသ၏ တောင်ဖက်ဆီတွင်ကား အပြောကျယ်လှသော ရေခဲလွှမ်းသည့် ဒေသများရှိလိမ့်မည်ဟု ကွတ်က ခန့်မှန်းခဲ့၏။ ထိုအကြိမ်ခရီးထွက်ခဲ့ရာတွင် မိုင်ပေါင်း ၆၀,၀၀၀ ခန့်မျှ ခရီးပေါက်ခဲ့ပြီးလျှင် တောင်ပစိဖိတ်သမုဒ္ဒရာအတွင်းရှိ ကျွန်းကလေးပေါင်းမြောက်မြားစွာကို တွေ့ရှိခဲ့လေသည်။

အပြန်တွင် ကွတ်သည် ကပ္ပိတိန်ရာထူးသို့ တိုးမြှင့်ခန့်ထားခြင်းခံရ၏။ ထို့ပြင် သူ၏ခရီးသွားမှတ်တမ်းများကို ပုံနှိပ်ထုတ်ဝေခဲ့လေသည်။ ၁၇၇၆ ခုနှစ်တွင် တတိယအကြိမ်မြောက် ခရီးထွက်ပြန်ရာ ထိုအချိန်တွင် ကွတ်သည် အသက်

လေးဆယ့်ရှစ်နှစ် အရွယ်မျှရှိနေလေပြီ။ ထိုအကြိမ်တွင် ကွတ်သည် ပစိဖိတ်သမုဒ္ဒရာမှ ဟဒ်ဆန်ပင်လယ်အော်သို့ပေါက်သော အနောက်မြောက်ပင်လယ်ခရီးလမ်း ရှာဖွေရန်အတွက် ခရီးထွက်ခဲ့လေသည်။ ကွတ်သည် ၁၇၇၆ ခုနှစ် ဇူလိုင်လ ၁၁ ရက်နေ့တွင် သင်္ဘော ၂ စင်းဖြင့် ခရီးစတင်ထွက်ခဲ့ရာ ဂွတ်ဒဟုပ် အငူ၊ တက်စမေးနီးယားကျွန်း၊ နယူးဇီလန်ကျွန်းများကို ကျော်လွန်ခဲ့ပြီးနောက် ၁၇၇၇ ခုနှစ် ဩဂုတ်လတွင် တဟီးတီးကျွန်းသို့ရောက်လေသည်။ ထိုမှတဖန် မြောက်အမေရိကတိုက်ဖက်သို့ သင်္ဘောလွှင့်ခဲ့သောအခါ ဟာဝိုင်းယန်းကျွန်းများကို ၁၇၇၈ ခု နှစ်ဦးတွင် တွေ့ရှိလေသည်။ ထိုနောက် လာခဲ့ရင်းကိစ္စအတွက် မြောက်အမေရိကတိုက်အနောက်ဖက်ကမ်းရိုးတန်းတလျှောက် ခရီးဆက်လက်ထွက်ခဲ့ရာ ဗဲရင်းရေလက်ကြားသို့အရောက်တွင် ခရီးမဆက်နိုင်တော့သဖြင့် လက်လျှော့၍ပြန်ခဲ့ရလေသည်။ ၁၇၇၉ ခုနှစ် ဇန္နဝါရီလထဲတွင် ဟာဝိုင်းယန်းကျွန်းစုသို့ ပြန်လည်ရောက်ခဲ့လေသည်။

ကွတ်သည် နယ်မြေသစ်များရှာဖွေရာ၌ တိုင်းရင်းသားလူရိုင်းမျိုးများနှင့် တွေ့ကြုံရသည့်အခါ ယဉ်ကျေးလိမ်မာစွာ ဆက်ဆံတတ်သဖြင့် ကွတ်နှင့်တိုင်းရင်းသားတို့၏ ဆက်ဆံမှုမှာ အများအားဖြင့် ချောမောပြေပြစ်ခဲ့သည်။ ကွတ်၏ ရည်မှန်းချက်နှင့် လုပ်ငန်းများမှာလည်း လွယ်ကူချောမောစွာ အောင်မြင်သည်သာများခဲ့သည်။ သို့သော် တတိယအကြိမ်ခရီးထွက်၍အပြန်၊ ဟာဝိုင်းယန်းကျွန်းသို့ ရောက်သည့်အခါတွင်ကား၊ မမြော်လင့်သော ကိစ္စတရပ်နှင့် ကြုံခဲ့ရ၏။ ထိုကိစ္စမှာ ကွတ်တို့၏သင်္ဘောမှ လှေငယ်တစင်း ပျောက်ဆုံးသွားခြင်းပင်ဖြစ်လေသည်။ လှေငယ်ပျောက်ဆုံးသည့်အတွက် ကွတ်က တိုင်းရင်းသားတို့၏ အကြီးအကဲကို ဖမ်းမည်အပြုတွင် ရန်းရင်းဆန်ခတ်ဖြစ်ပွားရာမှ တိုင်းရင်းသားတဦး၏ လက်ချက်ဖြင့် ကွတ်မှာ အသက်ဆုံးရှုံးရသည်။ ကွတ်သည် ဩစတြေးလီးယားနှင့်နယူးဇီလန်ကျွန်းဒေသများကို ဗြိတိသျှအင်ပိုင်ယာအတွင်းသို့ သိမ်းသွင်းနိုင်ရန် အတွက် လမ်းခင်းပေးခဲ့သူ ဖြစ်သည်ဟုဆိုနိုင်သည်။ ကွတ်၏ ကြိုးပမ်းမှုကြောင့်သာလျှင် ပစိဖိတ်သမုဒ္ဒရာ၏ တိကျသော မြေပုံကို နောင်လာနောင်သားများ ရရှိခဲ့ပေသည်။ ကွတ်ရေးဆွဲခဲ့သော မြေပုံများမှာ တိကျမှန်ကန်သဖြင့် ယခုထက်တိုင် အပြောင်းအလဲ မပြုလုပ်ရသေးဘဲ ဆက်လက်သုံးစွဲလျက် နေကြရပေသေးသည်။ နယ်မြေသစ်ရှာဖွေခဲ့ကြသူများထဲတွင် ကွတ်သည် နောင်အခါတွင်ရရှိမည့် ဂုဏ်ထူးဘွဲ့ထူး ဆုစသည်တို့ကို မမြော်လင့်လှဘဲစွန့်စားကာ ဝေးရပ်နယ်မြေများကို သွားရောက်ကြည့်ရှုလိုသောဆန္ဒနှင့်သာ ခရီးထွက်ခဲ့သူဖြစ်သည့်ပြင် ခရီးအရှည်ဆုံး စူးစမ်းလှည့်လည်ခဲ့သူလည်းဖြစ်သည်။ ကွတ်သည်ရိုးသားတော်တည့်ဖြောင့်မှန်၍ရဲစွမ်းသတ္တိနှင့်ပြည့်စုံ၏။ လက်အောက်ငယ်သားများအား သက်ညှာစွာ ပြုမူဆက်ဆံတတ်သဖြင့် လူချစ်လူခင်လည်းများပေသည်။ သို့သော် မဖြစ်လောက်သော အရေးကိစ္စအတွက်ကြောင့် လူအဖိုးတန်တယောက်မှာ မမြော်လင့်ဘဲရုတ်တရက် ရန်သူ၏လက်ချက်ဖြင့်၊ ဝမ်းနည်းဖွယ်အသက်ဆုံးရှုံးသွားခဲ့ရရှာလေသည်။



ဩစတြေးလီးယားတိုက်ဆစ်ဒနီမြို့တွင်စိုက်ထူထားသောကက်ပတိန်ကွတ်၏ကြေးရုပ်

**ကွတ်ခိုင်မြို့။** ။ကွတ်ခိုင်မြို့သည် ရှမ်းပြည်မြောက်ပိုင်း သိန္နီစော်ဘွားပိုင် နယ်ခွဲတခုဖြစ်၍ နယ်ပိုင်ဝန်ထောက်နှင့် နယ်ခြားဝန်ထောက် ရုံးစိုက်ရာမြို့ဖြစ်သည်။ ဤမြို့သည် တရုတ်မြန်မာလမ်းမကြီးပေါ်တွင်တည်ရှိ၍ သိန္နီမြို့မှ ၁၆ မိုင်၊

လာရှိုမြို့မှ ၄၇ မိုင်ကွာဝေးသည်။ သိန္နီမှကွတ်ခိုင်မြို့အထိ လမ်းတလျှောက်မှာ တောင်တက်ခရီးချည်းဖြစ်သည်။ လူနေအိမ်ခြေ ၆၀၀ မျှရှိပြီးလျှင် ၁၉၅၃ ခုနှစ်တွင် လူဦးရေ ၆၀၀၀ ခန့်ရှိသည်ဟု ခန့်မှန်းရသည်။

မြို့နယ်အတွင်း နေထိုင်ကြသူများအနက် ဂျင်းဖေါနှင့် ရှမ်းလူမျိုးတို့မှာ အများဆုံးဖြစ်၏။ လရှီ၊ လီစု၊ ပလောင်၊ တရုပ် နှင့် ဂေါ်ရခါး လူမျိုး များ လည်း အနည်း ငယ် စီ ရှိ ကြ သည်။ ၁၉၅၀ ပြည့်နှစ်တွင် ကချင်ပြည်နယ်အစိုးရ၏ အစီအစဉ်အရ ကွတ်ခိုင်နယ်မှ ကချင်အိမ်ထောင်စုအများပင် ကချင် ပြည် နယ် ဟူး ကောင်း မြေပြန့် ဒေသသို့ ရွှေ့ပြောင်းသွားကြသည်။

မြို့ပတ်ဝန်းကျင်တွင်၊ စပါး၊ ပြောင်းဖူးနှင့် အာလူးများ စိုက်ပျိုးကြသည့်ပြင် ဂေါ်ဘီ၊ မုန်လာစသော ဟင်းသီးဟင်းရွက်များလည်း ဖြစ်ထွန်း သည်။ မြို့နှင့် ခပ် လှမ်း လှမ်း ဒေသများတွင် ဘိန်းပင်များစိုက်ပျိုးကြသည်။ ထိုမှတပါး မြင်းများကိုမွေးမြူ၍ မန္တလေးစသော မြန်မာပြည်မရှိ မြို့များသို့ တင်ပို့ရောင်းချကြသည်။

ကွတ်ခိုင်မြို့မှ အရှေ့မြောက်ဖက်တောင်ကုန်းပေါ်ရှိ တမုံငယ်ရွာသို့ လမ်းဆက်သွယ်ထားရာ ထိုလမ်းကို နွေရာသီ၌သာ အသုံးပြုနိုင်သည်။ တမုံငယ်မှတဆင့် သိန္နီကွမ်းလုံလမ်းပေါ်ရှိ နမ့်စရပ်မြို့သို့လည်း ကားလမ်းဆက်သွယ်ထားသည်။ ထိုကားလမ်းမှာ ၆၅ မိုင်ရှည်၍ ပြည်သူလူထု၏အကူအညီဖြင့် ၁၉၅၃ ခုနှစ်တွင် ဖေါက်လုပ်ပြီးစီးခဲ့လေသည်။

မြို့ပေါ်တွင်အထက်တန်းကျောင်း၊ ခရစ်ယန်သာသနာပြုအဖွဲ့မှ ဖွင့်လှစ်ထားသောစာသင်ကျောင်း၊ ဆေးရုံ၊ ငွေတိုက်နှင့်လမ်းဝန်ထောက်ရုံးများရှိသည့်ပြင် နယ်ခွဲကချင်ကောင်စီရုံးလည်းရှိသည်။ ကွတ်ခိုင်မြို့ပေါ် တွင် နှစ်စဉ်နှစ်တိုင်းမြန်မာနိုင်ငံ လွတ်လပ်ရေး အထိမ်း အမှတ် အဖြစ် ဖြင့် ဇန္နဝါရီလတွင် မနောပွဲကို ကျင်းပလေ့ရှိသည်။ ထိုမနောပွဲအတွင်း၌ မြို့နယ်ခေါင်းဆောင်များနှင့် ဒူးဝါးကြီးများသည် ရင်းနှီးချစ်ခင်စွာတွေ့ဆုံခွင့်ရရှိကြပြီးလျှင် မြို့နယ်စည်ပင်သာယာရေး၊ တိုးတက်ကြီးပွားရေးများကိုတိုင်ပင်ဆွေးနွေးကြသည်။

**ကွန် ဂိုပြည် နယ် များ။** ။အာဖရိကတိုက် အလယ် ပိုင်း ရှိ ကွန်ဂိုမြစ်ဝှမ်းတွင် ဗဲလဂျီယမ်နှင့် ပြင်သစ်ပိုင်နယ် နှစ်နယ်ရှိသည်။ ယခုအခါ ဗဲလဂျီယမ်နိုင်ငံပိုင် ကွန်ဂိုပြည်နယ်သည် အစအဦးက ဗဲလဂျီယမ်ဘုရင် ဒုတိယလီယိုပို၏ ကိုယ်ပိုင်နယ် ဖြစ်လေသည်။

၁၈၇၇ ခုနှစ်တွင် ဟင်နရီစတန်လေဆိုသူ အင်္ဂလိပ်လူမျိုး တဦးသည် ကွန်ဂိုမြစ်ရိုးကို တွေ့ရှိခဲ့သည်။ လီယိုပိုဘုရင်သည် အာဖရိကအလယ်ပိုင်း နယ်များတွင် စိတ်ပါဝင် စားခဲ့သည့် အလျောက် စူးစမ်းရှာဖွေရန်နှင့် ယဉ်ကျေးမှုမြှင့်တင်ရန် အပြည်ပြည်ဆိုင်ရာအသင်း ဖွဲ့စည်းပြီးနောက်၊ စတန်လေအား ငွေကြေးအထောက်အပံ့များပေး၍ အာဖရိကတိုက်သို့ တဖန်စေလွှတ်ပြီးလျှင်၊ ကွန်ဂိုမြစ်ရိုးတလျှောက် နယ်သစ်များစွန့်စားရှာဖွေစေခဲ့သည်။ ထိုသို့ရှာဖွေတွေ့ရှိသောနယ်များမှာ ပဌမတွင် အသင်းပိုင်နယ်ဟုဆိုသော်လည်း နောင်တွင်မူ လီယိုပိုဘုရင်၏ ကိုယ်ပိုင်နယ်များဖြစ်သွားလေသည်။

အခြားနိုင်ငံများကလည်း ကွန်ဂိုနယ်များတွင် စိတ်ဝင်စားလာသည့်အတွက် ထိုအရေးနှင့်စပ်လျဉ်း၍ စည်းဝေးဆွေးနွေးရန် ၁၈၈၄၊ ၈၅ ခုနှစ်တွင် ဘာလင်မြို့၌ ညီလာခံကျင်းပခဲ့လေသည်။ ထိုညီလာခံက ကွန်ဂိုနယ်များကို လီယိုပိုဘုရင်၏ အချုပ်အချာပိုင်နက်နယ်အဖြစ် အသိအမှတ်ပြုလိုက်လေသည်။ သို့သော်အခြားနိုင်ငံများအား လွတ်လပ်စွာ ကုန်သွယ်ခွင့် ပြုရမည် ဟူသော ခြွင်းချက်ကိုထားခဲ့၏။ ထို့ကြောင့်ထိုနယ်များကို လွတ်လပ်သောကွန်ဂိုပြည်နယ်ဟု ခေါ်တွင်စေခဲ့လေသည်။ နောင်တွင် လီယိုပိုဘုရင်သည် သူပိုင်နယ်အချို့ကို ပြင်သစ်နှင့်ပေါ်တူဂီနိုင်ငံများသို့ ခွဲဝေပေးခဲ့ရလေသည်။

၁၈၉၀ ပြည့်နှစ်တွင် လီယိုပိုဘုရင်၌ ငွေရေးကြေးရေး ကျပ်တည်းလာသဖြင့် ပါလီမန်မှငွေချေးရ၏။ ပါလီမန်က




ကွန်ဂိုပြည်နယ်များတည်နေရာပြမြေပုံ

နောင် ၁၀ နှစ်ကြာလျှင် လွတ်လပ်သောကွန်ဂို ပြည်နယ်ကိုဗဲလဂျီယမ်အစိုးရအား သိမ်းပိုက်ခွင့်ပေးရမည်ဟု ဘုရင့်ထံမှကတိတောင်းယူပြီးနောက် ငွေကိုထုတ်ချေးလိုက်လေသည်။

ထိုအတောအတွင်း လီယိုပိုဘုရင်သည် ကွန်ဂိုပြည်နယ်ကို အုပ်ချုပ်ရာတွင် မကျေနပ်ဖွယ် အချက်အလက် များစွာပေါ်ပေါက်ခဲ့သည်။ ဘုရင်သည် ကွန်ဂိုပြည်နယ်ရှိ တိုင်းရင်းသားတို့အား မတရားညှဉ်းပန်း ဖိနှိပ်သည်ဟုစွပ်စွဲကြသည်။ အထူးသဖြင့် အင်္ဂလန်ပြည်တွင် လီယိုပိုဘုရင်၏ အပြုအမူကိုကန့်ကွက်ပြောဆိုသူ များစွာပေါ်ပေါက်ခဲ့ရာ၊ စုံစမ်းရေး အဖွဲ့စေလွှတ်၍ စုံစမ်းစစ်ဆေးစေခဲ့လေသည်။

ထိုနောက် လီယိုပိုဘုရင်နှင့် ဗဲလဂျီယမ် ပါလီမန်တို့သည် ကွန်ဂိုပြည်နယ် စီရင်အုပ်ချုပ်ရေးနှင့် စပ်လျဉ်း၍ သဘောကွဲလွဲခဲ့ကြ၏။ ထိုပြင် ဘုရင်သည် ကွန်ဂိုပြည်နယ်သူနယ်သားတို့အား ညှဉ်းပန်းမြဲညှဉ်းပန်းလျက်ရှိလေရာ၊ ၁၉၀၈ ခုနှစ်တွင် ဗဲလဂျီယမ်အစိုးရသည် ဘုရင်အား ထိုက်တန်သော လျော်ကြေးကိုပေး၍၊ ထိုပြည်နယ်ကို သိမ်းယူလိုက်လေသည်။ ထိုအချိန်မှစ၍ ဗဲလဂျီယမ်ကွန်ဂိုပြည်နယ်ဟုအမည် သစ်တွင်လာလေ၏။



ဗဲလဂျီယမ်ကွန်ဂိုတွင်ရှိသောပညာတတ်တိုင်းရင်းသားတစု

ဗဲလဂျီယမ်ကွန်ဂိုပြည်နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၉၀၄,၉၇၄ မိုင်ဖြစ်၍ လူဦးရေမှာ (၁၉၅၁ ခုနှစ် ဒီဇင်ဘာလတွင် ခန့်မှန်းချက်အရ) တိုင်းရင်းသား ၁၁,၅၉၃,၄၉၄ ယောက် ဖြစ်ပြီးလျှင်၊ ဥရောပတိုက်သား ၆၉,၂၀၄ ယောက်ဖြစ်လေသည်။ ဥရောပတိုက်သားများတွင် ဗဲလဂျီယမ်လူမျိုး ၃၆,၅၁၀ ယောက်ပါဝင်၏။ တိုင်းရင်းသားများမှာအများအားဖြင့် ဗန်တူလူမျိုးများဖြစ်သည်။ ဆူဒန်လူမျိုးလည်း အတော်များများနေထိုင်ကြ၏။

ကွန်ဂိုပြည်နယ်မှာ ပူပြင်း၍ ကျန်းမာရေးနှင့်မညီညွတ်ချေ။ ငိုက်မျဉ်းသောရောဂါ၊ ငှက်ဖျားရောဂါနှင့် အခြားသောရောဂါများ ထူပြောလှသဖြင့် ဥရောပတိုက် သားအနည်းငယ်မျှသာနေထိုင်လေသည်။

မြို့တော်မှာ လီယိုပိုဗီး မြို့ဖြစ်သည်။ ၁၉၅၂ ခု ဒီဇင်ဘာလ ၃၁ ရက်တွင် လူဦးရေအစုစုပေါင်း ၂၅၇,၂၇၅ ယောက် နေထိုင်လျက်ရှိလေသည်။ အယ်လစ်ဇဗက်ဗီးမြို့မှာ ခေတ်အမီဆုံး မြို့ဖြစ်သည်။ အခြားမြို့များမှာ အဲလဇဗတ်ဗီးမြို့၊ စတန်လေဗီးမြို့နှင့် အီကွေတာဗီးမြို့များ ဖြစ်ကြလေသည်။ မာတာဒီမြို့မှာ ထင်ရှားသောဆိပ်ကမ်းမြို့ဖြစ်၏။ ရှုအန်းဒါးနှင့် အူရွန်းဒီခရိုင်များကို ပဌမကမ္ဘာစစ်ကြီး အပြီးတွင် ၁၉၂၅ ခုနှစ်မှစ၍ နိုင်ငံပေါင်းချုပ်အသင်းကြီး၏အမိန့်အရ ဗဲလဂျီယမ်အစိုးရက ကွန်ဂိုနှင့်အတူ ပူးတွဲအုပ်ချုပ်ခဲ့လေသည်။ အဆိုပါခရိုင်များမှာ၊ စတုရန်းမိုင် ၂၀၅၄၀ ကျယ်ဝန်း၍ ရှေးအခါက ဂျာမန်အရှေ့အာဖရိက နယ်မြေထဲတွင် ပါဝင်လေသည်။

ဗဲလဂျီယမ်အစိုးရလက်အောက်တွင် ကွန်ဂိုပြည်နယ်သည် လျင်မြန်စွာတိုးတက်လာ၏။ ယခင်က ကော်ဖတ်တမျိုးတည်းကိုသာ လုပ်ကိုင်ခဲ့သော်လည်း ယခုတွင်မူ အုန်းသီး၊ အုန်းဆီ၊ ဝါဂွမ်း၊ သကြား၊ ကာဖီ၊ ကိုကိုး စသည်တို့ အမြောက်အမြားထွက်သော ပြည်ဖြစ်လာသည်။

ကြေးနီ၊ စိန်၊ ရွှေ၊ သံဖြူ၊ ယူရေးနီးယမ်းနှင့် တန်စတင်စသော အဖိုးတန်သတ္တုများကိုလည်း တူးဖော်ရရှိသည်။ ဆင်စွယ်များကိုလည်း တင်ပို့ရောင်းချသည်။ ကွန်ဂိုမြစ်နှင့် တကွ မြစ်လက်တက်တို့မှာ နယ်တွင်းဆက်သွယ်ရေး လမ်းကြောင်းများဖြစ်သည်။ မီးရထားလမ်းနှင့် လေကြောင်းလမ်းများကိုလည်းဖွင့်လှစ်ထားလေသည်။ ဗဲလဂျီယမ်ကွန်ဂိုပြည်နယ်ကို ဘုရင်ခံအုပ်ချုပ်သော နယ်ခြောက်နယ်ခွဲ၍ အုပ်ချုပ်သည်။ ဘုရင်ခံများသည် ဘုရင်ခံချုပ်ထံ တာဝန်



သတ္တုတူးလုပ်ငန်းတခုရှိတိုင်းရင်းသားအလုပ်သမားများနေထိုင်ရန်စနစ်တကျဆောက်ထားသောတဲတန်းများ

ခံ၍ အုပ်ချုပ်ရပြီးလျှင်၊ ဘုရင်ခံချုပ်ကလည်း ဗဲလဂျီယမ်နိုင်ငံတော် အစိုးရအဖွဲ့မှ ကိုလိုနီနယ်များဆိုင်ရာ ဝန်ကြီးထံ တာဝန်ခံ၍ တနယ်လုံးကိုအုပ်ချုပ်ရလေသည်။

ကွန်ဂိုမြစ်၏ မြောက်ဖက်နှင့်အနောက်ဖက်တွင် ယခင်က ပြင်သစ်ကွန် ဂိုဟု အမည်တွင်ခဲ့၍ အလွန် ကျယ်ပြန့် သည့် ပြင်သစ်ပိုင်နယ်ကြီးရှိသည်။ ထိုနယ်ကြီးတွင် (၁) အလယ်ကွန်ဂိုနယ် (၂) ဂါဗွန်းနယ် (၃) အူဗန်းဂီရှားရီးနယ်နှင့် (၄) ချက်နယ်တို့ပါဝင်သည်။ လေးနယ်စလုံးကို အလယ်ကွန် ဂိုနယ် ဗရက်ဇာဗီး မြို့ ရှိ ဗဟိုအစိုးရက တာဝန်ယူ၍ စီမံအုပ်ချုပ်လေသည်။

ထိုနယ်လေးနယ်အနက် အလယ်ကွန်ဂိုနယ်သည် ကွန်ဂိုမြစ်ရိုးအနောက်ဖက်တွင် ကပ်လျက်ရှိ၍၊ အရေးပါဆုံးနယ်ဖြစ်သည်။ ပွိုင့်နွာရေးမြို့မှာ ထိုနယ်၏ဆိပ်ကမ်းမြို့ဖြစ်သည်။

လီဗရာဗီးမြို့သည် ဂါဗွန်းနယ်၏မြို့တော်နှင့် ဆိပ်ကမ်းမြို့ဖြစ်သည်။ အူဗန်းဂီရှား ရီး နယ် သည် အာဖရိကတိုက်အလယ်ရှိ တောထူထပ်သောအပိုင်း အနီး တွင်တည် ရှိ၍ မြို့တော်မှာ ဗန်ဂူအီဖြစ်သည်။ ချက်နယ်သည် ဆဟာရား သဲကန္တာရနှင့် နီးကပ် သဖြင့် ခြောက်သွေ့သောနယ် ဖြစ်သည်။ မြို့တော်မှာ ဖို့လာမီးဖြစ်၏။

ပြင်သစ် ကွန် ဂိုနယ် ကို ၁၉၁၀ ပြည့်နှစ် မှစ၍ ပြင် သစ် အီကွေတာပိုင်း အာဖရိကနယ်ဟု အမည်သစ်ပေးခဲ့သည်။ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၉၅၉,၂၅၆ မိုင်ဖြစ်၍ လူဦးရေမှာ ၁၉၅၁ ခုနှစ် ခန့်မှန်းခြေအရ ၄,၄၄၁,၂၀၃ ယောက်ခန့်ဖြစ်သည်။ ၄,၄၁၇,၈၀၀ မှာ တိုင်းရင်းသားလူမျိုးများဖြစ်၍၊ ဥရောပတိုက်သား ၂၃,၄၀၃ ယောက် နေထိုင်သည်။

ကော်ဖတ်၊ ထန်းဆီ၊ ကိုကိုး၊ ကာဖီနှင့်ဝါဂွမ်းထွက်သည်။ ဆင်စွယ်နှင့် ငှက်ကုလားအုပ်မွေးများ တင်ပို့ရောင်းချသည်။ ဘုရင်ခံချုပ်တဦး ခန့်ထား၍ သူ့ကိုအုပ်ချုပ်မှုကောင်စီ အကူအညီဖြင့် အုပ်ချုပ်စေသည်။

**ကွန် ဂိုမြစ်။** ။အာဖရိက တိုက် အလယ်ပိုင်းဒေသမှ အနောက်ဖက် အတ္တလန္တိတ်သမုဒ္ဒရာအတွင်းသို့ ခန့်ညား ထယ်ဝါစွာ စီးဆင်းသောမြစ်ကြီးကား ကွန်ဂိုမြစ်ကြီးဖြစ်သည်။ ယခင်ကမူ ဇဲယားမြစ်ဟုတွင်ခဲ့သည်။ ထိုမြစ်သည် အာဖရိကတိုက်တွင် အကြီးဆုံးဖြစ်၍ ကမ္ဘာပေါ်တွင် ဒုတိယ အကြီး ဆုံးဖြစ် လေသည်။ ထိုထက်ကြီး သောမြစ် မှာကား တောင်အမေရိကတိုက်ရှိ အမေဇုန်မြစ်ဖြစ်လေသည်။

ဗဲလဂျီယမ် ကွန်ဂိုနယ် အရှေ့တောင် ပိုင်း၌ မြစ်ဖျားခံသောမြစ်အချို့သည် အာဖရိကအလယ်ပိုင်းတွင် ကွန်ဂိုမြစ်ကိုဖြစ်ထွန်းစေသည်။ ထိုမြစ်ငယ်များသည် လူအာလားဗာမြစ်ထဲသို့ စီးဝင်ကြသည်။ လူအာလားဗာမြစ်မှာ မွေရူးအိုင်မှ မြောက်ဖက်သို့စီးလျက်ရှိရာ တောင်လတ္တီတွဒ် ၄ သို့ ရောက်သောအခါ ကွန်ဂိုမြစ်ဟုခေါ်ကြလေသည်။

ကွန်ဂိုမြစ်မကြီးသည် မိုင်ပေါင်း ၃၀၀၀ ကျော်ရှည်လျား၍ ရေဆင်းနယ်မှာ စတုရန်းမိုင်ပေါင်း ၁,၄၀၀,၀၀၀ ကျော်

ကျယ်ဝန်းလေသည်။ မြစ်လက်တက် လေးခုရှိ၏။ ယင်းတို့မှာ လိုမားမီ၊ အားရုဝီမီ၊ ယူဗန်ဂီနှင့် ကားဆိုင်းမြစ်များ ဖြစ်ကြသည်။ ကွန်ဂိုမြစ်မကြီး အတွင်းတွင်ကား ကျွန်းကလေး ပေါင်း မြောက်မြားစွာရှိသည်။ သို့ရာတွင် မြစ်ဝကျွန်းပေါ် ဒေသဟူ၍ မရှိချေ။

ကွန်ဂိုမြစ်သည် လူသူအရောက်အပေါက်နည်းသည့် အာဖရိကအလယ်ပိုင်းတွင်ရှိ၍ မြစ်ဝှမ်းတခုလုံးမှာလည်း တောထူထပ်ပြီးလျှင် သားရဲ တိရစ္ဆာန်နှင့် မှက်ခြင်ယင်ရဲများကျက်စားရာဒေသဖြစ်လေသည်။ အာဖရိကတိုက် တိရစ္ဆာန်မျိုးစုံနှင့် သစ်ပင်ပေါင်းစုံတို့၏ ပေါက်ဖွားရာဒေသလည်းဖြစ်လေသည်။

ကွန်ဂိုမြစ်ဝကို စတင်တွေ့ရှိသူမှာ ပေါ်တူဂီလူမျိုးတဦးဖြစ်၏။ ထိုစဉ်က အာဖရိကတိုက်အတွင်းပိုင်းသို့ လူသူအရောက်နည်းပါးလှပေရာ မြစ်ကြီးမည်မျှရှည်လျားသည်၊ မည်သည့်နေရာတွင် မြစ်ဖျားခံသည်တို့ကို မသိရှိကြသေးချေ။ ၁၉ ရာစုနောက်ပိုင်းတွင် ကမ္ဘာကျော်စွန့်စားရှာဖွေသူ ဒေးဗစ်လစ်ဗင်းစတုန်းသည် အာဖရိကတိုက်အလယ်ပိုင်းတွင် စုံစမ်းလှည့်လည်ရှာဖွေရာ၊ ကြီးမားသောမြစ်တခုကို တွေ့ခဲ့သည်။ သို့ရာတွင် နိုင်းမြစ်ဟုအထင်မှားခဲ့သည်။ ကွန်ဂိုမြစ်ဝအထိ ပဌမဆုံး ရှာဖွေတွေ့ရှိခဲ့သူမှာ ဟင်နရီစတန်လေ ဖြစ်လေသည်။

ကွန်ဂိုမြစ်ကို သဘာဝအနေအထားကြောင့်၎င်း၊ ကူးသန်းဆက်သွယ်ရေး အတွက်၎င်း၊ အထက်ပိုင်း၊အလယ်ပိုင်းနှင့် အောက်ပိုင်းဟု သုံးပိုင်းခွဲခြားထားသည်။ အောက်ပိုင်းတွင် မြစ်ဝမှ မိုင် ၁၁၀ အထိ သင်္ဘောအကြီးစားများ သွားလာနိုင်သည်။ အလယ်ပိုင်းမှ စတန်လေအိုင်ကလေးအထိ မိုင်ပေါင်း ၂၃၅ ရှည်လျားသည်။ သို့ရာတွင် မတ်စောက်သောရေတံခွန်များ ကျောက်ဆောင်များကြောင့် သင်္ဘောများ မသွားနိုင်ချေ။ အထက်ပိုင်းမှာ စတန်လေရေတံခွန်အထိ မိုင်ပေါင်း ၁၀၆ဝ ရှိ၍ သင်္ဘောအသေးစားများ သွားလာနိုင်လေသည်။

ကွန်ဂိုမြစ်မှာ ယခုအခါ ကူးသန်းရောင်းဝယ်ရေးအတွက် များစွာအရေးပါလာလေပြီ။ ကုန်တင်သင်္ဘောကြီးငယ်များသည် မြစ်ကိုဆန်နိုင်သမျှဆန်တက်ကာ အာဖရိကတိုက် အတွင်းပိုင်းမှ ထွက်ကုန်များကိုသယ်ယူကြသည်။ ဗဲလဂျီယမ်ကွန်ဂိုနယ်မှ ကော်ဖတ်များအားလုံးလိုလိုပင် ကွန်ဂိုမြစ်ကြောင်းမှ သင်္ဘောဖြင့်သယ်ယူရသည်။ ထိုပြင်အခြားနယ်များမှ ထွက်ကုန်များကိုလည်း ကွန်ဂိုမြစ်ကြောင်းမှပင်၊ သယ်ယူပို့ဆောင်ပေးရသည်။


ပန်းချီဆရာကြီးဂျွန်ကွန်စတေဗယ်၏ပုံ

**ကွန်စတေဗယ်, ဂျေ** (ခရစ် ၁၇၇၆–၁၈၃၇)။ ။ဂျွန် ကွန်စတေဗယ်မှာ အင်္ဂလိပ်လူမျိုး ကမ္ဘာကျော်ပန်းချီဆရာကြီး တဦးဖြစ်၍ အင်္ဂလန်ပြည် ဆပ်ဖတ်ခရိုင် အရှေ့ဗာဂဟော့မြို့၌ ၁၇၇၆ ခုနှစ် ဇွန်လ ၁၁ ရက်နေ့တွင် ဖွားမြင်သည်။ သူ၏ဖခင်မှာ ပစ္စည်းအတော်အတန် ချမ်းသာကြွယ်ဝသော ဂျုံစက်ပိုင်ရှင်တဦးဖြစ်သည်။ အသက် ၇ နှစ်အရွယ်တွင် စာသင်ကျောင်းတကျောင်းသို့ ကျောင်းအိပ်ကျောင်းစားအဖြစ် သွားရောက်၍ ပညာသင်ကြားသည်။ ကျောင်းမှထွက်ပြီးနောက် အသက် ၁၇ နှစ်အထိ သူ့ဖခင်၏ အလုပ်တွင် ဝင်ရောက်ကူညီလုပ်ကိုင်ခဲ့သည်။ ငယ်ရွယ်စဉ်ကတည်းကပင် ပုံဆွဲဝါသနာပါလာသဖြင့် အားလပ်ချိန်ရတိုင်း ပုံဆွဲခြင်းကို လေ့လာလေသည်။ ဖခင်ကမူ သူ၏သားအား ပန်းချီဆရာမဖြစ်စေလိုသောကြောင့် သားဖြစ်သူ၏ ဝါသနာကို အားမပေးခဲ့ချေ။ သို့ရာတွင် ကွန်စတေဗယ်၏ စွဲမြဲသော ဝါသနာကို တားဆီးခြင်းမပြုနိုင်သဖြင့် ၁၇၉၅ ခုနှစ်တွင် လန်ဒန်မြို့သို့သွားရောက်၍ ပန်းချီပညာကို လေ့လာခွင့်ပြုလိုက်လေသည်။

လန်ဒန်မြို့တွင် ကွန်စတေဗယ်သည် တော်ဝင်အနုပညာကျော်တဦးဖြစ်သူ ပန်းချီဆရာကြီး ဂျိုးဇက် ဖယ်ရင်တန်နှင့် ကြုံကြိုက်တွေ့ဆုံလေရာ ထိုဆရာကြီး၏နည်းနာများကို ခံယူလေသည်။ ၁၇၉၉ ခုနှစ်တွင် ဆာဂျော့ဗိုးမွန့်၏ အကူအညီဖြင့် လန်ဒန်မြို့ တော်ဝင်ကျောင်းတွင် ကျောင်းသားအဖြစ်



ကွန်စတေဗယ်ရေးဆွဲခဲ့သည့်ရှုမျှော်ခင်းပန်းချီကားတခု

ဝင်ရောက်ပညာဆည်းပူးနိုင်ခွင့် ရရှိလေရာ၊ ပန်းချီပညာဖြင့် တက်လမ်းကိုရှာရန် စိတ်ပိုင်းဖြတ်လိုက်၏။ ၁၈၀၂ ခုနှစ်တွင် သူရေးဆွဲထားသောကားများကို တော်ဝင်အနုပညာတံခွန် အသင်းတွင် တင်ပြလေသည်။ အသင်းကြီး၏ဥက္ကဋ္ဌဖြစ်သော ဗင်ဂျမင် ဝက် ကလည်း ဂျွန်ကွန်စတေဗယ်ကို အားပေးခြင်းပြုသဖြင့် ဂျွန်သည် လခစားပုံဆွဲဆရာအလုပ်တခုကိုပင် လက်မခံတော့ဘဲ ကိုယ်ပိုင်လုပ်ငန်းကို တည်ထောင်ရန်ကြိုးစားခဲ့သည်။

၁၈၀၆ ခုနှစ်မှ ၁၈၀၉ ခုနှစ် များအတွင်း ဂျွန်သည် ရေးနော်နှင့် ဟော့ပနာတို့၏ ပုံတူကားများကို ကူးရေးခြင်းဖြင့် ပုံတူရေးပန်းချီဆရာဖြစ်နိုင်ရန် ကြိုးစားခဲ့သေး၏။ ကြိုးစားခဲ့သည့် အတိုင်း လည်း ပုံတူရေး ခြယ် ခြင်းအတတ် တွင် ကျွမ်းကျင်သင့်သလောက် ကျွမ်းကျင်ခဲ့ပေသည်။ သို့ရာတွင် ဆေးရောင်အယူအဆနှင့် အလင်းအမှောင် အထားအသိုမှန်ကန်မှုတွင် အာရုံဝင်စားမိသောအခါ ရှုမျှော်ခင်းများကိုသာ ရေးခြယ်လေတော့သည်။

၁၈၁၆ ခုနှစ်တွင် ဖခင်ဖြစ်သူ အနိစ္စရောက်သောအခါ ဂျွန် ကွန် စတေဗယ် သည် အိမ် ထောင် ပြုလိုက် ပြီး နောက် ပန်းချီကားများကို ရေးခြယ်ယင်းပင် လန်ဒန်မြို့၌ ဆက်လက်နေထိုင်လေသည်။ ၁၈၁၉ ခုနှစ်တွင် တော်ဝင်ပန်းချီအသင်းကြီး၏ အတိုင်ပင်ခံပန်းချီဆရာ တဦးအဖြစ် ရွေးချယ်ခြင်းခံရသည်။ ကွန် စတေဗယ်မှာ ငွေရေး ကြေး ရေး အားဖြင့် ပြည့်စုံ လုံလောက် သော်လည်း ဇနီးဖြစ်သူ၏ ကျန်းမာရေးချို့တဲ့မှုကြောင့် သူတို့၏အိမ်ထောင်ရေးမှာ သာယာသင့်သလောက် မသာယာခဲ့ပေ။ ဤသို့ဖြင့် ၁၈၂၇ ခုနှစ်အကုန်တွင် သူ၏ဇနီးကွယ်လွန်လေရာ ကွန်စတေဗယ်အဖို့ ပျော်ရွှင် မှုများ ကင်း ဝေး လျက် စိတ် အပျက် ကြီး ပျက် ပြီး လျှင် ၁၈၂၉ ခုနှစ်တွင် တော်ဝင်အနုပညာကျော်တဦးအဖြစ် ရွေးကောက်ခြင်းခံရသည်ကိုပင် ဝမ်းမသာနိုင်ဘဲရှိတော့သည်။ သို့ရာတွင် သူဝါသနာပါရင်း အလုပ်ဖြစ်သော ပန်းချီရေးဆွဲခြင်းကိုမူ မဖြတ်နိုင်သေးဘဲ နာမည်ကျော်ပန်းချီကားများ အများအပြားကို ဆက် လက် ရေးဆွဲ ခဲ့ပြီးနောက် ၁၈၃၇ ခုနှစ် မတ်လ ၃၁ ရက်နေ့တွင် ရုတ်တရက်ကွယ်လွန်သွားလေသည်။ သူ၏ရုပ်အလောင်းကို ဟမ်စတက်ဘုရားရှိခိုးကျောင်းဝင်းအတွင်း၌ မြှုပ်နှံထားသည်ကို ယနေ့တိုင် တွေ့မြင်နိုင်ပေသည်။

**ကွန်စတန်တင်းဘုရင်ကြီး** (ခရစ် ၂၇၄-၃၃၇)။ ။ဗုဒ္ဓသာသနာတော်ကို သီရိဓမ္မာသောကမင်းကြီး ပြုစုချီးမြှင့်ဘိသကဲ့သို့ ခရစ်ယန်သာသနာကို အားပေး ချီးမြှင့်ခဲ့သော ရောမ ကေရာဇ်ကား ကွန်စတန်တင်းဘုရင်ကြီးဖြစ်၏။ ကွန်စတန်တင်းသည် ပဌမဆုံး ခရစ်ယန်အယူဝါဒီ ရောမဘုရင်ဖြစ်၏။ ထိုမင်းလက်ထက်တွင် ထူးခြားချက်နှစ်ရပ် ပေါ်ပေါက်ခဲ့သည်။ ယင်းတို့မှာ ခရစ်ယန်အယူဝါဒကို နိုင်ငံတော်အယူဝါဒအဖြစ်ဖြင့် အသိအမှတ်ပြုခြင်းနှင့် ရောမနိုင်ငံတော် အရှေ့ပိုင်းတွင် နေပြည်တော်သစ် ကွန်စတန်တီနိုပယ်မြို့ကို တည်ခဲ့ခြင်းတို့ပင်ဖြစ်သည်။

ကွန်စတန်တင်းသည် ပဌမကွန်စတန်ရှပ်ဘုရင်နှင့် ဟယ်လီနာမိဖုရားတို့၏ သားဖြစ်၍၊ ခရစ် ၂၇၄ ခုနှစ်ခန့်တွင် ဖွားမြင်လေသည်။ ခမည်းတော်ကွန်စတန်ရှပ်သည် ၂၉၃ ခုနှစ်တွင် ရောမကေရာဇ်၏လက်အောက်ခံ ဂေါလနှင့်ဗြိတိန်နိုင်ငံတို့၏ ဘုရင်ဖြစ်လာသည်။ ဟယ်လီနာသည် နောင်အခါ သူတော်စင်အမျိုးသမီး စိန့်ဟယ်လီနာဖြစ်လာသည်။ ကွန်စတန် တင်း သည် ငယ်ရွယ် စဉ် အခါ၌၊ ရောမနိုင်ငံတော် အရှေ့ပိုင်း ကေရာဇ် ဖြစ် သော ဂလီး ရီး ယပ် ဘုရင် ထံတွင် အကျယ်ချုပ်သဘောဖြင့် နေထိုင်ခဲ့ရ၏။ ထိုသို့ နေခဲ့ရရာမှ ၃၀၅ ခုနှစ်တွင် ထွက်ပြေးလွတ်မြောက်လာပြီးလျှင် ခမည်းတော်ထံသို့ ပြန်လည်ရောက်ရှိခဲ့သည်။ခမည်းတော် ကွန်စတန်ရှပ်ဘုရင်လည်း နောက်တနှစ်တွင် ကံကုန်လေရာ၊ စစ်သည်တော်အပေါင်းသည် ကွန်စတန်တင်းအား ဝိုင်းဝန်း၍ ဘုရင်မြှောက်ကြလေသည်။

ကွန်စတန်တင်းသည် ရောမနိုင်ငံတော် အနောက်မြောက်ပိုင်းဖြစ်သော ဂေါလ၊ စပိန်နှင့် ဗြိတိန်နိုင်ငံတို့ကို ငါးနှစ်မျှ အုပ်စိုးပြီး နောက်၊ ဣတလီနိုင်ငံကို လုပ်ကြံရန် ရောမမြို့တော်သို့ တန်းတန်းမတ်မတ် ချီတက်ခဲ့လေသည်။ တိုင်းဗားမြစ်သို့ ရောက်သောအခါ၊ ကွန်စတန် တင်း သည် မွန်းတိမ်းချိန် ကောင်း ကင်ယံတွင် ပြိုးပြိုး ပြက်ပြက် လက်နေသော လက်ဝါးကပ်တိုင်တခုကို တွေ့မြင်ရသည်ဟုဆိုသည်။ ထိုလက်ဝါးကပ်တိုင်ပေါ် တွင် 'ဤအမှတ်အသားဖြင့် ရန်အပေါင်းကိုနှိမ်နင်းလော့' ဟူသောစာတမ်းလည်း ပါရှိသည်ဟုဆိုသည်။ ထိုညဉ့်မက်သော အိပ်မက်ထဲ၌လည်း လက်ဝါးကပ်တိုင်ကို အောင်လံတော်ပမာဝင့်၍ ရန်သူတို့အားတိုက်ခိုက်ရန် ကောင်းကင်တမန်တော်တဦးက နှိုးဆော်လာသည်ဟုဆိုသည်။ ဤသို့ဖြင့် လက်ဝါးကပ်တိုင်ကို အဆောင်ပြု၍ တိုက် ခိုက် သည် တွင်၊ အင် အား အဆမတန် ကြီးမားသော ရောမဘုရင် မက်ဆင်းရှပ်၏တပ်များသည် ပျက်ပြုန်းကြတော့သည်။ရောမဘုရင်လည်း တိုင်းဗားမြစ်တွင်း၌ ရေနစ်၍ ကံကုန် ရှာလေသည်။ ထိုအောင် ပွဲကို အမှတ် တရဖြစ် စိမ့်သောငှာ ရောမမြို့တွင် ကွန် စတန် တင်း မုတ် ဝကို တည် ဆောက်ခဲ့၏။ ထိုအဆောက်အအုံကား ယနေ့တိုင်အောင် တည်ရှိနေပေသည်။

ကွန်စတန်တင်းသည် ရောမနိုင်ငံတော် အနောက်ပိုင်းတွင် ကေရာဇ်ဖြစ်လာ၏။ သို့ရာတွင် ခရစ်ယန်သာသနာသို့ ချက်ခြင်းကူးပြောင်းကိုးကွယ်ခြင်း မပြုခဲ့ပေ။ ၃၁၃ ခုနှစ်တွင် မီလန်အမိန့်တော်ပြန်တမ်းကိုထုတ်ပြန်၍ ခရစ်ယန်အယူဝါဒီများအား လွတ်လပ်စွာ ကိုးကွယ်ခွင့်ကို ပေးခဲ့လေသည်။ သို့အားဖြင့် နှစ်ပေါင်း ၃၀၀ ကျော်မျှ ညှဉ်းပန်းသတ်ဖြတ်ခြင်း ခံခဲ့ရသော ခရစ် ယန် အယူဝါဒီတို့သည် ချမ်း သာခွင့်ရလာကြပြီးလျှင်၊ ခရစ်ယန်သာသနာလည်း ထွန်းကားပြန့်ပွားလာလေတော့သည်။

ကွန်စတန်တင်း သည် ရောမနိုင်ငံတော် အနောက် ပိုင်းကို နေထားတကျရှိစေပြီးသောအခါ၊ ၃၂၃ ခုနှစ်တွင် လိုင်စင်းနီးယပ်ကေရာဇ် စိုးမိုးနေသော ရောမနိုင်ငံတော်အရှေ့ပိုင်းသို့ ချီတက်သိမ်းပိုက်လေသည်။ ယင်းသို့ဖြင့် အကွဲကွဲဖြစ်နေခဲ့သော ရောမနိုင်ငံတော်ကြီးကို ပြန်လည်ပေါင်းစည်းအုပ်စိုးလိုက်လေသည်။

ထိုနောက် ခရစ်ယန်အယူဝါဒ၌ အယူအဆကွဲလွဲ၍ အငြင်း



ရောမကေရာဇ်ကွန်စတန်တင်း၏ရုပ်တု



ကွန်စတန်တင်းဘုရင်ကြီး၏ စစ်အောင်ပွဲအထိမ်းအမှတ်ဖြစ်သော ကွန်စတန်တင်းမုတ်ဝ

ပွားပြီးလျှင် သင်းကွဲမည့်အရိပ်အရောင်များ ပေါ်ပေါက်လာသဖြင့် ၃၂၅ ခုနှစ်တွင် အာရှမိုင်းနားရှိ နိုင်စီးယားမြို့၌ သာသနာရေး ကောင်စီတရပ် ခေါ်ယူကျင်းပခဲ့၏။ ထိုကောင်စီတွင် ကိုယ်တိုင် ဥက္ကဋ္ဌအဖြစ်ဖြင့် ဆောင်ရွက်၍၊ သာသနာရေးညီညွတ်မှုကို ဖြစ်စေခဲ့သည်။ နိုင်စင်းဝါဒသည် ထိုအချိန်မှစတင်ပေါ်ပေါက်လာခဲ့၏။

ကွန်စတန်တင်း လက်ထက်တွင် အာရှမိုင်းနားရှိ လက်အောက်ခံနယ်များသည် ရံဖန်ရံခါ ထကြွကြသဖြင့်၊ နိုင်ငံတော်အရှေ့ပိုင်းနယ်များနှင့် နီးကပ်စိမ့်သောငှာ၊ ကွန်စတန်တင်းသည် နေပြည်တော်ကို ရောမမြို့မှ အရှေ့ဖက်ဗိုင်ဇင်းရှမ်မြို့သို့ ၃၃၀ ပြည့်နှစ်တွင် ရွှေ့ပြောင်းလိုက်၏။ ထိုနေပြည်တော်သစ်ကို ရောမမြို့ကဲ့သို့ ကြီးကျယ်အောင်တည်၍ ကွန်စတန်တီနိုပယ်မြို့ဟု သမုတ်လေသည်။ နေပြည်တော်သစ် ကွန်စတန်တီနိုပယ်မြို့သည် နှစ်ပေါင်း ၁၀၀၀ ကျော်ခန့် တည်မြဲဧည်ကားခဲ့၏။ နေပြည်တော်ဟောင်း ရောမမြို့မှာမူ နှစ် ၁၅၀ ခန့်အတွင်း၌ပင် ရန်သူတို့၏ တိုက်ခိုက်ဖျက်ဆီးမှုကြောင့် ပျက်သုန်းခဲ့ရ လေသည်။ ရောမမြို့တွင် တိုက်ရိုက်အုပ်စိုးသော ကေရာဇ် မရှိသည့်နောက် ပုပ်ရဟန်းမင်း၏ တန်ခိုးအာဏာတို့သည် ဣတလီနိုင်ငံနှင့်တကွ အနောက်ဥရောပတလွှားတွင် တဖြည်းဖြည်း တိုးတက်ကျယ်ပြန့်လာလေသည်။

ကွန်စတန်တင်းသည် အရှေ့တိုင်းထုံးစံတို့ကို နှစ်ခြိုက်၍၊ အသက်ဦးဆံပိုင် ဘုရင်စနစ်ဖြင့် အုပ်စိုးခဲ့၏။ သို့ရာတွင် အခြေအနေနှင့် လိုက်လျောညီစွာ ချင့်ချိန်ဆောင်ရွက်တတ်သဖြင့် အမြော်အမြင်ကြီးသော ကေရာဇ်တပါးဖြစ်သည်ဟု ဆိုနိုင်ပေသည်။ သာသနာ့ဝန်ထမ်း ဂိုဏ်းအုပ်ကြီးများအား အုပ်ချုပ်ရေးကောင်စီအဖွဲ့ဝင် ဘုရင့်အတိုင်ပင်ခံများအဖြစ်ဖြင့် ခန့်အပ်ခဲ့၏။ တရားဥပဒေများကိုလည်း ခရစ်ယန်အယူဝါဒတရားနှင့် အညီအညွတ်ဖြစ်စေရန် ပြုပြင်စီမံခဲ့လေသည်။ ၃၃၇ ခုနှစ်တွင်၊ ပါးရှင်းတို့၏ထိပါးခြင်းကို ခုခံတိုက်ခိုက်ရန် စစ်ထွက်ယင်း လမ်းခရီး၌ နာမကျန်းဖြစ်၍၊ ကံကုန်လေသည်။ ထိုနောက်ဆုံး နာမကျန်းဖြစ်သောအချိန်ရောက်မှပင် နန်းတက်သည့်အခါမှစ၍ ပြုစုအားပေးခဲ့ သော ခရစ်ယန်သာသနာကို အကြွင်းမဲ့ သက်ဝင်ယုံကြည်လျက် ဗတ္တိဇံ

မင်္ဂလာ (ဝါ) ရေနှစ်မင်္ဂလာကို ခံယူခဲ့သည်။ ကွန်စတန်တင်းမရှိသည့်နောက် သူထူထောင်ခဲ့သော နိုင်ငံကြီးသည် ကျန်ခဲ့သောသားတော် သုံးပါး၏လက်ထက်၌ အစိတ်စိတ်ကွဲ၍အင်အားနည်းပါးသွားလေတော့သည်။

**ကွန်ဆားဗတစ်ပါတီ**။ ။ကွန်ဆားဗတစ်ပါတီဟူသော အင်္ဂလိပ်အမည်မှာ ဗြိတိန်နိုင်ငံရှိ နိုင်ငံရေးအဖွဲ့ကြီး တဖွဲ့၏ အမည်ဖြစ်သည်။ ဗြိတိန်နိုင်ငံတွင် ယနေ့တိုင်ထင်ရှားတည်ရှိသော နိုင်ငံရေးအဖွဲ့ကြီးများမှာ ကွန်ဆားဗတစ်ပါတီ၊ လေဘာပါတီနှင့် လစ်ဗရယ်ပါတီတို့ဖြစ်သည်။ ယင်းတို့အနက် ကွန်ဆားဗတစ် ပါတီနှင့် လစ်ဗရယ်ပါတီမှာ ရှေးအခါက တိုရီပါတီနှင့် ဝှစ်ပါတီတို့မှဆင်းသက်လာသည့်ပါတီကြီးများ ဖြစ်လေသည်။

ကွန်ဆားဗတစ်ဟူသော အင်္ဂလိပ်စကားမှာ ရှိရင်းစွဲအခြေအနေကို မပြောင်းလဲစေဘဲ၊ စံနစ်ဟောင်းတို့ကို လက်ခံထားခြင်းဟုအဓိပ္ပါယ်ရသည်။ ပါတီဟူသော အင်္ဂလိပ်စကားမှာ အဖွဲ့အစည်းပင် ဖြစ်သည်။ ဤဝါဒအရဆိုလျှင် ကွန်ဆားဗတစ်ပါတီသည် နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး စံနစ်တို့ကို ရှိရင်းစွဲအတိုင်း ထိန်းသိမ်းပေးပြီးလျှင်၊ ထိုစံနစ်တို့ကို တမျိုးတဖုံဖြစ်အောင် ဖန်တီးမည့်ပြုပြင်ပြောင်းလဲမှုတို့ကို လက်မခံလိုချေ။ ပုဂ္ဂလိကပိုင်ငွေရင်းနှင့် မတည်သောလုပ်ငန်းတို့ကို အကာအကွယ်ပေး၍၊ အရင်းရှင်စံနစ်ကို အခြေခံသည့်လူမှုရေးကို အားပေးသည်။ ဗြိတိသျှအင်ပိုင်ယာတည်မြဲရေးဝါဒကို လက်ကိုင်ပြုသည်။ စီးပွားရေး၌ တိုင်းရင်းလုပ်ငန်းများကို ထိန်းသိမ်းစောင့်ရှောက် ကာကွယ်ပေး၍ ကုန်သွယ်မှု၌ အကောက်ခွန်များ ပယ်ဖျက်ရေးကို ဆန့်ကျင်ဖက်ပြုသည်။

ကွန်ဆားဗတစ်ပါတီ၏ဇစ်မြစ်ကို ဖေါ်ပြရသော် တိုရီနှင့် ဝှစ်တို့ ဖြစ်ပေါ်လာပုံမှအစပြု၍ ရေးရချိမ့်မည်။ ထိုပါတီ ၂ ခုတို့မှာ အင်္ဂလန်ပြည့်ရှင် ပဌမချားဘုရင် (ခရစ် ၁၆၃၀–၁၆၈၅) လက်ထက်က စတင်ပေါ်ပေါက်သည်။ ထိုမင်းလက်ထက်၌ ဒုတိယချားဘုရင်ကို ဆက်ခံရမည့် ထီးနန်းလျာရွေးချယ်ကြသည်။ ဒုတိယချားဘုရင်၏ညီ ယော့စား ဒျူ့ဘ်ရ ဂျိမ်းမှာ ဗရင်ဂျီဂိုဏ်းဝင် ဖြစ်လေရကား၊ အချို့နိုင်ငံရေးသမားတို့က သဘောမကျချေ။ ထို့ကြောင့် ဂျိမ်းကို နန်းလျာအဖြစ်မှ ပယ်စေသောဥပဒေကို ပြုကြသည်။ ထိုနိုင်ငံရေးသမားတို့၏ အဖွဲ့အစည်းကို ဝှစ် ဟုခေါ်သည်။ ယင်းဝှစ်တို့ကိုဆန့်ကျင်ဖက်ပြု၍၊ဂျိမ်းကိုထောက်ခံသော နိုင်ငံရေးအဖွဲ့ကား တိုရီဂိုဏ်း ဖြစ်သည်။ ယင်း တိုရီဟူသောအမည်မှ အင်္ဂလိပ်ပါလီမန် ရွေးကောက်နည်းစံနစ်ကို ပြုပြင်သည့် ပြုပြင်ပြောင်းလဲရေး ဥပဒေကြမ်း တင်သွင်းအတည်ပြုသော ခရစ်နှစ် ၁၈၃၂ ခုတွင် ကွန်ဆားဗတစ်အမည်သို့ ပြောင်းခဲ့သည်။ သို့ရာတွင် ယင်းအဖွဲ့ကို ဝေဖန်လိုသူများက တိုရီဟူ၍ပင် တခါတရံ ခေါ်လေ့ရှိသည်။

ကွန်ဆားဗတစ်ပါတီသည် ဆာရောဗတ်ပီး ခေါင်းဆောင်ခဲ့စဉ် ၁၈၄၁ ခုနှစ်မှ ၁၈၄၆ ခုနှစ်အထိ နိုင်ငံရေးအာဏာကို သိမ်းပိုက်နိုင်၍ နိုင်ငံကိုအုပ်ချုပ်ခဲ့သည်။ လော့ဒါဗီ ခေါင်းဆောင်ခဲ့စဉ်ကမူ သက်တမ်းတိုလှသော အစိုးရအဖွဲ့ကိုသာ ၃ ကြိမ်တိုင်တိုင်ဖွဲ့စည်းနိုင်ခဲ့၏။ နောင်အခါ လော့ဗီးကွန်းစဖီးဟု အမည်တွင်သော ဗင်ဂျမင်ဒစ်ဇရေလီ၏ လက်ထက်တွင်ကား ၁၈၇၄ ခုနှစ်မှ ၁၈၈၀ ပြည့်နှစ်အထိ နှစ်ရှည်စွာ အာဏာရ၍ အစိုးရအဖွဲ့ ဖွဲ့စည်းနိုင်ခဲ့သည်။ ၁၈၈၆ ခုနှစ်တွင် အိုင်ယာလန်ကျွန်း ဟုမ်းရူးအရေးကြောင့် လစ်ဗရယ်ပါတီမှ သဘောကွဲလွဲ ထွက်ခွာလာသူများသည် ကွန်ဆားဗတစ်ပါတီနှင့် ပူးပေါင်းကြလေရာ ကွန်ဆားဗတစ်ပါတီသည် ယူနီယန်နစ်ပါတီဟု အမည်ခံကာ နှစ်ပေါင်း ၂၀ ခန့် နိုင်ငံရေးအာဏာ လက်ဝယ်ရယူ ထားနိုင်ခဲ့ပြန်သည်။ ထိုစဉ်က ထင်ရှားသော ကွန်ဆားဗတစ်ပါတီဝင်မှာ ဂျိုးဇက်ချိန်ဗာလိန်ဖြစ်သည်။

၁၉၁၅ ခုနှစ်နှင့် ၁၉၄၅ ခုနှစ်များအတွင်း၊ ကွန်ဆားဗတစ်ပါတီသည် အင်အားတောင့်တင်းသဖြင့် အစိုးရအဖွဲ့ဖွဲ့စည်း၍ အုပ်ချုပ်နိုင်ခဲ့၏။ သို့သော် ၁၉၂၄ ခုနှစ်တွင်တကြိမ်၊ ၁၉၂၉–၃၁ တွင်တကြိမ် ခေတ္တမျှအဆက်ပြတ်ခဲ့ရသည်။ အာဏာကို ဤမျှကြာကြာ သိမ်းပိုက်နိုင်ခဲ့သည်မှာ လေဘာပါတီ ပေါ်ပေါက်လာခြင်းကြောင့်ဖြစ်သည်။ လစ်ဗရယ်ပါတီဝင်အများအစားသည် လေဘာပါတီ၏ ဆိုရှယ်လစ်ဝါဒ လွှမ်းမိုးမှုကို ကာကွယ်ရန်အတွက် ကွန်ဆားဗတစ်နှင့် ပူးပေါင်းကြသည်။ ထိုသူများ နှင့်အတူ ဝင်စတန် ချာချီသည် ကွန်ဆားဗတစ် ပါတီသို့ဝင် ခဲ့၏။ ဒုတိယကမ္ဘာစစ် အပြီး ၁၉၄၅ ခုနှစ်၌ကား လေဘာပါတီသည် ရွေးကောက်ပွဲတွင် ကွန်ဆားဗတစ် များကို အပြတ်အသတ် အနိုင် ရရှိပြီး နောက် အစိုး ရအဖွဲ့ ဖွဲ့စည်းနိုင်ခဲ့လေသည်။

ကွန်ဆားဗတစ်ပါတီ၏ ကမ္ဘာကျော် ခေါင်း ဆောင်ကြီး များဖြစ်ကြသော ချာချီနှင့်အီဒင်တို့သည် ၁၉၅၀ ပြည့်နှစ် ရွေးကောက်ပွဲတွင် အနိုင်ရရှိရန် အစွမ်းကုန် ကြိုးပမ်းကြသော်လည်း လေဘာပါတီကို ကပ်၍ရှုံးခဲ့လေသည်။ သို့ရာတွင် ၁၉၅၁ ခုနှစ် အောက်တိုဘာလ ရွေးကောက်ပွဲ၌ကား၊ ကွန်ဆားဗတစ်သည် အနိုင်ရခဲ့ပြန်သဖြင့် ယခုအခါ ထိုပါတီ၏အစိုးရအဖွဲ့သည် ချာချီ၊ အီဒင်ခေါင်းဆောင်မှုဖြင့် နိုင်ငံတာဝန်ကို ထမ်းဆောင်လျက် ရှိလေသည်။ (ပီး,ဆာရောဗတ်။ ဒစ်ဇရေလီ, ဗီ။ ချိန်ဗာလိန်, သားအဖ။ ချာချီ, ဆာဝင်စတန်။ — လည်းရှု။)

**ကွန်နီမိဖါပင်မျိုး**။ ။ထင်းရှူး — ရှု။



ကွန်နက်တီကပ်ပြည်နယ်ရှိဟာ့တဖို့မြို့ကိုဤသို့ခမ်းနားစွာတွေ့မြင်ရသည်။

**ကွန်နက်တီကတ်ပြည်နယ်။** ။ကွန်နက်တီကတ်ပြည်နယ်သည် အမေရိကန်ပြည်ထောင်စု၏ မူလပြည်နယ်ကြီး ၁၃ ခုတွင် အပါအဝင်ဖြစ်၍ အတ္တလန္တိတ် ကမ်းခြေဖက်တွင် တည်ရှိသည်။ ထိုပြည်နယ်၏မြောက်ဖက်တွင် မက်ဆချူး ဆက်ပြည်နယ်၊ အရှေ့ဖက်တွင် ရုတ်ကျွန်း၊ တောင်ဖက်တွင် လောင်းအိုင်လန်ရေလက်ကြားရှည်နှင့် အနောက်ဖက်တွင် နယူးယော့ပြည်နယ်တို့က နယ်နိမိတ်သတ်ထားလေသည်။

ကွန်နက်တီကတ်နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၅၀၀၉ သာရှိ၍ ၁၉၅၀ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေမှာ ၂,၀၀၇,၂၈၀ ယောက်ဖြစ်ရာ အကျယ်အဝန်းနှင့်မမျှအောင် လူဦးရေထူထပ်လေသည်။

ထိုနယ်တွင် မြို့ပေါင်းများစွာရှိ၍ မြို့တော်မှာကွန်နက်တီကတ် မြစ်ပေါ်တွင်တည်ရှိသော ဟာ့တဖို့မြို့ဖြစ်၏။ ၁၉၅၀ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၁၇၇,၃၉၇ ယောက်ရှိသည်။ အခြားမြို့များမှာ ၁၉၅၀ ခု လူဦးရေ ၁၆၄,၄၄၃ ယောက်ရှိသော နယူးဟေးဗင်းမြို့နှင့် ၁၉၅၀ ခု လူဦးရေ ၁၅၈,၇၀၉ ယောက်ရှိသည့် ဗရစ်ဂျပို့ မြို့တို့ဖြစ်လေသည်။ ကမ္ဘာ၌ ထင်ရှားကျော်ကြားလှသော ယေးတက္ကသိုလ်မှာ နယူးဟေးဗင်း မြို့တွင်ရှိလေသည်။

ကွန်နက်တီကတ် ပြည်နယ်သည် မြေဩဇာ ထက်သန်ကောင်းမွန်ခြင်းမရှိသဖြင့် လယ်ယာစိုက်ပျိုးရေး ကောင်းစွာမဖြစ်ထွန်းချေ။ သို့ရာတွင် နွားနို့ထွက်ပစ္စည်းလုပ်ငန်းနှင့် သစ်သီးခြံများမှာ နယ်၏ စီးပွားရေးကို များစွာ အထောက်အပံ့ပေးလေသည်။ စက်မှုလက်မှုလုပ်ငန်းများ ထွန်းကားသည့်ပြည်နယ် ဖြစ်သည့်အားလျော်စွာ ထွက်ကုန်များမှာ စက်မှုလက်မှုလုပ်ငန်းဆိုင်ရာ ပစ္စည်းသာလျှင်ဖြစ်သည်။ ထိုပြည်နယ်၏ အများဆုံးထွက်ကုန်များမှာ ခဲယမ်းမီးကျောက်များ၊ လေယာဉ်ပျံစသည့် စစ်သုံးပစ္စည်းများ၊ နာရီများနှင့် ဆေးလိပ်ဆေးတံစသော ကုန်စည်များဖြစ်ကြလေသည်။

**ကွန်ပါဘိမ်မြှောင်။** ။သံလိုက်အိမ်မြှောင် — ရှု။



ကမ္ဘာကျော်ယေးတက္ကသိုလ်

အမေရိကန်ပြည်ထောင်စုနိုင်ငံတွင် ယေးတက္ကသိုလ်သည် ပညာဆည်းပူးရာ ဗဟိုဌာနတခုဖြစ်ခဲ့သည်။ အင်္ဂလန်တွင် အောက်စဖို့တက္ကသိုလ် ကင်းဗရစ်တက္ကသိုလ်တို့ ထင်ပေါ်ကျော်ကြားသကဲ့သို့ အမေရိကတွင်လည်း ထိုယေးတက္ကသိုလ်သည် ကမ္ဘာကျော်ကြား၍ ဂုဏ်ယူစရာဖြစ်သည်။

# တရုပ်ယထာဘူတပညာရှင်

**ကိုယ်ကျင့်တရားကောင်းမွန်ရေးအတွက် ဩဝါဒအမျိုးမျိုးပေးပေသော ပညာရှိသုခမိန်ကြီး ကွန်သည် သာမန်လူသားတရားဟော ဆရာဖြစ်ငြားလည်း သူ့တရားများမှာ အဆီအနှစ်နှင့်ပြည့်စုံသဖြင့် သန်းပေါင်းများစွာသော အာရှတိုင်းသားတို့က ဘုရားတဆူ ဂူတလုံးသဖွယ်ကိုးကွယ်ကြသည်။ သူ၏ဩဝါဒများသည် တခါက တရုပ်နိုင်ငံတော် အယူဝါဒဖြစ်ခဲ့ပေသည်။**

**ကွန်ဖူးဇီး** (ဘီစီ ၅၅၀–၄၇၉)။ ။တရုပ်ပညာရှိသုခမိန်ကြီး ကွန်ဖူးဇီးသည် ယခုရှန်တွန်ကျွန်းဆွယ်တွင် အပါအဝင်ဖြစ်သော လူးနယ်၌ ခရစ်မပေါ်မီဖြစ်သော ဘီစီ ၅၅၀ ခုနှစ်တွင် ဖွားမြင်၍၊ သူ၏ဖခင်မှာ ခရိုင်တခုကို အုပ်ချုပ်သောလူကြီးဖြစ်၏။ ကွန်ဖူးဇီး၏ မျိုးရိုးအမည်မှာ ကွန် ဖြစ်၍ ဖူးဇီးကား ပညာရှိကြီး၊ သို့မဟုတ် ဆရာကြီးဟု အနက်ရ၏။ (ဆရာကြီးကွန် အဓိပ္ပါယ်ရသော သူ၏အမည်ကို၊ လက်တင်စာဖြင့်ရေးရာတွင် ကွန်ဖျူးရှပ် ဟုဖြစ်လာသည်။)

ကွန် ၃ နှစ်သားအရွယ်တွင် သူ၏ဖခင်ကွယ်လွန်၍၊ ကျန်ရစ်သူတို့မှာ နေရေးထိုင်ရေးကျပ်တည်းခဲ့၏။ ကွန်သည် ၅ နှစ်သားခန့်ကပင် အခြားသောကလေးများနှင့် မတူဘဲ ဉာဏ်ပညာ ထက်မြက်သူဖြစ်ခဲ့သည်။ ၁၉ နှစ်အရွယ်တွင် အိမ်ထောင်ပြုရာ သား ၁ ယောက် သမီး ၂ ယောက်ထွန်းကားခဲ့လေသည်။

အသက် ၂၂ နှစ်အရွယ်တွင် ပညာအမြော်အမြင်နှင့်ပြည့်စုံသောကွန်သည် ကျောင်းတကျောင်းတည်ထောင်၍ လူ့ကျင့်ဝတ်တရားနှင့် တိုင်းပြည်အုပ်ချုပ်မှုသဘောတရားများကို သင်ကြားလေသည်။ သူ၏တပည့်များထံမှ နည်းများမဟူ ဉာဏ်ပူဇော်ခများကိုလက်ခံ၍ သင်ကြားပေးသော်လည်း စိတ်ပါဝင်စားခြင်းမရှိသည့်တပည့်များကိုကား လက်မခံချေ။ သူ၏တပည့်များတွင် လူးနယ်မှ ထိပ်သီးလူကုံထံများပါဝင်လေသည်။

အသက် ၃၄ နှစ်အရွယ်တွင် ဆရာကြီးကွန်သည် နန်းစိုက်ရာမြို့တော်သို့ သွားရောက်ပြီးလျှင် ရှေးဟောင်းစာပေပိဋကတ်နှင့် သုခုမပညာရပ်များကို ရှာဖွေဆည်းပူးပြန်သည်။ အပြန်တွင် တိုင်းပြည်ဆူပူ၍ အုပ်ချုပ်သူမြို့စားလည်း ဆီနယ်သို့ ထွက်ပြေးတိမ်းရှောင်နေရသည်နှင့် ကြုံလေသည်။ မိမိတို့အပေါ်တွင် အုပ်ချုပ်သူကို တိုက်ခိုက်နှင်ထုတ်သူများအား ကွန်ဖူးဇီးသည် မတွေ့လိုသဖြင့် နေရပ်သို့မပြန်တော့ဘဲ၊ မြို့စားပြေးရာသို့ လိုက်သွားခဲ့၏။ သူ၏တပည့်များစွာလည်း သူနှင့်အတူလိုက်ပါသွားကြသည်။

လမ်းခရီးတွင် မိန်းမတယောက်သည် သင်းချိုင်းရာတခု၏အနီး၌ ငိုကြွေးလျက်ရှိသည်ကို တွေ့ရ၍ ပညာရှိကြီးက ရပ်တန့်ပြီးလျှင် အကျိုးအကြောင်းကိုမေးမြန်း၏။ ငိုကြွေးလျက်ရှိသောမိန်းမက ‘ဤနေရာ၌ ကျွန်မ၏ ယောက္ခမသည်၎င်း၊ လင်သည်၎င်း၊ သားငယ်သည်၎င်း၊ ကျားရဲဘေးဖြင့် သေဆုံးသွားသောကြောင့် ငိုကြွေးနေပါသည်’ ဟုပြန်ပြောသောအခါ၊ ပညာရှိကြီးက ‘သို့ဖြစ်လျှင်ချစ်သမီး အဘယ်ကြောင့်ဤမျှ ကျားရဲရှိသောအရပ်မှ မခွာသနည်း’ ဟုမေး၏။ မယ်ဒုက္ခကလည်း ‘အရှင်၊ကျွန်မသည် ဤနေရာ၌ နှိပ်စက်သောအစိုးရ မရှိသောကြောင့် နေပါသည်’ ဟု ဖြေလေသည်။ ထိုအခါ ပညာရှိကြီးသည် သူ၏တပည့်များအား ‘ချစ်သားတို့၊ ဆင်ခြင်ကြလော့၊ နှိပ်စက်သောအစိုးရသည် ကျားထက်ဆိုး၍ကျားထက်ပင် ပိုမိုကြောက်လန့်ကြကုန်သည်’ ဟု ဩဝါဒစကား မိန့်ကြားခဲ့ဘူး၏။

ထိုနောက်မကြာမီ ကွန်ဖူးဇီးလည်း ဇာတိဖြစ်သော လူးနယ်သို့ ပြန်လာပြီးနောက်၊ ၁၅ နှစ်ခန့် စာပေလေ့လာလိုက်စားယင်း သူ၏တပည့်များကို ဆုံးမဩဝါဒပေးခဲ့၏။ အသက် ၅၂ နှစ်အရွယ်တွင် ချန်တူးမြို့တွင် တရားသူကြီးအဖြစ် ခန့်အပ်ခြင်းခံရသည်။ သို့သော်များမကြာမီ ယခင်က ထွက်ပြေးရသော မြို့စား၏ညီဖြစ်သူ မြို့စားကပြန်ခေါ်၍ ကြီးမြင့်သောရာထူးတခုတွင်



တရုပ်ပညာရှိကြီးကွန်ဖူးဇီး



**ပီပင်းမြို့ရှိကွန်ဖူးဇီးဘုရားကျောင်း**

ခန့်ထားလေသည်။ ထိုနောက် ကွန်ဖူးဇီး အား ရာဇဝတ်ဌာနဆိုင်ရာ ဝန်ကြီးအဖြစ် ခန့်ထားသောအခါ သူ၏စီမံအုပ်ချုပ်ပုံ ကောင်းမွန် လှသော ကြောင့် ရာဇဝတ် မှုခင်း များ ဖြစ်ပွားခြင်းမရှိဘဲ လိမ်လည်မှု၊ ဆိုးသွမ်းမိုက်မဲမှုများလည်း ပပျောက်လေသည်။

ယင်းသို့ စွမ်းဆောင် နိုင် မှုကြောင့် ကွန် ဖူး ဇီး သည် လူအများ၏ ကြည်ညိုလေး စား ခြင်း ခံယူ ရသည် နှင့် အမျ၊ အိမ်နီးချင်းဖြစ်သောနယ်များမှ မြို့စားများကမူ ကွန်ဖူးဇီးသည် တနေ့နေ့တွင် သူတို့၏လူများအပေါ် ဝယ် သြဇာလွှမ်းမိုးလာမည်ဟု စိုးရိမ်ကြသည်။ လူးနယ်နှင့် အလွန်နီးကပ်သည့် နယ်တနယ်မှမြို့စားသည် အခြားမြို့စားများထက်ပိုမိုစိုးရိမ်သဖြင့် အတီး အမှုတ် အက အခုန် တွင် ကျွမ်း ကျင်သောမိန်းမချောကလေးများကို လူးနယ်အုပ်ချုပ်သူ မြို့စားထံသို့စေလွှတ်၍ မြို့စားကို ကွန်ဖူးဇီးအား ပစ်ပယ်စေရန် ဖြားယောင်းစေသည်။ ထိုသူ၏ အကြံအစည် ထမြောက် အောင်မြင်သောကြောင့် ကွန်ဖူးဇီးလည်း လူးနယ်မှ ထွက်ခွာသွားရရှာလေသည်။

ထိုနောက်မြို့စားလည်း မေ့လျော့နေသဖြင့် ကွန်ဖူးဇီးအား ပြန်မခေါ်တော့ချေ။ ဆရာကြီးလည်း ၁၃ နှစ်မျှကာလပတ်လုံး တရုပ်နိုင်ငံ အနှံ့အပြားသို့ လှည့်လည်သွားလာခဲ့ပြီးမှ လူးနယ်သို့ပြန်လာခဲ့လေသည်။ သို့ရာတွင် မည်သည့်ရာထူးကိုမျှ လက်မခံတော့ချေ။

ဆရာကြီးကွန်ဖူးဇီး၏ တပည့်ပေါင်း ၃၀၀၀ ကျော်ရှိသည့်အနက် ၇၀၊ ၈၀ခန့်မှာ သူ၏တပည့်ရင်း စာတတ်ပုဂ္ဂိုလ်ကြီးများဖြစ်ကြ၍ ထူးချွန်သူများဖြစ်လေသည်။ ထိုတပည့်ရင်းများသည် သူ၏အနီး၌ နေ့ညဉ့်မပြတ် ရှိသေစွာဆည်းကပ်လျက် ဆရာကြီး ပြုမူပြောဆို သွန်သင်သမျှကို တစမကျန် နာယူမှတ်သားကြလေသည်။ ထိုပုဂ္ဂိုလ်များမှတဆင့် ပညာရှိကြီး၏အကြောင်းကိုကျွန်ုပ်တို့သိကြရပေသည်။

ကွန်ဖူးဇီး၏ ဩဝါဒ များမှာ လူတို့၏ ကိုယ်ကျင့် တရားကောင်းမွန်ရေး ဖြစ်၍ သာသနာရေးဆိုင်ရာ ဟောပြောချက်များမဟုတ်ပေ။ အသက်ရှင်စဉ်တွင် မည်သို့နေထိုင်ပြုမူမှ ကောင်းသောနေခြင်းဖြစ်မည်ကို ဆောင်ပုဒ်ကလေးများဖြင့် သွန် သင် ခဲ့ ၏။ သူ၏ ဩ ဝါ ဒ များ စွာတို့တွင် 'သင့်အားသူတပါးကပြုမူလျှင် သင်နှစ်သက်မည်မဟုတ်သည့် အပြုအမူမျိုးကို တပါးသူတို့အား မည်သည့်အခါမျှမပြုမူ

လေနှင့်’ ဟူသောစကားမှာ ဆရာကြီး၏ လက်သုံးစကား တရပ်ဖြစ်လေသည်။

သူမကွယ်လွန်မီ သူ၏သားနှင့်တပည့်ရင်း ပညာတတ်ပုဂ္ဂိုလ် ၂ ဦး ကွယ်လွန်ခဲ့လေရာ၊ ဆရာကြီးမှာ များစွာ နှမြောတသမိလေသည်။ အသက် ၇၃ နှစ် အရွယ်သို့ရောက်၍ သူကွယ်လွန်ရမည်ကို သိသောအခါ၌ တခုသောနံနက်စောစောတွင် လမ်းလျှောက်ယင်း ‘တောင်ကြီးသည်ပြိုရမည်။ သံတိုင်သည်လည်းကျိုးရမည်။ ပညာရှိသည်လည်း သစ်ပင်များကဲ့သို့ ညှိုးနွမ်းပျက်စီးရချေမည်တကား။’ ဟုသံဝေဂစကား ကျူးရင့်သည်ကို သူ၏တပည့်ရင်းတယောက်က မှတ်သားထားခဲ့လေသည်။

ကွန်ဖူးဇီးသည် ဘီစီ ၄၇၈ ခုတွင် ကွယ်လွန်အနိစ္စရောက်လေသည်။ သူ၏ရုပ်အလောင်းကို ချူးဖူးမြို့တွင် ကောင်းစွာမြှုပ်နှံ သင်္ဂြိုဟ်ကြလေသည်။ သူသည် သာမန်လူသားတရားဟောဆရာကြီးမျှသာဖြစ်သော်လည်း ပညာဗဟုသုတပြည့်ဝလှသော သူတော်ကောင်းပညာရှိကြီး တဦးဖြစ်သောကြောင့် သန်းပေါင်းများစွာသော အရှေ့တိုင်းရင်းသားတို့က ဘုရားတဆူဂုတလုံးအမှတ်ပြု၍ ဆည်းကပ်ကိုးကွယ်ကြသည်။ တရုပ်လူမျိုးများသည် နှစ်စဉ် ချူးဖူးမြို့ရှိ သူ၏သင်းချိုင်းဂူသို့ သွားရောက်၍ အရိုအသေပြုကြသည်။ အသက်ရှင်စဉ်ကထက် ကွယ်လွန်သောအခါမှ၊ ကွန်ဖူးဇီး၏ဩဝါဒများကို လိုက်နာကျင့်သုံးသူ ဦးရေများပြားလာသည်။ ယခုအခါ တရုပ်နိုင်ငံရှိမြို့ကြီးတိုင်းတွင် ကွန်ဖူးဇီးအားရည်စူး၍ ဆောက်လုပ်ထားသော ဘုရားကျောင်းအနည်းဆုံးတဆောင်စီရှိလေသည်။

**ကွန်မျူနစ်ဝါဒ**။ ။ကွန်မျူနစ်ဝါဒသည် လူမှုရေးစံနစ်တရပ်ဖြစ်သည်။ ကွန်မျူနစ်ဝါဒတွင် ပါဝင်သောသဘောတရားများမှာ ရှေးအထက်ကာလကပင် ကမ္ဘာပေါ်တွင် တည်ရှိခဲ့၍၊ ထိုသဘောတရားများအတိုင်း ကျင့်ကြံ နေထိုင်ရန်အားထုတ်ခဲ့သော လူအစုအဖွဲ့များမှာလည်း လူ့သမိုင်းတလျှောက်တွင် ရှိခဲ့သည်။

ကွန်မျူနစ် ဆိုသောစကားသည် လက်တင်ဘာသာမှလာသော စကားဖြစ်၍ ကွန်မျူနစ်ဝါဒဆိုသည်မှာ လူသုံးပစ္စည်းထုတ်ဆောင်ရာ ဌာနများဖြစ်သော အလုပ်ရုံနှင့်တန်ဆာပလာစသည့် ‘ကုန်ထုတ်ကရိယာ’ များနှင့်မြေယာများကိုပြည်သူလူထုက ပိုင်ဆိုင်၍ ပြည်သူလူထုတရပ်လုံး၏ အကျိုးအတွက် လူတိုင်း လူတိုင်းက လုပ်အားပြည့်တင်းရမည့်သဘောတရားဟု အနက်အဓိပ္ပါယ်ရှိသည်။

အချို့ကမြန်မာလို ‘ဘုံဝါဒ’ ဟုခေါ်သော်လည်း ဘုံဝါဒဟူသော ဝေါဟာရသည် တိကျသောအနက်အဓိပ္ပါယ်ထွက်သည်ဟု မဆိုနိုင်ပေ။

‘သမာသမဂ္ဂဝါဒ’ ကျမ်းပြုသူ အရှင်ဥက္ကဋ္ဌဆရာတော်က ‘သမာသမဂ္ဂဝါဒ’ ဟု ဘာသာပြန်ထားသည်။ မြေယာနှင့် အရင်းအနှီးပစ္စည်း ဥစ္စာများကို ဘုံပစ္စည်းအဖြစ်ထား၍ စုပေါင်းလုပ်ကိုင်ကာ ထိုမှဖြစ်ထွန်းသည့် အကျိုးကျေးဇူးများကို မျှတစွာဝေငှစားသုံးသည့် နေထိုင်မှုစံနစ်မှာ ကမ္ဘာဦးလူတို့သည် လူ့သမဂ္ဂ (ဝါ) အစုအဖွဲ့နှင့် နေတတ်လာသည့်အခါကပင် ပေါ်လာဟန်တူသည်။ ထိုနောက်မှ ပုဂ္ဂလိက ပစ္စည်းပိုင်ခြင်းနှင့် တဦးစီ ကိုယ်ကျိုးရှာခြင်းတို့သည် လောဘ ဒေါသ မောဟ အလျောက်ပေါ်လာဟန်တူသည်။ ထိုဘုံဝါဒမျိုးမှာလူ့သမိုင်းတလျှောက်တွင်ရံခါရံခါပေါ်လာခဲ့၍ လိုက်နာကျင့်သုံးသူ လူစုများလည်း ရှိခဲ့သည်။ ရှေးဦးခရစ်ယန် အယူဝါဒီတို့သည် ဘုံဝါဒကို ကျင့်သုံးခဲ့သည်။ ဥရောပအလယ်ခေတ်တွင် ထွန်းကားခဲ့သည့် ခရစ်ယန်ဘုန်းကြီးကျောင်းများတွင် ဘုံဝါဒစံနစ်အတိုင်း နေထိုင်ကြသည်။ ဗုဒ္ဓအယူဝါဒအရ သံဃာ့အဖွဲ့အစည်း၌ ‘သံဃိက’ ဟူသော သဘောရှိပုံနှင့် နှိုင်းယှဉ်ကြည့်ပါလေ။ ခရစ်နှစ် ၁၉ ရာစုအတွင်းတွင် အင်္ဂလန်ပြည်မှ ‘ရောဗတ်အိုဝင်’ ဆိုသူ



တရုပ်နိုင်ငံ မြောက်ပိုင်းရှန်တန်ပြည်နယ် ချူးဖူးမြို့ရှိကွန်ဖူးဇီး၏သင်းချိုင်းဂူ

သည် ဘုံဝါဒကို လိုက်နာကျင့်သုံးနေထိုင်သော စံပြလူစု ၂ စု အား အိုးအိမ်ထူထောင်ပေး၍ ရွာများကို အင်္ဂလန်တွင်၎င်း၊ အမေရိကန်ပြည်ထောင်စုတွင် ၎င်း၊ တည်ပေးခဲ့လေသည်။ အမေရိကန်ပြည်ထောင်စု နယူးယော့ပြည်နယ်တွင် ဘုံဝါဒ ကို ကျင့်သုံးသည့် အိုနိုင်ဒါ ကွန်မျူနတီခေါ် လူစုတစုလည်း အတော်အတန်နာမည်ထွက်ခဲ့ပေသည်။

အထက်ပါ ဖော်ပြခဲ့သော လူစုများအပြင် ဘုံဝါဒကို လိုက် နာကျင့်သုံးသည့် အခြား အခြားသော လူစုများအားလုံး နှင့် စပ်လျဉ်း၍ တွေ့ရှိရသော အချက် ၂ ချက်ရှိသည်။ ပဌမ အချက်မှာ ထိုလူစုများတွင် လူဦးရေ များပြားစွာပါဝင် သည်ဟု မဆိုနိုင်ချေ။ ဒုတိယအချက်မှာ ဤဘုံဝါဒအတိုင်း ဖွဲ့စည်းနေထိုင်ခဲ့သည့် လူစုများမှာ ဘုံဝါဒကို လက်မခံသော လူအများ ကြား ထဲ တွင် နေခဲ့ရသည်ဖြစ်၍ ကြာရှည်စွာ မတည်မြဲ နိုင်ခဲ့ပေ။

ဘုံဝါဒကို သဘောတရားတရပ်အဖြစ်နှင့်လည်း ဂရိကျမ်း ပြုဆရာ ပလေးတို နှင့် အင်္ဂလိပ်ကျမ်းပြုဆရာ ဆာ တောမတ် မိုး စသည့် ပညာရှင်ကြီးများကလည်း သုံးသပ်လက်ခံခဲ့ သည်။ သို့သော် သူတို့၏အယူအဆများမှာ စိတ္တဇသဘာဝ များပေါ်သာ အမှီပြုခဲ့သည်ဖြစ်၍၊ အမြဲတစေမှန်ကန်နေ သော အနုမာနများ မဟုတ်ချေ။ (ပလေးတို၊ မိုး, ဆာ တော မတ် — ရှု။)

ယခုအခါ လူအများနားလည်နေသော ကွန်မျူနစ်ဝါဒမှာ ၁၈၄၈ ခုနှစ်က ကားလမတ်နှင့် အန်းဂဲတို့ ရေးသားထုတ် ဝေသော ကွန်မျူနစ် ကျေညာစာတမ်းမှ ပေါက်ပွားလာခဲ့ သည်။ ကွန်မျူနစ် ကျေညာစာတမ်း၌ ကွန်မျူနစ်ဝါဒ၏ အခြေခံ သဘောတရားများနှင့် လုပ်ငန်းစဉ်တို့ကို ဖော်ပြ ထားသည်။ (မတ်, ကားလ၊ အန်းဂဲ, အက် (ဖ) — ရှု။)

ကားလမတ်၏ အာဘော်အရမှာ လူ့သမိုင်းဟူသည် စိုးပိုင်သောတန်ခိုးအာဏာရှိသူနှင့်တန်ခိုးမဲ့သူ–တို့မရပ်မနား ပဋိပက္ခ ဖြစ်နေကြသော လူတန်းစားတိုက်ပွဲများဖြစ်၏ ဟူသည်။ ထိုလူတန်းစား တိုက်ပွဲများသည် ထွက်ကုန် လုပ်ကိုင်နည်းစံနစ်မှ ပေါက်ပွားလာသည်။ ထိုစံနစ်သည် လူ့အစည်းအရုံးကိုလည်း အစိတ်စိတ် အမြွှာမြွှာ ခွဲခြမ်းနိုင် သော သတ္တိရှိသည်။ သို့ရှိသည့်အားလျော်စွာ လူ့အစည်း အရုံးကို ကျေးကျွန်၊ မြေကျွန်၊ အခစား၊ အလုပ်သမား စသည်ဖြင့်၎င်း၊ ကျွန်ပိုင်၊ မြေပိုင်၊ ပဒေသရာဇ်၊ အရင်းရှင် စသည်ဖြင့်၎င်း၊ ကွဲပြားခြားနားစေခဲ့သည်။ ပဌမ လူတန်း စားသည် အလုပ်ကို တကယ်လုပ်ပေးရ သူများဖြစ်၏။ ဒုတိယ လူတန်းစားကား ပဌမ လူတန်းစား၏ လုပ်အားကို သူတို့၏ ကိုယ်ကျိုးအလို့ငှာ အသုံးချသူများဖြစ်၏။ အချုပ် ကိုဆိုသော် ကုန်ထုတ်ကရိယာများကို ပိုင်ဆိုင်သူသည် စိုးမိုး ခြယ်လှယ်သူဖြစ်၍၊ ပိုင်ဆိုင်မှုကင်းမဲ့သော အလုပ်သမားတို့ မှာ စိုးမိုးခြယ်လှယ်ခြင်းခံရသူများဖြစ်၏။ အဆိုပါ လူတန်း စား ၂ မျိုးရှိသမျှ ကာလပတ်လုံး လူတန်းစား တိုက်ပွဲများ ဆက်လက်ဖြစ်ပွား နေမည်ဖြစ်သောကြောင့် ကမ္ဘာပေါ် တွင် ငြိမ်းချမ်းရေးကို ရရှိနိုင်မည်မဟုတ်ချေ။ ထို့ကြောင့် ကမ္ဘာ့ငြိမ်းချမ်းရေးကို ရလိုလျှင် လူတန်းစား ကွဲပြားခြား နားခြင်း မရှိသော ကွန်မျူနစ်စံနစ်ကို ထူထောင်ရမည်ဟု ကားလမတ်က ညွှန်ကြားခဲ့လေသည်။

ရှေးဦးစွာ အရင်းရှင်များပိုင်ဆိုင်သော စက်ရုံအစရှိသော ကုန်ထုတ်ကရိယာများနှင့် မြေယာများကို အလုပ်သမား များက သိမ်းယူပြီးလျှင် ပစ္စည်းမဲ့အာဏာရှင် စံနစ်ကို ထူထောင်ရမည်။ အရင်းရှင်များ ပိုင်ဆိုင်သော အရင်းအနှီး ပစ္စည်းအဝဝတို့ကို သိမ်းပိုက်ရန်မှာလည်း ချေမှုန်းစွာနှင့်ပြီး မြောက်နိုင်ခဲသည်။ တော်လှန်မှုကြီးဖြင့်သာ ဖြစ်မြောက်နိုင် ပေမည်။ ထို့ကြောင့် ကွန်မျူနစ်စံနစ် တည်ထောင်ရေးတွင် တော်လှန်ရေးမှာ မလွှဲမရှောင်သာသော ကိစ္စတရပ်ဖြစ် သည်ဟူ၍ ကားလမတ်က ဆိုလေသည်။

ကားလမတ်သည် ၁၈၆၇ ခုနှစ်တွင် 'အရင်းအနှီး' ဆို သော ကျမ်းကိုရေးသားထုတ်ဝေခဲ့ပြန်သည်။ ထိုကျမ်းတွင် လူ့သမိုင်းကို ဘောဂဗေဒအရ အဓိပ္ပါယ်ဖော်ပြထားသည့် အပြင် အရင်းရှင်စံနစ်၏ ဆိုးရွားပုံ၊ ဖေါက်ပြန်ပုံတို့ကို ဖေါ် ပြထားလေသည်။ ပမာအားဖြင့် အရင်းရှင်ဝါဒတွင် တဦး တည်း ပိုင်ဆိုင်လုပ်ကိုင်မှုကို အားပေးခြင်း၊ အပြိုင်အဆိုင် ကုန်စည်များထုတ်လုပ်ခြင်း၊ စံနစ်မဲ့ ကုန်ထုတ်လုပ်ခြင်းများ နှင့် ကုန်ကြမ်းများကို အလိုရှိခြင်း၊ ကုန်ချောများ ဖြန့်ဖြူး ရန်ဈေးနှုန်းများ လိုခြင်း၊ ထို့ကြောင့် မလွှဲမရှောင်သာဘဲ နယ်ချဲ့ဝါဒသို့ကူးပြောင်းရခြင်းစသောဖေါက်ပြန်မှုများသည် အရင်းရှင်စံနစ် စတင်ပေါ် ပေါက်စဉ်ကပင် တပါတည်းပါလာ ခဲ့သည်ဟုဆို၏။အရင်းရှင်စံနစ်အောက်တွင် ပစ္စည်းမဲ့အလုပ် သမားများမှာ မိမိဖြည့်စွမ်းပေးသော လုပ်အား၏တန်ဖိုးကို တိကျစွာ ပြန်လည်မရရှိဘဲ၊ ခေါင်းပုံဖြတ်ခြင်းကိုသာ ခံရ ကြောင်း၊အမြတ်အစွန်းဆိုသည်မှာ အလုပ်သမားများရသင့် ရထိုက်သော လုပ်အား၏တန်ဖိုးထဲမှ အရင်းရှင်တို့ကခေါင်း ပုံဖြတ်ယူလိုက်သော အစွန်းထွက်တန်ဖိုး (ဝါ) အပိုတန်ဖိုး သာ ဖြစ် ကြောင်း နှင့် ကား လမတ် က ဆို လေ သည်။ ထိုအကြောင်းများကြောင့်အရင်းရှင်စံနစ်သည်နောက်ဆုံး၌ မိမိသင်းချိုင်းကို မိမိတူး၍ ဇာတ်သိမ်းရမည်ဖြစ်ကြောင်းနှင့် ရေးသားထားလေသည်။ကားလမတ်သည် အရင်းရှင်စံနစ် ကို ပြစ်တင်ရှုတ်ချထားသော်လည်း အရင်းအနှီးကိုမူ မရှုတ် ချခဲ့ချေ။အရင်းအနှီးဟုဆိုအပ်သော ကုန်ထုတ်ကရိယာများ ကို လူများစုက ပိုင်ဆိုင်ပြီးလျှင် စံနစ်ကျသော ထွက်ကုန်လုပ် ဆောင်ရေးထူထောင်ရန်လမ်းစဉ်များကိုချမှတ်ခဲ့လေသည်။ (အရင်းရှင်ဝါဒ — ရှု။)

ကားလမတ် ရေးသား ချမှတ်ခဲ့သော ကွန်မျူနစ်ဝါဒတွင် အဆင့်အားဖြင့် ၂ ဆင့်ရှိလေသည်။ပဌမအဆင့်မှာ စက်ရုံနှင့်လယ်ယာများကို ပစ္စည်းမဲ့ ဆင်းရဲသား (အလုပ်သမားနှင့်လယ်သမား) များက သိမ်းယူပြီးနောက် ကုန်ထုတ်လုပ်ရေး၊ ဖြန့်ဖြူးရေးနှင့် စီမံခန့်ခွဲရေးများကို နိုင်ငံတော်အစိုးရက ဆောင် ရွက် သွား ရန် ဖြစ် သည်။ သို့ရာတွင် အရင်းအနှီးသဘော မသက် ရောက် သော မိမိကိုယ်ပိုင် သုံး ပစ္စည်းအချို့ကိုမူ ခွင့်ပြုထား လေသည်။ ဤအဆင့်တွင် လူတိုင်းလူတိုင်း စွမ်းအားရှိသမျှ လုပ်ကိုင်ကြပြီးလျှင် မိမိလိုသမျှကို မိမိခွန် အား စိုက်ထုတ်မှု နှင့် လျော်စွာ အကျိုး ခံစားခွင့်ရှိလေသည်။လူ လူချင်းခြယ်လှယ်သောစံနစ် မရှိတော့သဖြင့် လူ့ အဖွဲ့အစည်းအတွက် ရွေးချယ်၍ လူတိုင်းလူတိုင်းပင် နားလည်မှုဖြင့် လုပ်ကိုင်ကြလိမ့်မည်ဟု ကားလမတ်က ဆို၏။ အမှန်စင်စစ် ဤအဆင့်တွင် အခွင့်အရေး ညီတူညီမျှမရရှိနိုင်သေးချေ။ဤအဆင့်ကို ကားလမတ်က ကွန်မျူနစ်ခေတ်၏ ပဌမ အဆင့် သို့မဟုတ် ကွန်မျူနစ် အောက်တန်းခေတ်ဟု ခေါ်ဆိုခဲ့သည်။သို့သော် လူအများက ဆိုရှယ်လစ်ခေတ်ဟု ခေါ်ဆိုကြသည်။ (ဆိုရှယ်လစ်ဝါဒ — ရှု။)

ဒုတိယ အဆင့်မှာ စက်မှုလက်မှုပညာရပ်များသည် ပိုမိုတိုးတက်လာချိန်ဖြစ်သည်။ကုန်ထုတ်ကရိယာ စွမ်းအားများမှာလည်း ပိုမိုကောင်းမွန်လာသော အချိန်အခါဖြစ်သည်။ထိုအချိန်၌ လူတိုင်းလူတိုင်းသည် မိမိစွမ်းပကားရှိသမျှ အလုပ်လုပ်ကိုင်ကြပြီးလျှင် မိမိတို့ အသုံးလိုသမျှ ရပိုင်ခွင့်ရှိလေသည်။ ပြည် သူလူထုတို့မှာ ကွန် မျူ နစ် စီးပွား ရေးစံနစ်အရ အခမဲ့ ပညာသင်ကြားခွင့်၊အခမဲ့ ဆေးဝါးကုသခွင့်၊ဖျားနာ စဉ် တွင် ထောက် ပံ့ မှု ရ ရှိ ခွင့်၊ အိုမင်း မစွမ်း သည့် အခါ ထောက်ပံ့မှုရရှိခွင့်အစရှိသော အခွင့်အရေးများကို ရရှိကြပေလိမ့်မည်။ အပြိုင်အဆိုင် ကုန်ထုတ်လုပ်ခြင်းမျိုးလည်း မရှိ။ မလောက်မငသော အဖြစ်မျိုးတို့လည်း မရှိတော့သဖြင့် လူများငြိမ်းချမ်းသာယာစွာ နေနိုင်ကြမည်ဖြစ်သည်။

စစ် ဖြစ် ခြင်း၊ လူတမျိုး နှင့် တမျိုး အခင်း ဖြစ် ပွား ခြင်းစသော ပဋိပက္ခမှုများလည်း လုံးဝကင်းဝေးနေပေလိမ့်မည်။ ထိုအခါ၌ အစိုးရ အဖွဲ့အစည်းဟူသည် အလိုအလျောက် ညှိုးနွမ်းပျောက်ကွယ်၍ သွားပေလိမ့်မည်။ ဆိုလိုရင်းမှာ အစိုးရဟူ၍ ဖွဲ့စည်း ရန် ပင် မလို တော့ ဟု ဆိုလိုရင်း ဖြစ် သည်။ ထိုကဲ့သို့သော အဆင့် အတန်းမျိုးကား ကွန်မျူနစ်ဝါဒ၏ အမြင့်ဆုံးရည်မှန်းချက် ပန်းတိုင်ဖြစ်လေသည်။

ကားလမတ်က သူ၏ကွန်မျူနစ်ဝါဒ အောင်မြင်ရေးတွင် အလုပ်သမား လူတန်း စားတို့ အသိဉာဏ်ပွင့်လင်းရေးနှင့် ဘဝ၏ အသိမှန် ကို ရရှိရေးသည် အဓိကဖြစ်သည်ဟု ဆိုခဲ့သည်။ကားလမတ်နှင့်အန်းဂဲတို့ တီထွင်ခဲ့သော ကွန်မျူနစ်ဝါဒမှာ ၂၀ ရာစုနှစ် အစပိုင်းခန့်တွင် ဉရောပတိုက်တခွင်၌ ပျံ့နှံ့ ခဲ့ခြင်းမှာ စက်မှုလက်မှု ပြုပြင်ပြောင်းလဲခြင်းနှင့်အတူ ထောင် ပေါင်း များ စွာ သော အလုပ် သမားတို့ မှာ ဆင်းရဲကျပ်တည်း ကျဉ်းမြောင်းလာသောကြောင့် ဖြစ်သည်ဟု နိုင်ငံရေးဆရာများက အဆိုရှိသည်။

ကွန်မျူနစ်ဝါဒကို ယုံကြည် သူများသည် မိမိတို့ ကိုယ် ကို မိမိတို့ ဆိုရှယ်လစ်များဟု အမည်ခံခဲ့ကြသည်။သို့အားဖြင့် ကွန်မျူနစ်ဝါဒ နှင့် ဆိုရှယ် လစ် ဝါဒ ကို အဓိပ္ပါယ် တူညီစွာ ထားခဲ့ကြသည်။

၁၈၆၄ ခုနှစ်တွင် ကားလမတ်ကိုယ်တိုင် ခေါင်းဆောင်၍ အပြည်ပြည်ဆိုင်ရာ အလုပ်သမားများ အဖွဲ့ကို ဖွဲ့စည်းခဲ့သည်။ ၁၈၇၂ ခုနှစ်တွင် ထိုအဖွဲ့ပျက်စီးခဲ့၏။ ၁၈၈၉ ခုနှစ်တွင် အပြည်ပြည်ဆိုင်ရာ ဆိုရှယ် ဒီမိုကရက်တစ်ပါတီ အဖွဲ့ချုပ် ပေါ် ပေါက်ခဲ့သည်။ရုရှနိုင်ငံတွင်လည်း လီနင်အမှူးရှိသော ပုဂ္ဂိုလ်တစုတို့က ၂၀ ရာစုအစတွင် ဆိုရှယ် ဒီမိုကရက်တစ် ပါတီ များ ကို ထူထောင်ခဲ့ကြ၏။ ၁၉၀၃ ခုနှစ်တွင် ထိုပါတီထဲတွင် ဗော်လရှီဗစ်နှင့် မင်ရှီဗစ်ဟု နှစ်ဂိုဏ်းကွဲသွားလေသည်။ ၁၉၁၇ ခုနှစ် ရုရှတော်လှန်ရေးကြီး ပြီးစီးသွားသောအခါ ဆိုရှယ်ဒီမိုကရက်တစ်ပါတီများနှင့် ကွဲပြားစေရန် လီနင်ကြီးမှူးသော ဗော်လရှီဗစ်ပါတီကို ကွန်မျူနစ်ပါတီဟု အမည်ပြောင်းခဲ့သည်။ထိုနောက် ၁၉၁၉ ခုနှစ်တွင် လီနင်ကကြီးမှူး၍ တတိယ အပြည်ပြည် ဆိုင်ရာ ကွန်မျူနစ်အဖွဲ့ကြီးကို ဖွဲ့စည်းခဲ့လေသည်။

ဆိုရှယ် ဒီမိုကရက် ခေါ် ဆိုရှယ်လစ် များ နှင့် ကွန်မျူနစ်များသည် ဝါဒနှင့်ရည်မှန်းချက်များမှာ တသဘောတည်းဖြစ်သော်လည်း ဆောင်ရွက်ပုံ နည်းပရိယာယ်များ မတူကြချေ။ ဆိုရှယ်လစ်တို့က ကွန်မျူနစ်ဝါဒ၏ ရည်မှန်းချက်သို့ ရောက်ရှိရန်မှာ တော်လှန်မှုများ ရှိရန်မလိုချေ။ တဆင့်ပြီး တဆင့် ချမ်း သာယာစွာ ကူး ပြောင်း သွား နိုင် သည် ဟု ယုံ ကြည် ကြ သည်။ ကွန်မျူနစ်များကမူ ကွန်မျူနစ်ဝါဒ ရည်မှန်းချက်ကို အုံကြွတော်လှန်ရေးဖြင့်သာ ရရှိနိုင်သည်ဟု စွဲမြဲယုံကြည်ကြသည်။ ကွန်မျူနစ်များသည် တော်လှန်ရေးကို အမြဲတစေ မပြုလုပ်နိုင်သည့်တိုင်အောင် တော်လှန်ရေးကို အဆက် မပြတ် ပြု လုပ် နေ ရမည် ဆို သော ဝါဒ ကို လက်ခံယုံကြည်ကြသည်။ ကွန်မျူနစ်များက ပုဂ္ဂလိကပိုင်ပစ္စည်းများကို ပြည်သူပိုင်ပြုလုပ်လိုကြသည်။ သို့သော် ဆိုရှယ်လစ်များကမူ ကုန်လုပ်သည့် ပစ္စည်း များကို သာ ပြည်သူပိုင်ပြုလုပ်လိုကြသည်။

ကောဏ္ဍည။ ။ဂေါတမဘုရားအလောင်းတော် သိဒ္ဓတ္ထမင်းသားကို ဖွားမြင်တော်မူပြီးနောက်၊ ရာမ၊ ဓဇ၊ လက္ခဏ၊ ဇောတိမန္တ၊ ယည၊ သုဗောဇ၊ သုယာမ၊ ဟူသောပုဏ္ဏားခုနစ်ဦးတို့ကဤမင်းသားသည် စကြာဝတေးမင်းသော်လည်း

ဖြစ်လတ္တံ့၊ ဘုရားသော်လည်းဖြစ်လတ္တံ့ဟု၍ လျှောက်တင်ကြသည်။ ထိုနောက် ကောဏ္ဍညအနွယ်ဖြစ်သော သုဒတ္တပုဏ္ဏားငယ်ကမူ ဤမင်းသားသည် ဘုရားကေန် ဖြစ်လိမ့်မည်ဟုနိမိတ်ဖတ်လေသည်။

နိမိတ်ဖတ်ကြားသော ပုဏ္ဏားဆရာတို့မကွယ်လွန်မီ မိမိတို့သားများအား သိဒ္ဓတ္ထမင်းသား ဘုရားဖြစ်တော်မူသောအခါ သူ၏အဆုံးအမကိုခံယူ၍ သူ၏ထံပါး၌ ရဟန်းပြုကြလော့ဟု မှာကြားခဲ့ကြလေသည်။ သုဒတ္တပုဏ္ဏားမှတပါးကျန်ပုဏ္ဏားအားလုံးတို့ ကံကုန်ခဲ့ပြီးနောက် သုဒတ္တပုဏ္ဏားနှင့်နိမိတ်ဖတ်ပုဏ္ဏား ၇ ဦးအနက် ၄ ဦး၏သားလေး ယောက်တို့သည် ရဟန်းပြု၍တောထွက်ကြလေ၏။ သုဒတ္တပုဏ္ဏား၏ရဟန်းအမည်မှာ အနွယ်ကိုစွဲ၍ သျှင်ကောဏ္ဍည ဟုတွင်သည်။ ကျန်ရဟန်းတို့၏အမည်မှာ ဝပ္ပ၊ ဘဒ္ဒိယ၊ မဟာနာမ်၊ အဿဇိ၊ တို့ဖြစ်ကြ၏။ သျှင်ကောဏ္ဍည အမှူးရှိသော ထိုရဟန်းတို့သည် ဂေါတမအား လုပ်ကျွေးပြုစုကြသည်။ သို့ရာတွင် အသျှင်ဂေါတမသည် ဘုရားဖြစ်ကြောင်း သစ္စာလေးပါးကို မတွေ့မြင်မီ ရဟန်းငါးပါးတို့ စိတ်ပျက်ကာ ဂေါတမအားစွန့်ခွာ၍ မိဂဒါဝုန်တောသို့ သွားကြလေသည်။

ဂေါတမအလောင်းတော်သည် ခြောက်နှစ်ပတ်လုံး ဒုက္ကရစရိယာကျင့်တော်မူ၍ သစ္စာလေးပါးကိုသိမြင်ကာ သဗ္ဗညုတဉာဏ်တော်ကို ရရှိတော်မူပြီးနောက် မိဂဒါဝုန်တော၌ ကောဏ္ဍညအမှူးရှိသော ပဉ္စဝဂ္ဂီငါးဦးတို့နှင့် တွေ့ရှိပြန်ရာ တရားဦးဖြစ်သော ဓမ္မစကြာဒေသနာတော်ကို ဟောကြားတော်မူသည်။ သျှင်ကောဏ္ဍညသည် တရားတော်၏အဆုံး၌ ရှေးဦးစွာသော တပတ္တိဖိုလ်သို့ ရောက်သောပုဂ္ဂိုလ်ဖြစ်သည်။ ကောဏ္ဍညမထေရ်အား မြတ်စွာဘုရားသခင်ကိုယ်တော်တိုင် အညာသိကောဏ္ဍညဟု အမည်ပေးတော်မူလေသည်။ ထိုသျှင်ကောဏ္ဍညမှာ တရားဦးရ၍ ရတ္တညူအရာ၌ တေဒဂ်ရသော ရဟန္တာဖြစ်လေသည်။

**ကွန်းဒေါလင်းတ**။ ။ကွန်းဒေါလင်းတသည် လင်းတတို့တွင် အကြီးဆုံးဖြစ်သည်။ တောင်အမေရိကတိုက်၊ ပီးရူးနှင့် ချီလီနိုင်ငံတို့ရှိ အန်းဒီးတောင်ယံ ပေ ၁၀၀၀ ကျော်တွင် နေလေ့ရှိသည်။ ယင်း၏အတောင်ပံကို ဖြန့်ထုတ်လိုက်လျှင် တဖက်အစွန်းမှ အခြားတဖက်အစွန်းအထိ ၁၁ ပေခန့်ရှိ၏။ ဤလင်းတကြီးသည် အခြားလင်းတတို့ကဲ့သို့ပင် မနှစ်မြို့ဖွယ်ရာ ကောင်းသော်လည်း ကောင်းကင်တွင် လေဟုန်စီး၍ ပျံနေသောအခါမျိုး၌မူ ကြည့်ရခန့်ညားမေသည်။

ကွန်းဒေါလင်းတသည် အလွန်မြင့်မြင့်ပျံတက်၍ တိရစ္ဆာန်အသေကောင်ကို စူးစမ်းရှာဖွေတတ်သည်။ မျက်စိအလွန်စူးရှသောကြောင့် ဤမျှမြင့်သော အရပ်မှအောက်မြေပြင်ကို မြင်နိုင်ခြင်းဖြစ်သည်။ သားကောင်ကိုတွေ့မြင်လျှင် လင်းတကြီးသည် တဟုန်တည်း အောက်သို့ထိုးဆင်းလာတတ်သည်။ ကြီးသောစွမ်းအားကို အသုံးပြု၍ သားကောင်ကို အတင်းအဓမ္မ ထိုးသုတ်ယူတတ်ကြသောကြောင့် ဆိတ်အုပ်သိုးအုပ်ရှင်တို့သည် အမြဲသတိထားနေကြရသည်။

ကွန်းဒေါလင်းတသည် ကိုယ်ထည်ကြီးမား သည်နှင့်အမျှ အစားအသောက်လည်း လောဘတကြီး ငမ်းငမ်းတက်စားတတ်၏။ အစာစားပြီးသောအခါ လေးလံထိုင်းမှိုင်း၍နေတတ်လေရာ ဤအချိန်မျိုးတွင် ငှက်ကြီးကို လွယ်လင့်တကူဖမ်းယူရရှိနိုင်သည်။

ကွန်းဒေါလင်းတ၏ အမွေးအတောင်သည် အများအားဖြင့် နက်သည်။ အတောင်ပံတွင် အဖြူကြောင်းများပါရှိတတ်သည်။ အရေသည် အရောင်အမျိုးမျိုးပြောင်းလဲ၏။ လည်ပင်းနှင့် ဦးခေါင်းတို့သည် အမွေးအမှင်မရှိဘဲပြောင်နေကြသည်။ လည်ပင်း အမွေးစပေါက်သောနေရာ၌ အရစ်ထနေ၏။ လင်းတဖို၏ ဦးခေါင်းတွင် အမောက် သဖွယ် အတွန့်အလိပ်ရှိသည်။

ကွန်းဒေါလင်းတသည် အုသည့်အခါ နှစ်လုံးသာ အုတတ်သည်။ ရက်သတ္တ (၇) ပတ်မျှကြာသော အခါ သားကောင်ပေါက်၏။ ကွန်းဒေါလင်းတငယ်သည် နှေးကွေးစွာကြီးပြင်းသည်။ တခါလည် သားကျမှ ပျံနိုင်သည်။ သို့ရာတွင် မိမိအစွမ်းဖြင့် အစာရှာမထွက်သေးဘဲ တနှစ်နှစ်နှစ် ကြာအောင် လင်းတကြီးတို့နှင့် အတူနေပြီးမှ ခွဲခွာရှာဖွေတတ်သည်။


ကွန်းဒေါလင်းတငှက်

**ကွန်းရက်, ဂျေ** (ခရစ် ၁၈၅၇–၁၉၂၄)။ ။နာမည်ကျော် အင်္ဂလိပ်စာရေးဆရာ တယောက်ဟူ၍ အသိအမှတ်ပြုခြင်း ခံရသော ဂျိုးဇက်ကွန်းရက်သည် ပိုလန်ပြည်သားဖြစ်ပေသည်။ သူ၏အမည်ရင်းမှာ တီယိုဒေါ ဂျိုးဇက်ကွန်းရက် ကော်ဇင်းနီယိုစကီ ဖြစ်၏။ သူ့ဖခင်မှာ ပိုလန်တော်လှန်ရေးသမားတယောက်ဖြစ်ရကား ကွန်းရက်မှာ ရှုပ်ထွေးလှသော နိုင်ငံရေးသမားများ၏ လောကအလယ်တွင် ကြီး ပြင်းလာခဲ့ရသည်။ ပိုလန်ပြည်သည် ကုန်းတွင်းပိုင်းကျရောက်သော ပြည်ဖြစ်သည်။ သို့သော် ကွန်းရက်တွင် ငယ်စဉ်ကတည်းက ပင်လယ်သို့ ခရီးထွက်လိုသည့်ဆန္ဒ တဖွားဖွားပေါ်ပေါက်ခဲ့သည်။ သူသည် ပိုလန်ဘာသာသို့ ပြန်ဆိုရေးသားထားသော ရိုတ်စပီးယား၊ ဒစ်ကင်း၊ ဟျူးဂိုး၊ မဲရီးယတ်နှင့် ကူးပါးတို့၏ ပြဇာတ်နှင့်ဝတ္ထုများကို ဖတ်ရှုခဲ့ရာမှ ပင်လယ်သို့ ခရီးထွက်လိုသည့် ဆန္ဒများ ပေါ်ပေါက်လာခဲ့သည်ဟုဆို၏။

ဤသို့ဖြင့် ကွန်းရက်သည် အသက် ၁၇ နှစ်အရွယ်တွင် ပြင်သစ်လူမျိုးပိုင် သင်္ဘောတစင်း၌ သင်္ဘောသားအဖြစ် လိုက်ပါခဲ့သည်။ ၃ နှစ်ကြာပြီးနောက် သူသည် အင်္ဂလိပ် ကုန်သင်္ဘောတစင်းသို့ ကူးပြောင်းသည်။ ၁၈၉၄ ခုနှစ်အထိ နှစ်ပေါင်း ၂၀ မျှ ပင်လယ်ခရီးဖြင့် ကမ္ဘာအရပ်ရပ်သို့ လှည့်လည်ရောက်ရှိခဲ့ရာ၊ နောက်ဆုံး၌ သင်္ဘောကပ္ပိတန်ရာထူးကိုပင် ရရှိခဲ့သည်။ မလ္လာယုကျွန်းဆွယ်၊ အာဖရိကတိုက်အစရှိသောဒေသများသို့လည်း ရောက်ရှိခဲ့သည်။ နှစ်ပေါင်း ၂၀ အတွင်း ရရှိခဲ့သော အတွေ့အကြုံ ဗဟုသုတများကို သူသည် စေ့စုံစွာ မှတ်ထားခဲ့လေသည်။

ကွန်းရက်သည် အသက် ၂၁ နှစ်အရွယ်တွင် အင်္ဂလန်ပြည်သို့ ပဌမဆုံးအကြိမ် ရောက်ရှိလာစဉ်က၊ အင်္ဂလိပ်စကားတလုံးမျှ မတတ်သေးချေ။ သို့သော် အင်္ဂလန်ပြည်ကို ခင်တွယ်သူတယောက်ဖြစ်သဖြင့် အင်္ဂလိပ်စာနှင့်စကားကို အထူးပင် လေ့လာခဲ့ပေသည်။ ၁၈၈၄ ခုနှစ်တွင် ဗြိတိသျှ နိုင်ငံသားအဖြစ် ခံယူလေသည်။

ကွန်းရက်သည် လန်ဒန်မြို့၌နေထိုင်လျက်ရှိစဉ် သာယာသောဆောင်းဦးပေါက်ရာသီ နေ့တနေ့တွင် မလ္လာယုကျွန်းဆွယ်၌ တွေ့ခဲ့ရသော အယ်လမေးယားဆိုသူ၏အကြောင်းကို တွေးမိ၍ အပျင်းဖြေသဘောနှင့် အယ်လမေးယားဖေါ်လီခေါ် (အယ်လမေးယား၏အရှုံးများ) ဝတ္ထုတပုဒ်ကို စတင်ရေးသားခဲ့လေသည်။ ထိုအချိန်တွင် ကွန်းရက်၏ အသက်မှာ ၃၂ နှစ်မျှရှိနေလေပြီ။ ၁၈၉၅ ခုနှစ်တွင် ကွန်းရက် အဦးဆုံးရေးခဲ့သော ထိုအယ်လမေးယားဖေါ်လီ ဝတ္ထုကိုပုံနှိပ်ထုတ်ဝေခဲ့သည်။

ထို့နောက် ကွန်းရက်သည် အောက်ပါဝတ္ထုများကို ဆက်လက်၍ ရေးသားပုံနှိပ်ထုတ်ဝေခဲ့၏။ ယင်းတို့မှာ နစ်ဂါးအော့ သီနာစစ်ဆပ် (၁၈၉၇)၊ လော့ဂျင် (၁၉၀၀)၊



အင်္ဂလိပ်စာရေးဆရာ ပိုလန်လူမျိုး ဂျိုးဇက်ကွန်းရက်

ယု (လူငယ်) (၁၉၀၂)၊ တိုင်ဖွန်း (လေမုန်တိုင်း) (၁၉၀၃) နော့စထရိုမို (၁၉၀၄) စသော စာအုပ်များဖြစ်သည်။ ၁၉၀၆ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေသော မီရာအော့သီဆီး (ပင်လယ်ကြေးမုံ) စာအုပ်တွင် ကွန်းရက်သည် သူ၏ အကြောင်းများကို ရေးသားထားလေသည်။ ဆီးကရက်အေးဂျင့်(အထောက်တော်) (၁၉၀၇)၊ ချန့်(အခွင့်အရေး) (၁၉၁၄)၊ ဗစ်ထရီ (အောင်မြင်ခြင်း) (၁၉၁၅)၊ သရိုဗာ (လှည့်လည်သူ) (၁၉၂၃) တို့မှာ ဂျိုးဇက်ကွန်းရက်ရေးခဲ့သော အခြားဝတ္ထုများ ဖြစ်လေသည်။ နောက်ဆုံးရေးခဲ့သော ဆပ်ဆပင့် ဝတ္ထုမှာ တပိုင်းတစဖြစ်၏။ သူ၏ ဝတ္ထုများမှာ ပင်လယ်ပြင်တွင် တွေ့ကြုံခဲ့ရသော အဖြစ်အပျက်များကို ရေးသားထားသော ဝတ္ထုများဖြစ်သည်။ သူအင်္ဂလိပ်စာရေးဆရာအဖြစ် အောင်မြင်မှုမှာ ထူးခြားသည်ဟုဆိုရပေမည်။ အကြောင်းကား အသက် ၂၀ အရွယ်ခန့်အထိ အင်္ဂလိပ်စာတလုံးမျှမတတ်ဘဲ ရှိနေပြီးမှ သက် ၄၀ အရွယ်တိုင်အောင် စာအနည်းအကျဉ်းမျှလောက်သာ ရေးသားခဲ့သောကြောင့်ဖြစ်သည်။

ဂျိုးဇက်ကွန်းရက်သည် ၁၈၅၇ ခု ဒီဇင်ဘာလ ၆ ရက်တွင် ယူကရိန်းနယ်၌ ဖွားမြင်ခဲ့၍ ၁၉၂၄ ခု ဩဂုတ်လ ၄ ရက်တွင် အင်္ဂလန်ပြည် ကန်တာဗာရီမြို့၌ ကွယ်လွန်လေသည်။

**ကွမ်တမ်သီအိုရီ**။ ။ကွမ်တမ်သီအိုရီကိုနားလည်ရန် ပဌမ ဒြပ်၏ဆောက်တည်ပုံကို အနည်းငယ်သိဖို့လိုလေသည်။ ဒြပ်အားလုံးတွင် အက်တမ်ဟုခေါ်သော အလွန်သေးငယ်သည့် အမှုန်များပါရှိကြသည်။ အက်တမ်၏အလယ်တွင် နျူးကလီးယပ်ရှိသည်။ နျူးကလီးယပ်သည်အက်တမ်၏အလေးချိန်စီးရာဖြစ်သည်၊ နျူးကလီးယပ်ထဲတွင် အက်တမ်အောက်ငယ်သော ပရိုတွန်၊ နျူထရွန်ခေါ် အမှုန်တို့နှင့်အတူ စွမ်းအင်ပါရှိရှိသည်။ နျူးကလီးယပ်ပတ်လည်တွင် အီလက်ထရွန်ခေါ် အမှုန့်များရှိသေးသည်။ အီလက်ထရွန်တို့သည် ကိုယ့်လမ်းနှင့်ကိုယ် နျူးကလီးယပ်ကို လှည့်ပတ်နေကြသည်။ အက်တမ်ဖွဲ့စည်းပုံ သည် နေစကြာဝဠာဖွဲ့စည်းပုံနှင့် ခပ်ဆင်ဆင်တူရာ နျူးကလီးယပ်သည် သဘောအားဖြင့်နေ နှင့် တူ၍ အီလက်ထရွန်တို့ကား ဂြိုဟ်များနှင့်တူကြသည်။

အက်တမ်ဖွဲ့စည်းပုံ မပျက်ပြားသရွေ့ အီလက်ထရွန်တို့သည် ဂြိုဟ်များနေကို လှည့်ပတ်နေသကဲ့သို့ နျူးကလီးယပ်ကို လှည့်ပတ်၍နေကြသည်။ ထို့ပြင် အက်တမ်သည် စွမ်းအင်ကို ထုတ်လည်းမထုတ်လွှတ်၊ ယူလည်းမယူသွင်းချေ။ သို့ရာတွင် အပမှအားတခုခုက အက်တမ်ဖွဲ့ပုံကို ပျက်ပြားစေသောအခါ အီလက်ထရွန်များသည် မိမိတို့သွားရာလမ်းမှ အခြားလမ်းသို့ ကူးပြောင်းသွားတတ်ကြသည်။ အီလက်ထရွန်တခုသည် မိမိသွားရာလမ်းမှ အတွင်းလမ်းသို့ကူးသွားသောအခါ စွမ်းအင်တကွမ်တမ်ကို အက်တမ်ကထုတ်လိုက်သည်။ တဖန်အီလက်ထရွန်သည် မိမိသွားရာလမ်းမှ အပြင်လမ်းသို့ကူးသွားသောအခါ စွမ်းအင်တကွမ်တမ်ကို အက်တမ်ကရရှိလိုက်သည်။ ထိုအချက်ကို ခရစ် ၁၉၀၀ ပြည့်နှစ်တွင် မက်စပလန့်ဆိုသူ ဂျာမန်ပါမောက္ခတဦးက သိရှိလေသည်။ ကွမ်တမ်သီအိုရီအရ အလင်းရောင်နှင့်တကွ ဖြာထွက်မှုစွမ်းအင်ဟူသရွေ့တွင် အလွန်သေးငယ်သော စွမ်းအင်ကွမ်တမ်များပါရှိကြသည်။ လျှပ်စစ်စွမ်းအင်တွင် အီလက်ထရွန်သည် ကေမှုဖြစ် သကဲ့သို့ ဖြာထွက် မှုစွမ်းအင် ဟူသရွေ့တွင် ကွမ်တမ်သည်ကေမှုဖြစ်သည်။

စွမ်း အင် ကွမ် တမ် သီအိုရီ သည် လှိုင်းသဘောဖြင့်သွားသော စွမ်းအင်မျိုးနှင့်သာသက်ဆိုင်သည်။ ထိုစွမ်းအင်မျိုးကို ဖြာထွက်မှုစွမ်းအင်ဟုခေါ်သည်။ ထိုစွမ်းအင်တို့တွင် အပူ၊ အလင်း၊ ရေဒီယမ်၊ အာထရာဗိုင်အိုလက်ရောင်ခြည် (ခရမ်းဘေးရောင်ခြည်)၊ အင်ဖရာရက် ရောင် ခြည် (အနီအောက်ရောင်ခြည်)၊ အိပ်စရေးရောင်ခြည်၊ ရေဒီယိုလှိုင်းနှင့် ကော့စမစ်ရောင်ခြည် (စကြာဝဠာရောင်ခြည်) တို့ပါဝင်ကြလေသည်။

ပစ္စည်းတခုသည် စွမ်းအင်ကိုထုတ်လွှတ်သောအခါ၌ရှင်း၊ ယူသွင်းသောအခါ၌ရှင်း၊ ထိုပစ္စည်းရှိ အက်တမ်ဟူသရွေ့သည် တုန်ခါ လာကြသည်။ ပစ္စည်း တခုမှစွမ်း အင် ထုတ်လွှတ်လျှင် ပစ္စည်းရှိအက်တမ်တိုင်း၌ စွမ်းအင်အချို့ လျော့ပါးသွားသည်။ တဖန် ပစ္စည်းတခုသည် စွမ်းအင်ကိုယူသွင်းလျှင် ထိုပစ္စည်းရှိ အက်တမ်တိုင်းသည် စွမ်းအင်အချို့ကိုရရှိသည်။အက်တမ်များတုန်ခါစဉ် အလင်းရောင်ထွက်နေသည်။

ကွမ်တမ်သီအိုရီ ပေါ်လာခြင်းကြောင့် သိပ္ပံပညာသည်များစွာတိုးတက်လာခဲ့သည်။ အက်တမ်စွမ်းအင်နှင့်စပ်လျဉ်း၍သုတေသနပြုလုပ်ကြရာ၌ အခက်အခဲများစွာကို ကွမ်တမ်သီအိုရီအားဖြင့် ဖြေရှင်း နိုင်ခဲ့ကြလေသည်။

## မြန်မာ့ယဉ်ကျေးမှုတွင်အရေးပါသောကွမ်း

**မြန်မာလူမျိုးတို့ ကျေးမွေးဧည့်ခံ လောကဝတ်ပြုရာတွင် ကွမ်းဆေးလက်ဖက်မှာ မပါလျှင်မပြီးသလောက်ဖြစ်၏။ ဤသို့အစဉ်အလာအားဖြင့် မြန်မာလူမျိုးတို့ မပယ်နိုင်သည့်ကွမ်းသည် မြန်မာမင်းများလက်ထက်တော်၌ တိုင်းပြည်အုပ်ချုပ်မှု၊ အထူးသဖြင့် တရားစီရင်မှုတွင်ပိုမိုအရေးပါခဲ့၏။ ရာထူးဌာနန္တရ အဆင့်အတန်းကိုလည်း ကွမ်းသုံးခွက်ကိုကြည့်၍ ခွဲခြားနိုင်၏။ ထို့ပြင်တဝကွမ်းပင်သည်ဆေးဖက်လည်းဝင်သေး၏။ ကွမ်းအကြောင်းကားစိတ်ဝင်စားဖွယ်ပေ။**

**ကွမ်း**။ ။ကွမ်းပင် သည် ရေတ် ကောင်း ပင် အပါအဝင် ပစ်ပါရေး စီးယား မျိုးရင်း တွင်ပါသော နွယ်ပင် တမျိုး ဖြစ်သည်။ ကွမ်းပင်ကို အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ မလ္လာယုကျွန်းဆွယ်နှင့် အင်ဒိုချိုင်းနားနိုင်ငံများတွင် စိုက်ပျိုးကြသည်။

ကွမ်းရွက်ကို ထုံး၊ ကွမ်းသီးများနှင့်ရောဖက်ကာ ကွမ်းယာအဖြစ်ဖြင့် စား သုံး လေ့ရှိသည်။ ဖွယ်ဖွယ် ရာရာ စား သုံး လိုလျှင် လေးညှင်း၊ သစ်ကြပိုး၊ ဇီယာ၊ ဖာလာစေ့၊ ဆေးရွက်၊ ပရုတ်၊ ဂမုန်း၊ စမုန်စပါး၊ အုန်းသီးမှုန့်စသော အဆာများထည့်၍စားကြသည်။ ကွမ်းရွက်ကို ဆေးဝါးအဖြစ်ဖြင့်လည်း မှီဝဲကြသေးသည်။

အာရှအရှေ့တောင် ပိုင်း နိုင် ငံများ တွင် ကွမ်း စားခြင်း အလေ့မှာ ရှေးနှစ်ပေါင်းများစွာကပင်ရှိခဲ့သည်။ ပေါ်တူဂီလူမျိုးတို့သည် ကွမ်းပင်ကို မလ္လာယုကျွန်းဆွယ်မှ ဥရောပတိုက်သို့ စတင်ယူဆောင်သွားခဲ့လေသည်။ ကွမ်းကို မလေးစကားဖြင့်ဗက်တီလ ဟုခေါ်၍ ရွက်ထီးဟုအဓိပ္ပါယ်ရရှိသည်။ ပေါ် တူဂီလူမျိုးတို့က ဗီတာဟုခေါ် ၏။ ထို့နောက် အင်္ဂလိပ်ဘာသာဖြင့် ဗီတယ်ဟုခေါ်တွင်လာခဲ့သည်။

အိန္ဒိယနိုင်ငံ၌ ကွမ်းစားခြင်းထုံးစံမှာ ရှေးနှစ်ပေါင်းများစွာကပင် ရှိသည်ဟုတွေးထင်ရသည်။ ကွမ်းအကြောင်းကို ဘုရား ဟောနိပါတ်တော် များ တွင် လည်း တွေ့ရှိရသည်။

သိရိမမ္မာသောကမင်းကြီး၏မိဖုရား အသန္ဓိမိတ္တာသည် နန်းတော်၌ ကရဝိတ်ငှက်၏ သာယာသော အသံကို ကြားရသဖြင့် အလွန်ပင် နှစ်သက်လှရကား ကရဝိတ်ငှက်ကို အမှတ်တရအဖြစ်ဖြင့် ထိုငှက်သဏ္ဌာန် ရွှေကွမ်းအုပ် ပြုလုပ်ခဲ့ကြောင်းနှင့် ရွှေဘုံနိဒါန်းကျမ်းတွင် လာရှိသည်။ ဥရောပတိုက်မှ အရှေ့တိုင်းများသို့ ၁၃ ရာစုနှစ်က ရောက်ရှိလာသောခရီးသည်ကြီး မာကိုပိုလို၏မှတ်တမ်း များတွင်လည်း အိန္ဒိယလူမျိုးများကွမ်းစားလေ့ရှိကြောင်းနှင့် ဖော်ပြပါရှိသည်။

မြန်မာနိုင်ငံ၌ ရှေးပုဂံခေတ်မတိုင်မီကပင် ကွမ်းစားခြင်းအလေ့ ရှိခဲ့ဟန်တူသည်။ တကောင်းမင်းများလက်ထက်က ကွမ်းလောင်းကြီး၊ ကွမ်းလောင်းငယ် အဆောင်အယောင်များ ရှိကြောင်းနှင့် အဆိုရှိသည်။ သက္ကရာဇ် ၆ဝ၃ ခုနှစ်တွင် ပုဂံပြည် မိဖုရားစော စိုက်ထူသော ကူနီဘုရားကျောက်စာတွင် စာသင်တိုက်ရှိရဟန်းတော်များအတွက် ကွမ်းဖိုးကွမ်းသီးဖိုးအဖြစ် စပါးများလှူဒါန်းကြောင်း ရေးထိုးခဲ့သည်။ အခြားသောကျောက်စာများတွင်လည်း ကွမ်းစားကြောင်းအထောက်အထားများ ရေးထိုးထားသည်ကို တွေ့ရှိရသည်။ ထိုကြောင့်ပုဂံခေတ်တွင် ကွမ်းကို ရှင်လူအများပင် စားသုံးနေကြပြီဖြစ်ကြောင်း သိသာနိုင်ပေသည်။

မြန်မာရာဇဝင်တွင် အမတ်ကြီးရာဇသင်္ကြံအား အိမ်ရှေ့မင်းသီဟသူက ကွမ်းသွေးဖြင့်ထွေးဘူးကြောင်းပါရှိသည်။ ရခိုင်ရာဇဝင်၌လည်း ရခိုင်ဘုရင်မင်းထီးသည် ကွမ်းစားပြီးနောက် နန်းတော်တိုင်ကို ထုံးတို့မိသဖြင့် မိမိထုတ်ပြန်ထားသောအမိန့်အတိုင်း မိမိလက်ညှိုးကို ကိုယ်တော်တိုင်ဖြတ်ပိုင်းဘူးကြောင်းပါရှိသည်။ ဤအကြောင်းများကို ထောက်ရှုခြင်းအားဖြင့် ကွမ်းကို ဘုရင်မင်းမြတ်မှ အစ သူဆင်းရဲများအထိ အမြတ်တနိုး စားသုံးခဲ့ကြကြောင်းထင်ရှားသည်။ မြန်မာဘုရင်မင်းမြတ်၏ လက်ဝဲလက်ျာမင်းခမ်းတော်များတွင် ကွမ်းခွက်များပါရှိသည်။ မြန်မာဘုရင်များ ကွမ်းတော်တည်သည့် ထင်ရှားသောကွမ်းခွက်များမှာ ဟင်္သာရုပ်ခံကွမ်းခွက်၊ ကရဝိတ်ရုပ်ခံကွမ်းခွက်၊ နဂါးရုပ်ခံကွမ်းခွက်နှင့် ခြင်္သေ့ရုပ်ခံကွမ်းခွက်များဖြစ်ကြ၏။

မြန်မာမင်းများလက်ထက်က လွှတ်တော်၌ခစားရသော မှူးတော်မတ်တော်များအနက် သတ်မှတ်ထားသောဂုဏ်ထူးဝိသေသရှိသူများသာ ကွမ်းသွေးထွေးရန် ကွမ်းသွေးပေါက်ရရှိကြလေသည်။ ထို့ပြင် ယုံမှတ်တော်မူသောသူများအား ကွမ်းရေတော်ကိုင်ရာထူးကို ခြီးမြှင့်တော်မူလေ့ရှိ၏။

တရားမမှုများတွင် တရားဖြစ်သောပစ္စည်း၏ ၁ဝ ရာခိုင်



ညှော်ဝတ်ကျေပွန်ရာမြန်မာတို့၏ကွမ်းအစ်

နှုန်း ကောက်ယူသောငွေကိုဂုဏ်း၊ ရာဇဝတ်မှုများ၌ ဒဏ်ရိုက်သောငွေကိုဂုဏ်း၊ ကွမ်းဖိုးဟုခေါ်လေသည်။ ထိုကွမ်းဖိုး (အခွန်တော်) ငွေများကောက်ခံရန် ကွမ်းဖိုးထိန်းအရာရှိများ ခန့်ထားလေသည်။ ကွမ်းဖိုးငွေများကို ဘဏ္ဍာတော်သို့ တိုက်ရိုက်ထည့်သွင်းရသည့် အခါများလည်းရှိသည်။ မိဖုရားခေါင်ကြီးအား အသေးသုံးရန်အတွက် ပေးရသည့်အခါများလည်းရှိလေသည်။

တရားရုံးတော်များတွင် အမှုအခင်းများ ဆုံးဖြတ်စီရင်ပြီးသည့်အခါ အမှုပြီးပြတ်သည့်အထိမ်းအမှတ်ဖြင့် ၂ ဦး ၂ ဖက် အမှုသည်များ ကွမ်းလက်ဖက်စားလေ့ရှိကြသည်။

မြန်မာနိုင်ငံ၌ ထင်ရှားသောကွမ်း နှစ်မျိုးရှိသည်။ တမျိုးမှာ သစ်တောကြီးများအတွင်း သစ်ပင်ကြီးများကိုနွယ်၍ သဘာဝအလျောက် ပေါက်ရောက်တတ်သော ကရင်ကွမ်းခေါ် တောင်ပေါ်ကွမ်းဖြစ်သည်။ ကျန်တမျိုးမှာ သီးခြားခြံများပြု၍ စိုက်ပျိုးယူရသော ခြံကွမ်းဖြစ်သည်။

ကွမ်းကိုစီးပွားဖြစ် စိုက်ပျိုးရောင်းချကြသည်။ ကွမ်းပင်ကို မြေဩဇာကောင်း မွန်၍ ရေနီးသော ဒေသများတွင် ကောင်းမွန်ယုယစွာ စိုက်ပျိုးနိုင်မှ ဖြစ်ထွန်းလေသည်။

ကွမ်းရွက်နှင့်စပ်လျဉ်း၍ ဆေးအဘိဓာန်ကျမ်းတွင် ကွမ်းရွက်သည် သလိပ်ကိုဂုဏ်း၊ လေကိုဂုဏ်း၊ သည်းခြေကိုဂုဏ်း၊

သွေးကိုင်း၊ ဖေါက်ပြန်၍ဖြစ်သော အထူးထူးသောအနာတို့ကိုင်း အကြောင်း အားလျော်စွာ နိုင်၏ဟုဆိုသည်။ ဓာတုရသကျမ်း၌ ကွမ်းရွက်သည် လေသလိပ်ကိုင်း၊ အပူကိုင်း၊ မျက်စိမှုန်သည်ကိုင်း၊ ငြိမ်းစေတတ်၏။ ကွမ်းပေါင်း (ပေါင်းပြီးသောကွမ်း) သည် လေကိုငြိမ်စေတတ်၏ဟုဖေါ်ပြထား၏။ ထိုကြောင့် များစွာသော မြန်မာဆေးကုထုံးများတွင် ကွမ်းရွက်နှင့် ကွမ်းရွက်ပြုတ်ရေများ ပါရှိကြသည်။ ထိုမှတပါး မြန်မာလူမျိုးတို့သည် ကွမ်းရွက်ကိုမစားမီ အရင်းအဖျားများကို ဖြတ်ပယ်လေ့ရှိသည်။ ဤသို့ပြုလုပ်ခြင်းမှာ လောကနီတိကျမ်းတွင် 'ကွမ်းရွက်၏အရင်း၌ ဘီလူးစောင့်၏။ အဖျား၌ ကာလကဏ္ဏီ နတ်မိစ္ဆာစောင့်၏။ အလယ်၌ ကုဝေရနတ်စောင့်၏။ ထိုကြောင့် အရင်းနှင့်အဖျားကို ဖြတ်၍စားငြားအံ့၊ ဘုန်းကျက်သရေတိုးပွား၏။' ဟုဆိုသောကြောင့်ဖြစ်ပေသည်။

မင်္ဂလာအခမ်းအနားများနှင့် အလှူပွဲများ၌ ကွမ်း၊ လက်ဖက်တို့ဖြင့် ဧည့်ခံကျွေးမွေးခြင်းမှာ မြန်မာလူမျိုးတို့၏ ရိုးရာယဉ်ကျေးမှု တရပ်ဖြစ်ပေသည်။ မြန်မာတို့၏ အိမ်တိုင်း၌ လိုလိုပင် ကွမ်းအစ်များ ထားရှိကြ၍ မိမိတို့အိမ်သို့ ကြွရောက်လာသူတို့အား ကွမ်းအစ်တည်ခင်းပေးလေ့ရှိသည်။ ရုပ်လုံးများဖေါ်၍ ထုလုပ်မွမ်းမံထားသော ငွေကွမ်းအစ်ကြီးများနှင့် ပန်းချီအရုပ်များဖြင့် ရေးခြယ်ထားသော သရိုးကိုင်ယွန်းထည်ကွမ်းအစ်များသည် မြန်မာလူမျိုးတို့ အမြတ်တနိုးထားသော အိမ်သုံးအဆောင်အယောင်တွင်ပါဝင်၏။


ခြံအတွင်းပြုစုပျိုးထောင်ထားသောကွမ်းပင်များ

မြန်မာနိုင်ငံတွင် တန့်တားဦးအရပ်မှကွမ်း၊ တောင်ငူမှကွမ်းသီး၊ ငမြောမှဆေး၊ စစ်ကိုင်းမှထုံးများသည် အစဉ်အလာအားဖြင့် ထင်ရှားလေသည်။ ကွမ်းကိုဖွဲ့ဆိုသော တေးကဗျာအမျိုးမျိုးများလည်းရှိရာ လှူဦးမင်းနှင့် ဖိုးသူတော်ဦးမင်းတို့ စပ်ဆိုသော အောက်ပါဒွေးချိုး ၂ ပုဒ်မှာထင်ရှားသောကွမ်းဖွဲ့များဖြစ်ကြသဖြင့် ကွမ်းနှင့် စပ်လျဉ်း၍အလွယ်တကူမှတ်သားနိုင်ပေသည်။

**လှူဦးမင်း၏ကွမ်းဖွဲ့**

**တန့်တားဦးကကွမ်းနုဝါ။**
**ငမြောကဆေး။ ။**
**ကွမ်းသီးတောင်ငူနှင့်၊ ကိုင်းထုံးဖြူပြည်ရှားငယ်။**
**သာဝါးလို့ထွေး။ ။**

**ဖိုးသူတော်ဦးမင်း၏ကွမ်းဖွဲ့**

**ကွမ်းရွက်ကယ်ညှာကြွေ၊ ရေစိမ်တဲ့ဆေး။ ။**
**သန်းခေါက်လှိုင်လှိုင်နဲ့။**
**ချိုင်လိုက်မယ်ထုံးဖြူခြောက်ကယ်၊ အာပေါက်မှထွေး။ ။**

**ကွမ်းခြံကုန်းမြို့။** ။ကွမ်းခြံကုန်းမြို့သည် ဟံသာဝတီခရိုင် ဒလတောကြီးတန်း၏ အနောက်တောင်စွန်းတွင် တည်ရှိသည်။ ကွမ်းခြံကုန်းမြောက်ပိုင်းနှင့် ကွမ်းခြံကုန်းတောင်ပိုင်း မြို့နယ် ၂ နယ်၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ ထိုမြို့နယ် ၂ နယ်သည် မြောက်ဖက်ဒလတောကြီးတန်းမှနေ၍ တောင်ဖက်ပင်လယ်အထိရောက်သည်။ တောကြီးတန်းသည် မြေရင့်မြေကျက်ကုန်းတန်းဖြစ်၍၊ သစ်တော၊ ဝါးတော၊ ကော်ဖတ်တောနှင့်ဥယျာဉ်တို့ဖြင့် ဖုံးလွှမ်းတည်ရှိသည်။ ကျန်မြေနိမ့်ပိုင်းမှာကား မြစ်ချောင်းတို့ဖြင့် သွယ်ဖြာယှက်သန်းလျက် မြေဩဇာကောင်းမွန်သော ပင်လယ်တိမ် ပင်လယ်ကောမြေနုကျွန်းပေါ် ကွင်းပြင်ရပ်ဖြစ်သည်။

ကွမ်းခြံကုန်းမြို့မှာ မူလက ရန်ကုန်ခရိုင် အုံ့ကြီးမြို့နယ် လှိုဝတီတိုက်တွင် ပါဝင်သောရွာတရွာမျှသာဖြစ်သည်။ ခရစ်နှစ် ၁၈၅၈ မှ ၁၈၇၇ ခုနှစ်အတွင်း အိမ်ခြေ ၂၀၀ ကျော်နှင့်လူဦးရေ ၁၀၀၀ ကျော်မျှသာရှိခဲ့ဘူးသည်။ များသောအားဖြင့် မွန်လူမျိုးများ



ကွမ်းသီးပင်များဖြင့်ဝေဆာလျက်ရှိသောကွမ်းခြံကုန်းမြို့၏ရှုခင်း

သာဖြစ်ကြသည်။ ထိုစဉ်က ရွာသူရွာသားတို့၏ အလုပ်အကိုင်မှာ ဆားအိုးများဖုတ်လုပ်ခြင်းဖြစ်သည်။ ဆားအိုးဖုတ်ရန် မြေစေးကို ရွာ၏ မြောက်ဖက်တောကြီးတန်းရှိ အတွတ်အိုင်မှရသည်။

နှောင်းခေတ်တွင် အရှေ့ဖက်ကွမ်းခြံကုန်းရွာနှင့် အနောက်ဖက်တော်ပလွဲရွာ ၂ ရွာပေါင်း၍ ကွမ်းခြံကုန်းမြို့ ဟုဖြစ်ပေါ်လာသည်။ ဟံသာဝတီခရိုင် ကွမ်းခြံကုန်းမြို့နယ်၏ ရုံးစိုက်ရာဖြစ်သည်။ ထိုမှတဖန် ကွမ်းခြံကုန်းမြို့နယ်ကို တောင်နှင့်မြောက်မြို့နယ် ၂ နယ်ခွဲပြန်သည်။ ကွမ်းခြံကုန်းမြို့ကို ကွမ်းခြံကုန်းချောင်းက အရှေ့အနောက်ဖြတ်သန်းစီးသွား၍ ကွမ်းခြံကုန်းချောင်း၏ လက်တက်များဖြစ်ကြသော တော်ပလွဲချောင်းနှင့် တုတ်ခေါင်ချောင်းတို့က တောင်မြောက်ဖြတ်သန်းစီးသွားကြသည်။ ကွမ်းခြံကုန်းမြို့သည် ကွမ်းသီးပင် အုန်းပင်တို့ဖြင့် စိမ်းလန်းသာယာစိုပြည်သည်။ ကွမ်းခြံကုန်းမြို့နယ်များတွင်၊ ကုန်းပိုင်းရှိလူများသည် ဥယျာဉ်လုပ်ကိုင်စားကြ၍၊ ကွင်းပိုင်းရှိလူများမှာ လယ်ယာလုပ်ကိုင်စားကြသည်။

မြို့မြောက်ဖက်တွင် ၁၂၆၇ ခုနှစ်က သွန်းလုပ်ပူဇော်သော တိလောကမှန်ကူ သွန်းဘုရားကြီးရှိသည်။ ဘုရားကြီးအနီး၌ ဗုဒ္ဓဂယာမဟာဗောဓိမှ ပင့်ဆောင်လာသည့် ဗောဓိပင်တပင်ရှိသည်။ မြို့ဦးမြို့ထိပ်၌မူ လည်ပေါ်ကျောင်းကြီးခေါ် အရှေ့ကျောင်းရှိသည်။ သင်္ဃာဆရာတော်ဘုရားအား သာမဏေဘဝက အဘိဓမ္မတ္ထသင်္ဂဟကျမ်းကို ပို့ချပေးသော မေဓာလင်္ကာရမထေရ်ကြီးသည် ထိုကျောင်း၌ ကျောင်းထိုင်ပေသည်။ ထိုပြင် ရွှေမင်းဝံဆရာတော် စတင်တည်ထောင်ခဲ့သော ငှက်တွင်းကျောင်းခေါ် မဟာသတိပဋ္ဌာန်ကျောင်း၊ လယ်တီဆရာတော်၏တပည့်ရင်း ဦးသူရိန္ဒ ကျောင်းထိုင်ခဲ့ရာ ကွင်းကျောင်းခေါ် ဓမ္မိကာရုံကျောင်း၊ မဟာဝိသုဒ္ဓါရုံဆရာတော်၏တပည့်ရင်း ဦးဣန္ဒဝံသ ကျောင်းထိုင်ခဲ့ရာ ကြားကျောင်းခေါ် ရွှေကျင်ကျောင်း၊ပျဉ်ထောင်ကျောင်းစသည့် ကျောင်းများသည် မြို့ကိုဝန်းရံ တည်ရှိကြကုန်သည်။ နိုင်ငံတော်အထက်တန်းကျောင်းကြီးသည် မြို့လယ်တွင် တည်ရှိသည်။

ကွမ်းခြံကုန်းမြောက်ပိုင်းမြို့နယ်တွင် (၁) ကော့မှူးတိုက် (၂) ဣန္ဒာပူရတိုက် (၃) ထမ်းမနိုင်တိုက် (၄) မုတ်ကျွန်းတိုက် (၅) ကိုးတောင်တိုက်ဟူ၍ တိုက်ငါးတိုက် ကျေးရွာ ၅ဂ ရွာရှိသည်။ (၁) မြို့ကုန်းတိုက် (၂) တော်ကူးတိုက် (၃) ကညင်ကုန်းတိုက် (၄) ဈေးမသွယ်တိုက် (၅) ကမာပါတိုက် ဟူ၍ တိုက်ငါးတိုက် ကျေးရွာ ၄၅ ရွာတို့သည် ကွမ်းခြံကုန်းတောင်ပိုင်းမြို့နယ်၌ ပါဝင်ကြသည်။ တောကြီးတန်းနှင့် ကွင်းအစပ်ကိုလျှောက်ကာ ပေတရာလမ်းဖေါက်၍ ကွမ်းခြံကုန်းမြို့နှင့်တွံတေးမြို့ကို ဆက်ထားသည်။ ထိုလမ်းတလျှောက်တွင် စေတီတော်အများသည် ကုန်းတန်းစောင်း၌တည်ရှိကြကုန်သည်။ သမိုင်းဆရာတို့က ထိုစေတီတို့ကို

တဖုဿဘလ္လိကတို့ဆံတော်ပင့်ခဲ့စဉ်ကဆီးကြိုရာအရပ်တို့တွင် တည်အပ်သော ဆံတော်ကြိုဘုရားများဟု အသိအမှတ်ပြုကြပေသည်။ ယင်းတို့အနက် အချို့မှာကား ဒေးဒနေ့ရွာတွင် ကျိုက်ဒေးကနောင် (စစ်ပင်ကုန်းဘုရား) ခေါ် ဒေးဒနေ့ဘုရား၊ အင်္ဂလုံးရွာတွင် ကျိုက်အုံ့ခလွန်း (ချောင်အင်းဘုရား) ခေါ် အင်္ဂလုံးဘုရား၊ ဆပဂန်ရွာ (မုံ့ဆန်းစားရွာ) တွင် ကျိုက်လှာပဂန် (မုံ့ဆန်းအိုင်ဘုရား) ခေါ် ဆပဂန်ဘုရား၊ ကလျာဏီသိမ်ကျောက်စာ၌ လက္ခိယပုရ ဟုရေးသော လက္ခိုက်ရွာတွင် လက္ခိုက်ဘုရား၊ ကော့မှူးရွာတွင် ကျိုက်ကော့မှူး (ကျွန်းငူဘုရား) ခေါ် ကော့မှူးဘုရား၊ ဖရကြီးရွာတွင် ဖရကြီးဘုရားတို့ဖြစ်ကြပေသည်။ ထိုဘုရားတို့သည် ရှေးဟောင်းမွန်စေတီများဖြစ်ကြပေသည်။ အဆိုပါလမ်းမကြီးပေါ်တွင် မြို့ရိုးကျုံးမြောင်းအပျက်များ အထင်အရှားရှိသေး၍ မြို့ကုန်းရွာဟုတွင်သော ရွာတရွာလည်းရှိပေသည်။ ကွမ်းခြံကုန်းမြို့မြောက်ဖက် မရန်းရွာဟောင်း သင်္ဂဇာဆရာတော်ဘုရား ဝါကပ်ခဲ့ရာ ကျိုက်ပတ်တောရမှာ ယခုအခါ ပျက်စီးလျက်ရှိလေပြီ။ ကွမ်းခြံကုန်းတောင်ပိုင်းမြို့နယ်၏တောင်ဖက်ပိုင်းတွင် ကျယ်ပြန့်သောပင်လယ်သောင်ပြင်တို့ဖြင့် အပန်းဖြေစခန်းဖြစ်ခဲ့ဘူးသည့် လက်ခုပ်ကုန်းရွာရှိသည်။ မုတ်ကျွန်းတိုက်တွင် ရှေးကရန်ကုန်မြစ်ဝကို စောင့်ရှောက်သော ဓနုတ်ကင်းရွာ နှင့် ရှေးဟောင်း ဓနုတ်စေတီတော်ကြီးတည်ရှိသည်။ ထမ်းမနိုင်တိုက်တွင် ပင်လယ်ရေကိုဆားချက်၍ ကြီးပွားခဲ့သော ထမ်းမနိုင်ရွာရှိသည်။ ကိုကိုကျွန်းနှစ်ကျွန်းသည်လည်း ဤတောင်ပိုင်းမြို့နယ်တွင် ပါဝင်ကြသည်။ (ကိုကိုကျွန်း — ရှု။) ကွမ်းခြံကုန်းမြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ်သန်းကောင်စာရင်းအရ ၄၉၇၂ ဖြစ်၍ အိမ်ခြေ ၈၂၉ ရှိသည်။

**ကွမ်းလုံကူးတို့ဆိပ်**။ ။ကွမ်းလုံကူးတို့ဆိပ်မှာ မြန်မာနိုင်ငံ၏အရှေ့ဖက်တံခါးပေါက်တခုအဖြစ် ရှေးနှစ်ပေါင်းများစွာကပင်ထင်ရှားခဲ့သည်။ တရုပ်မြန်မာ ယဉ်ကျေးမှုလဲလှယ်ရေးများကို ဤကွမ်းလုံကူးတို့ဆိပ်မှ ကျေးဇူးပြုခဲ့သည်။ တရုပ်မြန်မာစစ်ပွဲကြီးများ ဖြစ်ပွားစဉ်အခါကလည်း ဤကူးတို့ဆိပ်မှာ အထူးအရေးပါအရာရောက်ခဲ့သည်။ ဆင်ဖြူရှင်မင်းလက်ထက်တွင် ဖြစ်ပွားသော တရုပ်မြန်မာစစ်ပွဲများအတွင်း၌ မြန်မာများက အင်အားကြီးမားသောတရုပ်စစ်သည်တို့ကို အောင်မြင်နိုင်ခြင်းအကြောင်းတရပ်မှာ မြန်မာတို့က ကွမ်းလုံကူးတို့ဆိပ်မှနေ၍ တရုပ်တို့၏ရိက္ခာထောက်များကို ဖြတ်တောက်တိုက်ခိုက်နိုင်သောကြောင့်ဖြစ်သည်။

ကွမ်းလုံကူးတို့ဆိပ်မှာ သံလွင်မြစ်ကမ်းပေါ်တွင် တည်ရှိသည်။ ထိုကူးတို့ဆိပ်သို့ မန္တလေးမြို့မှ မြစ်ငယ်မြစ်စဉ်လမ်းကြောင်းစဉ်အတိုင်း သွားရောက်နိုင်သည်။ သို့မဟုတ်ခဲ့လျှင် မန္တလေးမြို့မှ လားရှိုးမြို့သို့ မီးရထားစီးပြီးလျှင် လားရှိုးမြို့မှမြစ်ငယ်မြစ်ဝှမ်းကိုဖြတ်၍ ကုန်းလမ်းခရီးဖြင့် ကွမ်းလုံကူးတို့ဆိပ်သို့ရောက်နိုင်သည်။ လားရှိုးနှင့်ကွမ်းလုံကူးတို့ဆိပ်မှာ ၉၈ မိုင်ခန့်ကွာဝေးသည်။ လားရှိုးမှ ရှေးဦးစွာ ၂၅ မိုင်ခန့်ဝေးသော မိုင်းယောစခန်းသို့အရောက် သာမန်မြေပြန့်ခရီးဖြင့် သွားနိုင်သည်။ မိုင်းယောမှကွမ်းလုံကူးတို့အထိ ၆၇ မိုင်ခရီးမှာ တောင်ပေါ်လမ်းကျဉ်းမျှသာဖြစ်သဖြင့် လားဝန်တင်များဖြင့် သွားလာလေ့ရှိကြသည်။ ကွမ်းလုံကူးတို့ဆိပ်မှ တရုပ်ပြည်သူ့သမတနိုင်ငံ ယူနန်နယ်စပ်သို့ ၁၅ မိုင်မျှသာ ဝေးလေသည်။

သံလွင်မြစ်ကို ကွမ်းလုံကူးတို့ဆိပ်မှဖြတ်ကူးရာတွင် လကျာကမ်းပါးထက် လက်ဝဲကမ်းပါးက ပိုမိုမြင့်မားမတ်စောက်သည့်ပြင် ကျောက်များထူထပ်သဖြင့် အဆင်းအတက်များတွင် အထူးအခက်အခဲတွေ့ရသည်။ သံလွင်မြစ်ထဲသို့ တရုပ်ပြည်ဖက်မှစီးဆင်းလာသော နံတင်ဟိုမြစ်အဝတွင် ကျွန်းငယ်ကလေးတခု ထွန်းလျက်ရှိသည်။ ရှေးမြန်မာမင်းများလက်ထက်က အကောက်တော်ဌာနကို ဤကျွန်းပေါ်တွင် ထားရှိလေသည်။

ဤကူးတို့ဆိပ်ကိုမှီ၍ သံလွင်မြစ်၏ အရှေ့ဖက်ကမ်းအနောက်ဖက်ကမ်း ကုန်းမြင့်မြေညီများပေါ်တွင် ကူးတို့ဆိပ်ရွာကလေးများ ပေါ်ပေါက်ခဲ့သည်။ ဤရွာကလေးများသည်ဈေးနေ့မဟုတ်လျှင်ခြောက်သွေ့လျက်ရှိသည်။ ကွမ်းလုံကူးတို့ဆိပ် အနီးအနားတွင် နေထိုင်ကြသူများမှာ အများအားဖြင့် ရှမ်းလူမျိုးများဖြစ်၍ ကချင်လူမျိုးနှင့် တရုပ်လူမျိုးများလည်း အနည်းငယ်စီ ရှိကြသည်။ သံလွင်မြစ်ကမ်းပါးတွင် ရှမ်းလူမျိုးများက ဆန်စပါးများကို ရေတူးမြောင်းသွယ်၍ စိုက်ပျိုးကြသည့်ပြင် ဆောင်းရာသီ၌ မုရင်းစပါးနှင့် ကြံများကိုလည်းစိုက်ပျိုးကြသည်။ တောင်ပေါ်ဒေသတွင်မူ ဘိန်းပင်များစိုက်ပျိုးကြသည်။ ဆင်ခြေလျှောတောင်ကမ်းပါးယံများတွင် နာနတ်ပင်များ စိုက်ကြသည်။ ဈေးနေ့များတွင် မြန်မာနိုင်ငံ ထွက်ကုန်များအပြင် တရုပ်နိုင်ငံမှလာသော ပိုးထည်များ၊ မြက်ဦးထုပ်များ၊ ဖိနပ်များ၊ အထည်အလိပ်များနှင့် အခြားအိမ်သုံးပစ္စည်းများကိုလည်း ရောင်းဝယ်ကြသည်။

ကွမ်းလုံကူးတို့ဆိပ်တွင် မြန်မာနိုင်ငံတော် အစိုးရက အကောက်အရာရှိနှင့် လူဝင်မှုကြီးကြပ်ရေးအရာရှိများ ခန့်ထား၍စစ်ဆေးလျက်ရှိသည်။

**ကွမ်းသီးပင်**။ ။ကွမ်းသီးပင်ကို အရှေ့တိုင်းနိုင်ငံများနှင့် ပစိဖိတ်သမုဒ္ဒရာ အတွင်းရှိကျွန်းများတွင် ပျံ့၍စိုထိုင်းသောဒေသများ၌ စိုက်ပျိုးသည်။ မြန်မာနိုင်ငံတွင် ကွမ်းသီးစိုက်ပျိုး၍ ဖြစ်ထွန်းသောဒေသများမှာ တောင်ငူ၊ ကျိုက္ခမီ၊

သထုံ၊ ထားဝယ်။ မြိတ်၊ ဖျာပုံ၊ မန္တလေးနှင့် စစ်တွေ ခရိုင်များဖြစ်ကြသည်။

ကွမ်းသီးပင်သည် ပင်လယ်မှမိုင် ၂၀၀ ခန့်အတွင်း အမြင့်ပေ ၃၀၀၀ အောက်ရှိသော အရပ်ဒေသတို့တွင် ရေဖေါဖေါ သီသီရရှိ၍ ရေမဝပ်လျှင် အထူးဖြစ်ထွန်းသည်။ နုံးမြေသည် ကွမ်းသီးပင်စိုက်ရန် အထူးသင့်လျော်၏။ ထိုကြောင့်အရပ်ရပ်ရှိ ကွမ်းသီးပင် စိုက်ခင်းများကို မြစ်ချောင်းကမ်းပါး တလျှောက်၌၎င်း၊ တောင်ချိုင့်ဝှမ်းများ၌၎င်း၊ ကိုင်းကျွန်းများ၌၎င်း၊ တွေ့ရသည်။ တောင်ငူခရိုင်တွင် ကွမ်းသီးပင်များကို သီးသန့်စိုက်ပျိုးကြ၏။ မြစ်ဝကျွန်းပေါ်ဒေသနှင့် ပင်လယ်ကမ်းမြောင်ဒေသတို့၌မူ ကွမ်းသီးပင်ကို အခြားသီးစားပင်များဖြစ်သော သရက်၊ ပိန္နဲ၊ မရန်း၊ အုန်းပင်စသည်တို့နှင့် ရောစပ်၍စိုက်လေ့ရှိသည်။ ကွမ်းသီးပင်စိုက်ရာတွင်အရေးကြီးသောအချက်မှာ မိုးအခါ၌ ရေမဝပ်စေရန်နှင့် နွေအခါတွင် ရေလုံလုံလောက်လောက် ပေးနိုင်ရန်တို့ဖြစ်သည်။

ပျိုးထောင်ရန်ပျိုးခင်းများကို နွေရာသီကပင် စတင်၍ ပြုပြင်ရသည်။ အောက်ပါနည်းမှာ ခြံသမား၊ ဥယျာဉ်သမားများ လုပ်လေ့လုပ်ထရှိသောနည်းဖြစ်သည်။

မြေတွင် ၁ ပေခန့်နက်သောကျင်းများ တူးပေါ်ပြီးနောက် ကျင်းထဲတွင် ကောက်ရိုးဖြစ်စေ၊ မြေဆွေးဖြစ်စေ ခံထားရသည်။ ထိုနောက် ရင့်မှည့်၍ မျိုးကောင်းအလုံးကောင်းဖြစ်သော ကွမ်းသီးများကို ကျင်းထဲ၌တပေခွဲ ၂ ပေစီ ခွာလျက် ချစိုက်ရ၏။ ထိုမျိုးကွမ်းသီးများကို ကောက်ရိုး သို့မဟုတ် မြေဆွေးတို့ဖြင့် တဖန်ဖုံးအုပ်ပြီးသော် အပေါ်ယံ၌ မြေကြီးထပ်၍ အုပ်ထားရသည်။ သို့စိုက်ပျိုးပြီးနောက် မျိုးကွမ်းသီးများ အစို့ပေါက်စေရန် မိုးဖွဲ့ဖွဲ့ကျသည်အထိ ရေလောင်းပေးရသည်။ ၁ လမှ ၃ လကြာသည့်အချိန်အတွင်း၌ အစို့ကလေးများထွက်လာကြပြီးလျှင် တနှစ်ခန့်ကြာသော် ရွှေ့ပြောင်းစိုက်ရန် အရွယ်တော်ဖြစ်လာသည်။

ပျိုးခင်းတွင် ပျိုးပင်ကလေးများ ကြီးပြင်းနေစဉ်အတော အတွင်း၌ စိုက်ခင်းများကို ပြုပြင်ကြရသည်။ တောချုံတို့ကို စိုက်ခင်းမြေပြင်ပေါ်မှ ရှင်းလင်းလျက် ရေသွင်းမြောင်းများကို တူးပေါ် သွယ်တန်းပေးရသည်။ မိုးဦးကျစအချိန်သည် ရွှေ့ပြောင်းစိုက်ရန် အကောင်းဆုံးအချိန်ဖြစ်သဖြင့် မိုးမကျမီ တလခန့်ကကြိုတင်လျက် ကျင်းများကို တူးပေါ် ပြင်ဆင်ထားရသည်။ ကျင်းများသည် ၁½ ပေခန့်နက်၍ ၁ ပေခန့်ကျယ်ရသည်။ ကွမ်းသီးပင်ချည်း စိုက်ပျိုးပါက ကျင်းများသည် တခုနှင့်တခု ၆ ပေထက်မနည်း ကွာဝေးစေရသည်။ အကောင်းဆုံး အကွာမှာ ၈ ပေဖြစ်သည်။ အခြား အသီးစားပင်များနှင့်ရောစိုက်လျှင် သင့်လျော်သလိုကြည့်၍ အကွာအဝေးကိုပြုပြင်ရသည်။

ကွမ်းသီးပင်များသည် အများအားဖြင့် အသက် ၇ နှစ်မှ ၁၀ နှစ်သို့ ကျရောက်မှအသီးသီးကြ၏။ သို့ရာတွင် မြေဩဇာကောင်းသည့်ကျွန်းများ ဥယျာဉ်များ၌ ၅ နှစ် ၆ နှစ်ကြာလျှင် ကောင်းစွာသီးကြလျက် အခြားအပင်များနှင့် ရောစိုက်သော ဥယျာဉ်နှင့် ကုန်းမြင့်ခြံများ၌မူ ၁၅ နှစ်လောက်ကြာမှပင်သီးတတ်သည်။



စိမ်းလန်းစိုပြေလှသောကွမ်းသီးပင်များ

ကွမ်းသီးပင်များသည် တပို့တွဲ၊ တပေါင်းလများတွင် စ၍ ပွင့်ကြပြီးလျှင် သီတင်းကျွတ်၊ တန်ဆောင်မုန်း၊ နတ်တော်လများ၌ အသီးများ ရင့်မှည့်၍ ဆွတ်သိမ်းရန် အချိန်ကျရောက်ကြ၏။ ကွမ်းသီးများကို ၃ ကြိမ် ၃ ခါဆွတ်ခူးရသည့်အနက် ပဌမအကြိမ်မှာ အများဆုံးရလေသည်။ အသီးများသည်မှည့်လွန်းက အခွံခွာရန်မလွယ်ကူသဖြင့် မမှည့်တမှည့်အနေလောက်တွင် ဆွတ်သိမ်းရန် အကောင်းဆုံးဖြစ်သည်။ သီးစအပင်များသည် တပင်လျှင်အသီး ၃၀ ခန့်သာသီးလျက် အပင်ကြီးများသည် တပင်လျှင်အသီး ၂၅၀ အထိသီးတတ်သည်။ ကွမ်းသီးပင်သည် အသက် ၂၀၊ ၂၅ နှစ်အကြာတွင် အများဆုံးသီးလျက် နောက်ပိုင်းတွင် အသီးဆုတ်သွားပြီးလျှင် အနှစ် ၄၀၊ ၄၅ နှစ်လောက်၌ သေတတ်သည်။

ကွမ်းသီးများကို ဆွတ်သိမ်းပြီးလျှင်ပြီးခြင်း ကွမ်းသီးခင်းထဲ၌ပင် အခွံများကို ဓါးဖြင့်ခွာပစ်ရသည်။ အမှည့်လွန်သောအသီးများသည် တခါအခွံခွာရုံမျှဖြင့် လုံးလုံးလျားလျား အခွံမကျွတ်ကြသဖြင့် နေလှန်းပြီး နောက်ထပ်၍ခွာပစ်ရသည်။ အခွံခွာပြီးနောက် ကွမ်းသီးကို ပြုပြင်ယူကြရသည်။ မြန်မာနိုင်ငံအောက်ပိုင်း၌ ကွမ်းသီးပြုပြင်ပုံမှာ အခွံချွတ်ပြီးသော ကွမ်းသီးများကို ထုံးရေတွင် ၃ နာရီ ၄ နာရီခန့်ကျိုပြီးနောက် အခြောက်လှန်းရသည်။ ထုံးရေ၌ကျိုခြင်းသည် အဖန်ဓါတ်ထွက်၍ အနံ့အရသာ ကောင်းမွန်လာစေသည်ဟုယူမှတ်ကြ၏။

တောင်ငူခရိုင်တွင် ပြောင်၊ ရွေး၊ ကြက်ချေးဟူ၍ ကွမ်းသီး ၃ စားခွဲခြားထား၏။ ပြောင်ကွမ်းသီးမှာ အမှည့်လွန်အားကြီးသော အသီးမှခွာယူ၍ နေ၌တကြိမ်လှန်းပြီးသော် ကြွင်းကျန်သောအခွံလွှာများကို ထပ်မံချွတ်ပစ်ထားသော ကွမ်းသီးဖြစ်သည်။ ထိုကွမ်းသီးကို ရွေးကွမ်းသီးလောက် လူကြိုက်မများချေ။ ရွေးကွမ်းသီးသည် ရွှမ်းပြင်းအသီးမှ ခွာယူရရှိသော ကွမ်းသီးဖြစ်သည်။ ရွေးကွမ်းသီးမှာ ပြောင်ကွမ်းသီးများထက် ပို၍ချောမွတ်နူးညံ့ပြီးလျှင် လူကြိုက်များ၍ ဈေးကောင်းရသည်။ ကြက်ချေးကွမ်းသီးသည် နုသောအသီးမှ ထုတ်ယူရရှိသဖြင့် ခြောက်သွေ့သည့်အခါ ရှုံ့တွသွားကြသည်။ ဤကွမ်းသီးမျိုးကို တောင်ပိုင်းအိန္ဒိယနယ်တို့က နှစ်သက်အလိုရှိကြသည်။ မြန်မာနိုင်ငံ၌မူ ဈေးအနည်းဆုံးထားကြသည်။

ကွမ်းသီးသည်ဖန်၏။ ချုပ်၏။ မမှည့်သေးသောကွမ်းသီးသည် ဝမ်းသက်သည်။ မှည့်ပြီးကွမ်းသီးကို သန်ချဆေးအဖြစ်သုံးကြသည်။ ကွမ်းသီးပြာသည် သွားတိုက်ဆေးသွားနာဆေးအဖြစ်ကောင်းသည်။ ကွမ်းသီးပင်၏အသားမှာ အလွန်မာကျောသဖြင့် ယင်းတို့ကို လေးကိုင်း၊ လှံရိုး၊ ထမ်းပိုးများပြုလုပ်ကြသည်။ ကွမ်းလက်အရင်းပိုင်းမှခွာယူရသော အမြှေးကိုလည်း ဆေးလိပ်ဖက်အဖြစ် အသုံးချကြသည်။

မြန်မာနိုင်ငံ၌ ပြည်တွင်းစားကုန်ပစ္စည်းများ ဖူလုံစေရန်အတွက် ကွမ်းသီးပင်စိုက်ပျိုးရေး စီမံကိန်းများကို နိုင်ငံတော်အစိုးရက အကောင်အထည်ဖေါ်လျက်ရှိပေသည်။ ၁၉၅၃ ခုနှစ်မှစတင်၍ ထိုစီမံကိန်းကိုဆောင်ရွက်ရာ ထိုနှစ်အတွင်း ကွမ်းသီးပင်ပေါင်း ၅၀၀,၀၀၀ ခန့် စိုက်ပျိုးခဲ့ကြသည်။ ထိုပြင် ပြည်သူအများ ကွမ်းသီးပင်ပေါက်များကို လွယ်လင့်တကူ ဝယ်ယူစိုက်ပျိုးနိုင်ကြစေရန် ရည်ရွယ်၍ ဖျာပုံ၊ မြောင်းမြ၊ ပုသိမ်၊ တနင်္သာရီ၊ မော်လမြိုင်၊ ထားဝယ်၊ မြိတ်၊ စစ်တွေ၊ ကျောက်ဖြူ၊ မတ္တရာ၊ တောင်ငူ၊ စသောမြို့များတွင် စိုက်ပျိုးရေးဌာနများဖွင့်လှစ်၍ ကွမ်းသီးပင်ပေါက်များကို ရောင်းချလျက်ရှိပေသည်။ ဤကဲ့သို့စိုက်ပျိုးကြရာ၌ ၆၀ ရာခိုင်နှုန်းမျှလောက်သော ကွမ်းသီးပင်ပေါက်များသည် ကောင်းစွာဖြစ်ထွန်းသည်ကို တွေ့ရှိရသဖြင့် ရှေ့အဖို့ ထိုထက်တိုး၍ စိုက်ပျိုးသွားကြမည်ဖြစ်ကြောင်းကိုသိရှိရလေသည်။

**ကျွဲ**။ ။ကျွဲသည် ရှုံ့ညွန်ရေကွက်တွင် လူးတတ်သော ခြေလေးချောင်းတိရစ္ဆာန်ဖြစ်သည်။ ကျွဲသည်စားမြုံ့ပြန်နေတတ်သည်။ ကျွဲသည်နွားထက် ကိုယ်လုံးကိုယ်ထည် ထွားကျိုင်း၍ ခွန်အားဗလပိုမိုကြီးမားသည်။ အိန္ဒိယနှင့်မြန်မာနိုင်ငံတို့တွင် လယ်ထွန်ယက်ရာ၌၎င်း၊ လေးလံသောသစ်လုံးကြီးများကို ဆွဲရာ၌၎င်း ကျွဲများကိုအသုံးပြုကြသည်။ ကျွဲယဉ်များကို ခိုင်းစေလျက် ရှိနေကြပြီဖြစ်သော်လည်း အာဖရိကတိုက်၊ အိန္ဒိယနှင့် မြန်မာနိုင်ငံတို့ရှိ တောနက်များတွင် ကျွဲရိုင်းအုပ်များကို ယနေ့ထက်တိုင် တွေ့မြင်ကြရသေးသည်။



ဥတုမရွေးရေ၌ပျော်ပိုက်သောကျွဲများ

အာဖရိကတိုက်၌ရှိသော ကျွဲရိုင်းတို့သည် အလွန်သန်



စပါးနယ်ရာတွင်ကျွဲများကိုလည်းအသုံးပြုကြသည်။

စွမ်းရဲရင့်ကြသဖြင့် မည်သည့်တိရစ္ဆာန်ကိုမျှ မကြောက်ရွံ့ကြချေ။ အာဖရိကတိုက်သို့သွားရောက်၍ တိရစ္ဆာန်များကို အပျော်လိုက်လံပစ်ခတ်သူတို့ပင် ဤကျွဲရိုင်းများကို သေနတ်အားကိုးနှင့် မထီလေးစား မပြုလုပ်ရဲကြပေ။ ယင်းတို့ကို မြင်းပေါ်မှဖြစ်စေ၊ သစ်ပင်ထက်မှဖြစ်စေ၊ ပစ်ခတ်မှသာလျှင် အသက်ဘေးအတွက် စိတ်ချရသည်။ အဆိုပါကျွဲရိုင်းသည် တကောင်တည်းဖြစ်စေကာမူ ခြင်္သေ့ ၂ ကောင် ၃ ကောင်တို့နှင့် ဖက်ပြိုင်ရန်ပြုဝံ့သည်။ ထို့ကြောင့် ခြင်္သေ့တို့သည် ကျွဲရိုင်းအထီးကြီးများကို ရန်မူလေ့ မရှိကြချေ။ ကျွဲရိုင်းတို့သည် အနံ့ခံကောင်း၍ နားကင်းလည်းပါးကြသည်။ ယင်းတို့သည် အုပ်ဖွဲ့၍နေတတ်ကြရာ အုပ်ထဲမှကွဲထွက်သွားသော ကျွဲတကောင်တလေကိုသာ ခြင်္သေ့တို့ သတ်ဖြတ်စားသောက်နိုင်ကြသည်။ ကျွဲရိုင်း၏သားရေမှာ အလွန်ခိုင်မာသည့်အလျောက် အာဖရိကတိုင်းရင်းသား ကက်ဖါလူမျိုးတို့သည် ထိုကျွဲသားရေဖြင့် ဒိုင်းလွှားများ ပြုလုပ်ကြလေသည်။ (အာဖရိကတိုက် — ရှု။)

အိန္ဒိယနှင့် မြန်မာနိုင်ငံတို့တွင်ရှိသော ကျွဲရိုင်းများသည် အာဖရိကတိုက်တောင်ပိုင်း၌ တွေ့ရသောကျွဲရိုင်းတို့ကဲ့သို့ပင် ကြောက်မက်ဖွယ်ကောင်းသည်။ ကျွဲသိုးကြီးများသည် ၆ ပေမျှမြင့်၍ ဦးချိုများသည် ၆ ပေခန့်ပင် ရှည်လျားသည်။ ကျားများပင် ထိုကျွဲသိုးတို့ကို ရှောင်သွားတတ်ကြသည်။

ကျွဲယဉ်တို့သည် နွားတို့ထက် ခွန်အားပိုကြီးသည်မှန်သော်လည်း နွားတို့ကဲ့သို့ ကျိုးကျိုးနွံနွံမရှိလှချေ။ ဝန်စည်ကို သယ်ဆောင်လာစေကာမူ ရေအိုင်ကိုမြင်လျှင် အတင်းဆင်းသွားတတ်သည်။ မြန်မာနိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့တွင် နို့စားကျွဲမများကို မွေးမြူထားကြသည်။ မြန်မာနိုင်ငံတွင် ဗင်္ဂလားကျွဲခေါ် ချိုလိမ်ကျွဲများကို နို့စားရန်အတွက် မွေးမြူကြသည်။ ကျွဲသားရေကိုကျိုသော် ကျွဲကော်ရသည်။

**ကျွဲကောပင်။** ။ကျွဲကောပင်သည် ရှောက်၊ သံပရာ၊ လိမ္မော်စသည်တို့နှင့်အတူ ရှောက်ပင်မျိုးတွင် ပါဝင်သည်။ ကျွဲကောပင်၏ ရုက္ခဗေဒအမည်မှာ စစ်တြပ် ဒီကျူမန်နားဖြစ်သည်။ အချို့ကကျွဲကောသီးကို ရှောက်ပန်းသီးဟုလည်း ခေါ်ကြသည်။

ကျွဲကောပင်သည် မလေးကျွန်းစုနှင့် ပိုလီနီးရှင်းကျွန်းများတွင် မူလပေါက်ရောက်၍ နောက်မှမြန်မာနိုင်ငံသို့ မလ္လာယုကျွန်းဆွယ်နှင့် အိန္ဒိယနိုင်ငံတို့မှ တဆင့်ရောက်လာသည်။ ယခုအခါ မြန်မာနိုင်ငံအနှံ့ အပြားတွင် ကျွဲကောပင်များကို တွေ့ရသည်။ ကျိုက္ကမိခရိုင်၊ မုတ္တမနယ်၌ ကျွဲကောခြံများ ရှိလေသည်။

မြန်မာနိုင်ငံတွင် ကျွဲကောပင်ကို အစေ့မှရင်း၊ မြေထုပ်စည်းနည်းဖြင့်ရင်း၊ မျိုးပွားယူကြသည်။ အကိုင်းကူးနည်း၊

မျက်စိဆက်နည်းတို့ဖြင့် စိုက်ပျိုးပါက အပင်လည်းကြီးထွား၍ အသီး လည်း ပိုမိုဖြစ် ထွန်း သည်။ ကျွဲကောပင် များကို အတန်းလိုက်စိုက်ပျိုးထားသည်ကိုတွေ့ရသည်။ ကျွဲကောပင် စိုက်ပျိုးသောအခါ တပင်နှင့်တပင် အနည်းဆုံးပေ ၂၀ ခန့်ခွာ၍ စိုက်ပျိုး ရသည်။ အစေ့မျိုးစေ့မှ ပေါက် လာသော ကျွဲကောပင်သည် ၆ နှစ် ၇ နှစ်ခန့်ကြာလျှင် သီးသည်။ ဘူတဂံနည်း မျိုး (ပင်စည် မျိုး စေ့) ဖြင့် ပေါက် လာသော အပင်သည် ၄ နှစ်ကျော်လျှင် သီးသည်။ မိုးဦးကျအချိန်မှစ၍ ပန်းပွင့်သည်။ အသီးများသည် တော်သလင်းလမှ ပြာသိုလ အတွင်းမှည့်ကြသည်။ ကျွဲကောပင်သည် ပေ ၃၀၊၄၀ အထိ မြင့်နိုင်သည်။

ကျွဲကောသီးသည် ခပ်လုံးလုံးဖြစ်၍ အချင်း ၆ လက်မမှ ၈ လက်မခန့်အထိရှိသည်။ အခွံသည် ထူ၍စိမ်းသည်။ မှည့်လျှင် အဝါရောင်သန်းလာသည်။ အတွင်း၌ ရှောက်သီးမှာကဲ့သို့ အမြွှာလိုက်အသားရှိသည်။ အသားသည် အရည်ရွှမ်းသည်။ ကျွဲကောသီးကို အသားရောင်လိုက်၍ အဖြူမျိုး အနီမျိုးဟူ၍၎င်း၊ အရသာကိုလိုက်၍ အချဉ်မျိုး အချိုမျိုးဟူ၍၎င်း ခွဲခြားခေါ်ကြသည်။

နှစ် စဉ် နှစ် တိုင်း မြန် မာနိုင် ငံဖက် သို့ စင်္ကာပူဖက်မှ ကျွဲကောသီးအမြောက်အမြားတင်သွင်း၍ဟောင်ကောင်နှင့် အခြားနိုင်ငံအချို့တို့မှလည်း အနည်းအကျဉ်းတင်သွင်းသေးသည်။ မြန် မာနိုင် ငံ၌သီးသော ကျွဲကောသီး များ သည် အချို့လုံး၍ အချို့ထိပ်နှစ်ဖက်တွင် ပြားယောင်ယောင်ဖြစ်သည်။ အချို့သည် အညှာရှိသောထိပ်ဖက်တွင်ချွန်သည်။ ထိပ်ချွန်သောအသီးမျိုးကို အချို့ကရှမ်းကျွဲကောဟုခေါ်ကြသည်။ စင်္ကာပူဖက်မှတင်သွင်းသော ကျွဲကောသီးများသည် အားလုံးလိုလိုပင် ထိပ်ချွန်ချည်းသာဖြစ်ကြသည်။ မြန်မာနိုင်ငံထွက် ကျွဲကောသီးများထက် အနံ့အရသာပိုမို ကောင်းမွန်၍ အမျှင်နည်းသည်ကိုတွေ့ရသည်။

အနောက်နိုင်ငံများ၌ နံနက်စာတွင် ခံတွင်းလိုက်အသီးအဖြစ် စားသုံးလေ့ရှိသော ဂရိပ်ဖရုခေါ် အသီးသည် ကျွဲကောသီး နှင့် မျိုးတူဖြစ်သည်။ ယင်း၏ ရုက္ခဗေဒအမည်မှာလည်း စစ်တြပ်ဒီကျူမန်နားပင်ဖြစ်သည်။ ထိုအသီးကို မြန်မာတို့က ကျွဲကောကလေးဟုခေါ်ကြသည်။ ထိုကျွဲကောကလေးသည် လိမ္မော်သီးအရွယ် ၂ ဆခန့်ရှိသည်။ ကျွဲကောသီးလောက် အခွံမထူချေ။ ကျွဲကောသီးလောက် အသားမပါရှိသော်လည်း ကျွဲကောသီးထက် အရည်ရွှမ်း၏။ ကျွဲကောသီးသည် တလုံးချင်းသီး၍ ကျွဲကောကလေးမှာ စပျစ်သီးကဲ့သို့ အခိုင်လိုက်တွဲရရွဲသီးသည်။ ကျွဲကောကလေးပင်သည် အမြင့် ၂၅ ပေမျှသာရှိ၍ အပင်သက် ၆ နှစ်တွင် အသီးစ၍သီးတတ်သည်။

**ကျွဲကျောင်းဗျိုင်း။** ။မြန်မာနိုင်ငံတွင် ကျွဲကျောင်းဗျိုင်းကို ကွင်းပြင်၊ လယ်ပြင်နှင့် ကမ်းခြေများ၌ အများအပြားတွေ့နိုင်သည်။ ကျွဲနွားများ အနီးတွင် အမြဲတွေ့ရသောကြောင့် ကျွဲကျောင်းဗျိုင်းဟုခေါ်ခြင်းဖြစ်သည်။

အလျားလက်မ ၂၀ ရှိသည်။ ဝါသောနှုတ်သီးနှင့် ညိုမည်းသောခြေထောက်များ ရှိသောကြောင့် အခြားဗျိုင်းနှင့် ခွဲခြား၍ရသည်။



ကျွဲကောကလေး



ကျွဲကောကြီး

ကျွဲကျောင်းဗျိုင်းသည် ကျွဲနွားများကိုယ်ပေါ်တွင်နားလျက် ကျွဲနွားများ၌ တွယ်ကပ်နေသော ပိုးမွှားများကို၎င်း၊ ကျွဲနွားများ လှုပ်ရှားသွားလာခြင်းကြောင့် မြက်ထဲမှ ထပျံသော ပိုးမွှားများကို၎င်း စားသည်။ ငါးကလေးများ၊ဖါးလောင်းခေါ် ဖါးတပိုင်းငါးတပိုင်းနှင့် ရေပိုးမွှားများကိုလည်းစားတတ်လေသည်။

အသိုက်ကို ကုက္ကိုပင်များ၌ ပြေလကုန် သို့မဟုတ် မေလ အစလောက်တွင် ပြုလုပ်သည်။ သရက်ပင်၊

ဝါးပင်တို့၌လည်း အသိုက်လုပ်တတ်သေးသည်။ ဥများသည် ဖြူ၍ အပြာပြောက်၊ အစိမ်းပြောက်များရှိသည်။

**ကျွဲခေါင်းသီးပင်။** ကျွဲခေါင်းသီးပင်သည် ရေတွင်ပေါလောပေါ်နေသော အပင်ငယ်တမျိုးဖြစ်သည်။ ရေအောက်ရှိအရွက်နှင့် ရေပေါ်ရှိအရွက်တို့သည် မတူကြချေ။ ရေအောက်ရှိအရွက်များသည် အညှာချင်းဆိုင်ပေါက်၍ အမြစ်နှင့်တူကြသည်။ ရေပေါ်ရှိအရွက်များမှာမူ ရိုးတံရင်း၌ စု၍ပေါက်ကြသည်။ အသီးတွင် အဖုများထွက်နေ၍ ကျွဲဦးခေါင်းပုံနှင့်တူသည်။ အခွံသည် အစိမ်းပုပ်ရောင်ရှိ၍ အတွင်းသားမှာဖြူသည်။

မြန်မာနိုင်ငံအောက်ပိုင်းမြို့ကြီးများရှိ ရေကန်များတွင်ကျွဲခေါင်းသီးပင်များကို ပြုစုစိုက်ပျိုးကြသည်။ ဇွန်လမှဩဂုတ်လအထိ မိုးတွင်းအချိန်၌ ကျွဲခေါင်းသီးကိုရောင်းချလေ့ရှိသည်။ အသီးကိုအစိမ်းလိုက်ဖြစ်စေ၊ ပြုတ်၍ဖြစ်စေ၊ အခွံနွှာပြီးလျှင်စားကြသည်။ အတွင်းသားအရသာမှာ ချိုအေး၍ အရည်ရွှမ်းသည်။ ကျွဲခေါင်းသီးကို အထူးသဖြင့် ဟိန္ဒူလူမျိုးတို့ ကြိုက်နှစ်သက်ကြသည်။ ကျွဲခေါင်းသီးကို သံပရာသီးနှင့်ရောစား မိလျှင် တောက်၍သေတတ်သည် ဟုဆိုသည်။


ကျွဲနွားများအနီးတွင်ကျက်စားတတ်သောကျွဲကျောင်းငှက်များ

**ကျွဲစာနွားစာ။** ။မြန်မာနိုင်ငံတွင် ကျေးလက်တောရွာအနီးအပါးများ၌ ကျွဲစားကျက်၊ နွားစားကျက်ဟူ၍ သတ်မှတ်ထားသော မြက်ခင်းများကို တွေ့နိုင်ပေသည်။ ကျွဲစာနွားစာအတွက် ထိုစားကျက်များ ထားရှိသည့်အပြင်ကောက်ရိုး၊ ပြောင်းရိုး စသည်တို့ကိုလည်း သိုလှောင်ထားတတ်ကြသေးသည်။ ၈ ကေ ၂၀ ခန့်ရှိသော တောင်သူတယောက်သည် မြေ ၇ ကေခန့်ကိုဝါစိုက်၍ ၇ ကေခန့်ကိုနှမ်းစိုက်ပြီးလျှင် ကျန် ၄ ကေကို နွားစာပြောင်းစိုက်လေ့ရှိ၏။


မြန်မာနိုင်ငံအောက်ပိုင်းရေကန်များမှစိုက်ပျိုး၍ရသည့်ကျွဲခေါင်းသီးများ



အိန္ဒိယနိုင်ငံတွင်ကောက်ရိုးများကို ၄ ကောင်ဆွဲနွားလှည်းများဖြင့် သယ်ဆောင်နေကြပုံ

အချို့မြေပဲစိုက်သောသူတို့သည် မြေပဲကိုမတူးဖေါ်မီ ပဲရိုးများကိုဖြတ်၍ ထိုရိုးဖြတ်များကို ကျွဲစာနွားစာအဖြစ် သိုလှောင်ထားတတ်ကြသည်။ ဤနည်းဖြင့် သန့်ရှင်း၍ ကောင်းသော နွားစာမြေပဲရိုးရ၏။ သို့ရာတွင် စရိတ်ကြီးသဖြင့် ယခုအခါ ဤနည်းကို အသုံးပြုသူ နည်းလေပြီ။ အများအားဖြင့်၊ ပဲရိုးကိုထွန်နှင့်တိုက်၍ ဖြတ်ကြသည်က များ၏။ ထွန်နှင့်တိုက်သောအခါ ပဲရိုးများသည် မြေကြီးနှင့် ရောထွေးနေသဖြင့် နွားစာအတွက် ဖြတ်သောအရိုးလောက်မကောင်းလှချေ။

ဤသို့ကျွဲစာနွားစာများကို သိုလှောင်ထားခြင်းအားဖြင့် ကျွဲနွားများ ကျွေးမွေးရန် အစာကို တရာသီနှင့်တရာသီ အဆက်မပြတ်ရရှိနိုင်ကြပေသည်။

မြန်မာနိုင်ငံအောက်ပိုင်း၌ မိုးဦးကျအချိန်မှစ၍ ကောက်စိုက်သည့်အချိန်အထိ ကျွဲနွားများ ကျွေးမွေးရန်အတွက် နွေရာသီကပင် ကောက်ရိုးများကို ကုန်းကျ၍ ရေမဝပ်နိုင်သော နေရာများတွင် စုပုံထားတတ်ကြသည်။ မိုးတွင်းအခါ ရေလွှမ်းသောဒေသများတွင်မူ၊ စင်များ ဆောက်လုပ်၍၊ သိုလှောင်ထားတတ်ကြ၏။ ထိုပြင် မိုးရေကြောင့် ကောက်ရိုးများမပျက်စီးစေရန်အတွက်လည်း ကောက်ရိုးပုံများကို အမိုးမိုးပေးထားတတ်ကြ၏။ မိုးတွင်းအခါ ကန်သင်းရိုးနှင့် လယ်ကိုလယ်ကြားတွင် ပေါက်သောမြက်များကိုရိတ်၍ ကျွဲနွားများကို ကျွေးမွေးနိုင်ကြသော်လည်း များသောအားဖြင့် လောက်လောက်ငငမကျွေးမွေးနိုင်ကြပေ။

မြေပဲဖတ်၊ နှမ်းဖတ်၊ ဝါစေ့ဖတ်၊ ဖွဲနု၊ ဆန်ကွဲ၊ ပဲမှော်တို့ကိုလည်း၊ ကျွဲစာနွားစာအဖြစ် အသုံးပြုတတ်ကြရာ ယင်းတို့ကိုလည်း သိုလှောင်ထားတတ်ကြပေသည်။ စဉ်းပြီးသားကောက်ရိုး ပြောင်းရိုးတို့နှင့်အတူ မြေပဲဖတ်၊ နှမ်းဖတ်၊ ပဲမှော်စသည်တို့ကို ရောနယ်၍ကျွေးမွေးလျှင် ကျွဲနွားများအဖို့ အာဟာရဓာတ် ပို၍ဖြစ်၏။ ရှားပါးသော အချို့အရပ်များတွင် ပေအူ၊ ထန်းအူများကိုပင် ကျွဲစာနွားစာအဖြစ် ကျွေးမွေးကြရသည်။ ကျွဲစာနွားစာဖြစ်သော မြက်များမှာ မြက်ဝိုင်း၊ မြက်ကြား၊ ဘဲစာမြက်၊မြက်ချို၊ ဝါးရုံမြက်၊ မြက်မွှား၊ မြက်ခါး၊ မြက်လူးစသည်တို့ဖြစ်ကြသည်။

ကျွဲနွားတိရစ္ဆာန်များကို သီးသန့်မွေးမြူသည့် အနောက်နိုင်ငံများတွင်မူ ထိုတိရစ္ဆာန်တို့အတွက် အစာဖူလုံရအောင် မြက်အပြင် ပဲပင်အမျိုးမျိုးလည်း အထူးစိုက်ပျိုးထားကြသည်။ ပဲပင်များကို စိုက်ပျိုးရခြင်း၏ အကြောင်းရင်းတရပ်မှာ ထိုတိုင်းပြည်များတွင် ဆောင်းဥတု၏ အအေးဒဏ်ကို မြက်ကခံနိုင်ရည် မရှိသောကြောင့်ဖြစ်သည်။

ကျွဲစာနွားစာအတွက် မြက်၊ ပဲပင်တို့ကို စိုက်ပျိုးကြရာ၌ တိရစ္ဆာန်များအတွက် လိုအပ်သည့် ပရိုတင်းအချိုဓါတ် အစရှိသော အာဟာရဓာတ်များ မပျက်ပြားသွားစေရန် မြက်ကိုပွင့်ချိန်တွင် ရိတ်သိမ်းကြသည်။ တခါတရံ လယ်တကွင်းထဲမှ တနှစ်လျှင် ၂ ကြိမ် ၃ ကြိမ်မျှ ရိတ်သိမ်းရ

အင်္ဂလန်နိုင်ငံတွင် ဆောင်းတွင်းအခါများ၌ နွားများကို မြက်အစားပဲရွက်များကိုကျွေးကြရသည်။

သည်။ ရိတ်ပြီးသည့်မြက်ကို လယ်ကွင်းထဲတွင် ၃ ရက်ခန့် အခြောက်လှန်းထားလေ့ရှိသည်။ ထိုနောက် မြက်အခြောက် မမြန်လွန်းရအောင် ထွန်ခြစ်များဖြင့် အစုလိုက်၊ အပုံလိုက် ပြုလုပ်၍ ရက်သတ္တတပတ်မျှ လယ်ကွင်းထဲ၌ ထားရပြန်သည်။ ပြီးမှကျီများသို့ မြက်ခြောက်ကို သယ်ယူသိုလှောင်ထားကြသည်။ ယခုအခါ မြက်ကိုရိတ်သိမ်းသိုလှောင်ခြင်း၊ အသယ် ရအသို ရလွယ် ကူအောင် သိပ်သည်းစွာစည်းနှောင်ခြင်း အစရှိသော လုပ်ငန်းကိစ္စအဝဝတို့ကို စက်ဖြင့် ဆောင်ရွက်လျက်ရှိကြရာ၊ လုပ်ငန်းမှာ ပိုမိုလွယ်ကူလာသည်။ ထိုပြင် မြက် စိုကို မူလအာဟာရဓာတ်များ မပျက်ပြားစေဘဲ၊ ခြောက် သွေ့လာ စေ နိုင် သည့် စက်ကို အသုံးပြုနိုင်ပြီဖြစ်၍ တိရစ္ဆာန်မွေးမြူရေးလုပ် ငန်းသည် တိုးတက် လာ လေသည်။

**ကျွဲစညင်းပင်။** ။ကျွဲစညင်းအမည်ဖြင့် အပင် ၂ မျိုးရှိသည်။အပင်တမျိုး၏ရုက္ခဗေဒအမည်မှာ မီလီရှာအက်ထရိုပါပါရီယားဖြစ်၍ အခြားတမျိုး၏ ရုက္ခဗေဒအမည်မှာ ပီသီကိုလိုဗီယမ် ဒျူဖြစ်သည်။ ပဌမအပင်မျိုးသည် အမြင့်ပေ ၁၀၀ ခန့်ရှိ၍ လုံးပတ် ၈ ပေ ၉ ပေခန့်ရှိသည်။ ထိုအပင်မျိုးသည် ပဲခူးရိုးမတောင်၌ အများအားဖြင့် ပေါက်သည်။ အသားမာ၍လေးလံသည်။

ဒုတိယကျွဲစညင်းပင်မျိုးသည် ၅ လက်မခန့် လိမ်တွန့်သော သီး တောင့် သီး သည့် ပင် စောက် တမျိုး ဖြစ်သည်။ ယင်းကို ခြံစည်းရိုးများ၌ စိုက်ပျိုးလေ့ရှိသည်။ တနင်္သာရီတောင်ပိုင်းနှင့် မုတ္တမနယ်တို့တွင် တွေ့ရ၍ မွန်ဘာသာဖြင့် (ကြိုင်ပရင်) ဟုခေါ်သည်။ ကုလားမန်ကျည်းဟူ၍၎င်း၊ တရုပ်မန်ကျည်းဟူ၍၎င်း ခေါ်ကြသည်။ ဤအပင်၏ မူလပေါက်ရောက်ရာဒေသမှာ မက္ကဆီကိုနိုင်ငံဖြစ်သည်ဟုဆိုသည်။

**ကျွဲမြီးဆွဲငှက်။** ။လင်းမြီးဆွဲငှက် — ရှု။



ပဲခူးရိုးမ၌အများအစားပေါက်သည့်ကျွဲစညင်း

# ကမ္ဘာတွင်စံတင်ရသည့်သစ်ဘုရင်

**ကျွန်းပင်သည် မြန်မာနိုင်ငံတော်၏ဘဏ္ဍာရေးကို ဖြစ်ထွန်းစေသည့် အရေးကြီးထုတ်ကုန်တရပ်ဖြစ်သည်သာမက ကမ္ဘာတလွှား တွင် ကျွန်းသစ်သည် မြန်မာနိုင်ငံအမည်နှင့်လည်း ဒွန်တွဲလျက်ရှိလေသည်။ ကျွန်း၏တန်ဖိုးကို ကမ္ဘာကသိသလောက် မြန်မာ များအရေးမထားကြသေးချေ။ ကျွန်းသစ်သည် မြန်မာ့ရတနာတပါးဟုခေါ်က မှားမည်မထင်ပေ။**

**ကျွန်းပင်။** ။ကျွန်းပင်ကိုရုက္ခဗေဒအရ၊ တက်တိုးနာ ဂရန် ဒစ် ဟုခေါ်သည်။ ကျွန်းပင်သည် မိုးရေချိန်လက်မ ၄၀ မှ ၁၂၀ ရှိသောဒေသများ၌ ဖြစ်ထွန်းသည်။ မြေအမြင့်ပေ ၃၀၀၀ အောက်တွင် သန်စွမ်းစွာပေါက်နိုင်သည်။ ခြောက်သွေ့သည့်ဒေသများ နှင့် မိုးအလွန် များသည့် နေရာများ၌ ကျွန်းပင်မပေါက်ချေ။မြန်မာနိုင်ငံတွင် ပဲခူးရိုးမတလျှောက်၌၎င်း၊ ရခိုင်ရိုးမအရှေ့ဖက် ဆင်ခြေလျှော၌၎င်း၊ မုတ္တမနယ်ရှိ တောင်ကုန်းများနှင့် ယင်းတို့၏မြောက်ဖက် တောင်ကုန်းဆက်များ၌၎င်း၊ မြစ်ကြီးနားခရိုင်နှင့် ကာမိုင်းနယ်တို့၌၎င်း၊ ကျွန်းပင်များ ကိုတွေ့ရသည်။ မြန်မာနိုင်ငံ၌ ကျွန်းပင်စိုက်ပျိုးခြင်း၊ ကျွန်းပင်ခုတ် လှဲခြင်းတို့ကို အစိုးရကစီမံအုပ်ချုပ်သည်။

ကျွန်းပင်သည် ရာသီလိုက် အရွက်ကြွေသော သစ်ပင်မျိုးဖြစ်သည်။ နွေရာသီတွင် ကျွန်းရွက်များ သည်တရွက် မကျန် ကြွေ ကျ လေ့ ရှိ သည်။ ထိုသို့ ကြွေကျပြီး သည့်နောက်မှ ရွက် သစ်များ တဖန် ပြန်ထွက်လာသည်။ ရွက်သစ်ပေါက်ချိန် မှာမိုးဦးကျချိန် ဖြစ် သည်။ မိုးရာသီတွင် ကျွန်း ပင် များ သည် စိုပြည် သော အရွ က် ကြီး များ နှင့် စိမ်း လန်းအုပ် ဆိုင်းလျက်ရှိကြသည်။

ကျွန်းရွက်သည် ၁ ပေမှ ၃ ပေခန့် အထိရှည်၍ မျက်နှာပြင်ကြမ်းသည်။ ကျွန်းရွက်ကြီး များကို ပစ္စည်း ထုပ်ရန် ဖက် အဖြစ်ဖြင့် အသုံးပြုလေ့ရှိကြသည်။ အချို့ကျွန်း တောနှင့် နီး သော ကျေးရွာများ တွင် ကျွန်းရွက်ကို အတန်းလိုက်သီ၍ အိမ်မိုး ကြ သည်။ တချို့ကလည်း ကျွန်းရွက်တွင်အနီရောင် ဆေးတမျိုးပါရှိသဖြင့် ကျွန်းရွက်များကို ဆိုးဆေးအဖြစ် အသုံးပြုကြသည်။

ကျွန်း သား သည် မာ၍ ခိုင် ခံ့၏။ ကျုံ့ခြင်း ကြွခြင်း မရှိ၊ ထိုဂုဏ် သတ္တိများ ကြောင့် ကမ္ဘာ၌ ပဌမတန်း သစ်ဖြစ်၏။ ကမ္ဘာကျော် သစ်အများ သည် ကျွန်းထက် ၂ ဆမျှကျုံ့ခြင်း ကြွခြင်းရှိ၏။ ခိုင်မာရာ၌လည်း ကျွန်း၏ ခိုင်မာခြင်း ၄ ပုံ ၃ ပုံ မျှသာ ရှိ၏။ ကျွန်း သား ကို ခြလည်း မစား၊ အက်ဆစ်လည်းမစားပေ။ ကျွန်းသား ၁ ကုဗပေ သည် ၄၅ ပေါင်ခန့် အလေးချိန်စီးသည်။ အသား သေပြီး ကျွန်း သား ကို ရေထဲချလျှင် ပေါလော ပေါ်လေသည်။ ကျွန်းသားကို အခြောက်ပေါင်းခံခြင်းဖြင့် မည်းနက်သောကတ္တရာစေးတမျိုးကိုရနိုင်သည်။ အိန္ဒိယနှင့် မြန်မာနိုင်ငံတို့တွင် ဤကတ္တရာစေးကို ဆေးအဖြစ်ဖြင့် အသုံးပြုကြသည်။

ကျွန်းအသုံးချမှုများမှာ အိမ်ဆောက်ခြင်း၊ ပရိဘောဂ ပြုလုပ်ခြင်း၊ သိပ္ပံလက် တွေ့စမ်းခန်းသုံး ထိုင်ခုံနှင့်စားပွဲများ ပြုလုပ်ခြင်း၊ ဇာတ်ခုံကြမ်းခင်းများပြုလုပ်ခြင်း စသည်တို့ဖြစ်ကြသည်။ ရာသီဥတုအမျိုးမျိုး၏ ဒဏ်ကိုခံရသောသင်္ဘောများ တည်ဆောက်ရာ၌ ကျွန်းကိုမြောက်မြားစွာ အသုံး



ကြီးမားသောကျွန်းပင်တပင်ကိုဖြတ်လှဲနေကြစဉ်



ဧရာဝတီမြစ်အတွင်း၌ပေါင်ဖွဲ့၍မျှောချလာသောကျွန်းသစ်များ

ပြုရသည်။ ကွင်းမေရီခေါ် ကမ္ဘာကျော်ဗြိတိသျှသင်္ဘောကြီး၌ ကျွန်းသားတန်ချိန် ၁၀၀၀ ကျော် အသုံးပြုထား၏။ မီးရထားတွဲများဆောက်လုပ်ရာ၌လည်း ရာသီဥတုဒဏ်နှင့် မီးရထား၏လှုပ်ရှားမှုဒဏ်ကို ကျွန်းသားသာလျှင် ခံနိုင်သဖြင့်၊ ကမ္ဘာပေါ်ရှိ မီးရထားတွဲများကို ကျွန်းသားဖြင့်သာလုပ်ကိုင်ထားသည်။ မြန်မာနိုင်ငံ၌ ကျွန်းသားဖြင့်ဆောက်လုပ်ထားသော ဘုန်းကြီးကျောင်း၊စရပ်စသည့်အဆောက်အအုံအများအပြား ရှိသည်။ အမေရိကန်နိုင်ငံ ဖိုပြတိုက်ကြီး၌ ကျွန်းဖြင့် ကြမ်းခင်းထားသည့် အကျယ်မှာ ၁ဂ ဧကခန့်ရှိသည်။ ကျွန်းအစား အခြားသစ်များကိုသုံးရန် အနောက်နိုင်ငံများ၌ သုတေသနပြု၍ သိပ္ပံနည်းများဖြင့်လုပ်ကိုင်ကြသော်လည်း ယနေ့အထိ ကျွန်း၏ဂုဏ်သတ္တိများနှင့် ယှဉ်ပြိုင်နိုင်သည့်သစ်ကို မတွေ့ရသေးချေဟုဆိုသည်။

မြန်မာနိုင်ငံ၌ ကျွန်းသစ်အဖိုးတန်ပုံကို ရှေးနှစ်ပေါင်းအတော်ကြာကပင် သိရှိခဲ့ကြသည်။ ခရစ် ၁၇၅၂ ခုနှစ်တွင် အလောင်းမင်းတရားကြီးသည် ကျွန်းပင်များကိုခုတ်လှဲခြင်းမပြုရ၊ ကျွန်းသစ်များသည် ဘုရင့်ဘဏ္ဍာတော် ပစ္စည်းဖြစ်သည်ဟု ကြေညာပညတ်တော်မူခဲ့သည်။ ၁ဂ၆၀ ပြည့်နှစ်တွင် ယခုမက္ကရီကာဟု ခေါ်တွင်သည့်ကုမ္ပဏီသည် မင်းတုန်းမင်းတရားထံ ကျွန်းသစ်ထုတ်လုပ်ငန်း လုပ်ကိုင်ရန်လျှောက်ထား၍လုပ်ကိုင်ခွင့်ရရှိခဲ့၏။ ၁ဂ၆၂ ခုနှစ်တွင်ဘုံဘေဘားမားခေါ် ကုမ္ပဏီသည် မင်းတုန်းမင်းကြီးနှင့်စေ့စပ်၍ ပျဉ်းမနားမြို့အနီးရှိ တောများ၌ကျွန်းအလုပ်များကို လုပ်ကိုင်ရန်အခွင့်အရေးများရရှိခဲ့၏။ ဤသို့ကုမ္ပဏီကြီးများသည် ကျွန်းသစ်များကိုထုတ်ယူလာကြ၍ ကျွန်းသစ်တောများ တဖြည်းဖြည်းပြုန်းလာသောအခါ ၁ဂ၅၅ ခုနှစ်၌ အိန္ဒိယဘုရင်ခံချုပ်က ကျွန်းပင်များကို အစိုးရကရွေးချယ်သတ်မှတ် သင်းသတ်ပေးခြင်းမပြုဘဲ မည်သူမှမခုတ်မလှဲရဟု ကြေညာရလေ၏။ လွတ်လပ်ရေးမရမီက မြန်မာနိုင်ငံ၌ ဗြိတိသျှအစိုးရသည် အသွားအလာလွယ်ကူသည့် နေရာများကို သီးသန့်ထား၍ ငွေအင်အားနည်းသည့် နိုင်ငံသားများအား ထုတ်ယူနိုင်ခွင့်ပြုခဲ့သည်။ အသွားအလာခက်ခဲသည့်နေရာများကိုမူ ငွေအင်အားကောင်းသော နိုင်ငံခြားသားကုမ္ပဏီများအား ရောင်းချလုပ်ကိုင်စေခဲ့သည်။ ထိုအခါက ထင်ရှားသောကုမ္ပဏီကြီးများမှာ ဘုံဘေဘားမားကုမ္ပဏီ၊ (ဘုံဘေဘားမားရောင်းဝယ်ရေးအဖွဲ့) စတီးဘရားသားကုမ္ပဏီ၊ မက္ကရီကာကုမ္ပဏီ ဖူးကားကုမ္ပဏီ၊တီ၊ ဒီ၊ဖင်းလေးကုမ္ပဏီတို့ဖြစ်ကြသည်။ လွတ်လပ်ရေးရပြီးသည့်နောက်တွင် ၁၉၄ဂ ခုနှစ်ဇွန်လ ၁ ရက်နေ့မှစ၍ ကျွန်းတောများကို ပြည်သူပိုင်အဖြစ်ဖြင့် သိမ်းယူခဲ့ရာ ၁၉၄၉ ခုနှစ်ဇန္နဝါရီလတွင် ပြည်သူပိုင်ပြုလုပ်ရေး ပြီးစီးလေသည်။ ယခုအခါ နိုင်ငံတော်သစ်ထုတ်လုပ်ရေးဘုတ်အဖွဲ့ကဦးစီး၍ ကျွန်းသစ်နှင့် အခြားသစ်များကို ထုတ်ယူသုံးစွဲရောင်းချလျက်ရှိသည်။

ကမ္ဘာတွင် မြန်မာနိုင်ငံမှအပ ယိုးဒယား၊ မလ္လာယု၊

ဂျားဗား၊ အင်ဒိုချိုင်းနားနှင့် အိန္ဒိယနိုင်ငံတို့၌ လည်း ကျွန်း ထွက်သည်။ သို့သော်အခြားနိုင်ငံများ၌ ထွက်သည့်တန်ချိန် မှာမြန်မာနိုင်ငံ၌ထွက်သည့်တန်ချိန်၏၃ပုံ၁ပုံမျှသာရှိသည်။ မြန်မာနိုင်ငံသစ်တောများမှ နှစ်စဉ်မူမှန်အထွက်သည် တန် ချိန်ပေါင်း ၄၀၀,၀၀၀ (၄ သိန်း) မျှ ရှိနိုင်သည်ဟုဆိုသည်။ မြန်မာနိုင်ငံမှထွက်သည့်ကျွန်းကို အင်္ဂလန်ပြည်က ၂၆.၃ ရာ ခိုင်နှုန်း အိန္ဒိယနိုင်ငံက ၆၁.၅ ရာခိုင်နှုန်း အခြားနိုင်ငံများက ၁၂.၂ ရာခိုင်နှုန်းသုံးစွဲကြသည်။ သစ်လုပ်ငန်းကို တိုးတက် အောင်ဆောင်ရွက်ရာ၌ ကုလသမဂ္ဂလက်အောက်ရှိ ကမ္ဘာ့ စားနပ်ရိက္ခာနှင့် စိုက်ပျိုးရေး အဖွဲ့ကြီး၏ အကူအညီကို မြန်မာနိုင်ငံသည် အထိုက်အလျောက်ရရှိသည်။

**ကျွန်းလှမြို့**။ ။ကျွန်းလှမြို့သည် မြန်မာနိုင်ငံအထက်ပိုင်း ရွှေဘိုခရိုင် ကန့်ဘလူနယ်အပါအဝင် ကျွန်းလှမြို့နယ်၏ ရုံး စိုက်ရာမြို့ဖြစ်၏။ ကန့်ဘလူမြို့၏ အနောက်မြောက်ဖက် မိုင် ၂၀ ကျော်အကွာ မူးမြစ်၏လက်ျာဖက်ကမ်းပေါ်တွင် တည် ရှိသည်။ သာယာသောမြို့ကလေး တမြို့ဖြစ်သော်လည်း မူးမြစ်ကြောင်းမှတပါး လမ်းပန်းအဆက်အသွယ် မကောင်း လှ၍တကြောင်း၊ ငှက်ဖျားရောဂါ ထူထပ်သောဒေသ ဖြစ်၍ တကြောင်း လူနေမစည်ကားလှချေ။ ကျွန်းလှမြို့ဟုဆိုသော် လည်း ရွာကြီးတရွာမျှသာဖြစ်၍ လူဦးရေ ၁၀၀၀ ခန့်သာ ရှိသည်။ မြို့နယ်အရာရှိရုံး၊ သစ်တောဌာနရုံး၊ ရဲဌာန နှင့် ဗိုလ်တဲများရှိသည်။ကျွန်းလှမြို့တွင်ရုံးဦးစေတီခေါ် ပွဲတော်ရ စေတီတဆူရှိသည်။ ထိုပွဲတော်ကို ကန့်ဘလူနယ် မြေဒူးမြို့ ရွှေဂူကြီးဘုရားပွဲတော်အပြီး တပေါင်းလပြည့်ကျော် ၄ ရက် နေ့မှ ၈ ရက်နေ့ထိ ကျင်းပမြဲ ဖြစ်သည်။

ကျွန်းလှမြို့နယ်မှာ စတုရန်း မိုင် ၁၈၇၀ မျှ ကျယ်ဝန်း၍ သစ် တောကြီးများဖြင့် ဝန်းရံလျက် ရှိသည်။ ကျေးရွာပေါင်း ၂၇ ရွာပါဝင်၍ လူဦးရေ ၂၁၄၆၁ (၁၉၅၂) နေထိုင်လေသည်။ ကျွန်းလှမြို့နယ် ချောင်းကျေးရွာ တွင် ဗမာမွတ်စလင် အများ နေထိုင်ကြသည်။

ကျွန်းလှနယ်တွင် ကျွန်း၊ ပျဉ်း ကတိုးနှင့် သစ်ယာ၊ အင်ကြင်း စသော သစ်ကောင်းများထွက် သည်။ ကျွန်းလှနှင့် မိုင် ၃၀ ခန့်ကွာ သစ်ချိုရွာမှ ကျောက်မီး သွေး အနည်းငယ်တူးဖော်ရရှိသည်။ သို့ရာတွင် ကျောက် မီးသွေးမှာသက်နုဖြစ်၏။ ထိုနယ်မှ ဆန်စပါးနှင့် ပဲအမျိုး မျိုး၊ ခရမ်း၊ မုန်လာ၊ ဂေါ်ဘီထုပ်စသော ဟင်းသီးဟင်းရွက် များစိုက်ပျိုးသည်။ ဝါဂွမ်း၊ နှမ်း၊ ဝါး၊ ပွဲလျက်၊ အင်တွဲ၊ သစ် စေး၊ ပျားရည်၊ ပျားဖယောင်း၊ ချိပ်တို့လည်းထွက်သည်။

ကျွန်းလှနယ်တွင်းရှိ ပျောင်သွယ်ချောင်း၊ ဖန်သာချောင်း စည်သာယာပင်းချောင်းများမှာ သစ်မျှောရာ အဓိကရေလမ်း များဖြစ်ကြသည်။ ထိုနယ်ရှိချောင်းများမှ ရွှေအနည်းငယ် ထွက်၍ မိုးကုန်၍ရေစစ်ချိန်တွင် ရွှေကျင်လေ့ရှိကြသည်။

**ကြွေစေ့**။ ။ကြွေပစ်ကစားရာတွင် အသုံးပြုသောကြွေစေ့ အဖြူကလေးများကိုင်း၊ စာရေးစားပွဲပေါ်၌ စက္ကူဖိရန် အသုံးပြုသော ကြွေအကြီးစားများကိုင်း၊ ဘယဆေး ဆိုင် များ၌ ဆေးဖော်ရန်အတွက် ရောင်းချသော ကြွေပုပ်များ ကိုင်း၊ တွေ့မြင်ဘူးကြပေမည်။ ထိုပစ္စည်းတို့သည် ကြွေခရု၏ အခွံများသာဖြစ်ကြ၏။ ကြွေခရုအရှင်ကိုကား မြင်ဘူးတွေ့ ဘူးသူရှားပေသည်။

ကြွေခရုသည် ခရုမျိုးဝင် ပင်လယ်သတ္တဝါ တမျိုးဖြစ်၍ မျိုးစိတ်ပေါင်း ၁၅၀ ကျော်မျှရှိသည်။ ကြွေခရုတို့သည် နွေး သောပင်လယ်သမုဒ္ဒရာအတွင်း ရေတိမ်ရာအရပ်၌ ကျောက် ဆောင်များနှင့်သန္တာကျောက်တန်းများအောက်တွင်နေကြ သည်။ အထူးသဖြင့် အိန္ဒိယသမုဒ္ဒရာနှင့် ပစိဖိတ်သမုဒ္ဒရာတို့ ဆက်စပ်ရာ ဒေသတွင်နေကြသည်။ ဥရောပတိုက်ရှိ ပင်လယ် များတွင်လည်း ကြွေခရုအငယ်စားတမျိုးကိုတွေ့ရသည်။



ကြွေစေ့ဟူ၍အသိများသောကြွေခရုခွံများ

ကြွေခရုသည် ကျွန်ုပ်တို့တွေ့မြင်ရသည့်အတိုင်း အခွံတခုတည်းသာရှိသော ခရုမျိုးဖြစ်သည်။ ငယ်ရွယ်သေးသော ကြွေခရုနှင့် ကြီးပြင်းပြီးကြွေခရုတို့၏ပုံသဏ္ဌာန်မှာသိသိသာသာခြားနား၏။ ငယ်ရွယ်စဉ်ကကြွေခွံသည် သာမန်ခရုလုံး၏ အခွံနှင့်ဆင်တူသည်။ မျက်နှာဝမှာ ရိုးရိုးမျက်နှာဝမျိုးပင်ဖြစ်၍ ရစ်ခွေနေသော ထိပ်ချွန်ကလေးသည်လည်း ထင်ထင်ရှားရှားပေါ်နေသည်။ တဖြည်းဖြည်း ကြီးပြင်းလာမှ အခွံသည်အတွင်းဖက်သို့ လိပ်ဝင်သွား၍ ထိပ်ချွန်သည်တုံးသွားလေသည်။ မျက်နှာဝစောင်းတွင် ခွေးသွားစိပ်ကဲ့သို့ အထစ်ကလေးများထလာသည်။

ကြွေခွံသည် ချောမွတ်ပြောင်လက်၍နေသည်။ အဖြူ၊ အညို၊ အဝါ၊ နက်ပြာ၊ စသဖြင့် အရောင်အမျိုးမျိုးရှိသည်။ အချို့၌လှပသော အစက်အပြောက်များလည်း ပါရှိသည်။ ထို့ကြောင့် ကြွေခွံကို ကမ္ဘာအနှံ့အပြား၌ လူသိများ၍ လူကြိုက်လည်းများပေသည်။

အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံတို့တွင် လှပသောရောင်စုံကြွေစေ့များကို ဆင်မြင်းစသည်တို့၏ ကကြိုးတန်ဆာပလာ၌ တပ်ဆင် အသုံးပြုကြသည်။ ရှေးအခါက မြန်မာနိုင်ငံတွင် အင်္ကျီစသည်တို့ကို သိပ်သည်းပြောင်ချောအောင် ယခုအခါ မီးပူတိုက်ရသကဲ့သို့ကြွေဖြင့်ပွတ်တိုက်သည်။ အာဖရိကတိုက်နှင့် အာရှတိုက်တောင်ပိုင်းတွင် ရှေးအခါက ကြွေစေ့များကို အသပြာအဖြစ် သုံးစွဲခဲ့ကြသည်။ အချို့က လက်ကောက်၊ ဆွဲကြိုး၊ရင်ထိုးစသည်တို့ ပြုလုပ်၍ဆင်မြန်းကြသည်။ အီဂျစ်နိုင်ငံ နိုင်းမြစ်ဝှမ်းရှိ အချို့ဒေသများတွင် ကြွေစေ့ကလေးများကို အန္တရာယ်ကင်းဘေးကင်း အဆောင်အဖြစ်ပင် အသုံးပြုကြသေးသည်ဟု သိရလေသည်။

**ကြွေပစ်ကစားခြင်း**။ ပဆစ်ပစ်ခြင်း — ရှု။

**ကြွေပန်းပင်**။ ။ကြွေပန်းပင်သည် ဗီဂိုနီယေးစီး မျိုးရင်းတွင်ပါဝင်သည်။ အပူပိုင်းဒေသတို့တွင် စတင်ဖြစ်ပွားသောအပင်မျိုးဖြစ်သည်။ မျိုးစိတ်စုစုပေါင်း ၇၅၀ ရှိသည်အနက်မျိုးစိတ်ပေါင်း ၁၅၀ ကို အလှစိုက်ပျိုးလျက်ရှိကြသည်။

ထိုပန်းပင်မျိုးသည် လွယ်ကူစွာပေါက်သဖြင့် အကိုင်းအခက်ကို ဖြတ်၍စိုက်နိုင်သည်။ အရွက်သည်ကြီး၍ အသားထူပြီးလျှင် ဖယောင်းသားကဲ့သို့ ချောမွတ်သည်။ အပွင့်သည်လည်း ကြီး၍လှ၏။ အသီး၌ အတောင်ပါရှိသည်။ အသီးသည် သေးငယ်သော အစေ့ကလေးများရှိသည့် အစေ့အိတ်ဖြစ်သည်။ ကြွေပန်းပင်မျိုးတွင် နွေရာသီပွင့်သောအမျိုးနှင့် ဆောင်းရာသီပွင့်သော အမျိုး ဟူ၍ နှစ်မျိုးကွဲပြားသည်ကို တွေ့ရသည်။ နွေရာသီပွင့်သောအမျိုးတွင် အမြစ်သည် သစ်ဥသဖွယ်ဖြစ်၍ ဆောင်းရာသီပွင့်သောအမျိုးတွင် အမြစ်သည်အမျှင်သဖွယ်ဖြစ်သဖြင့်ခွဲခြား၍သိနိုင်သည်။

**ကြွေရည်သုတ်ခြင်း**။ ။ကြွေရည်သည် အဓိကအားဖြင့် ဖဲလစပါး (စဉ့်ကျောက်တမျိုး)၊ ကျောက်သလင်း၊ ဆီလီကာ၊လက်ချား၊ ခဲပုပ်နှင့် အခြားတွင်းထွက်ပစ္စည်းများပါဝင်သော ချော်ရည်တမျိုးပင်ဖြစ်သည်။ သို့သော် ကြွေသည် ဖန်ထက်ပို၍ခိုင်ခံ့၍ သတ္တုကဲ့သို့ကြာရှည်ခံ၏။ ကြွေရည်လုပ်ငန်းမှာ အထက်တွင်ဖော်ပြခဲ့သော ပစ္စည်းများကို လိုအပ်သလိုရောစပ်ပြီးနောက် ညက်ညက်ကြေအောင် ကြိတ်ချေရသည်။ ဤကြွေဆေးကို အမှုန့်အတိုင်းသော်၎င်း၊ အရည်တခုခုတွင် ဖျော်၍သော်၎င်း၊ ကြွေရည်သုတ်လိုသောပစ္စည်းပေါ်၌ သုတ်လိမ်းပြီးသော် ပေါင်းအိုးတွင်ထည့်၍ ပေါင်းတိုက်ပေးရသည်။ ထိုအခါ ကြွေဆေးသည် အရည်ပျော်၍ ကြွေရည်သုတ်လိုသည့် ပစ္စည်းမျက်နှာပြင်ပေါ်၌ တညီတညာ ပျံ့နှံ့ပြီးစွဲကပ်သွားသည်။ ကြွေရည်ထူထူသုတ်လို



ကြွေခွက်သံခွက်များကိုကြွေရည်သုတ်၍ အချောကိုင်ပြီးသောအခါမြင်ရပုံ

သည့်အခါ ဤနည်းအတိုင်း၊ သုံးလေးကြိမ်မျှ တထပ်ပြီး တထပ် သုတ်ပေးရသည်။

ကြွေရည် သုတ် အတတ်မှာ ရှေးနှစ် ပေါင်း များ စွာကပင် ပေါ် ပေါက်ခဲ့ပေသည်။ ရှေးခေတ်မှ ကြွေရည်သုတ်ပန်းအိုး များ၊ ဓါးမြောင်များ၊ လက်ဝတ်ရတနာများကို တူးဖေါ် ရရှိခဲ့ ကြရာ ယခုအခါ အင်္ဂလန်၊ အမေရိကန်စသော နိုင်ငံကြီး များရှိပြတိုက်ကြီး များတွင် ထိုရှေးဟောင်းပစ္စည်း များကို တွေ့မြင်နိုင်ပေသည်။

ကြွေရည်သုတ်ဆိုရာ၌ ပန်းကန်ပြား၊ လက်ဖက်ရည်အိုး၊ ကြွေဇွန်းစသည်တို့ကဲ့သို့ရွှံ့စေးဖြင့်ပြုလုပ်ထားသည့် ပစ္စည်း များသာလျှင်မဟုတ်၊ သံ၊ ကြေး၊ စသော သတ္တုတခုခုနှင့် ပြုလုပ်ထားသော အထည်ပစ္စည်းများပေါ် တွင်လည်း အလှ အပနှင့် အသုံးခံမှုအတွက် ကြွေရည်သုတ် ပေးနိုင်သည်။ ကြွေရည် သုတ်ပစ္စည်း များသည် ကြွေထည်သက်သက်များ ကဲ့သို့ပင် ချောညက်ကြည်လင်သည်။

ကြွေရည်သုတ်နည်းအမျိုးမျိုးရှိသည့်အနက်ရှေးအကျဆုံး နည်း ၂ နည်းမှာ မြှုပ်ပန်းဖေါ် နည်းနှင့် ပန်းကြွဖေါ် နည်း တို့ဖြစ်သည်။

မြှုပ်ပန်းဖေါ် နည်းတွင် အောက်ခံပစ္စည်း ပေါ်၌ အလိုရှိ သည့်ပန်းပုံကို ထွင်းခြစ်ပေး၍ ထိုအချိုင့်များတွင် လိုရာ ရောင်စုံကြွေဆေးကို ထည့်ပေးရသည်။ ပြီးလျှင်ပေါင်းအိုး တွင်ထည့်၍ ပေါင်းတိုက်ပေးရသည်။ ထိုနောက် တိုက်ချွတ် ဆေးကြော၍ ချောမွတ်ပြောင်လက်လာသည့်တိုင်အောင် အရောင်တင်ပေးရသည်။

ပန်းကြွဖေါ် နည်းတွင်မူ အောက်ခံအထည်ပေါ်၌ ပန်းပုံ များကိုထွင်းမည့်အစား ယင်းအထည်နှင့် မျိုးချင်းတူသည့် သတ္တုချောင်းများကို အလိုရှိသည့် ပန်းပုံအတိုင်းခွေ၍ ဂဟေ ဖြင့် တင် ရသည်။ ထိုနောက် သတ္တုချောင်း များ အကြား ရှိချိုင့်ခွက်ကလေးများထဲသို့ အလိုရှိသည့် ကြွေဆေးများ ကိုထည့်၍ အထက်နည်းအတိုင်း ပေါင်းတိုက်ပေးရသည်။ ထိုနောက် စီးနေသောရေတွင် နူးညံ့သော ကျောက် ပွ ဖြင့် ရက် အ တော် ကြာအောင်တိုက် ချွတ်အရောင်တင် ပေးရလေသည်။



ကြွေထည်ပစ္စည်းများပေါ် တွင် ပန်းရေးဆေးခြယ်နေပုံ

ယခု ခေတ် တွင် တရုပ် နှင့် ဂျပန် လူမျိုးတို့သည် ဤပန်းကြွဖေါ် နည်း အတတ်၌ ထူးချွန်သူများ ဖြစ်ကြပေ သည်။ သို့သော် ကြွေရည် သုတ် အတတ်သည် ရှေး ဦး စွာ အနောက် တိုင်းများတွင် . အလွန်ရှေးကျသော ခေတ်က စတင်ပေါ် ပေါက်ခဲ့၍ ၄ ရာစုနှစ် သို့ ရောက်မှ အရှေ့တိုင်း သို့ ရောက် လာ ကြောင်း အ ထောက် အထားများရှိသည်။ အီဂျစ်၊ အဆီး ရီးယားနှင့် ဗက်ဗီလုံးနိုင်ငံများတွင် ရှေး ခေတ် နန်း တော် နံ ရံများ၌ ကြွေရည်သုတ်အုတ်ချပ်များ အသုံး ပြုခဲ့ ကြောင်း ကိုတွေ့ရသည်။ ကြွေ ရည် သုတ် အိုး ခွက် များ ကို လည်း ပြု လုပ် ခဲ့ ကြ သည်။ အလှ အပကို အထူးနှစ်သက်တတ်သော ဂရိလူမျိုး တို့က လက် ဝတ် တန် ဆာများ နှင့် အိုးခွက် များကိုသာမက ရုပ် လုံးများ ကိုပင် ကြွေရည်သုတ်၍ ပြုလုပ်ခဲ့ကြသည်။

အီဂျစ်နှင့်ဂရိလူမျိုးများနည်းတူပင် ရှေးခေတ်ဖိုင်ဇင်းတိုင် လူမျိုးတို့သည်လည်း ကြွေရည်သုတ်အတတ်ကို ကောင်းစွာ တတ်မြောက် ခဲ့ကြပေသည်။ သူတို့သည် ဥရောပမြောက် ပိုင်းရှိ ကဲ့လူမျိုးတို့ထံမှ ထိုအတတ်ကို ရရှိတတ်မြောက်ခဲ့ဟန် တူသည်။ အကြောင်းမှာ ရှေးခေတ်က ကဲ့လူမျိုးတို့၏ သင်း ချိုင်းများကို တူးဖေါ် ရာတွင် စစ်သားများသုံးစွဲခဲ့သောဒိုင်း များ၊ မြင်းဇက်ကြိုးများ၊ ခါးပတ်ကွင်းများ၌ စိမ်း၊ နီ၊ ဝါ၊



တရုပ်ကြွေထည်များနှင့် ဂျပန်ကြွေထည်များကို ပြပွဲတွင်တင်ပြထားပုံ

ကာ ပေါင်းတိုက်ပြီးနောက် တွင်း ထွက် ကြွေဆေး ရောင် စုံတို့ဖြင့် အလိုရှိရာပန်းပုံ၊ ရုပ်ပုံများကိုရေး ခြယ်ပေး၍ ဒုတိယအကြိမ် ပေါင်း တိုက်ခြင်းပင်ဖြစ်သည်။

လက်ရှိ ၂၀ ရာစုနှစ်အတွင်း အထူး ကျွမ်းကျင်သူများသာ လုပ်ကိုင်နိုင် သည့် နည်းတမျိုးပေါ်လာပြန်၍ ဤနည်းကိုလည်း ဣတာလီနိုင်ငံကပင် စတင်တွေ့ရှိခဲ့ဟန် တူလေသည်။ ဤနည်းမှာ ရုပ်လုံးဖော်အတတ်ဖြင့် အချိုင့်ထွင်းခြင်းတမျိုးပင်ဖြစ်၍ အောက်ခံရွှေထည် သို့မဟုတ် ငွေထည်ပေါ်တွင်သေးသွယ်လှပ သော ပန်းပုကလေးများ ထုထွင်းပြီး သော်ကြွေဆေး အကြည်ဖြင့် သုတ် ပေးကာ ပေါင်းတိုက်ပေးရသည်။ သတ္တုပေါ်တွင် ထွင်းထုရာ၌ အနိမ့် အမြင့်အမျိုးမျိုးရှိ၍ ကြွေဆေးတင် သောအခါ ကြွေဆေး အထူအပါး အလိုက် အလင်းအမှောင်ကိုဖြစ် စေသည်။

ပြာစသော ရောင်စုံကြွေဆေးများဖြင့် မွမ်းမံခြယ်လှယ်ထား ခဲ့သည်ကို တွေ့ရသောကြောင့်ဖြစ်၏။ ကဲ့လူမျိုးများ တိမ် ကောပြီးနောက် ဗိုင်ဇင်း တိုင်နိုင်ငံ၌ ကြွေဆေးသုတ် အတတ်ထွန်းကားလာသည်။ ၉ ရာစုနှစ်လောက်တွင် ဗိုင် ဇင်းတိုင်လူမျိုးတို့သည် ကြွေ ရည်သုတ်အတတ်၌ ထိပ်တန်း သို့ရောက်ခဲ့ကြ၍ သူတို့၏ သေသပ်ကောင်းမွန်လှသော လက်ရာများကို ယခုတိုင်တွေ့ မြင်နိုင်ပေသေးသည်။

၁၅ ရာစုနှစ်တွင် ဣတာလီ နိုင်ငံ၌ နည်းသစ်တခု ပေါ် ပေါက်ခဲ့ပြီးလျှင် ဥရောပ တိုက်၏ မြောက်ပိုင်းနှင့် အခြားဒေသများသို့ပျံ့နှံ့ခဲ့ သည်။ ထိုနည်းမှာ အတွင်း ခံသတ္တု၏ မျက်နှာပြင် ၂ ခုစလုံးကို ကြွေရည်သုတ်

လူ့အသုံးအဆောင်များစွာတို့တွင် ကြွေရည်မသုတ်ဘဲ ကောင်းစွာသုံး၍မရသောပစ္စည်းများမှာ သံနှင့်ပြုလုပ်သော



သတ္တုထည်ကိုကြွေရည်မှုတ်နေပုံ

အိုးခွက်အသုံးအဆောင်များဖြစ်၏။ ကြွေရည်သည် သံချေး မတက်အောင်ကာကွယ်၍ ချောညက်လှပသော မျက်နှာပြင်ကိုလည်း ဖြစ်စေသည်။ ကြွေရည်သုတ်အတတ်၏ ကျေးဇူးကြောင့် ပန်းကန်ခွက်ယောက်မှအစ ရေချိုးစည်ကြီးများအထိ၊ လူ့အသုံးအဆောင် ပစ္စည်းအမျိုးမျိုးကို သံဖြင့်ကြာရှည်ခံအောင် ပြုလုပ်နိုင်ခဲ့ကြလေသည်။ ထိုကြောင့်ကြွေရည်သုတ် အတတ် သည် လူတို့အဖို့ အလှအပတွင် ခရီးရောက်သလောက်အသုံးဝင်မှုလည်း တွင်ကျယ်လှပေသည်။

**ကြွေအန်ကစားခြင်း။** ။အန်ကစားခြင်း — ရှု။

**ကြွေးပေးကြွေးယူစံနစ်။** ။စီး ပွား ကုန် သွယ် ရေး နယ်ပယ်တွင် ရောင်းချလိုက်သော ကုန်များအတွက် ဖြစ်စေ၊ လက်ပြောင်းလွှဲလိုက်သော ကုန်များအတွက်ဖြစ်စေ၊ ကျသင့်သော တန်ဖိုး ငွေများကို အချိန် ဆိုင်း၍ ပေး ချေလေ့ရှိသည့် လုပ်ငန်းစဉ်လာမှာ ကြွေးပေးကြွေးယူ ပြုခြင်းပင်ဖြစ်လေသည်။ ကြွေးပေးကြွေးယူ ပြုလုပ်မှု၌ ယုံကြည်ခြင်းနှင့် ယုံကြည်ထိုက်သောအရည်အခြင်းတို့မှာ အထူးအရေး ပါလှပေသည်။ ကုန်သည်အချင်းချင်း အပြန်အလှန် စိတ်ချယုံကြည်ကြရခြင်းသည် စွန့်စားရောင်းဝယ်မှုတို့နှင့် အမြတ်အစွန်းမြော်ကာ အလုပ်ကြီးအကိုင်ကြီး လုပ်ကိုင်မှုတို့၌ ကြီးမားသော အထောက်အပံ့တရပ် ဖြစ်လာသည့်အလျောက် စီးပွားရေးပါရဂူများသည် ငွေကြေးဖလှယ်ရေးနှင့် ငွေကြေးရရှိရေးလုပ်ငန်းတို့တွင် ကြွေးပေးကြွေးယူစံနစ် (ဝါ) အကြွေးစံနစ်၏ အရေး ပါပုံကို ဂရုတစိုက် ဖေါ်ပြလေ့ရှိကြသည်။

တဦးချင်းအနေနှင့်ဆိုသော် ထိုင်ရာမထ ဝယ်စဉ်ခဏ၌ပင် ကုန်ဖိုးငွေချေလိုက်ခြင်းအားဖြင့် အကြွေးစံနစ်ကို ရှောင်နိုင်ဖွယ်ရာရှိသော်လည်း၊ စီး ပွားကုန် သွယ်ရေး နယ်ပယ်တွင်မူ အကြွေးစံနစ်ကို ရှောင် ရှားရန်မှာ မဖြစ်နိုင်လောက်အောင် ပင်ဖြစ် ပေသည်။ အရောင်း အဝယ် ကြီးကြီးကျယ်ကျယ် ပြုလုပ်သောအခါ၌ဖြစ်စေ၊ ကမ္ဘာ့အစွန်း တဖက်မှ အခြားအစွန်းတဖက်သို့ အပြန်အလှန် ရောင်းဝယ်ကြသည့်အခါ၌ ဖြစ်စေ၊ကုန်ဖိုးငွေများကို တထိုင်တည်းရှင်းလင်းပေးချေရန်မှာ လက်တွေ့အားဖြင့် လွယ်ကူလှသည် မဟုတ်ပေ။ သို့အားလျော်စွာ စက်မှုလက်မှုလုပ်ငန်းများ ထွန်းကားလျက်ရှိသည့် မျက်မှောက်ခေတ်တွင် ထုထယ်ကြီးမားသည့် ရောင်းရေးဝယ်တာ အဆောက်အအုံကြီးသည် အကြွေးစံနစ်ပေါ်တွင် အခြေတည်လျက်ရှိသည်ဟု ဆိုနိုင်ပေသည်။

အကြွေးစံနစ်ကိုမှုတည်လျက် အရောင်းအဝယ်ပြုလုပ်ကြသည့်အခါ ငွေအစား ကြွေးပေးကြွေးယူမြောက်စေသော စာချုပ်စာတမ်းများကို အသုံးပြုကြရလေသည်။ စာချုပ်စာတမ်းအမျိုးမျိုးရှိသည့်အနက် ထင်ရှားသည်တို့မှာ ချက်လက်မှတ်များနှင့် ငွေလွှဲစာချုပ်များပင်ဖြစ်သည်။ (ဘဏ်နှင့်ဘဏ်လုပ်ငန်း — ရှု။) တနိုင်ငံထဲနေ ကုန်သည်များသည် အကြွေး စံနစ် ဖြင့် ရောင်း ဝယ် ရာတွင် ချက် လက် မှတ်များကို အသုံးပြုကြ၏။ နိုင်ငံသီးခြားတို့၌ နေထိုင်ကြသောကုန်သည် များမှာမူ ငွေလွှဲစာချုပ်များကို အသုံးပြုကြသည်။

ချက်လက်မှတ်ဆိုသည်မှာဘဏ်တိုက်၌ငွေအပ်နှံထားသူကသူ၏ငွေမည်ရွေ့မည်မျှကို ချက်လက်မှတ်လက်ခံရရှိသူအား ထုတ်ပေးစေရန် ဘဏ်တိုက်သို့ညွှန်ကြားလိုက်သော အမိန့်လွှာပင်ဖြစ်သည်။ ရောင်းချလိုက်သောကုန်စည်များအတွက် ချက်လက်မှတ်လက်ခံရရှိမည့်ကုန်သည်သည် ချက်လက်မှတ် ထုတ် ပေးမည့်ကုန်သည်၌ ဘဏ်အပ်ငွေ အလုံအလောက်ရှိသည်ဟူသောအချက်ကို ယုံကြည်စိတ်ချမှသာလျှင် ချက်လက်မှတ်ကို အသာတကြည် လက်ခံမည်ဖြစ်ပေရာ ချက်လက်မှတ်သုံး စွဲရေးတွင် ယုံကြည် ခြင်းနှင့် ယုံကြည် ထိုက်သောအရည် အခြင်း တို့မှာ သော့ချက် များပင် ဖြစ်တော့သည်။ ချက်လက်မှတ်အမျိုးမျိုးရှိသည့်အနက် တမူကွဲပြားထူးခြားသောချက်လက်မှတ်တို့ကား ဘဏ်တိုက်ငွေလွှဲလက်မှတ်များနှင့် ခရီးသည်ချက် လက်မှတ် များပင်ဖြစ်သည်။ ယင်းတို့မှာ ဘဏ်တိုက်တခုမှတခုသို့ရင်း၊ တိုင်းပြည်တပြည်ရှိဘဏ်တိုက်မှ အခြားတိုင်းပြည်တပြည်ရှိ ဘဏ်တိုက်သို့ရင်း၊ အဆိုပါချက်လက်မှတ်များကို လက်ခံရရှိသူတို့အားငွေထုတ်ပေးစေရန် ညွှန်ကြားလိုက်သော အမိန့်လွှာများပင်ဖြစ်၏။ ကမ္ဘာ့နိုင်ငံအသီးသီးတို့သို့ ခရီးထွက်ကြသော သူတို့သည် မိမိတို့နှင့်အတူတကွ ငွေများစွာမယူလို မထားလိုကြသည့်အခါ အဆိုပါဘဏ်တိုက်ငွေလွှဲလက်မှတ်များနှင့် ခရီးသည်ချက်လက်မှတ်များကို အသုံးပြုလေ့ရှိကြသည်။

ငွေလွှဲစာချုပ်မှာ ဘဏ်တိုက်ငွေလွှဲလက်မှတ်၊ ခရီးဆောင်ချက် လက်မှတ် တို့နှင့်မတူဘဲ တမျိုးတစား ဖြစ်သည်အားလျော်စွာ၊ ဥဒါဟရုဏ် ဆောင်ကာ ရှင်းလင်း ဖေါ်ပြရပေမည်။ ဩစတြေး လီယား နိုင်ငံမှ လယ်သမားတဦးသည် အင်္ဂလန်ပြည်ရှိ ကုန်သည်တဦးထံသို့ ဂျုံများကို တင်ပို့လိုက်သည်တွင် ကုန်သည်နာမည်နှင့် ထုတ်ပေးသောငွေလွှဲစာချုပ်ကို ဂျုံဖိုးအဖြစ်ဖြင့် လက်ခံရရှိ၏။ လယ်သမားသည် ထိုလက်ခံရရှိသော ငွေလွှဲစာချုပ်ကို မြို့ခံဘဏ်တိုက်တခုသို့ သွားရောက်ပြီးလျှင် စာချုပ်ကိုလွှဲပေးလိုက်၏။ ဘဏ်တိုက်သည် ငွေလွှဲစာချုပ်ကိုလက် ခံ၍ လယ် သမား အား စာချုပ်ပါငွေများကို လျှော့နှုန်းဖြင့်ထုတ်ပေးလိုက်၏။ (လျှော့နှုန်းဖြင့်ထုတ်ပေးခြင်းမှာ အတိုးတွက် ကာမိစေရန်ဖြစ်သည်။) ထိုနောက်မြို့ခံဘဏ်တိုက်သည် လန်ဒန်မြို့၌ရှိသော ယင်း၏ ဌာနခွဲဘဏ်တိုက်သို့ အဆိုပါငွေလွှဲစာချုပ်ကို တဆင့်ကမ်းလိုက်ရာ လန်ဒန်ဘဏ်တိုက်သည် သက်ဆိုင်သည့်ကုန်သည်

အား ထိုငွေလွှဲစာချုပ်ကို လွှဲအပ်၍ သတ်မှတ်ထားသော နေ့ရက်တွင် ကျသင့်သောငွေများကို လက်ခံရယူလိုက်လေသည်။ ဤသို့အားဖြင့် ကုန်သည်တွင် ခြစတြေးလီးယားနိုင်ငံသို့ ငွေတင်ပို့ရသည့်ဒုက္ခ ငြိမ်းသွားသည့်နည်းတူ လယ်သမားသည်လည်း ဂျုံရောင်းပြီးသည့်တိုင်အောင် ငွေစောင့်မြော်ရသောဒုက္ခမှလွတ်ကင်းရပေသည်။

ငွေလွှဲစာချုပ်များသည် လက်ပြောင်းနိုင်သော စာချုပ်များဖြစ်ကြသည့်အလျောက် ကုန်သွယ်ရေး နယ်ပယ်တွင် ငွေပေါ်လွယ်စေသောအကျိုးကျေးဇူးကိုဖြစ်ထွန်းစေသည်။ ဘဏ်တိုက်များတွင် စာချုပ်လက်ခံရာ ဌာနများဟူ၍ သီးသန့်ထားရှိကာ ငွေလွှဲစာချုပ်များကို လက်ခံရှင်းလင်းပေးကြသည်။ ဘဏ်တိုက်များက ထိုသို့ကြားဝင်ကာ ဆောင်ရွက်ပေးကြသည့်အတွက် ငွေများကိုလက်ထိလက်ရောက်အသုံးပြုရခြင်းမှလွတ်ကင်း၍ တနိုင်ငံမှကုန်စည်များကို အခြားတနိုင်ငံမှကုန်စည်များနှင့် ယုံကြည်စိတ်ချစွာ ဖလှယ်ယူနိုင်လေသည်။ ထိုပြင်လည်း ကြွေးပေးကြွေးယူ ပြုလုပ်မှုဟူသမျှသည် ငွေကိုအသုံးပြုရခြင်းမှ လွတ်ကင်းစေကြသည်သာဖြစ်ပေသည်။

**ကြွက်**။ ။ကြွက်သည် အိမ်ထောင်ပစ္စည်းစသည်တို့ကို ကိုက်ဖြတ်ဖျက်ဆီးတတ်သော ခြေလေးချောင်း သတ္တဝါငယ်ဖြစ်သည်။ လူအများပင် ကြွက်ကိုစက်ဆုပ် ရွံရှာကြလေသည်။ သို့ရာတွင် ကြွက်ကို လုံးဝပပျောက်သွားအောင်ကား ယနေ့တိုင်အောင် မဆောင်ရွက်နိုင်ကြသေးပေ။

ကြွက်သည် လူ့အသုံးအဆောင်ပစ္စည်းများကိုသာ ဖျက်ဆီးတတ်သည်မဟုတ်။ ပလိပ်ရောဂါကိုလည်း ကူးစက်ပြန့်ပွားစေကာ နှစ်စဉ်နှစ်တိုင်း အသက်ပေါင်းများစွာကို ဆုံးရှုံးစေသည်။ လူတို့မွေးမြူထားသော တိရစ္ဆာန်များပင်လျှင် ကြွက်တို့ကြောင့် မမာမကျန်း ဖြစ်ရတတ်သည်။ (ပလိပ်ရောဂါ — ရှု။)

ကြွက်တွင် အမျိုးကွဲများရှိသော်လည်း အရင်းခံအားဖြင့် ကြွက်ကြီးမျိုး၊ ကြွက်ငယ်မျိုးဟူ၍ နှစ်မျိုးသာရှိသည်။ ကြွက်ကြီးမျိုးသည် မြေတွင်နေလေ့ရှိ၍ ကြွက်ငယ်မျိုးသည် အိမ်စသောအဆောက်အအုံတွင် နေလေ့ရှိသည်။ ကြွက်ကြီးမျိုးတွင် ကြွက်ညိုနှင့်ကြွက်နက်ဟူ၍ နှစ်မျိုးရှိသည်။ ကြွက်ညို၏မူလဒေသမှာ အာရှတိုက်အလယ်ပိုင်းဖြစ်သည်။ ယခုအခါ ကြွက်ညိုကို ကမ္ဘာအနှံ့အပြားမှာလိုပင် တွေ့ရသည်။

ကြွက်နက်၏မူလဒေသမှာ အိန္ဒိယနိုင်ငံဖြစ်၍ ထိုနိုင်ငံမှ တဆင့် ကမ္ဘာသို့ပြန့်ပွားသွားသည်ဟုဆိုသည်။ ကြွက်နက်သည် ကြွက်ညိုထက် အရွယ်ငယ်သော်လည်း အမြီးပို၍ရှည်သည်။ ဤကြွက်နှစ်မျိုးစလုံးပင် မျိုးပွားမြန်၍ အဖျက်အဆီးသန်ကြသဖြင့် ယင်းတို့ကိုမည်သည့်နိုင်ငံကမျှ လက်မခံလိုကြပေ။ ထိုကြွက်တို့သည် တနိုင်ငံမှတနိုင်ငံသို့ သင်္ဘောများဖြင့် လိုက်ပါပြန့်ပွားသွားတတ်ကြသည်။ ထို့ကြောင့် သင်္ဘောများ ဆိပ်ကမ်း၌ဆိုက်ကပ်ထားစဉ် ကုန်းပေါ်မှ ကြွက်များတက်မလာနိုင်စေရန် သင်္ဘောကြိုးများ၌ကတော့ပုံသံပြားဝိုင်းများ စွပ်ထားလေ့ရှိကြသည်။

ကြွက်ငယ်မျိုးသည် အိမ်များတွင်အသိုက်ဖွဲ့ကာ နေလေ့ရှိသောကြောင့် ထိုကြွက်မျိုးကို အိမ်ကြွက်ဟူ၍ လူသိများသည်။ ကြွက်ဝမ်းဖြူ၊ ကြွက်စုတ်စသည်တို့မှာ အိမ်ကြွက်မျိုးဖြစ်ကြ၏။ ကြွက်ကယ်လောင်း သို့မဟုတ် ကြွက်ဖလောင်းဟုခေါ်သော ကြွက်ငယ်မျိုးအချို့သည် လယ်ကွင်းများနှင့် တောခြေတောင်ခြေများတွင် နေလေ့ရှိကြသည်။ ကြွက်ငယ်မျိုးသည် တနှစ်တနှစ်လျှင် ၆ ကြိမ်မျှ သားပေါက်လေ့ရှိ၍ ၁ ကြိမ်လျှင် ၆ ကောင်ခန့်မွေးတတ်သည်။ ထိုကြွက်တို့သည် ၄ လသားအရွယ်သို့ရောက်သောအခါ တဖန်ဆက်၍ မျိုးပွားကြပြန်သည်။ ဤသို့ဖြင့် ကြွက်ဖိုကြွက်မတစုံသည် တနှစ်အတွင်း ကြွက်ကောင်ရေ ၃၀၀ မှ ၄၀၀ အထိ တိုးပွားလာနိုင်သည်။

ကြွက်ငယ်မျိုး၏မူလဒေသမှာ ကြွက်ကြီးမျိုးကဲ့သို့ အာရှတိုက်ပင်ဖြစ်သော်လည်း တရပ်မှတရပ်သို့ မီးရထား၊ မီးသင်္ဘောတို့ဖြင့် တစတစပြန့်ပွားသွားသောကြောင့် ယခုအခါကမ္ဘာပေါ်တွင် လူတို့နေထိုင်ရာအရပ် ဟူသမျှမှာပင် ယင်းတို့ကို တွေ့ရပေသည်။ အိမ်ကြွက်များသည် အိမ်ရှင်တို့၏အစားအစာ အဝတ်အစား အိမ်ထောင်ပရိဘောဂနှင့် အသုံးအဆောင် ပစ္စည်းများကို ဖျက်ဆီးကြသည့်နည်းတူ လယ်ကွင်းခြံစည်းရိုးနှင့် တောခြေတောင်ခြေတို့တွင် နေလေ့ရှိကြသော ကြွက်ငယ်မျိုးတို့သည်လည်း လူတို့ကိုများစွာ အနှောင့်အယှက်ပေးကြသည်။ ယင်းတို့သည် တောင်သူလယ်သမားတို့ပြုစုထားသော ကောက်ပဲသီးနှံတို့ကို ကိုက်ဖြတ်ဖျက်ဆီးတတ်ကြရုံသာမက လယ်မြေယာမြေနှင့် လယ်ကန်သင်းတို့တွင်လည်း ကျင်းများတူးကာ မြေဆီလွှာကို ညံ့ဖျင်းအောင်ပြုတတ်ကြသည်။

ကြွက်သည်အလွန်မျိုးပွားမြန်သည့်အတိုင်း အိမ်၌ဖြစ်စေ၊ လယ်၌ဖြစ်စေ နေမိလျှင် ယင်းတို့ကို လုံးဝပပျောက်အောင် သုတ်သင်ရန်မှာ မဖြစ်နိုင်သလောက်ခဲယဉ်းပေသည်။ သို့ရာတွင် ကြောင်၊ ကျီး၊ ဇီးကွက်၊ သိမ်းငှက်၊ ငှက်ဘီလူး၊ မြွေပါစသော ကြွက်တို့၏သဘာဝရန်သူများကြောင့် ကြွက်တို့၏ အရေအတွက်မှာ ရှိသင့်သည်ထက် များစွာယုတ်လျော့၍နေသည်။ ထိုသို့သဘာဝရန်သူများမရှိခဲ့ပါက နေရာတကာ၌ ကြွက်တို့လွှမ်းမိုးနေမည်မှာမလွဲပေ။

**ကြွက်ကတိုး**။ ။ကြွက်ကတိုးသည်မြောက်အမေရိကတိုက်၌ အများအားဖြင့် တွေ့ရသော ကတိုးနှင့်တူသည့် ကြွက်

တမျိုးဖြစ်သည်။ ချောင်းကမ်းပါးတို့တွင် တွင်းတူး၍နေတတ်သည်။ ရေကူးအလွန်ကျင်လျင်၏။

ကြွက်ကတိုးသည် ၁ ပေခန့် ရှည်သည်။ ကိုယ်ပေါ်၌ တောက်ပြောင်သောအညိုရောင် သားမွေးရှိသည်။ နောက်ခြေပြား၏။ အမြီး ၈ လက်မခန့်ရှည်၍ အမွေးမရှိ။ ဦးခေါင်းသည် ကျယ်၍ လုံးသည်။ နားရွက်များသည် သေးငယ်၍ ဦးခေါင်း၌ကပ်နေကြသည်။

ကြွက်ကတိုးတို့သည် ဗီဗာဖျံများကဲ့သို့ သူတို့၏နေအိမ်တွင် အခန်းကြီးအခန်းငယ် အမျိုးမျိုးပြုလုပ်ထားတတ်ကြသည်။ ထိုအခန်းများ၌ပင် သားမွေး၍ ဆောင်းရာသီကို ကုန်လွန်စေသည်။ နွေရာသီတွင် ရေကူးလိုက်၊ နေပူစာလှုံလိုက်နှင့် တပျော်တပါးနေတတ်ကြ၏။ ရေ၌ပေါက်သော အပင်များ၏ အရိုးအမြစ်အရွက်တို့ကို စားလေ့ရှိသည်။ အိမ်အနီးအနား၌တွေ့သော အသီးအရွက်များကိုလည်း စားလေ့ရှိသည်။ ဆောင်းဦးပေါက်လာသည်နှင့် တပြိုင်နက် ဆောင်းရာသီခိုလှုံရန်အတွက် အိမ်ကိုပြုပြင်ဆောက်လုပ်လေ့ရှိသည်။ လူတို့သည် ကြွက်ကတိုးကို သူတို့၏ကိုယ်မှ သားမွေးရရန် အတွက် အမြောက်အမြားရှာဖွေဖမ်းဆီးလေ့ရှိကြသည်။



သားမွေးအတွက် အသုံးကျသည့်ကြွက်ကတိုး

**ကြွက်သားများ။** ။ကိုယ်ခန္ဓာရှိ အရေပြားနှင့် အရေအောက်ရှိအဆီတို့ကို လုံးဝဖယ်ရှားလိုက်လျင် ကြွက်သားများကိုတွေ့ရပေမည်။ တကိုယ်လုံး၌ ကြွက်သားပေါင်း ၅၀၀ ကျော်ရှိသည်ဟုဆို၏။ ကြွက်သားသည် လူ့ကိုယ်ခန္ဓာတခုလုံး၏အလေးချိန် တဝက်နီးပါးမျှလေး၏။ ကြွက်သားတို့၏ သဏ္ဌာန်မှာ အမျိုးမျိုးဖြစ်သည်။ ကြွက်သားများသည် လှုပ်ရှားနေစဉ် ပြေးနေသောကြွက်ကလေးနှင့် ခပ်ဆင်ဆင်တူသည်။ ထို့ကြောင့်အင်္ဂလိပ်တို့က ကြွက်ကလေးဟူသော အဓိပ္ပါယ်ရှိသည့် 'မတ်စကျူလပ်' ခေါ် လက်တင်ဝေါဟာရကိုစွဲပြီးလျှင် ကြွက်သားကို 'မတ်ဆယ်' ဟုခေါ်ဝေါ်အမည်မှည့်ကြသည်။

ကြွက်သားများသည် လူတို့၏စိတ်ဆန္ဒအလျောက်ဖြစ်စေ၊ စိတ်ဆန္ဒမပါဘဲ အလိုအလျောက်ဖြစ်စေ၊ ကိုယ်ခန္ဓာရှိ အစိတ်အပိုင်းများကို လှုပ်ရှားစေနိုင်၏။ ကြွက်သားမရှိဘဲ အရိုးတို့သည် မိမိတို့ဖါသာ လှုပ်ရှားခြင်းမပြုနိုင်ကြချေ။ လူ၏ကိုယ်တွင် အနှံ့အပြားရှိကြသည့် အသီးသီးသော ကြွက်သားများသည် အသုံးပြုခြင်း၊ လှုပ်ရှားခြင်းများလေ၊ ကြီးထွားလေ၊ သန်မာလေဖြစ်၏။ အသုံးနည်းလျှင် သို့မဟုတ် လှုပ်ရှားမှုနည်းလျှင် ပျော့စိစိနှင့် အားမရှိ ဖြစ်နေတတ်သည်။ ထို့ကြောင့်အားရှိစေရန် ကြွက်သားများကို လှုပ်ရှားစေသောလေ့ကျင့်မှုများ ပြုလုပ်ပေးရသည်။ ကာယဗလလေ့ကျင့်လိုက်စားကြသော သူများသည် လူကျန်းမာ၍ကြီးထွားစေရန် ကြွက်သားလေ့ကျင့်ခန်းများကို မှန်မှန်ပြုလုပ်ကြလေသည်။ ကြွက်သားတို့သည် ကျုံ့နိုင်ခြင်း၊ ဆန့်နိုင်ခြင်းစသော သတ္တိများရှိ၏။ လက်မောင်း၊ ခြေထောက်၊ လက်ပြင်နှင့် ကျောက်ကုန်းတို့ရှိ ကြွက်သားများသည် ကိုယ်ခန္ဓာတွင် အကြီးဆုံးသောကြွက်သားများဖြစ်ကြသည်။

ကြွက်သားကို နှစ်မျိုးနှစ်စားခွဲခြားထား၏။ (၁) စိတ်အလိုအတိုင်း လှုပ်ရှားခြင်းပြုနိုင်သော ထိန်းရကြွက်သား (၂) စိတ်အလိုအတိုင်းမဟုတ်ဘဲ အလိုအလျောက်လှုပ်ရှားခြင်းပြုနိုင်သော၊ ထိန်းမရကြွက်သားတို့ဖြစ်ကြ၏။ ထိန်းရကြွက်သားကြောင့် အချို့အမှုများကို စိတ်အလိုရှိသကဲ့သို့ လှုပ်ရှားနိုင်သော်လည်း ထိန်းမရကြွက်သားကြောင့် မည်သည့်အမှုကိုမျှ စိတ်အလိုအတိုင်း ပြုလုပ်၍မရပေ။ ဥပမာအားဖြင့် ရေတခွက်ကို သောက်မည်ဆိုကြပါစို့။ ထိုရေသည် ပါးစပ်ထဲတွင် ရှိနေသမျှ ကာလပတ်လုံး ပါးနှင့်လျှာတို့ရှိ ထိန်းရကြွက်သားများကြောင့် မျိုချလိုသည့် အချိန်တွင် မျိုချနိုင်၍ ထွေးထုတ်လိုသည့် အခါ၌လည်း ထွေးထုတ်နိုင်၏။ ထွေးထုတ်သည့်အခါ၌ပင် ဖြည်းဖြည်း သို့မဟုတ် ခပ်ပြင်းပြင်းစသည်ဖြင့် မိမိစိတ်အလိုရှိသည့်အတိုင်း ထိန်းသိမ်း၍ ထွေးထုတ်နိုင်ကြ၏။ သို့သော် ထိုရေကို မျိုချလိုက်၍ လည်ချောင်းထဲသို့ရောက်သွားသောအခါ လည်ချောင်းတွင် ထိန်းရကြွက်သားမရှိတော့ဘဲ ထိန်းမရကြွက်သားသာ ရှိသောကြောင့် ပါးစပ်ထဲမှာကဲ့သို့ မိမိဆန္ဒရှိသလိုထိန်းသိမ်းကာ ထွေးထုတ်လို၍ မရတော့ချေ။

ထိန်းရကြွက်သားမျိုးသည် အရိုးများတွင် တွယ်ကပ်နေတတ်၏။ ခြေထောက်၊ လက်နှင့် ရင်ဘတ်ရှိ ကြွက်သားတို့မှာ ထိန်းရကြွက်သားမျိုးဖြစ်ကြသည်။ သို့ဖြစ်၍ လက်ရုံးကို ဆန့်တိုင်းကွေးတိုင်း ကြွက်သားသည်ဖေါင်းကြွခြင်း သေးသိမ်ခြင်း ဖြစ်၏။ ဤသို့ဖြစ်ပုံကို လက်ရုံးကြွက်သားများအား လှုပ်ရှားကြည့်က ထင်ထင်ရှားရှားသိသာမြင်တွေ့နိုင်သည်။ ထိုကြွက်သားများသည် အညိုရောင်ရှိ၍ အစင်းပေါ်နေလေသည်။

ထိန်းမရကြွက်သားများကား သွေးကြော၊ နှလုံး၊ အစာအိမ်၊ အူသိမ်၊ အူမအစရှိသည့် အင်္ဂါအစိတ်အပိုင်းများတွင် ရှိ၏။ အူသိမ်အူမတွင်ရှိသော ကြွက်သားများကို ဆန္ဒရှိသကဲ့သို့ အစာမြန်မြန်ကြေအောင် ပြုလုပ်ပေးရန် ခိုင်းစေ၍ မရချေ။ ထိုကြွက်သားများကား လိုသည်ဖြစ်စေ၊ မလိုသည်ဖြစ်စေ မိမိတို့တွင် အင်အားရှိသလောက်သာ အလုပ်လုပ်သွားကြသည်။ ထိန်းရကြွက်သားတို့ကဲ့သို့ အရောင်ညိုခြင်း၊ အစင်းပေါ်ခြင်းမရှိကြချေ။

**ကြွပ်**။ ။ကြွပ် (ဗစ်စမတ်) သည် ကြွပ်ဆတ်၍ ဖြူပြာရောင်ပေါ်တွင် ပန်းရောင်သို့မဟုတ် အနီရောင်အနည်းငယ် သန်းနေသောသတ္တုဖြစ်သည်။ သတ္တုသန့်သန့်ကို အင်္ဂလန်ပြည် ဆက်စွန်နီနယ်နှင့် နော်ဝေးနိုင်ငံတို့တွင် အနည်းငယ်ခန့်တွေ့ရသည်။ လက်မှုစက်မှုလုပ်ငန်းတွင် အသုံးပြုသည့်ကြွပ်အားလုံးခန့်ကို ခဲ၊ ကိုဗော့၊ သွပ်သို့မဟုတ် ခဲပုပ်တို့နှင့်ရောစပ်နေသော တွင်းထွက်ပစ္စည်းရိုင်းများမှ ထုတ်ယူရရှိသည်။ ဗစ်စမတ်သင်နိုက်၊ အေးကင်နိုက်နှင့် ဗစ်စမတ်တိုက်တို့သည် ကြွပ်ပါရှိသော တွင်းထွက်ပစ္စည်းရိုင်းများဖြစ်၏။ ဤသတ္တုကို အဓိကအားဖြင့် ဗိုလစ်ဗီးယားနိုင်ငံ၊ ပီးရူးနိုင်ငံနှင့် ဩစတြေးလီးယားတိုက်တို့တွင် ထုတ်လုပ်ယူကြသည်။

ကြွပ်အစစ်သည် ခဲထက်မာ၍ ရေထက် ၉.၉ ဆလေး၏။ ၅၂၀ ဒီဂရီ ဖါရင်ဟိုက်၌ အရည်ပျော်သည်။ သတ္တုအပေါင်းတွင် အပူလိုက် အညံ့ဆုံးဖြစ်သည်။ ဤသတ္တုကို စက္ကူမာပေါ်တွင်တင်၍ ဖယောင်းတိုင်မီး သို့မဟုတ် မှန်အိမ်မီးဖြင့် စက္ကူအောက်၌မြှိုက်ပေးလျှင် စက္ကူမီးမလောင်မီ အရည်ပျော်သွားသည်။ အခြားသတ္တုများနှင့်ကြွပ်ကို ရောစပ်လိုက်သောအခါ အရည်ပျော်လွယ်သော သတ္တုစပ်များကိုရသည်။ ဥပမာအားဖြင့် ကြွပ် ၄ ဆ၊ ခဲပုပ် ၂ ဆ၊ သံဖြူ ၁ ဆနှင့် ကယ်ဒမီယမ် ၁ ဆ ရောစပ်ယူသောအခါ ဝုသတ္တုကို ရသည်။ ရေဒီယိုပေါ်ခါစက အသံဖမ်းခွက်တွင် ခရစ္စတယ်ကို ဂဟေဆော်ယူသောအခါ ဤသတ္တုစပ်ကို အသုံးပြုလေသည်။ ဤသတ္တုသည် အပူချိန် ၁၅၈ ဒီဂရီဖါရင်ဟိုက် သို့မဟုတ် ရေဆူအပူချိန် ⅔ ခန့်တွင် အရည်ပျော်သဖြင့် အသံဖမ်းခွက်၌ ခရစ္စတယ်ကိုမပျက်စီးဘဲ ဂဟေဆော်နိုင်သည်။ ကြွပ်သတ္တုစပ်များကို အသုံးပြုပုံတမျိုးမှာ အလိုအလျောက်ရေပက်ဖျန်းသည့် ပိုက်ခေါင်းများတွင် ပိုက်ခေါင်းထိပ်ဖုံးအဖြစ် သုံးစွဲခြင်းဖြစ်သည်။ ကုန်လှောင်ရုံများ၌ မီးစွဲလောင်သောအခါ ထိုသတ္တုစပ်ဖြင့် လုပ်ထားသောပိုက်ခေါင်းသည် အရည်ပျော်၍ အလိုလိုပွင့်ထွက်သွားသည်။ ထိုအခါ ရေသည်ပန်းထွက်လာ၍ မီးလောင်သောနေရာကို ပက်ဖျန်းပေးသည်။ အစွန်းခံသံမဏိတွင် ကြွပ် ၀.၁ ရာခိုင်နှုန်းမှ ၀.၅ ရာခိုင်နှုန်းအထိရောစပ်ထားသည်။

ဗစ်စမတ်ဒြပ်ပေါင်းများကို အစာမကြေ ဝမ်းဖေါဝမ်းရောင်ရောဂါ ကုသရာ၌အသုံးပြုသည်။ အိပ်စရေးရောင်ခြည်သည် ဗစ်စမတ်ဓာတ်ဆားအချို့ကို ဖြတ်သန်းမသွားနိုင်ပေ။ ထို့ကြောင့် လူနာတဦးတယောက်၏ အစာကြောင်းကို စစ်ဆေးကြည့်ရှုလိုလျှင် ထိုလူနာအား အစာကျွေးသောအခါ ဗစ်စမတ်ဓာတ်ဆားဖြင့်ရော၍ကျွေးသည်။ ထို့နောက်အစာအိမ်နှင့် အူသိမ်အတွင်း၌ အစာသွားလမ်းကို ဓာတ်မှန်ရိုက်၍ စစ်ဆေးကြည့်ရှုလေသည်။ (အိပ်စရေးရောင်ခြည်လည်းရှု။) ခြည်ထည်များကို အပွင့်ရိုက်ရာတွင်လည်း ဗစ်စမတ်ဓာတ်ဆားများကို အသုံးပြုကြသည်။ ပိုးသတ်ဆေး၊ ဖန်ထည် ကြွေထည်သုတ်ဆေးစသည်တို့ကို ပြုလုပ်ရာ၌လည်း ဗစ်စမတ်ဓာတ်ဆားများကိုသုံးရသည်။ ဝမ်းကျရောဂါဆေးဖြစ်သည့်မစ်အောဗစ်စမတ်သည် ဒြပ်ပေါင်းတမျိုးဖြစ်သည်။

ကြွပ်၏အက်တမ်အမှတ်မှာ ၈၃၊ အက်တမ်အလေးဆမှာ ၂၀၉ ဖြစ်သည်။



ကိုယ်ခန္ဓာအစိတ်အပိုင်းများကို လှုပ်ရှားစေနိုင်သောကြွက်သားများ



မြန်မာဗျည်း ၃၃ လုံးတွင် ခ သည် ၂ ခုမြောက်အက္ခရာဖြစ်သည်။ က၊ ခ၊ ဂ၊ ဃ၊ င ဟူသော ကဝဂ်တွင်ပါဝင်၍ ခ အသံ၏ဖြစ်ရာဌာနမှာ ကဏ္ဍဌာန် လည်ချောင်းအရပ်ဖြစ်သည်။ အက္ခရာမှာ ကွေးသောပုံသဏ္ဌာန်ရှိ၍၊ ခကွေးဟုအမည်တွင်သည်။ ခ ၏အရေးအသားမူလမှာ ဗြာဟ္မီအက္ခရာ ? ဖြစ်သည်။ ဗြာဟ္မီ ? မှ ကုသန ? ဂုတ္တ ? မောင်ကန်ပျူ ? သို့အဆင့်ဆင့် ပြောင်းလဲလာပြီးနောက် ပုဂံကျောက်စာများတွင် ? နှင့်ပေစာများတွင် ? ဟု ရေးသား သည်ကိုတွေ့ရသည်။ ယခုအခါတွင် ထို ခ အက္ခရာကို ပေစာရေးသားနည်း အတိုင်းပင်လိုက်၍ ရေးသည်။ မူလဗြာဟ္မီအက္ခရာ ? သည် အပြင်ဖက်သို့ကွေးသည်။ ထိုနောက် အဆင့်ဆင့် ပြောင်းလဲလာသည်တွင် ယခုခေတ်အခါတွင် ခ သည် အတွင်းဖက်သို့ကွေးဝင်သည်။ ဤသို့ဖြင့် မြန်မာ ခ အက္ခရာပေါ် ထွန်းလာသည်ကို နှိုင်းရှည့်ချင့်ချိန်နိုင်စေရန် အောက်တွင်အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။

? ? ? ? ? ?

**ခနိုင။** ။တွင်းထွက်ပစ္စည်း — ရှု။

**ခနိုငပေဒ။** ။တွင်းထွက်ပစ္စည်းပညာ — ရှု။

**ခနဲဆေးခြင်း။** ။ခနဲဆေးခြင်းဆိုသည်မှာ သုံး၍မရတော့သဖြင့် လွှတ်ထားသော တွင်း ဟောင်း များ နှင့် မလို၍ စွန့်ပစ်ထားသော ဖြုန်းမြေမှုန့်များမှ အဖိုးတန်ကျောက်များကို ရေတွင် ကျင် ယူသော နည်းတမျိုးဖြစ်သည်။

အထူးသဖြင့် တောင်ကမ်းပါးများတွင်တူးဖော်၍ ရေနှင့်တိုက်စားချေဖျက်ရသော မျောတွင်း ဟုခေါ်သောတွင်းအနီးအနားများတွင် ခနဲဆေးခြင်းကိုပြုလုပ်ကြ၏။

ခနဲဆေးခြင်းဖြင့် တခါတရံတွင် ထောင် တန်သောင်း တန် ပတ္တမြားနှင့်ကျောက်ကောင်းများကို ရရှိတတ် သည်။ ပတ္တမြားကျောက် တူး သမား တို့ သည် မိမိတို့ကျောက်တွင်းမှ အလိုရှိသော ကျောက်များ ကို အထပ်ထပ်အခါခါ ဆေးကြောသဲ့ငင်ယူပြီးနောက်၊ အလိုမရှိသော ဖြုန်းမြေမှုန့်ခေါ် ကနယ်မြေကို ချောင်းကမ်းပါးနှင့် မျောများ အနီး စွန့်ပစ်ထား ကြ သည်။ ထိုကနယ် မြေ ကို မိန်းမများက ပုတ်တောခေါ် ဝါးဆန်ခါတွင်ထည့်၍ ရေဖြင့် ဆေးကြောယူလေ့ရှိသည်။ ကနယ်မြေကိုဆေး၍ ယူရသော ကြောင့် ကနယ်ဆေး သည် ဟုခေါ် သည်။ နောင် စကား ရွေ့လျောလာရကား ခနဲဆေးသည်ဟုဆိုကြသည်။



မိုးကုတ်ပတ္တမြားမြေ၌ အမျိုးသမီးများ ခနဲဆေးနေပုံ

ခနဲဆေးခြင်းအလုပ်ကို များသောအားဖြင့် မိန်းမများ သာပြုလုပ်လေ့ရှိသည်။ အကြောင်း ဆိုသော် အမျိုး သမီး များမှာ အားအင်နည်းသူများဖြစ်ကြသဖြင့် ကျောက်တွင်း လုံးလုပ်ငန်း မျောတွင်းလုပ်ငန်းများတွင် ယောကျ်ားများ



ခန်ဆေး၍ကျောက်မျက်ရှာဖွေနေကြသူများ

နည်းတူ အကြမ်းအတမ်း မခံနိုင်သောကြောင့်ဖြစ်သည်။ ခန်ဆေးခြင်းအလုပ်ကို လုပ်ကိုင်ရန်အတွက် လိုင်စင်ယူရန်မလိုချေ။

**ခနောက်စိမ်း။** ။အန်တီမိုနီခေါ် ခနောက်စိမ်းစစ်စစ်သည် သာမန်အားဖြင့် ငွေကဲ့သို့ဖြူပြာပြာအဆင်းရှိပြီးလျှင် မာ၍ကြွပ်ဆတ်သော သတ္တုတမျိုးဖြစ်သည်။ ခနောက်စိမ်းသတ္တုသန့်သန့်မှာ များစွာအသုံး မဝင်လှပေ။ သို့သော် အခြားပစ္စည်းများနှင့်ရောစပ်၍ သတ္တုစပ်ဖြစ်လာသောအခါ စက်မှုလုပ်ငန်းများတွင် အလွန်အသုံးဝင်လာသည်။ (သတ္တုစပ်—ရှု။) ဤသတ္တု၏ထူးခြားချက်တရပ်မှာအရည်ကျို၍အအေးခံလိုက်သောအခါ ပြန့်ကားလာတတ်ခြင်းဖြစ်၏။ ဤသတ္တိရှိခြင်းကြောင့် ခနောက်စိမ်း သတ္တုစပ်သည် ပုံနှိပ်ခဲစာလုံးများ ပုံသွန်းရာတွင် ထင်ရှားပီသသော စာလုံးများကို ရရှိစေသည်။ ပုံနှိပ်ခဲစာလုံးများကို များသောအားဖြင့် ခဲနှင့်ခနောက်စိမ်းစပ်ထားသော သတ္တုစပ်ဖြင့် ပြုလုပ်ကြသည်။ တခါတရံ အထက်ပါသတ္တုစပ်တွင် သံဖြူနှင့်ကြေး (ဗစ်စမတ်) တို့ကိုပါ အနည်းငယ်ထည့်၍ ရောစပ်တတ်သည်။ ထိုသတ္တုစပ်မှာ မာသည့်အတွက် ထိုသတ္တုစပ်ဖြင့် ပြုလုပ်ထားသော ခဲစာလုံးများကို ကြာရှည်စွာအသုံးပြုနိုင်၏။

တကမ္ဘာလုံးမှ ထွက်သမျှ ခနောက်စိမ်း သတ္တုရိုင်းများအနက် ရာခိုင်နှုန်း ၇၀ ခန့်ကို တရုပ်နိုင်ငံ ဟူနန်နယ်မှ တူးဖေါ်ရရှိသည်။ ပြင်သစ်၊ အာရှမိုင်းနား၊ ချက်ကိုဆလိုဗားကီးယား၊ ဗိုလစ်ဗီးယားနှင့် မက္ကဆီကိုနိုင်ငံများမှလည်း ထိုသတ္တုရိုင်းကို တူးဖေါ်ရရှိသည်။ ခနောက်စိမ်းကို အထူးသဖြင့် စတစ်ဗနိုက် (ကန့်ဝင်ခနောက်စိမ်း) ခေါ် သတ္တုရိုင်းဖြစ်သော အန်တီမိုနီဆာလဖိုက် (၃) မှထုတ်ယူရရှိ၏။ ဤစတစ်ဗနိုက်ခေါ် အန်တီမိုနီ သတ္တုရိုင်းအမဲကို ရှေးအခါက အမျိုးသမီးများသည် မျက်ခုံးနှင့်မျက်တောင် ဆိုးဆေးပြုလုပ်ရာ၌ အသုံးပြုခဲ့လေသည်။ အန်တီမိုနီအနီကို နီလွင်သောဆီဆေးနှင့် အရောင်ဆေးများအပြင် မီးခြစ်နှင့် မီးအိုးမီးပန်းများ ပြုလုပ်ရာတွင် အသုံးပြုလျက်ရှိကြသည်။ စတစ်ဗနိုက်ကို ဥရောပအလယ်ပိုင်း၊ တရုပ်နှင့် ဂျပန်နိုင်ငံတို့တွင် အများအပြား တူးဖေါ်ရရှိ၍၊ အမေရိကန်ပြည်ထောင်စုတွင် ပါဝင်သော အလာစကာ၊ နီဗားဒနှင့် ကာလီဖိုးနီးယားပြည်နယ်များတွင်လည်း ထပ်မံတွေ့ရှိသည်။ ခနောက်စိမ်းဓာတ်ဆားများသည် အလွန်အဆိပ်ပြင်းထန်၍၊ ထိုအဆိပ်သည် စိန်သတ္တုပါဝင်သော ဓာတ်ဆားများရှိ အဆိပ်နှင့်ဆင်တူလေသည်။

**ခနွဲ။** ။ခနွဲသည်နှီးသစ်သားစသည်တို့ဖြင့်ပြုလုပ်ထားသော လက်ကိုင်ရိုးတပ်ထားသည့် ရေပက်ခွက် တမျိုးဖြစ်သည်။ ခနွဲပုံ နှစ်မျိုးရှိသည်။ တမျိုးမှာ ထောင်သုံးစွန်းထွက်နေသော ခွက်ပက်လက်ဖြစ်၍ ကျန်တမျိုးမှာ ဝါးလုံးထက်ခြမ်းခွဲသဏ္ဍာန် ပြုလုပ်ထားသောပုံဖြစ်သည်။

ခနွဲခွက်တွင် လက်ကိုင်ရိုးတပ်ထားသည့်အပြင် ကြိုးချည်နိုင်ရန်အတွက် အပေါ်ဖက်တွင် တန်းတခုပိုး၍ တပ်ထားသည်။ ခနွဲကို လယ်တကွက်မှတကွက်သို့ ရေသွင်းရန်ဖြစ်စေ၊ ဟင်းခင်း၊ ယာခင်းများထဲသို့ ရေသွင်းရန်ဖြစ်စေ၊ အသုံးပြုကြသည်။ မြန်မာလှေကြီး များတွင် လှေဝမ်းထဲမှ ရေကို ပက်ထုတ်ရန်နှင့် ငါးများကို အိုင်ပက်၍ ဖမ်းရာတွင်လည်း ခနွဲကိုအသုံးပြုကြသည်။ ဆန်ရှားသဖြင့် မြက်သီးကို ခူစားရသော အရပ်ဒေသများတွင်လည်း ခနွဲကိုမြက်သီးခပ်ရာတွင်အသုံးပြုကြလေသည်။

လယ်များယာခင်းများတွင် အသုံးပြုသောခနွဲမှာ ခနွဲစင်ခေါ် သုံးချောင်းထောက်ခွတွင် ကြိုးဖြင့်ဆိုင်း၍ ရေများကို

ပက်ထုတ်လေသည်။ လှေသမ္ဗာန်များပေါ်တွင် အသုံးပြုသောခန့်မှာ စင်မပါချေ။

ရေပက်ရာ၌ ခန့်ကိုအသုံးပြုခြင်းမှာ ဤစံနစ်ကို အသုံးပြုခြင်းဖြင့် လူကိုမပင်ပန်းစေဘဲ အချိန်နည်းနည်းနှင့် အလုပ်တွင်ကျယ်ခြင်းကြောင့် ဖြစ်သည်။ ခန့်ဖြင့်ရေပက်ခြင်း၊ရေသွင်းခြင်းစံနစ်ကို ကမ္ဘာ့အရပ်ရပ်တွင် ရှေးနှစ်ပေါင်းများစွာကပင် စတင်သုံးစွဲလာခဲ့လေသည်။ ယခုထက်တိုင် အီဂျစ် အိန္ဒိယ၊ မြန်မာ၊ ယိုးဒယားနှင့် တရုပ်နိုင်ငံများရှိ တောပိုင်းဒေသများတွင် ခန့်ကို အသုံးပြုလျက်ပင်ရှိကြသေးသည်။

**ခပေါင်းပင်။** ။ခပေါင်းပင်ကို၊ ရုက္ခဗေဒအရ စထရိခနိုနပ် ဗလန်ဒါဟုခေါ်သည်။ ထိုအပင်၏ပဥ္စငါးပါးလုံးသည် အဆိပ်



ခန့်ဖြင့်လယ်ထဲသို့ရေသွင်းနေစဉ်

ဖြစ်စေတတ်၏။ အစေ့များမှ ဆေးဖက်ဝင်၍ အဆိပ်ပြင်းသော စထရိခနင်အယ်လကာလွိုက်ကို ထုတ်ယူရနိုင်သည်။

ခပေါင်းပင်မှာ လုံးပတ် ၃၊ ၄ ပေမျှရှိ၍၊ အမြင့်ပေ ၃၀၊ ၄၀ အထိမြင့်သည်။ အသားမာကျော့သည်။ တာရှည်ခံသည်။ ထွန်တုံးထွန်သန်၊ လှည်းဘီး၊ အိမ်ထောင်ပရိဘောဂအတွက် ခပေါင်းသစ်ကို အသုံးပြုနိုင်လေသည်။ မြန်မာနိုင်ငံအထက်ပိုင်း အောက်ပိုင်း မြေပြန့်နှင့် တောင်ကုန်းဒေသတို့တွင် ခပေါင်းပင်များ ပေါက်ရောက်လေ့ရှိသည်။



ခပေါင်းပင်၏အသီးနှင့်အရွက်များ

ခပေါင်းပင်၏ အသားမှာခါး၏။ ထိုအသားကို အဖျားဖြတ်ဆေးဖေါ်စပ်ရာ၌ သုံးလေ့ရှိသည်။ ထို့ပြင် အလှအပအိမ်ထောင်ပရိဘောဂများ ပြုလုပ်ရန်အတွက်လည်း အသုံးပြုကြသည်။

**ခပေါင်းရေကြည်။** ။ခပေါင်းရေကြည်ပင်သည် ရေကိုကြည်လင်စေနိုင်စွမ်းသောအစေ့ရှိ အသီးသီးသောအပင်ဖြစ်သည်။ ထိုအပင်မျိုးကို မြန်မာနိုင်ငံ ပဲခူးနှင့်တောင်ငူခရိုင်များတွင် အများအပြားတွေ့ရ၏။ အသီးတွင် အစေ့တစေ့သာပါသည်။ ရေကြည်အောင်ပြုလုပ်နည်းမှာ ရေထည့်ထားသောအိုးအတွင်းဖက် ဖင်ပိုင်းကို၊ ခပေါင်းရေကြည်စေ့ဖြင့် တိုက်ပေးရသည်။ ထိုအခါ အစေ့မှအဖတ်ကလေးများသည် ရေထဲသို့ပါသွားကြသည်။ အဖတ်များများထွက်နိုင်အောင် စဥ့်မသုတ်သော ရိုးရိုးမြေအိုးကို သုံးလျှင် ပို၍ကောင်းမွန်သည်။ အစေ့မှထွက်သောအဖတ်ကလေးများသည် ရေထဲရှိ မှုန်မှုန်၊ ညွန်နှစ်တို့ကိုသယ်ယူ၍ အနည်ထိုင်သွားသောအခါ ရေသည်ကြည်လင်သွားသည်။

ခပေါင်းရေကြည်စေ့၏ အခွံကိုအမှုန့်ပြု၍ အန်ဆေးအဖြစ်သုံးရန်ရင်း၊ ဝမ်းကိုက်ပျောက်ဆေးအဖြစ်သုံးရန်ရင်း သင့်လျော်သည်။ ဝမ်းကိုက်ပျောက်ဆေးအဖြစ်သုံးပုံမှာ ခပေါင်းရေကြည်စေ့ခွံကို အမှုန့်ပြု၍ ယင်းအမှုန့် ၁၀ ဂရမ်မှ ဂရမ် ၂၀ ကို ဘိန်းစေ့တစေ့နှစ်စေ့ဖြင့်ရော၍၊ အလုံးကလေးများလုံးရသည်။ ထိုဆေးလုံးကို ၃ နာရီ သို့မဟုတ် ၄ နာရီခြားတခါ တိုက်ကျွေးလျှင်ဝမ်းကိုက်သက်သာသည်။ ခပေါင်းရေကြည်ပင်၏အနွယ်ကိုလည်း မျက်စဉ်းအဖြစ်အသုံးပြုနိုင်၏။

ခပေါင်းရေကြည်ကို ရုက္ခဗေဒသညာအားဖြင့် စထရိခနိုပိုတက်တိုရမ်ဟုခေါ်သည်။

# ကမ္ဗောဇလူမျိုးတို့၏ဘိုးဘေးအနွယ်

မြန်မာနိုင်ငံနှင့် အိမ်နီးချင်းဖြစ်သော ကမ္ဗောဇ (ကမ္ဗောဒီးယား) နေခမာတို့မှာ၊ မြန်မာတိုင်းရင်းသားအချို့နှင့် အနွယ်တူဖြစ်သည်။ တခါက အရှေ့တောင်အာရှတလွှားတွင် ယဉ်ကျေးမှုဦးရင်း၊ နိုင်ငံအင်အားဖက်ဦးရင်း၊ မြို့ပြဖက်ကင်းအောင်ထွန်းပြောင်ခဲ့သည့် ထိုခမာလူမျိုးတို့၏ အမျိုးအနွယ်၊ သမိုင်း၊ ယဉ်ကျေးမှုစသည်များကို ယခုခမာများခေတ်အထိ ပေါ်ပြထားရာ၊ ရာဇဝင်သုတေသနလိုက်စားသူတို့အဖို့၊ အဖိုးမဖြတ်နိုင်သောအချက်ကြီးတရပ်ဖြစ်ပေသည်။

**ခမာလူမျိုး။**  ။ခရစ် ၁၃ ရာစုနှစ်များမတိုင်မီကာလက အာရှတိုက်အရှေ့တောင်ပိုင်း အင်ဒိုချိုင်းနားကျွန်းဆွယ်တွင် ယဉ်ကျေးမှုဖက်ဦးရင်း၊ နိုင်ငံအင်အားဖက်ဦးရင်း၊ မြို့ပြဖက်ကင်းလောက်အောင် တိုးတက်ထွန်းပြောင်ခဲ့သော နိုင်ငံမှာ ခမာဘာသာစကားကို ပြောဆိုကြသောသူတို့၏ နိုင်ငံဖြစ်ခဲ့၏။ ထိုနိုင်ငံမှာ ၉ ရာစုနှစ်များ အစလောက်မှစ၍ ကမ္ဗူဇဟုတွင်ခဲ့သည်။

ခမာမှာ ဘာသန္တရအရ ခေါ်ဝေါ်သောအမည် တခုဖြစ်သည်။ အာရှတိုက်အရှေ့တောင်ပိုင်းဒေသနှင့် ယင်းဒေသများ၏ တောင်ဖက်ရှိကျွန်းများတွင် အများဆုံးပြောဆိုကြသည့် ဘာသာစကားတို့မှာ ဩစတြစ်ခေါ် တောင်ပိုင်းဘာသာစကားအစုကြီးတွင်ပါဝင်သော ဘာသာစကားများဖြစ်ရာ၊ ကုန်းဩစတြစ်အစုဟုခေါ်အပ်သည့် ဩစတြိုအေရှိအက်တစ်အစုဝင် မွန်ခမာအစုခွဲ၏ ဘာသာစကားတရပ်ဖြစ်ပေသည်။

## မွန်ခမာအစုခွဲဝင်များ

ယင်းဘာသာစကားကို ပြောဆိုသောသူတို့မှာ ယခင်က ပြင်သစ်ပိုင်အင်ဒိုချိုင်းနားနိုင်ငံများတွင် အာနမ်ပြည်မှအပ နိုင်ငံရေးအရရင်း၊ ယဉ်ကျေးမှုအရရင်း အရေးအကြီးဆုံးဖြစ်သည့် မဲခေါင်မြစ်ဝှမ်း တောင်ဖက်ပိုင်းရှိ ကမ္ဗောဇနိုင်ငံတွင် အများဆုံးနေထိုင်ကြ၏။ ထိုဒေသ၏အနောက်ဖက် ယိုးဒယားနိုင်ငံနှင့် အရှေ့ဖက်ကိုချင်ချိုင်းနားနိုင်ငံတို့တွင်လည်းခမာစကားပြောဆိုသူ အချို့တို့ကို တွေ့နိုင်ပေသေးသည်။ (ကမ္ဗောဇနိုင်ငံ — ရှု။)

ယင်းတို့နှင့် ဘာသာစကားတူဖြစ်သော အခြားမွန်ခမာအစုခွဲတွင်ပါဝင်သည့်ဘာသာစကားတို့ကိုပြောဆိုသူများကို ယခုဗီယက်မင်ပြည်တွင် ပါဝင်နေသော မြောက်ဖက်တုံကင်းနယ်မှ အာနမ်တောင်ရိုးတလျှောက်တောင်ဖက် မဲခေါင်မြစ်ဝကျွန်းပေါ်ဒေသများရှိ ကိုချင်ချိုင်းနားပြည်ထိရင်း၊ အရှေ့ဖက်တုံကင်းနယ်မှ လာအိုနယ် ယိုးဒယားမြောက်ပိုင်းတို့ကိုဖြတ်၍ အနောက်ဖက်မြန်မာပြည် ကျိုင်းတုံနယ်ထိဖြစ်သော ဒေသထိရင်း တွေ့ရှိရ၏။ ထို့မှတပါး မြန်မာနိုင်ငံတွင်းရှိ မွန်များ၊ ပလောင်များ၊ ဝများသည်လည်း ယင်းတို့နှင့် အနွယ်တူဖြစ်ရာ ကမ္ဗောဇခေါ် ကမ္ဗောဒီးယားနေ ခမာတို့မှာ မြန်မာနိုင်ငံ တိုင်းရင်းသားအချို့နှင့် အနွယ်တူနေကြသူများလည်း ဖြစ်ပေသည်။ အခြားအနွယ်တူ လူမျိုးများမှာ အာသံပြည်ရှိ ခါစီလူမျိုးများ၊ အိန္ဒိယပြည်အလယ်ပိုင်းရှိ မုဏ္ဍာလူမျိုးများနှင့် နကဗာရီကျွန်းသားများဖြစ်သည်။

## လူမျိုးလိုက်အနွယ်

မွန်ခမာအစုခွဲဝင် ဘာသာစကားများကို ပြောဆိုသောလူမျိုးတို့အနက် အချို့မှာ မူလတိုင်းဦးသားများဖြစ်ကြ၍ အချို့မှာ နောက်ကာလများမှ ရွှေ့ပြောင်းဝင်ရောက်လာကြသော တောင်ပိုင်းမွန်လူမျိုးစုဝင်များဖြစ်ကြရာ လူမျိုးရေးအရဆိုသော် ခမာတို့မှာ မွန်မြန်မာတို့ကဲ့သို့ များသောအားဖြင့် တောင်ပိုင်းမွန်ဂို လူမျိုးစုဝင်များဖြစ်ကြသည်။ လွတ်လပ်သောလူမျိုးအဖြစ် အချုပ်အချာအာဏာပိုင် နိုင်ငံနှင့် နေထိုင်လျက်ရှိသော ယခုခေတ်ခမာတို့မှာ ကမ္ဗောဇပြည်သားများဖြစ်ကြပေသည်။

## သမိုင်းအကျဉ်း

တချိန်ကတန်ခိုးထွားခဲ့သော ခမာတို့၏သမိုင်းမှာ စိတ်ဝင်စားဖွယ်ရာကောင်းလှသည်။ ရှေးဟောင်းသမိုင်း ကျောက်ခေတ်သစ်ယဉ်ကျေးမှုသည် ဘီစီ ၁၅၀၀ က အာရှအရှေ့တောင်ပိုင်းသို့ ရောက်ခဲ့ကြောင်းနှင့် ဟိန်းဂဲလဒန် ခေါ် အရှေ့တိုင်းသမိုင်းပါရဂူတဦးကယူဆခဲ့၏။ ထိုခေတ်ကလူမျိုး၏ ယုံကြည်ကိုးကွယ်မှုနှင့် ယဉ်ကျေးမှု အချက်အလက်တို့သည် ခရစ်နှစ်အစလောက်တွင် ဤဒေသ၌ ကြေးဝါခေတ်ပေါ်ပေါက်လာသည်တိုင်အောင် အစဉ်အဆက် ပါလာခဲ့လေသည်။ ထိုခေတ်က ဤဒေသတွင် နေထိုင်သူတို့မှာ အင်ဒိုနီးရှင်းများဖြစ်ကြ၏။ ထိုအချိန်လောက်မှစ၍ အိန္ဒိယပြည်မှကုန်သည်များရောက်ရှိခဲ့ကာ အိန္ဒိယယဉ်ကျေးမှုများလွှမ်းမိုးလာခဲ့လေသည်။ ထိုလွှမ်းမိုးမှုမှာ မလ္လာယုကျွန်းဆွယ်နှင့် ယိုးဒယားပြည်တို့တည်ရာ အနောက်ပိုင်းတွင် ပိုမိုများပြား လေးနက်သလောက် ကမ္ဗောဇ၊ အာနမ်၊ စမ္ပာစသည့် အရှေ့တိုင်းဒေသများတွင် လေးနက်မှုမရှိပေ။ ထိုဒေသတို့၌ အထူးသဖြင့် ကမ္ဗောဇပြည်၌ မူရင်းယဉ်ကျေးမှုနှင့် တိုင်းရင်းသားတို့၏ဇီဇ အရည်အခြင်းများက ယဉ်ကျေးမှုကို အသွင်ပြောင်းနိုင်စေခဲ့၏။

တရုပ်ပြည်ဟန်မင်းဆက် ကုန်ဆုံးပြီးနောက် (ခရစ် ၂၂၁ ခုနှစ်နောက်) ပေါ်ပေါက်ခဲ့သော သုံးပြည်ထောင်ခေတ်တွင်

တောင်ဖက်ပြည်ဖြစ်သော ဝုပြည်မှ အာရှအရှေ့တောင်ပိုင်းသို့ စေလွှတ်သောသံတမန်တို့၏ မှတ်တမ်းများအရ ယခုကမ္ဘောဇပြည်ဒေသတွင် ဖူနန်ပြည်ရှိခဲ့ကြောင်းနှင့် ဖူနန်ပြည်တန်ခိုးကြီးပုံကို ဖော်ပြထားလေသည်။ ၅ ရာစုနှစ် ၆ ရာစုနှစ်များလောက်တွင် ဖူနန်နိုင်ငံ တန်ခိုးမှိန်ခဲ့၍ မဲခေါင်မြစ်ဝှမ်းတွင် ချန်လပြည်သစ်ပေါ် ပေါက်လာခဲ့သည်။ ထိုပြည်သစ်မှာ ခမာတို့၏ပြည်ဖြစ်၍ ခမာတို့ရောက်ရှိ တန်ခိုးကြီးလာခြင်း၏ အစပင်ဖြစ်သည်။ ခမာတို့အလျှင်ဖြစ်ခဲ့သော သမိုင်းအကျဉ်းကို ဖော်ပြရခြင်းမှာ အိန္ဒိယပြည်မှ ယဉ်ကျေးမှုများရောက်ရှိလွှမ်းမိုးလင့်ကစား ခမာယဉ်ကျေးမှုမှာ ကျောက်ခေတ်သစ်ကြေးဝါခေတ်တို့မှ ဆက်လက်ရရှိခဲ့သော အချက်အလက်တို့ကို အခြေခံထားသောကြောင့်ဖြစ်ပေသည်။

ခမာတို့၏ ပဌမပြည်ဖြစ်သော ချန်လ အကြောင်းကို ရှန်ဆန်၏မှတ်တမ်းများနှင့် ထိုခေတ်ကျောက်စာတို့မှသိရ၏။ ချန်လမှာ ဖူနန်၏မြောက်ဖက် မဲခေါင်မြစ်ပေါ်၌တည်ရှိ၍ ယခု ဗဆက် ဒေသလောက်တွင် ရှိသည်ဟုသိရသည်။ မြို့တော်မှာ ဣသျှာနပုရဖြစ်၏။ ခရစ် ၆၇၀ ပြည့်နှစ်လောက်တွင် ချန်လမှာ ရေချန်လ၊ ကုန်းချန်လဟု တောင်ပိုင်း မြောက်ပိုင်း ၂ ပိုင်းကွဲခဲ့၏။ မြောက်ပိုင်းကုန်းချန်လမှာ ယခုကမ္ဘောဇပင်ဖြစ်သည်။ ဤကဲ့သို့ကွဲပြားခဲ့သဖြင့် အင်အားနည်းကာ ဆူမတြား ကျွန်း နှင့် ဂျားဗားကျွန်းတို့ အခြေပြု၍ တန်ခိုးကြီးလာသော သီရိဝိဇယနိုင်ငံ၏ လွှမ်းမိုးမှုကို ခေတ္တအားဖြင့်ခံခဲ့ရလေသည်။ ထိုနိုင်ငံနှင့်အဆက်အသွယ်ရှိသော ဒုတိယမြောက် ဇယဝရမန်သည် ၈၀၂ ခုနှစ်တွင် ကွဲပြားနေသောချန်လပြည်တို့ကို စုစည်း၍ ကမ္ဗုဇာ (ကမ္ဗု၏သားများ) အမည်ဖြင့် ကမ္ဘောဇနိုင်ငံကို စတင်တည်ထောင်ခဲ့၏။

### ကမ္ဘောဇတန်ခိုးထွားသည့်ခေတ်

စီးပွားရေး ကောင်းစွာတိုးတက်၍ တန်ခိုး ကြီး လျက် ရှိသော သီရိဝိဇယနိုင်ငံနှင့် မဟာမိတ်ဖြစ်သော ကမ္ဘောဇနိုင်ငံကို စုစည်း အုပ်ချုပ် လာခဲ့သော ထိုမင်း ဆက်၏ မင်းများသည် နှစ်ပေါင်း ၇၅ နှစ်မျှ ဆက်လက်အုပ်ချုပ်ခဲ့ကြ၏။ ၉ ရာစုနှစ်များ ကုန်သောအခါတွင် ခမာတို့၏နိုင်ငံမှာ မြောက်ဖက်တရုပ်ပြည်၊ အရှေ့မြောက်ဖက်နန်ချို၊ အနောက်ဖက် မြန်မာပြည်ရှိ ပျူနိုင်ငံတို့အထိ ဩဇာလွှမ်းမိုးကျယ်ပြန့်ခဲ့သည်။

ဇယဝရမန်မင်းဆက်ကို ဣန္ဒဝါရမန်မင်းဆက်က ဆက်ခံခဲ့၏။ ပဌမမြောက် ဣန္ဒဝါရမန် မင်း သည် ကမ္ဘာပေါ်၌ ထင်ပေါ်သော အင်းကောမြို့တော်ကို စတင်တည်ထောင်ခဲ့၏။ ထိုမင်းဆက်မှာ ၁၂၅ နှစ်မျှ တန်ခိုးကြီးခဲ့ကြ၍ ဘုရားကျောင်းကန်များ များပြားလှသော အင်းကောမြို့ကြီးကို အင်ဒိုချိုင်းနားကျွန်းဆွယ်တွင် အခမ်းနားအကြီးကျယ်ဆုံးဖြစ်အောင် ဖန်တီးခဲ့ကြလေသည်။

အင်းကောဝတ်ကျောင်းကိုမူ ထိုမင်း ဆက် ကို ဆက် ခံသောမင်းဆက်၏ ဒုတိယမြောက်မင်းလက်ထက် ၁၁၁၅ ခုတွင်တည်ဆောက်ခဲ့၏။ အင်းကောတွင် တွေ့ရသည့် ဆန်းကြယ်လှသော ဗိသုကာပညာ ကျောက်ဆစ်လက်ရာ ပန်းပု



ခမာတို့၏ယဉ်ကျေးမှုကို ဆက်ခံသော ကမ္ဘောဇကခြေသည်များ

ပညာစသည်တို့တွင် ဗြာဟ္မဏအယူဝါဒ ဗုဒ္ဓအယူဝါဒတို့နှင့် သက်ဆိုင်သည့် အချက်အလက်တို့ကို တွေ့ရပေသည်။ ကမ္ဘောဇပြည်မှာ ၁၃ ရာစုနှစ်အလယ်လောက်ထိအောင် အင်ဒိုချိုင်းနားတွင် ပြိုင်ဖက်မရှိ ကြီးကျယ်တန်ခိုးထွားခဲ့လေသည်။

## ယိမ်းယိုင်ပြိုပျက်လာခြင်း

၁၃ ရာစုနှစ်များ၏ နောက်ပိုင်းလောက်တွင် မွန်ဂိုတို့ အာရှအရှေ့တောင်ပိုင်းဒေသအချို့တို့သို့ဝင်ရောက်တိုက်ခိုက်သဖြင့် ထိုင်ရှမ်းလူမျိုးများ ရွှေ့ပြောင်းနေထိုင်လာရာ ၁၃၅၀ ပြည့်နှစ်လောက် ရောက်သောအခါ အယုဒ္ဓယပြည်ကို မေနမ်မြစ်ဝှမ်းအတွင်း ခိုင်မြဲစွာ တည်ထောင်မိကြလေသည်။ ထိုသို့ပြည်သစ်တည်ထောင်ကြရာတွင် ထိုင်ရှမ်းတို့သည် ခမာတို့အား တိုက်ခိုက်နှိမ်နင်းကြ၏။ ၁၃၅၀ မှ ၁၄၆၀ ပြည့်နှစ်အတွင်း ထိုင်ရှမ်းတို့သည် ခမာတို့ကို ၄ ကြိမ် ၅ ကြိမ်မျှတိုက်ခိုက်အောင်မြင်ခဲ့ကြ၏။

ဤသို့အားဖြင့် ယခု ယိုးဒယား၊ လာအိုနယ်၊ ကမ္ဘောဒီးယားနယ်၊ ကိုချင်ချိုင်းနားနယ် အားလုံးကို လွှမ်းမိုးအုပ်ချုပ်ခဲ့သော ကမ္ဘောဇပြည်သည် ရွှေ့ပြောင်းနေထိုင်လာကြကုန်သော ထိုင်ရှမ်းတို့၏တိုက်ခိုက်မှုကြောင့် အနောက်ဖက်နှင့်မြောက်ဖက်မှ အဆက်မပြတ် ဆုတ်ခွာလာခဲ့ကြရ၏။ အရှေ့ဖက်တွင်လည်း မြောက်ဖက်မှဆင်းလာသော အာနမ်လူမျိုးတို့၏တိုက်ခိုက်မှုကြောင့် ဆုတ်ခွာပေးခဲ့ကြရာ အာနမ်တို့သည် ၁၇ ရာစုနှစ်လောက်မှစ၍ ကိုချင်ချိုင်းနားနယ်တွင် အခြေစိုက်မိကြလေသည်ဟု သမိုင်းဆရာကျော် ဟင်နရီမတ်စပါရိုးက မှတ်ချက်ချထားလေသည်။ ထိုင်ရှမ်းတို့ အဆက်မပြတ်တိုက်ခိုက်သည့်အပြင် မြို့တဝိုက်ကိုရေလွှမ်းမိုးသောကြောင့် ခမာတို့မှာ ၁၅ ရာစုအလယ်လောက်တွင် ခမ်းနားကြီးကျယ်လှသော အင်းကောမြို့ကိုစွန့်လွှတ်ထွက်ခွာရွှေ့ပြောင်းခဲ့ကြသဖြင့် ကာလကြာမြင့်သော် မြို့ကြီးမှာ ထူထပ်သောသစ်ပင်တို့အတွင်း၌ ပျက်စီးခြင်းသို့တိုင်ခဲ့ရလေသည်။ ဤသည်ကား ခမာတို့၏တန်ခိုးအာဏာ လုံးဝပျက်စီးခြင်းဖြစ်သည်သာမက လွတ်လပ်ရေးလည်း ဆုံးရှုံးခဲ့ရသော အချက်ဖြစ်သည်။ နောင်နှစ်ပေါင်း ၄၀၀ မျှ ခမာတို့မှာ မဲခေါင်မြစ်ဝတွင် ပြည်ငယ်ပြည်သိမ်အဖြစ်ဖြင့် အာနမ်နှင့် ယိုးဒယားသို့တလှည့်စီ အခွန်ပဏ္ဏာဆက်၍ နေလာခဲ့ရ၏။ ၁၈၄၄ မှ ၁၈၆၇ ခုထိမူ ယိုးဒယား၏လက်အောက်ခံဖြစ်ခဲ့ရသည်။ ၁၈၆၇ မှစ၍ ပြင်သစ်တို့၏အုပ်ထိန်းခံနယ် အဖြစ်ဖြင့်တည်တံ့ခဲ့၏။ သမိုင်းတလျှောက်လုံးပင် မိမိတို့ဘုရင်နှင့် နေလာခဲ့သော်လည်း အုပ်ချုပ်မှုအာဏာမှာမူ ကာကွယ်ပေးသည်ဆိုသော ယိုးဒယားနှင့် ပြင်သစ်ကိုယ်စားလှယ်အရာရှိတို့၏ လက်တွင်း၌ ရှိခဲ့ပေသည်။ ဒုတိယကမ္ဘာစစ် ဖြစ်ပြီးနောက် ၁၉၅၄ ခုနှစ်ရောက်မှ ခမာတို့သည် လွတ်လပ်ရေးကို ရရှိကာ ကမ္ဘောဇနိုင်ငံမှာလည်း တကယ်လွတ်လပ်သော အချုပ်အချာအာဏာပိုင်နိုင်ငံအဖြစ်သို့ရောက်ရှိခဲ့လေသည်။

## ခမာယဉ်ကျေးမှု

ကမ္ဘာ့အရှေ့ဖျားတွင် တကြိမ်ကအထက်တန်းကျလှသော ခမာတို့၏ယဉ်ကျေးမှု ပေါ်ပေါက်ပြောင်းလဲလာပုံမှာ သီးခြားဖေါ်ပြသင့်သော အကြောင်းရပ်တခု ဖြစ်ပေသည်။ ပဌမဦးသော် ကျောက်ခေတ်သစ်နှင့် ကြေးဝါခေတ်တို့မှ ယဉ်ကျေးမှုအနည်းငယ်မျှသာ ရရှိခဲ့၏။ ထိုနောက် အိန္ဒိယပြည်တောင်ပိုင်းမှ ပလ္လဝယဉ်ကျေးမှုရောက်ရှိ၍ မိမိတို့အမွေခံရရှိထားသော အချက်အလက်တို့ကို မတိမ်မြုပ်စေဘဲပြုပြင်၍ ပြင်ပယဉ်ကျေးမှုကို လက်ခံကြလေသည်။ ပုံစံအားဖြင့် ကျောက်ခေတ်က မြင့်မားသောကျောက်တိုင်ကြီးများကို စိုက်ထူသောအားဖြင့် ဘုရားနှင့်ဆက်သွယ်နိုင်သည်ဟု ယုံကြည်သကဲ့သို့ ဗြာဟ္မဏအယူဝါဒကို လက်ခံလာသောအခါ လိင်္ဂကိုးကွယ်မှုကို ကျောက်တိုင်နှင့်ကိုယ်စားပြုကြ၏။ ထိုနောက် သိဝကိုးကွယ်မှုကို လက်ခံရာတွင် သိဝဂီရိဟု သိဝတောင်အဖြစ် ကောင်းကင်ရှိဘုရားနှင့် ဆက်သွယ်မိရန် ပြုပြင်ကိုးကွယ်ကြသည်။ အလားတူပင် ဒေဝရာဇာ ကိုးကွယ်မှုမှာလည်း ယခင်ကလိင်္ဂကို ကိုယ်စားပြုခြင်းဖြစ်သည်။ ပိဿနိုးကိုးကွယ်မှုကို လက်ခံလာပြန်ရာ ပိဿနိုးသည် ဒေဝရာဇာကိုကိုယ်စားပြုရပြန်သည်။

ခမာစကားတွင် ပနွမ်းမှာ တောင်ဟုအဓိပ္ပါယ်ရ၍ ယင်းစကားကိုယူကာ ထိုဒေသ၏ပဌမပြည်ကို တရုပ်တို့ ဖူနမ်ဟုခေါ်ကြောင်း၊ နောက်ခေတ်တို့တွင် ထိုဒေသ၏ဘုရင်များကို ခမာစကားဖြင့် ကုရွှန်းဗနမ်ဟုခေါ်ကြောင်း၊ အဓိပ္ပါယ်မှာ တောင်ဘုရင် (ဂီရိရာဇာ) ရကြောင်းနှင့် ပြင်သစ်ပညာရှင် စီဒေ ကဆိုထားပေသည်။

မဟာယာနဗုဒ္ဓ အယူဝါဒ ရောက်ရှိလာသောအခါတွင်လည်း ဒေဝရာဇာမှာ လောကီတေသွာဖြစ်လာ၍ ပုံထုလုပ်ရာတွင် အုပ်ချုပ်သူဘုရင်၏ မျက်နှာပုံနှင့် တူစေလေသည်။ ဤကဲ့သို့ကျောက်ခေတ်သစ် ကြေးဝါခေတ်ယုံကြည်မှုများတွင် အိန္ဒိယယဉ်ကျေးမှု ရောနှောလာသောအခါ၌ မိမိတို့၏ ပင်ကိုယ်ဗီဇ အရည်အချင်းဖြင့်မွမ်းမံ၍ပြုပြင်ကာ ထူးခြားသောယဉ်ကျေးမှုတရပ်ကို ဖန်တီးခဲ့ကြပေသည်။ တရုပ်ပြည်နှင့် ဆက်သွယ်မှုများ ရှိခဲ့သည့်အတိုင်း တရုပ်ယဉ်ကျေးမှု အချက်အလက်တို့လည်း ရောပြွမ်းလျက်ရှိပေသည်။

## ယခုခမာများ

ယခုခေတ်ခမာတို့မှာ မြန်မာတို့နည်းတူ ဟိနယာနဗုဒ္ဓ အယူဝါဒကို လက်ခံကိုးကွယ်ကြ၍ ဘုရားတရားကို များစွာ

လေးစား ကြည်ညိုသူများဖြစ်သည်။ ပွင့်လင်းစွာဆက်ဆံတတ်၍ ချစ်ခင်ပျူငှာတတ်သူများဖြစ်ကြသည်။ ယဉ်ကျေးသိမ်မွေ့ခြင်း၊ ဧည့်ဝတ်ကျေခြင်းတို့မှာ သူတို့၏ထူးခြားချက်များပင်တည်း။

များသောအားဖြင့် အယပ်အမောင်းကောင်း၍ သန့်စွမ်းကြံ့ခိုင်ကြ၏။ အသားညို၊ အသားလတ် အရောင်အသွေးရှိကာ၊ မွန်မြန်မာတို့နှင့် သွင်ပြင် ရုပ်လက္ခဏာဆင်သောသူများဖြစ်ကြသည်။ ခမာတို့သည် များသောအားဖြင့် ဆံတိုညှပ်ကြသည်။ လယ်ယာလုပ်ကိုင်ခြင်း၊ ငါးဖမ်းခြင်းတို့ဖြင့် လူများစုသည်ခက်ခဲစွာအသက်မွေးဝမ်းကျောင်းကြရသည်။

သမားရိုးကျဝတ်စားဆင်ယင်မှုမှာလှပပေသည်။ တောက်ပြောင်၍အရောင်စုံသော စမ်းပေါ့ခေါ် ခါးဝတ်ကို လှပစွာခါးတောင်းကျိုက် ဝတ်ဆင်ကြ၏။ အမျိုးသားတို့မှာ ကိုယ်ကျပ်လက်ရှည်အင်္ကျီတို့ကို ဆင်မြန်းကြ၍ အမျိုးသမီးတို့မှာ လှပသောပုဝါရှည်များကိုခြုံကြလေသည်။

ဗုဒ္ဓအယူဝါဒကို သက်ဝင်ယုံကြည်သူများဖြစ်သည့်အတိုင်း မြန်မာနိုင်ငံ မှာကဲ့သို့ပင် ဘုန်းတော်ကြီး ကျောင်းများမှာ ခမာတို့၏ လူမှုရေးဗဟိုဌာနများ ဖြစ်ကြ၏။ အာရှအရှေ့တောင်ပိုင်းရှိ အခြားနိုင်ငံသားတို့ကဲ့သို့ပင် စစ်ပြီးနောက်တခေတ်အတွင်း ခမာတို့မှာ အဖက်ဖက်မှ ကြိုးစား၍ တိုးတက်လျက်ရှိကြပေသည်။ ဦးဘရှင်။

**ခမည်းပေးခြင်း။** ။ခမည်းဆိုသောဝေါဟာရ၏ မူလအဓိပ္ပါယ်မှာ ချစ်ခင်မြတ်နိုးအပ်သူဖြစ်သည်။ ပုဂံကျောက်စာများနှင့် အင်းဝခေတ်မှစ၍ ပျို့၊ ကဗျာ လင်္ကာများတွင် ဖခင်ကိုသော်၎င်း၊ သားကိုသော်၎င်း၊ သားချင်းများကိုသော်၎င်း၊ ‘ခမည်း’ ဟူသောဝေါဟာရဖြင့် သုံးစွဲခဲ့ကြကြောင်းကို တွေ့ရသည်။ ယခုထက်တိုင် မင်းမျိုးမင်းနွယ်များနှင့် ရဟန်းသံဃာများတွင် ဖခင်ကိုခမည်းတော်ဟုခေါ်ဝေါ် သုံးစွဲလျက်ရှိသေးသည်။ ထို ‘ခမည်း’ အဓိပ္ပါယ်နှင့် ဆက်သွယ်၍ နောက်နောင်အခါတွင် ပုဂ္ဂိုလ်တဦးက မိမိချစ်မြတ်နိုးသည့်ပုဂ္ဂိုလ် အထူးသဖြင့် သွေးသားတော်စပ်သော ငယ်ရွယ်သူများအား ပေးကမ်းချီးမြှင့်သည့် မေတ္တာလက်ဆောင်ကို ခမည်း (ခမဲ) ဟု တင်စားခေါ်လေသည်။ ထိုသို့ မေတ္တာလက်ဆောင်ပေးခြင်းမျိုးကို ခမည်းပေးသည်ဟုခေါ်တွင်လာခဲ့သည်။

မိဘတို့သည် သားသမီးတို့ကို ပုခက်တင်သောအခါ၌၎င်း၊ ခေါင်းဆေးမင်္ဂလာ ပြုသောအခါ၌၎င်း၊ နားထွင်းသောအခါ၌၎င်း၊ ချစ်မြတ်နိုး၍ မေတ္တာလက်ဆောင်ပေးသည်ကို ခမည်းပေးသည်၊ ခမည်းဖွဲ့သည်ဟု ပြောဆိုသုံးနှုန်းကြသည်။

အမွေမှုဓမ္မသတ်ကျမ်းတွင် ‘ပုတ္တာနံ၊ သားသမီးတို့အား၊ ပရိယာယေနဒေတိ၊ ပရိယာယ်ခမည်းပေး၏’ ဟု ရေးသားပါရှိသည်။ ခမည်းကိုစကားပြောအသံအတိုင်းလိုက်၍ ခမဲဟုလည်းရေးသားကြသည်။

ခမည်းပေးခြင်းအမှုကို ရှေးအခါက မင်္ဂလာအခါကိစ္စများနှင့် နာဖျားမကျန်းသည့်အခါ ယတြာပရိယာယ်အဖြစ် ပြုလုပ်ဆောင်ရွက်ခဲ့ကြသော်လည်း ယခုခေတ်၌မူ ခမည်းပေးသည်ဟုဆိုလျှင် မမာမကျန်းသဖြင့် ခမည်းလို၍ ခမည်းပေးသည်ဟုနားလည်ကြသည်။

ဗေဒင်ယတြာများကို ယုံကြည်သူတို့သည် မိမိတို့သားမြေးများ မမာမကျန်းဖြစ်လျှင် ဗေဒင်မေးမြန်းလေ့ရှိသည်။ အချို့ပုဂ္ဂိုလ်များသည်စုတ်လာဘ်ကြီးမားလှသဖြင့် ဝင်ကိန်းရှိသောစုတ်လာဘ်များ မဝင်သောကြောင့် မကျန်းမမာဖြစ်နေသည်ဟု ဗေဒင်ကိန်းခန်းအရ ဗေဒင်ဆရာတို့က အဟောထုတ်လေသည်။ ထိုအခါမျိုးများတွင် ဗေဒင်ဟောကိန်းအညွှန်းအတိုင်း မမာမကျန်းသူအား လူကြီးမိဖများက ဝင်မည့်စုတ်လာဘ်များကိုရည်စူး၍ ခမည်းပေးရလေသည်။ ပမာအားဖြင့် ဤသူငယ်ကား မြေကိုခမည်းလိုသည်။ ဤသူငယ်ကား နီသောကျောက်မျက်ရတနာကို ခမည်းလိုသည် စသည်ဖြင့် ဟောပါက ထိုဟောချက်အတိုင်း ခမည်းပေးလေ့ရှိကြသည်။ဆင်ကိုခမည်းလိုသည်ဟုဟောကိန်းရှိပါမူ ဆင်ကိုဝယ်မပေးနိုင်သော မိဖိုးဖွားများအဖို့ များစွာအခက်ကြုံရပေမည်။ သို့ရာတွင်ဤနေရာမျိုး၌ပရိယာယ်အားဖြင့် ခမည်းပေးနိုင်လေသည်။ သက်ရှိဆင် ခမည်းအဖြစ် မပေးနိုင်သော် ရွှေငွေစသောပစ္စည်းမျိုးတို့ဖြင့် ပြုလုပ်ထားသောဆင်ရုပ်ကိုပေးနိုင်သည်။ ခြေနှစ်ချောင်း စုတ်ဝင်ရန်ရှိသည် ဆိုသော ဗေဒင်စကားမှာ လက်ထပ်ထိမ်းမြားရန် လိုသည်ဟုဆိုလိုပေသည်။ အခြေအနေအရ မမာမကျန်းသူသည် လက်မထပ်နိုင်သေးလျှင် ကြက်ဖကို၎င်း၊ ကြက်မကို၎င်း၊ ပုဂ္ဂိုလ်နှင့်လိုက်လျောညီစွာ ပရိယာယ်ခမည်းပေးခြင်းဖြင့် ဗေဒင်အလိုအတိုင်းပြီးမြောက်စေနိုင်သည်။

ကလေးသူငယ်များတွင် စွဲကပ်တတ်သော နားပြည်ယိုခြင်း၊ နားလေးခြင်းစသော အခါမျိုးများတွင်လည်း လူကြီးမိဖများက ခမည်းပေးလေ့ရှိလေသည်။ ဤသို့ခမည်းပေးသည့် အကြောင်းမျိုးကို ရည်ရွယ်၍ အင္ဂုရာသီဓမ္မသတ်လင်္ကာတွင် ‘လူ့တံထွာလျှင်၊ ဖျားနာရန်ဘေး၊ ခမဲပေးနှင့်’ စသည်ဖြင့် စပ်ဆိုထားလေသည်။ ပေးကားပေး၏ မရဟူသော သဘောမျိုးကို ပြောဆိုလိုသည့် အခါမျိုးတွင် ‘တောဆင်အဝေး၊ ခမည်းပေးသို့’ ဟု ဥပမာခိုင်းနှိုင်း တင်စားပြောဆိုလေ့ရှိကြသည်။

**ခရာတံပိုးကဒိုး။** ။တူရိယာ ၅ မျိုးရှိသည့်အနက် သုသိရ ဟုခေါ်သော အခေါင်းရှိစည်မျိုးတွင် တံပိုးမျိုး ၇ ပါးပါဝင်သည်။ တံပိုးမျိုး ၇ ပါးကား ဒုလောင်း၊ ခရာကောက်၊ ခရာ

မြွှာ၊ နှဲ၊ ပြွေ၊ ဖက်လိပ်၊ လက်တံရှည်နှင့်လက်တံတို သို့မဟုတ် ချည်ချောင်းတို့ဖြစ်ကြသည်။ (ချည်ချောင်း — လည်းရှူ။)

ခရာတံပိုးစသည်တို့ ဖြစ်ပေါ်လာပုံကို ရှေ့ဘုံနိဒါန်းကျမ်းတွင် ဖေါ်ပြထားသည်မှာ အလောင်းစည်သူဇမ္ဗူလည်သည့်ကာလ ကျွန်းဦးသပြေပင်သို့ရောက်သည်။ ထိုဇမ္ဗူ့သပြေပင်ကို လေလာ၍လေခတ်သည့်အသံ၊ အခက်အရွက်ချင်းထိခိုက်သည့်အသံ၊ ဇမ္ဗူ့သပြေသီး ရေသို့ကျသောအသံ၊ ရေမှပေါ်သည့်အသံတို့သည်အညီအညွတ်မရှေးမနှောင်းဖြစ်ကြ၍ သာယာနာပျော်ဖွယ်ရှိလေသည်များကို နှုန်းစံနှိုင်းရှည့်၍၊ တံရှည်တံမြွှာ၊ သပြေသာခရာ၊ လင်းကွင်းများမှာ လေလာ၍ ပင်စည်အကိုင်းအခက်တို့ကို လေခိုက်သည့်အဟုန်၏အသံ၊ တံပိုးဒုံမင်းမှာ အကိုင်းအခွအကွေးအဝိုက်ကို လေခတ်၍မြည်သည့်အသံများကို သဒ္ဒသဏ္ဌာန်ပြု၍ တီးမှုတ်ဆောင်ရွက်လေသည်ဟူ၍ဖြစ်သည်။ ရှေးအခါက ကမ္ဘာအရပ်ရပ်တွင် တိရစ္ဆာန်ဦးချိုများကို ခရာတံပိုးအဖြစ်အသုံးပြုကြသည်။ ထိုမှတဆင့်တက်ကာ နောင်အခါ၌ ဦးချိုပုံကိုတု၍ ကြေးဖြင့်ခရာများကို ပြုလုပ်ကြသည်ဟု အနောက်တိုင်းသားများကဆိုသည်။ ယခုထက်တိုင် ဦးချိုများကိုသာမဟုတ် ခရုသင်းများကိုလည်း ခရာတံပိုးအဖြစ် အသုံးပြုကြလေသည်။



ခရာမှုတ်နေသည့်ကုန်းဘောင်ခေတ်မြန်မာတဦးပုံ

ထိုသို့ ဦးချိုနှင့်ခရုသင်းများကို တံပိုးအဖြစ် အသုံးပြုကြသည်မှာ မှုတ်၍အသံမြည်သောကရိယာအဖြစ် ပြုလုပ်ရန်လွယ်ကူသည်ကတကြောင်း၊ မှုတ်လိုက်သောအခါ ခရီးအဝေးမှ ကြားနိုင်သည်ကတကြောင်း တို့ကြောင့်ဖြစ်သည်။ အထူးသဖြင့် တောလိုက်မုဆိုးများ၊ ဆင်ဖမ်းသမားများ၊ လှေသမ္ဗန်သမားများသည် တဦးကိုတဦး အချက်ပေးရာ၌ တံပိုးကိုအသုံးပြုကြသည်။ ဦးချိုဖြင့်ပြုလုပ်သော တံပိုးမှုတ်သည်ကို အချို့အရပ်များတွင် ကဒိုးမှုတ်သည်ဟု ခေါ်လေသည်။ ခရာတံပိုးကဒိုးများသည် ယခုတိုင်အောင် ခေတ်မတိမ်သေးချေ။

လူတို့သည် ဦးချိုတံပိုးများကို အသုံးပြုကြရာမှ အခင်တပ်၍မှုတ်ရသောနှဲ၊ ကြေးစသည်ဖြင့် ပြုလုပ်သောခရာ၊ ခလုတ်တပ်ခရာများကို တစတစ စမ်းသပ်တီထွင်လာကြ၏။ ဥရောပတိုက်သားများ မှုတ်သောခရာသံကို မြန်မာတို့ကြားရသောအခါ ထိုခရာသံတီးကွက်များ အတုယူ၍ ခရာသံသီချင်းဆန်းများကို တီထွင်ကြသည်။

မြန်မာ ၁၂၄၀ ပြည့်နှစ်ခန့်တွင် စတိုင်မှတ်ဦးကူးရေးသောဝေဿန္တရာပြဇာတ်၌ ခရာသံ သီချင်းများကို တွေ့ရလေသည်။ ယခုအခါအသုံးပြုလျက်ရှိသော ခရာများကို အဓိကအားဖြင့် သုံးမျိုးခွဲထားနိုင်သည်။

ပဌမအမျိုးမှာ စစ်တပ်များ၌အသုံးပြုသော အဝကျယ်ခရာမျိုး၊ ဒုတိယမျိုးမှာ ဗဲလဂျီယန်လူမျိုး အဒေါ့ဆက်ဆိုသူထွင်သော ဆက်ဆဟွန်းခေါ် ခရာမျိုးနှင့် တတိယအမျိုးမှာ မှုတ်ရအလွန်ခက်သော ပြင်သစ်ခရာမျိုးဖြစ်၏။ ယခုခေတ်တူရိယာသံစုံတီးဝိုင်းများတွင် အသုံးပြုသောခရာများအနက် ပြင်သစ်ခရာကိုသာလျှင် ခရာအစစ်ဟုခေါ်ကြ၏။ တံပိုးခရာ လက်နှိပ်ခလုတ်ပါသော ကောနက်ခရာ၊ ခရာရှည်ကြီးစသည်တို့ကို ခရာဟူ၍မခေါ်ကြတော့ဘဲ၊ တံပိုးခရာများဟူ၍ အသိအမှတ်ပြုထားကြလေသည်။ တံပိုးခရာများအနက် ဆက်ဆဟွန်းခေါ် တံပိုးခရာမှာ စင်စစ်အားဖြင့် ပဌမအမျိုးအစား အဝကျယ်ခရာမျိုးတွင် လက်နှိပ်ခလုတ်ဖြင့်အခင်များကို ထိန်းမှုတ်ရသောခရာဖြစ်၍၊ နှုတ်ခမ်းတေ့မှုတ်ရသောနေရာ၌ ခွက်ငယ်ပုံကရိယာ တပ်ဆင်ထားသည်။ ယူဖိုးနီးယမ်းခေါ် မှုတ်ခရာမှာလည်း ဆက်ဆဟွန်းခရာတမျိုးပင်ဖြစ်သည်။

ဆက်ဆိုဖုန်းခေါ် ကြေးနှဲကြီးမှာ မြန်မာနှဲကဲ့သို့ အခင်တပ်၍မှုတ်ရသော တူရိယာမျိုးဖြစ်သည်။ အဒေါ့ဆက် ထွင်ခဲ့သော တူရိယာကရိယာဖြစ်သည်။ စစ်တီးဝိုင်းများနှင့် ခေတ်သစ်အကတီးဝိုင်းများ၌ ထိုနှဲကြီးကိုအသုံးပြုကြသည်။



ခရာပင်၏လှပသောအပွင့်များ

ထရမ်းပက်ဟူသော ခရာမျိုးမှာ အလျား ၈ ပေရှိ၍ အဝကျယ်မှာ ⅜ လက်မ (၃ မူး) မျှသာရှိသည်။ အဖျားဖက်သို့ ခေါင်းလောင်းပုံကားနေသည်။ ထိုမျှအလျားရှည်သောပြွန်တံကို ကိုင်ရလွယ်ကူအောင် ကွေး၍ခွေထားသည်။ ယင်းသို့ ကွေးထားခြင်း သို့မဟုတ်ဝိုင်းခွေထားခြင်းဖြင့် ထရမ်းပက်ကို မှုတ်ရာ၌၊ ပင်ကိုယ် သံမပျက် နိုင်ပေ။ ထရမ်းပက်တွင် ပြွန်တံပေါက် ကျဉ်း၍ အလျားရှည် သဖြင့် မှုတ်သည့် အခါ၌ ကြည် လင် စူး ရှသော အသံမျိုး ထွက်ပေါ် လာသည်။ အခင် များမရှိသဖြင့် ခလုတ် များ မလို ပေ။ မှုတ် သူသည် လေယူလေသိမ်း မှန် မှသာလျှင် အသံကိုလိုသလို နှိမ့်ချည်၊ မြင့်ချည်ထုတ်နိုင်သဖြင့် အမှုတ်ရခက်သည်။ ထိုကြောင့် ထ ရ မ်း ပက် အစား လ က် နှိ ပ် ခ လု တ် ပါသော ကော န က် ခ ရာ တို မျိုး ကို အသုံးပြုကြသည်။ ထိုခရာမှာ တူရိယာဝိုင်းတွင် အရွယ်အားဖြင့် အငယ်ဆုံး ကရိယာဖြစ်သော်လည်း အရေးကြီးဆုံးတူရိယာဖြစ်သည်။ ကောနက်တွင်

ပြွန်ကျပ်သုံးခုပါ၍၊ ထိုပြွန်ကျပ်တို့၏ခလုတ်များကို နှိမ့်ချည်မြင့်ချည်ဖြင့် အသံကိုအမျိုးမျိုးပြောင်းကာ မှုတ်နိုင်၏။ ထရွမ်ဗုန်းခေါ် ခရာရှည်ကြီးမှာ၊ မှုတ်သူက လျှော့ရတွန်းရသည့်ခလုတ်ကို ကျင်လျင်စွာတွန်း၍ ဆုတ်၍ ပေးခြင်းဖြင့် အသံကိုပြောင်းစေနိုင်၏။ ကျူဗာခေါ် ဗွေသံခရာတမျိုးမှာ ကြေးနှင့်လုပ်သောခရာများတွင် အသံလေးလေးနက်နက် မှုတ်နိုင်သောခရာဖြစ်၍ ကောနက်ကဲ့သို့ အခင်များရှိသည်။ ပြင်သစ်ပြည့်ရှင် ၁၅ ဆက်မြောက် လူဝီဘုရင် လက်ထက်၌ အမဲလိုက် မုဆိုးများ အသုံးပြုသော ခရာတမျိုးမှာ တံပိုးကဲ့သို့ပြွန် တံရှည် ကြီး ဖြစ်၏။ ထိုခရာကို ဝိုင်း၍ ခွေထားခြင်းဖြင့် အမဲလိုက်ရာ၌ ပခုံးတွင်လွယ်၍ ယူဆောင်နိုင်၏။ ထိုခရာမျိုးကိုပြင်သစ်ခရာဟုခေါ် လေသည်။

**ခရာပင်။** ။ခရာပင်သည် 'အကင်းသပ်' မျိုးရင်းတွင်ပါဝင်သော နှစ်ကြာခံအပင်ဖြစ်သည်။ 'အကင်းသပ်' ပင် မျိုးစိတ်ပေါင်း ၂၀ မျှရှိသည်။ မြေထဲပင်လယ်ဒေသများ၊ အာရှတိုက် နှင့် အာဖရိကတိုက်ရှိ နွေးသောနေရာများသည် 'အကင်းသပ်' ပင်မျိုးပေါက်ရာဒေသများ ဖြစ်ကြောင်း ရှာဖွေတွေ့ရှိရလေသည်။

မြန်မာနိုင်ငံရှိ ခရာပင်ကို ရုက္ခဗေဒအလိုအားဖြင့် 'အကင်းသပ်အီလီစီဖိုးလီးယပ်' ဟုခေါ်သည်။ ထိုအပင်သည် ရေစပ်တွင်ပေါက်လေ့ရှိ၍ အမြင့် ၅ ပေခန့်ရှိသည်။ ပင်စည်၏ အရွယ်မှာ လက်ညှိုးလက်မခန့်သာရှိပြီး တပင်လုံးတွင် ဆူးများရှိသည်။ အပွင့်၏ပမာဏမှာ အချင်း ၃ လက်မသာရှိသည်။ အရောင်မှာ ခရမ်းရောင် နု ဖြစ် သည်။ အရွက်နှင့် အမြစ်များမှ အဆီထုတ်ယူပြီးသော် လိမ်းဆေးအဖြစ်လည်း အသုံးပြုကြသည်။

စစ်သုံးအဝကျယ်ခရာများပြိုင်တူမှုတ်လေ့ရှိသည်ကိုမြင်ရပုံ





ဂရင်းလန်ကျွန်းသို့ထွက်ခဲ့ကြသော အာတိတ်စွန့်စားရှာဖွေသူများ

**ခရီးထွက်စူးစမ်းခြင်း။** ။ခရီးထွက်စူးစမ်းခြင်းဟူသည်မှာ သာမန်အားဖြင့် လူသူမရောက်ပေါက်သေးသော ဒေသသစ်များကို စူးစမ်းရှာဖွေလေ့လာခြင်းပင်ဖြစ်သည်။ သို့သော် စူးစမ်းရှာဖွေမှုနယ်သည် အလွန်ကျယ်ဝန်းသည်။ ဒေသတခု၌ မှီတင်းနေထိုင်သော လူ၊ တိရစ္ဆာန်၊ သစ်ပင်တို့နှင့်တကွ ယင်းတို့နှင့်မကင်းရာမကင်းကြောင်းဖြစ်သော စီးပွားရေး၊ လူမှုရေး၊ ယဉ်ကျေးမှုကိစ္စ ဟူသမျှတို့သည် သုတေသီပုဂ္ဂိုလ်တို့အတွက် လေ့လာဖွယ်ရာချည်းဖြစ်ပေသည်။ ထို့ကြောင့် စံနစ်တကျစူးစမ်းလေ့လာကြသည့်အခါ စူးစမ်းရေးအဖွဲ့သည် ရည်ရွယ်ချက်တခုခုကို သတ်မှတ်ကာ ကျွမ်းကျင်သူပုဂ္ဂိုလ်များနှင့်စုပေါင်း၍ ခရီးထွက်ပြီးလျှင်၊ အများမသိသေးသော ကိစ္စရပ်တို့ကို သိအောင်ရှာဖွေကြလေသည်။

ထို့ကြောင့် စူးစမ်းရှာဖွေမှုနယ်ကျယ်လာသောဤခေတ်၌ လူမရောက်သောဒေသကိုသာ စူးစမ်းရှာဖွေသည်မဟုတ်ဘဲ၊ ဤကမ္ဘာမြေအတွင်း၌လူတို့မသိသေးသမျှသောအကြောင်းခြင်းတတို့ကို သိရှိရအောင် စူးစမ်းရှာဖွေကြသည့်အပြင် နက္ခတ္တဗေဒသုတေသန လုပ်ငန်းအတွက် ဤကမ္ဘာမြေကို ကျော်၍ကမ္ဘာနှင့်နီးသောဂြိုဟ်ကြီးဂြိုဟ်ငယ်တို့ထံအရောက် ခရီးထွက်ကြရန်ကိုပင် ကြံစည်လျက်ရှိကြပြီဖြစ်သည်။

ဂရိတို့၏ ရှေးကျသောခေတ်က ဥရောပတိုက်ဆုံးလျှင် ကမ္ဘာမြေ၏အဆုံးသို့ ရောက်ပြီဟုယူဆခဲ့ကြသည်။ ထိုခေတ်နှင့် ကမ္ဘာမြေကြီးသည် လုံး၏ဟုယူဆလာသော ဤမျက်မှောက်ခေတ်ကို နှိုင်းရှည့်ဆင်ခြင်သော်၊ လူ့အတွေးအခေါ်များ မည်မျှကျယ်ဝန်းလာပြီကိုသိနိုင်သည်။ ယင်းသို့အတွေးအခေါ် ကျယ်ဝန်းလာ၍ ယဉ်ကျေးမှုအဆောက်အအုံ ကြီးမားလာရသည်မှာ ခရီးထွက်စူးစမ်းသူများကြောင့်ဖြစ်၏။

ဥရောပသမိုင်း၌ ဥဘဏ်သစ်အရေးပုံခေါ်သော ခေတ်ဆန်းချိန် (ရီနေဆွန်း) ခေတ်တခေတ်တွင်ခဲ့သည်။ ထိုခေတ်၌ သစ်ဆန်းသော အတွေးအခေါ် နှင့် အမြော်အမြင်တို့က စေ့ဆော်ခြင်းကြောင့် ကိုလံဗပ် စသော ခရီးသည်တို့သည် ရေကြောင်းခရီးဖြင့်စွန့်စားသွားလာခဲ့ကြသည်မှာခရီးထွက်စူးစမ်းခြင်း၏ အစဟုဆိုလောက်ပေသည်။ သို့သော် သူတို့ထက်စော၍ ရေသစ်မြေသစ်တို့ကိုရှာဖွေကာ ယဉ်ကျေးမှုကို ပျံ့နှံ့အောင် ဖြန့်ချီခဲ့သောခရီးသည်တို့ကား ရှေးနှစ်ပေါင်း ၂၀၀၀ ကျော်ကပေါ် ပေါက်ခဲ့သည့် ဖိနီရှန်လူမျိုး ကုန်သည်များပင်တည်း။

သို့သော် ဖိနီရှန်ကုန်သည်များ နှင့် ကိုလံဗပ်ကဲ့သို့သော ရေမြေသစ်ရှာသမားများသည်ယဉ်ကျေးမှုပျံ့နှံ့ရေးအတွက် ရှေ့ဆောင်လမ်းပြများသာဖြစ်သည်။ ကမ္ဘာ့ရေမြေတဝှန်းလုံးကိုယဉ်ကျေးမှုရောင်ခြည်လွှမ်းခြုံနိုင်သည်ကားသိပ္ပံပညာ ထွန်းကားလာသော ခေတ်ရောက်မှသာလျှင်ဖြစ်ပေသည်။

သိပ္ပံပညာ ထွန်းကားသောခေတ်တွင် အစောဆုံးနှင့်

အကျော်ကြားဆုံး ခရီးထွက်စူးစမ်းသူများမှာ ဗြိတိသျှရေကြောင်းဌာနမှ စေလွှတ်သော 'ချဲလင်းဂျား' ခေါ် ဘုရင့်သင်္ဘောဖြင့် တောင်ပင်လယ်တကြောသို့ ထွက်ခဲ့သည့်အဖွဲ့ဝင်များပင်တည်း။ ချဲလင်းဂျားသင်္ဘောသည်ထိုခရီးအတွက် ကရိယာရိက္ခာတို့ကို အထူးတလည် စီစဉ်ပြင်ဆင်၍၊ ၁၈၇၂ ခုနှစ် ဒီဇင်ဘာလမှ ၁၈၇၄ ခုနှစ် မေလအထိ တနှစ်ခွဲခန့် တောင်ပင်လယ်များကို အစုန်အဆန် ကူးသန်းခဲ့သဖြင့် မရောက်မပေါက်ဘူးသေးသော မြေသစ်ရေသစ်တို့ကို ရှာဖွေတွေ့ရှိခဲ့ရုံမျှမကရေနေသတ္တဝါဆိုင်ရာဇဟုသုတများကိုလည်း ဆည်းပူးနိုင်ခဲ့ပေသည်။ ချဲလင်းဂျားသင်္ဘောဖြင့် ခရီးထွက်ခဲ့သောသိပ္ပံပညာသည်အဖွဲ့၏မှတ်သားဖွယ်ကောင်းလှသော အစီရင်ခံစာကြီးမှာ အုပ်တွဲပေါင်း ၅၀ ရှိသဖြင့် မည်မျှခရီးရောက်ခဲ့သည်ကို ခန့်မှန်းနိုင်လေသည်။

ထိုရှာဖွေစူးစမ်းမှုတို့တွင် တိရစ္ဆာန်၊ သစ်ပင်ပန်းမာလ်၊ အရာဝတ္ထုများကို ရုပ်ရှင်ရိုက်ကူး၍ ဇဟုသုတအလို့ငှာ မှတ်တမ်းတင်ရန်ရည်ရွယ်ချက်ဖြင့် ခရီးထွက်ခြင်းလည်းရှိသည်။ ထိုမှတပါး သိပ္ပံပညာဆိုင်ရာ စူးစမ်းရှာဖွေမှုအတွက်လည်း အဖွဲ့လိုက်ခရီးထွက်ကြသည်။ မြင့်မားလွန်း၍ လူသာမန်တို့ တက်ရောက်ခြင်းငှာ မစွမ်းနိုင်သော တောင်ထိပ်များသို့ ရောက်အောင်တက်ခြင်း၊ နေကြတ်ခြင်း၊ လကြတ်ခြင်းစသည်တို့ကို ဓာတ်ပုံရိုက်ယူရန် အမြင်နိုင်ဆုံးနေရာများကို ရှာဖွေသွားရောက်ခြင်း၊ တောင်နှင့်မြောက်ဝင်ရိုးစွန်းဒေသများသို့ ကုန်စည်ဖေါက်ကားရောင်းဝယ်မှုဖြင့် သွားရန်ဖြစ်နိုင်မဖြစ်နိုင် စသည်တို့ကို သွားရောက်စုံစမ်းခြင်း၊ သေနင်္ဂဗျူဟာအတွက် စစ်တက်စစ်ချီ စခန်းကောင်းမကောင်း စုံစမ်းခြင်းစသည်တို့ကိုလည်း ခရီးထွက်အဖွဲ့များဖွဲ့၍ပြုလုပ်ဆောင်ရွက်ခဲ့ကြသည်။

ထိုပြင်လူမျိုးတမျိုး၏လူမှုရေးနှင့်ယဉ်ကျေးမှုတို့ကို စူးစမ်းလေ့လာရန် ခရီးထွက်သည်လည်းရှိသေးသည်။ ဘာသာ၊ အယူဝါဒ၊ဓလေ့ထုံးစံစသည်တို့ကို စူးစမ်းရန်အလို့ငှာ တဦးချင်းအနေနှင့်ရင်း၊ အဖွဲ့ဖွဲ့၍ရင်း၊ ခရီးထွက်ကြသောကြောင့် ကမ္ဘာပေါ်ရှိလူမျိုးတို့သည် တဦးနှင့်တဦး မည်သို့နွယ်ကြသည်၊ ကွဲပြားခြားနားကြသည်ဟူသောအချက်တို့ကို လူမျိုးရေးသမိုင်းအတွက် ကျွန်ုပ်တို့သိကြရပေသည်။ (ရေသစ်မြေသစ်ရှာဖွေခြင်း။ ကိုလံဗပ်, စီ။ ဉာဏ်သစ်အရေးပုံ။ — လည်းရှု။)

ကမ္ဘာပေါ်တွင် လူသူမရောက်မပေါက်နိုင်သေးသည့်ဒေသများ အများအပြားပင် ရှိသေးရာ တိုးတက်လျက်ရှိသော သိပ္ပံပညာရပ်များ၏အစွမ်းဖြင့်ရှာဖွေလျှင်ထိုဒေသများတွင် လူတို့အဖို့ အကျိုးထူးစေမည့် အရာဝတ္ထုအချက်အလက်



စွန့်စားရှာဖွေသူပီရီအား မြောက်ဝင်ရိုးစွန်းစခန်းတွင်မြင်ရပုံ

များမရှိဟု မည်သူပြောနိုင်အံ့နည်း။ လူတို့၏အကျိုးစီးပွား သည် မြေ၌ရှင်း၊ရေ၌ရှင်း၊လေ၌ရှင်း ရှိသည်သာဖြစ်၏။ ရှာ နိုင်လျှင် တွေ့သည်ဟုယုံကြည်သော လက်တွေ့သမားများ ကလည်း ငွေကြေးအကုန်အကျခံကာ စူးစမ်းရှာဖွေကြသည် သာဖြစ်လေသည်။ ထို့ကြောင့်ပင် ကမ္ဘာမြေကြီးမှ ရွှေ ငွေကျောက်သံပတ္တမြားနှင့်တကွ ရွှေရည်ဟုခေါ်ရလောက် အောင် အဖိုးတန်သော ရေနံ၊ဓာတ်ဆီများကို နေရာအနှံ့ အပြား တူးဖော် ရရှိခဲ့ကြပေပြီ။ ပင်လယ်ရေ၏အောက်ခြေ မှလည်း အဖိုးတန်ပစ္စည်း အမျိုးမျိုးကို ရအောင်ယူ ဆောင်နိုင်ခဲ့ကြပြီ။

ထိုကဲ့သို့သောအကျိုးထူးများကို ခံစားရသည်မှာ မျက် မြင်လက်တွေ့ဖြစ်ရကား စီးပွားရေးအမြင်ကျယ်သူ လုပ်ငန်း ရှင်ကြီးများ၊ အစည်းအရုံးအသင်းအပင်းများ၊ အစိုးရအဖွဲ့ များက ငွေကြေးအကုန်အကျခံကာ မိမိတို့ရည်ရွယ်ချက်ရှိ သည့်လုပ်ငန်း၌ ကျွမ်းကျင်သူများကို ရွေးချယ်ဖွဲ့စည်း၍ လူအများလမ်းမထွင်ရသေးသော ရေမြေဒေသအများသို့ စေလွှတ်ခဲ့ကြလေသည်။ ယင်းသို့ ခရီးထွက်စူးစမ်းရာတွင် ဝင်ရိုးစွန်းဒေသများသို့ သွားရသောခရီးမှာ အခက်ခဲဆုံးနှင့် အစွန့်စားရဆုံးဖြစ်သည်။ ထိုပြင် ထိုသို့ ခရီး ထွက် စူးစမ်းခဲ့ သည်တွင် ရေသစ်မြေသစ် များကို တွေ့ရှိခဲ့ရခြင်းမှာ အမှတ်မထင်တွေ့ ရှိ ခဲ့ရခြင်း ဖြစ်၍၊ အများအားဖြင့် သော်ကား စီးပွားရေး အတွက် ရှာဖွေထောက် လှမ်းရန် ကိစ္စများ သာဖြစ် ခဲ့ပေသည်။

ကမ္ဘာပေါ်တွင် မြေသစ် ရေသစ်နောက်ထပ်ရှာဖွေ ရန် မရှိတော့သည့်တိုင်၊ အနည်းနှင့်အများ ဆိုသလို လူသူအရောက်အပေါက် ခက်ခဲသေးသောဒေသများ ကို အသေးစိတ်ရှာဖွေ လေ့လာရန် အတွက် ကျန် ရှိသေးသည်။ ကမ္ဘာပေါ် တွင်အမြင့်ဆုံးဖြစ်သည့် ပေ ၂၉,၀၀၀ ကျော်မြင့် သော ဧဝရက်တောင်ထိပ် သို့ တက်ရောက်နိုင်ရန် ကြိုး ပမ်း ချက် သည်ပင်အောင် မြင် ခဲ့ပြီဖြစ်၏။ ၁၉၅၃ ခု မေလ ၂၉ ရက်နံနက် ၁၁ နာရီခန့်တွင် ကာနယ်ဟန့်ခေါင်း ဆောင်သည့် တောင်တက်အဖွဲ့မှ နီပေါလူမျိုး တင်ဆင် ဆိုသူနှင့် နယူးဇီလန်ကျွန်းသား အက်ဒမန် ဟီလာရီ ဆိုသူတို့ သည် အဆိုပါတောင်ထွတ် သို့အောင်မြင် စွာတက် ရောက် နိုင်ခဲ့ကြပြီဖြစ်လေသည်။

**ခရုခွံ။** ။ခရုခွံဆိုရာ၌ ခရု၊ကမာ၊ရှုပ်၊ယောက်သွားစသော ခရုမျိုးဝင် တိရစ္ဆာန်အမျိုးမျိုးတို့၏ အခွံအားလုံးကို ဆိုလို သည်။ ခရု၏အခွံသည် ခရုကောင်၏ခန္ဓာကိုယ်ထက်ကြီးကာ အပြင်ဖက်၌တည်ရှိ၍ အကာအကွယ်အလို့ငှာဖြစ်သည်။ သို့ သော် ပက်ကျိ၊ ကင်းမွန်၊ ဘဝဲစသော အကောင်များတွင် အခွံသည် ခန္ဓာကိုယ်အတွင်း၌ တည်ရှိတတ်သည်။ ထိုအခွံမျိုး သည်များသောအားဖြင့် သေးငယ်တတ်သည်။ အချို့ခရုမျိုး ၌ကား အခွံဟူ၍လုံးဝမပါရှိချေ။

ခရုခွံများကို ပင်လယ်ကမ်းခြေ၌ တွေ့ရဖန်များတတ်သည်။ သို့သော် ပင်လယ်ထဲ၌လည်း အနှံ့အပြားရှိသည်။ အချို့မှာ ပင်လယ်ကမ်းရိုးတန်းရှိ ရွံ့နွံများအောက်၌ နစ်မြုပ်နေ၍၊ အချို့မှာ ပင်လယ်အောက်သို့ ကျနေတတ်သည်။ တခါတရံ ကမ်းမှမိုင်ပေါင်းများစွာဝေးကွာသည့် ပင်လယ်ရေပြင်၌ ပေါ် လောမျောနေသည့် ခရုခွံ များလည်းရှိသည်။ ရေငန် ရပ်တွင်သာမဟုတ်၊ ရေချို ရပ်၌လည်း ခရုခွံအများ ကိုတွေ့နိုင်သည်။ လွန် လေပြီးသောအခါက ပေါ် ပေါက် ခဲ့သောပင် လယ် သမုဒ္ဒရာတို့သည်နှောင်း ကာလ၌ တိမ်ကောသွား တတ်သည်။ ထိုအခါ ပင် လယ်အောက်ရှိမြေသည် ပေါ် လာပြီး လျှင်မြင့်မား သောကုန်းမြင့်တောင်တန်း ဖြစ်လာတတ်သည်။ ထို ဒေသများ၌ ခရုခွံတို့၏ ကျောက်ဖြစ်ရုပ်ကြွင်းများ ကိုတခါတရံတူး ဖော် ရရှိ တတ်သည်။

ခရုကိုယ်၏ကျောမှ စိမ့်၍ ထွက်လာသောအရည် သည် စစ်၍ခြောက်သွား သောအခါ ခရုခွံဖြစ်လာ သည်။ ထိုအခွံများတွင်


ခရုခွံအမျိုးမျိုး ပြတိုက်တွင်ပြသထားစဉ်

အဓိကပါဝင်သောပစ္စည်းတို့မှာ ထုံးကျောက်၊ မြေဖြူ၊ စကျင်ကျောက်စသည်တို့၏ အရင်းခံပစ္စည်းဖြစ်သော ကယ်လဆီယမ်ကာဗွန်နိတ်ပင်ဖြစ်သည်။ ထို့ကြောင့် ခရုခွံများကို မီးတိုက်လျှင် ထုံးရစမြဲဖြစ်၏။ ခရုကောင်ကြီးမှား လာလေလေ၊ အခွံလည်းထူလာလေလေဖြစ်သည်။

ခရုခွံတွင် အလွှာသုံးလွှာရှိသည်။ အပြင်ဖက်ဆုံးအလွှာသည် ချိုသားဖြစ်၍ ထုံးဓါတ်မပါဝင်ချေ။ ထိုအောက်ရှိ ဒုတိယအလွှာ၌ ကယ်လဆိုက်ဓါတ်ဖြင့်ပြီးသော သေးငယ်သည့်ပရစ်ဇမ် ပုံပစ္စည်းကလေးများပါရှိသည်။ အောက်ဆုံးအလွှာမှာ ပုလဲရောင်ထ၍ ချောမွေ့ပြောင်လက်နေသော



ရေစပ်တွင်ကျက်စားလေ့ရှိသည့်ခရုစုတ်ငှက်

ကနုကမာ အလွှာဖြစ်၏။ ထိုအလွှာတွင် ထုံးဓါတ်ပါဝင်သောပစ္စည်းနှင့် ချိုသားပါဝင်သောပစ္စည်းတို့သည် တလွှာပေါ် တလွှာဆင့်၍ တည်နေကြသည်။ ထိုသို့ အလွှာလွှာထပ်နေသောအဆင့်တို့၌ လွတ်နေသော အစွန်းများရှိသည်။ ထိုအစွန်းများသို့ အလင်းရောင်ဖြတ်သွားသည့်အခါ အလင်းရောင် သည် ယိုင် သွားပြီးလျှင် စိမ်း၊ နီ၊ ဝါ၊ ပြာ စသော သက်တံရောင်များသည်ဖြစ်ပေါ် လာလေသည်။ ထို့ကြောင့် ကနုကမာအထပ်သည် အများက နှစ်သက်တန်ဖိုးထားရလောက်အောင် တောက်ပြောင်လှပလေသည်။

အပြင်ဖက်ရှိ ခရုခွံ၏အရောင်သည် အမျိုးမျိုးရှိသည်။ သို့သော် အစိမ်းရောင်ချည်းသော်၎င်း အပြာရောင်ချည်းသော်၎င်း မရှိချေ။ အရောင်အမျိုးမျိုး ဒွေးရောယှက်တင်ရှိတတ်သည်။ အပူပိုင်းဒေသတွင် တွေ့ရသောခရုခွံများသည် သမပိုင်းဇုန်တွင်တွေ့ရသော ခရုခွံများထက် ပို၍လှပတောက်ပြောင်သည်။

ခရုခွံများတွင် ပုံသဏ္ဌာန်အမျိုးမျိုး ရှိကြသော်လည်း အကြမ်းအားဖြင့် နှစ်မျိုးနှစ်စားခွဲခြားထားသည်။ တမျိုးမှာ ခရုလုံး၊ ခရုစေတီတို့ကဲ့သို့ အခွံတခုတည်းသာရှိ၍ ယင်းကိုအခွံထီးဟုခေါ်သည်။ အခြားတမျိုးမှာ ရှပ်၊ ကမာ၊ ယောက်သွားတို့ကဲ့သို့ တနေရာတွင် ပတ္တာသဘောဖြင့်ဆက်နေသော အခွံနှစ်ခုရှိ၍၊ ယင်းကိုအခွံစုံဟုခေါ်သည်။ ကုန်းခရုမျိုးတို့၏အခွံများသည် အခွံထီးများသာ ဖြစ်ကြ၍၊ ရေခရုမျိုးတို့၏အခွံများတွင် အခွံထီးရော အခွံစုံပါ နှစ်မျိုးစလုံးတွေ့ရသည်။

ယနေ့အထိ အကြီးဆုံးသော ခရုခွံများကို အိန္ဒိယနှင့် ပစိဖိတ်သမုဒ္ဒရာတို့တွင်တွေ့ရသည်။ ထိုအခွံများမှာ ကမာခွံအကြီးစားမျိုးနှင့် သဏ္ဌာန်တူ၍ အချင်းနှစ်ပေမှ သုံးပေအထိရှိပြီးလျှင် အလေးချိန်မှာ တခါတရံ ပေါင် ၄၀၀ ပင်ကျော်တတ်ပေသေးသည်။ ထိုအခွံကြီးများသည် အလွန်မာသောကြောင့် ကယ်ရိုလိုင်းကျွန်းများရှိ တိုင်းရင်းသားတို့သည် ယင်းအခွံများကိုပုဆိန်များပြုလုပ်၍သုံးစွဲကြသည်။ ပုလဲနှင့်ရေမြှုပ်ငုပ်သမားများသည် ပင်လယ်အောက်၌ တခါတရံ ထိုအကောင်ကြီးမျိုး အညှပ်ခံရသဖြင့် ရေနစ်သေဆုံးကြရ၏။ တခါတရံလည်း အညှပ်ခံရသောခြေလက်ကို ပိုင်းဖြတ်၍ ကိုယ်လွတ်ရုန်းခဲ့ရဘူးသည်ဟုဆိုလေသည်။

ခရုခွံများ၏ ကနုကမာအလွှာမှ ရင်ထိုး၊ ကြယ်သီး၊ လည်ဆွဲစသောပစ္စည်းများကို ပြုလုပ်ရောင်းချလေ့ရှိကြသည်။ ဆေးလိပ်ခွက်၊ ပြာပန်းကန်အစရှိသော စားပွဲတင်အသုံးအဆောင်များလည်း ပြုလုပ်ကြသည်။ ရှေးကျသည့်လူမျိုးအချို့သည် ခရုခွံများကို ကြေးငွေပိုက်ဆံအဖြစ်ဖြင့် အသုံးပြုကြ၏။ အိန္ဒိယနှင့်ပစိဖိတ်သမုဒ္ဒရာအတွင်းရှိ ကျွန်းနေတိုင်းရင်းသားအချို့သည်၎င်း၊ အာဖရိကတိုက်အတွင်းပိုင်းရှိ တိုင်းရင်းသားအချို့သည်၎င်း၊ ခရုခွံများကို ယနေ့တိုင်အောင် ပိုက်ဆံကြေးငွေအဖြစ် အသုံးပြုလျက်ရှိသေးကြောင်းသိရလေသည်။

**ခရုစုတ်ငှက်**။ ။သာမန်အရပ်သားတို့က ခရုကိုစုတ်၍စားတတ်သော ငှက်မျိုးအားလုံးကိုသိမ်းကျုံး၍ ခရုစုတ်ငှက်ဟုခေါ်သည်။ သို့သော် ထိုငှက်မျိုးကို ပါဏဗေဒအလိုအားဖြင့်ခွဲခြားလိုက်လျှင် (၁) ခါရာဒြီဖေါင်း မျိုးစဉ် စကိုလိုပါစီဒေ မျိုးရင်း၌ အပါအဝင်ဖြစ်သည့် နျူမင်နီယပ် အာကွာတာခေါ် ခရုစုတ်ငှက်နှင့် (၂) စီကိုနီဖေါင်း မျိုးစဉ် သရက်စကီအော်နိသိဒေနှင့် စီကွန်နီဒေ မျိုးရင်း၌ အပါအဝင်ဖြစ်သည့် ခရုစုတ်ငှက်မျိုးဟူ၍ နှစ်မျိုးနှစ်စား ရှိလေသည်။ ခါရာဒြီဖေါင်းမျိုးစဉ်ဟုသတ်မှတ်သည်မှာ ကြာဖက်နင်းငှက်တို့ကဲ့သို့ ရေတွင်ပေါလောပေါ်လျက်ရှိသော သစ်ရွက်သစ်ပင်တို့ကို နင်း၍သွားနိုင်အောင် ခြေသည်းရှည်သောကြောင့်



တအုပ်လျှင်ကောင်ရေ ၁၀၀၊ ၂၀၀ ရှိသောခရုစုတ်ငှက်များသည် ရာသီအလိုက်ပြောင်းရွှေ့ပျံသန်းနေကြပုံ

ဖြစ်သည်။ စီကိုနီဖေါင်း မျိုးစဉ်၌ ပါဝင်သောငှက်တို့၏ နှုတ်သီးသည် ရှည်လျားကောက်ကွေး၍သော်၎င်း၊ ပြား၍ သော်၎င်းရှိတတ်သည်။

ရှေးမြန်မာတို့က မိန်းမလက်သည်းဟုခေါ်သော ခရုစုတ်ငှက်မှာ ပဌမမျိုးစဉ်တွင်ပါဝင်သော နျူမင်နီယပ်အာကွာတာငှက်ဖြစ်သည်။ အင်္ဂလိပ်အခေါ်အားဖြင့် ကာလျူးဟုခေါ်သည်။ ရခိုင်တိုင်းတွင် ဤငှက်ကို ကုလားကောက်ဟုလည်းခေါ်သည်။ ဤခရုစုတ် ငှက်မျိုးကို ပါဏဗေဒပညာရှင်တို့က စနိုက်ငှက်နှင့် မျိုးတူဟု ပြဆိုကြသည်။ ထိုငှက်မျိုးတွင်နှုတ်သီးသည်ရှည်၍ အောက်ဖက်သို့စိုက်ကာ ကွေးနေတတ်သည်။ အချို့သောခရုစုတ်တို့၏နှုတ်သီးမှာ ၈ လက်မအထိရှည်သည်။ ခြေတံလည်းရှည်သည်။

ဤငှက်သည် အလျား ၂၃ လက်မခန့်ရှိ၍၊ ပျံသန်းနေစဉ် ဖြူဖွေးသောနောက်ပိုင်းကို ထင်ရှားစွာမြင်နိုင်သည်။ အသံမှာကျယ်လောင်၍ သာယာပါပေသည်။ တေးလည်းဆိုတတ်သည်။ သို့သော် မြန်မာနိုင်ငံ၌ကား ထိုငှက်သည် တေးကို တပိုင်းတစသာ ဆိုတတ်၍ ထိုတေးသံကို ညဖက်တွင်သာ ကြားရတတ်သည်။ 'ကွပ်၊ ကွပ်' ဟု၎င်း၊ 'ကရွူး၊ ကရွူး၊' ဟု၎င်းအော်တတ်သည်။

ဤခရုစုတ်ငှက်မျိုးသည်မြစ်ကမ်းခြေတလျှောက်ရှိလဟာပြင်တွင် ကျက်စားလေ့ရှိသည်။ အလွန်သတိရှိ၍ လူအနားကပ်မခံချေ။ ပျံသန်းရာတွင် လျင်မြန်သည်။ သို့သော် တောင်ပံချင်း ပြည်းညှင်းစွာရိုက်၍ပျံတတ်သည်။ ရေတိမ်ထဲတွင်လမ်းလျှောက်၍ အစာရှာဖွေသည်။ ယင်းတို့သည် အုပ်သင်းဖွဲ့၍ နေမြဲဖြစ်သော်လည်း၊ တကောင်ချင်းနေသည်ကိုလည်း မကြာမကြာတွေ့ရတတ်သည်။ ရေကောင်းစွာကူးနိုင်သည်။ သို့သော် ချောင်းမြောင်းကိုဖြတ်သည့်အခါမှ ရေကူး၍သွားလေ့ရှိသည်။

အဆိုပါခရုစုတ်မျိုးသည် အခြားနိုင်ငံ၌သားပေါက်၍ မြန်မာနိုင်ငံသို့ ဆောင်းရာသီကျမှ လာရောက်ကျက်စားလေ့ရှိသည်။ စစ်တောင်းမြစ်ဝ တဝိုက်တွင်မှု မေလမှဇူလိုင်လအတွင်းတွင် တကြိမ် အောက်တိုဘာလတွင်တကြိမ် တွေ့ရ၍ ရန်ကုန်မြို့ကို တခါတရံ ဖြတ်သန်းပျံတတ်သည်ကို သိရလေသည်။ ရာဝတီမြစ်ရိုးတလျှောက်နှင့် မြင်းခြံတဝိုက်တွင် ဆောင်းရာသီ၌ အများအပြားတွေ့ရ၍၊ မိုးဉတုတွင် နှစ်ကောင်ချင်းနေထိုင်သည်ကိုလည်း တွေ့ရတတ်သည်။ မေမြို့နှင့် မြစ်ကြီးနားတဝိုက်တွင် ငှက်များအသိုက်ပြောင်း၍ ပျံလာသည်ကိုတွေ့ရတတ်သည်။

ပါဏဗေဒအလိုအားဖြင့် သရက်စကီအော်နီသိဒေ မျိုးရင်းတွင်ပါဝင်သော ခရုစုတ်၌ ခရုစုတ်အဖြူမျိုးနှင့် အနက်မျိုးဟူ၍ရှိသည်။ ထိုနှစ်မျိုးစလုံးကို မြန်မာနိုင်ငံ၌တွေ့နိုင်သည်။

ခရုစုတ်အဖြူမျိုးမှာ မီလာနိုစီဖလာဟုခေါ်သည်။ အလျားလက်မ ၃၀ ခန့်ရှိ၍၊ တကိုယ်လုံးဖြူသည်။ အကောင်ကြီးလာလျှင် ဦးခေါင်းနှင့်လည်တိုင်တွင် အမွေးမရှိဘဲ ပြောင်နေသည်။ ငှက်ငယ်များသည် ဦးခေါင်းနှင့်လည်ကုပ် ညို၍ လည်တိုင်၌အမွေးဖြူအတိုကလေးများပေါက်နေသည်။

ခရုစုတ်အဖြူသည် လယ်တော၊ စိမ့်တောနှင့် ရွှံ့ပေါသော မြစ်ကမ်းပါးများတွင်ကျက်စား၍၊ အထူးသဖြင့် ရေဝပ်၍ သစ်ပင်ချုံဖုတ် ထူပြောသည့်နေရာမျိုးကို နှစ်သက်သည်။ မကြာမကြာလည်း ပင်လယ်ကမ်းစပ်သို့ သွားရောက်တတ်ရာ၊ တခါတရံ အကောင် ၁၀၀ နီးပါးပါသော ခရုစုတ်အဖြူအုပ်ကြီးကို တွေ့မြင်ရတတ်သည်။ ယင်းတို့သည် ခြေတံရှည်ဖြင့် ရေထဲ၌လျှောက်၍ ဗုဇွန်၊ ကနန်း ခရုနှင့်ငါးများကို ရှာဖွေစားသောက်ပြီးနောက် အစာဝသည့်အခါ ရေတိမ်တွင်ဖြစ်စေ၊ ကမ်းစပ်တွင်ဖြစ်စေ၊ ရေစပ်ရှိချုံပေါ်တွင်ဖြစ်စေ နားနေတတ်သည်။ ခရုစုတ်အဖြူ၏အသံမှာ လိုဏ်သံပါ၏။ သို့သော်အသံပြုခဲသည်။

ခရုစုတ်သည် ပျံသောအခါ ရှေ့တွင် နှုတ်သီးနှင့်လည်ကို ဆန့်၍၊ နောက်တွင်ခြေနှစ်ချောင်းကိုတန်းပြီး ပျံတတ်သည်။ အုပ်လိုက်ပျံသန်းလျှင် မြားဦးသဏ္ဌာန် ပျံသန်းတတ်သည်။

ခရုစုတ်အဖြူသည် မိုးဥတုအတွင်းသားပေါက်၍ အသိုက်ကိုသစ်ပင်ပေါ်၌ တုတ်ချောင်းများဖြင့် ပြုလုပ်တတ်သည်။ တမြုံလျှင် ရှည်မြော၍ထိပ်ချွန်သော ဥ ၂ လုံးမှ ၄ လုံးအထိ ရှိတတ်ပြီးလျှင် ဥအရွယ်မှာ အလျား ၂.၇၀ လက်မနှင့် ပြက် ၁.၇၀ လက်မရှိသည်။

ဤငှက်မျိုးကို အိန္ဒိယ၊ သီဟိုဠ်၊ မြန်မာ၊ တရုပ်နိုင်ငံများအပြင်၊ ဂျပန်ပြည်တောင်ပိုင်းတွင်လည်းတွေ့ရသည်။ မြန်မာနိုင်ငံ၌ သားပေါက်မပေါက်ကို အသေအချာမသိရချေ။ သို့သော်မြန်မာနိုင်ငံမြောက်ပိုင်းမှလွဲ၍ ကျန်အပိုင်းများတွင် တွေ့ရပြီးလျှင်၊ ရခိုင်ကမ်းရိုးတန်းတလျှောက်နှင့် မြန်မာနိုင်ငံအောက်ပိုင်းဒေသ တနင်္သာရီတိုင်းများတွင် ပေါပေါများများတွေ့ရလေသည်။

ပါဏဗေဒအလို၊ ခရုစုတ်အနက်ကို ဆူဒီဗစ်ပပစ်လိုဆပ်ဒေဗစ်ဆန်နီ ဟုခေါ်သည်။ ခရုစုတ်အနက်ကို တွေ့မြင်ဘူးသူနည်းပေလိမ့်မည်။ အလျားလက်မ ၃၀ ခန့်ရှိသည်။ ခရုစုတ်အဖြူနှင့် ရွယ်တူပင်ဖြစ်၏။ သို့သော် တကိုယ်လုံးမည်းနက်နေသည်။ ဦးခေါင်းတွင်အမွေးမရှိဘဲ ပြောင်နေ၍၊နှုတ်သီး၌အပြာရောင် သန်းနေပြီးလျှင် ခြေထောက်များမှာ သန္တာရောင် ခပ်ဖျော့ဖျော့နီလျက်ရှိသည်။ ငှက်ငယ်များမှာ ခရုစုတ်အဖြူကလေးများနှင့် ဘာမျှမခြားပေ။

ခရုစုတ်အနက်သည် အအုပ်အသင်းနှင့်မနေဘဲ တကောင်ချင်းသော်၎င်း ဖိုမနှစ်ကောင်တွဲသော်၎င်း နေတတ်သည်မှလွဲ၍၊ ယင်းတို့၏အလေ့အကျင့်နှင့် အစာမှာ ခရုစုတ်အဖြူနှင့်အတူတူလိုပင်ဖြစ်သည်။ ရွှံ့တောပွက်တောနှင့် ချောင်းကမ်းပါးများတွင်ကျက်စား၍ နွေရာသီတွင် မီးရှို့ပြီးလယ်ကွင်းများ၌ အနေများသည်။ ဤငှက်သည် မြေကြီးပေါ်၌ အပူတပြင်း အစာရှာဖွေလေ့ရှိ၍ အခြားမျိုးတူငှက်များကဲ့သို့ အေးဆေးစွာနားနေတတ်သော ငှက်မဟုတ်ချေ။ သစ်ပင်ပေါ်၌ အိပ်တန်းတက်သည်။ တကွဲတပြားစီ အစာရှာဖွေရာမှ အိပ်တန်းသို့ပြန်သောအခါ အအုပ်အသင်းနှင့်ပျံတတ်သည်။ လှည်းထောက်ခွသဏ္ဌာန်ပျံသန်းလေ့ရှိသည်။ မြေမှပျံတက်စဉ် မသာယာသောအသံအောဖြင့် အော်မြည်တတ်သည်။ သားပေါက်ချိန်တွင် အော်သံမှာမူ ထူးခြားပြီးလျှင် ၂ မိုင်ခရီးလောက်မှပင် ကြားနိုင်လောက်အောင် ကျယ်လောင်လှလေသည်။

ဤငှက်မျိုး၏သားပေါက်ချိန်မှာ ဖေဖွါရီလနှင့်မတ်လဖြစ်သည်။ အသိုက်မှာကြီးမား၍ ယင်းတို့ကိုတုတ်ချောင်းများဖြင့် ပြုလုပ်ထားကာ၊ အတွင်းဖက်၌ မြက်၊ ကောက်ရိုး၊ အမွေးအတောင် အဝတ်စများဖြင့် ခံထားသည်။ အသိုက်ကို များသောအားဖြင့် မြင့်မားသောသစ်ပင်ထိပ်ဖျားတွင် ထိုးတည်းဆောက်လုပ်လေ့ရှိသည်။ တခါတရံတွင်လည်း စွန်နှင့် သိမ်းတို့၏ အသိုက်ဟောင်းများကို ပြုပြင်၍သုံးစွဲလေ့ရှိ၏။ လက်ပံပင်ပေါ်၌ အသိုက်လုပ်တတ်သည်။ တမြုံလျှင်ဥ ၃၊ ၄ လုံးရှိတတ်သည်။ ဥများမှာရှည်မျော့ကြမ်းတမ်း၍ အစိမ်းရောင်သန်းနေသည်။ တခါတရံ ဥအချို့တွင် အဝါ သို့မဟုတ် ဝါညိုအစက်အပြောက်များသော်၎င်း၊ အစင်းများသော်၎င်း ပါတတ်သည်။ ဥအရွယ်မှာ ပျမ်းမျှ အလျား ၂.၄၀ လက်မနှင့် ပြက် ၁.၇၀ လက်မရှိသည်။

ခရုစုတ်အနက်ကို အိန္ဒိယနိုင်ငံမှအစ၊ အာသံပြည်၊ မြန်မာနိုင်ငံ၊ယိုးဒယားနိုင်ငံနှင့် ကိုချင်းချိုင်းနားပြည် အထိတွေ့ရသည်။ မြန်မာနိုင်ငံ၌ အလယ်ပိုင်း တောင်ပိုင်းနှင့် တနင်္သာရီတိုင်းတို့တွင်တွေ့ရ၍၊ ပဲခူးနှင့်မြင်းခြံ နယ်များတွင် သားပေါက်သည်။ ရခိုင်တိုင်း၌လည်း သားပေါက်သည်ဟုအမှတ်အသားရှိသည်။

အထက်ဖော်ပြရာ ခရုစုတ်မျိုးအပြင်၊ ပါဏဗေဒအားဖြင့် အနာစတိုမပ်အောစီတန် ခေါ်သော ငှက်ကျားမျိုး၌ပါဝင်သည့် ခရုစုတ်ငှက်ဟူ၍ရှိသေးသည်။

ဤငှက်၏ထူးခြားချက်မှာ၊ အပေါ်နှုတ်သီးရိုးနှင့် အောက်နှုတ်သီး ရိုးနှစ်ခုတို့သည် အရင်းနှင့်အဖျားတွင် ထိ၍နေသော်လည်း၊ အလယ်တွင်နှုတ်သီးမစေ့ဘဲ တိုးရိုပေါက်မြင်ရသည်။ ထိုတိုးရိုပေါက်ကို ပျံသန်းရာ၌ပင် ကောင်းစွာမြင်နိုင်၍၊ ထိုငှက်ကို အခြားငှက်နှင့် မှားရန်ခဲယဉ်းလှပေသည်။

ဤငှက်သည် မြစ်ချောင်း၊ ရေအိုင်နှင့် စိမ့်မြေများတွင် ကျက်စားသည်။ အုပ်သင်းဖွဲ့နေတတ်၍ မြင့်မားစွာပျံဝဲနေတတ်သည်။ အဓိကအစာမှာ ရေချို ခရုမျိုးဖြစ်၍ ခရုကို ချေပြီးမှမျိုချသည်။ သစ်ပင်များပေါ်တွင်လည်း နားနေတတ်၍ တကောင်နှင့်တကောင် နှုတ်သီးချင်းရိုက်ကာ ကျီစယ်မြူးထူးနေလေ့ရှိသည်။

ဤငှက်သည် မိုးရာသီအတွင်း သားပေါက်သည်ဟုယူဆရသည်။ မောင်နှံစုံ ၄၀၀ မှ ၅၀၀ အထိ တနေရာတွင် စုရုံးသား

ပေါက်ကြသည်။ အသိုက်ကို တုတ်ချောင်း၊ မြက်၊ သစ်ရွက်တို့ဖြင့် ဆောက်လုပ်ကြ၍၊ သစ်တပင်၌ အသိုက်ပေါင်း ၆၀ ခန့်မျှရှိတတ်သည်။ တမြုံလျှင်ဥ ၃၊ ၄၊ ၅ လုံးခန့်ရှိတတ်သည်။ ဥသည်ရှည်မျော၍ အုစဥ်ဖြူဖွေးပြီး နောက်တွင် တဖြည်းဖြည်း ညိုမည်းသွားသည်။ ဥအရွယ်မှာ ပျမ်းမျှအလျား ၂.၃၀ လက်မနှင့် ပြက် ၁.၆၀ လက်မရှိလေသည်။

ဤငှက်ကို အိန္ဒိယ၊ မြန်မာ၊ ယိုးဒယား၊ ကိုချင်ချိုင်းနားနိုင်ငံများတွင်တွေ့ရသည်။ မြန်မာနိုင်ငံတွင် အမြဲတမ်းနေထိုင်သည်ဟု ယုံကြည်ရ၍ တနိုင်ငံလုံးမှာပင် အနှံ့အပြားတွေ့ရသည်။ ဤငှက်ကို 'ငှက်သဘင်' စာအုပ်တွင် ခရုတုတ်ငှက်ဟူ၍ဖော်ပြသည်။

ငှက်ကြီးဒုံးစပ်၊ ငှက်ကျားစသောငှက်တို့နှင့် အမျိုးချင်းနီးစပ်သည့် ခရုစုတ်ငှက်များကို ကမ္ဘာပေါ်ရှိ တိုက်ကြီးအားလုံး၌ပင်တွေ့ရသည်။ နိုင်းမြစ်ဝှမ်း၌ တွေ့ရသော (အင်္ဂလိပ်ဘာသာဖြင့်) အိုင်းဗစ်ခေါ် ခရုစုတ်ငှက်မျိုးကို အီဂျစ်လူမျိုးတို့က အမြတ်တနိုးထားကြသည်။ ထိုငှက်သေလျှင် အသေကောင်ကိုဆေးစိမ်၍ မပုပ်မသိုးရအောင်ထားသည်။ ရှေးဟောင်း အီဂျစ် သင်းချိုင်းဂူများမှ အဆိုပါငှက်အလောင်းအများကို တူးဖော်ရရှိခဲ့သည်။ ယခုအခါ ထိုငှက်မျိုးကို အာဖရိကတိုက်ရှိ အရပ်ဒေသအချို့၌ တွေ့ရသေးသော်လည်း၊ အီဂျစ်နိုင်ငံတွင် လုံးဝမတွေ့ရတော့ချေ။

**ခရုမျိုး**။ ။ခရုအမျိုးမျိုးပါဝင်သော ခရုမျိုးပေါင်းစုကြီးတခုလုံးကို ပါဏဗေဒအရ မော်လပ်စကား ဟုခေါ်တွင်၍ ထိုဝေါဟာရမှာ ကိုယ်ခန္ဓာပျော့သော သတ္တဝါမျိုးဟု အဓိပ္ပါယ်ပေါက်လေသည်။

ခရုမျိုးပေါင်းစုတွင် ခရုပက်ကျိ၊ ယောက်သွား၊ ကမာနှင့် ပက်ကျိတို့သာမက၊ ကင်းမွန်၊ ကင်းမွန်ဘဲလိပ်၊ ဘဝဲစသောသတ္တဝါများလည်း ပါဝင်သည်။ ထိုသတ္တဝါများ၌ များသောအားဖြင့် ကိုယ်ခန္ဓာကို ဖုံးအုပ်ကာကွယ်ထားသော အခွံမာများ ရှိကြသော်လည်း အချို့တွင်လုံးဝမပါချေ။ အချို့တွင်ပါပြန်ကလည်း သေးငယ်၍သော်၎င်း၊ သို့မဟုတ်၊ ကိုယ်ထဲ၌ နစ်မြုပ်၍သော်၎င်း ရှိတတ်သည်။ အခွံပါရှိခဲ့သော် ခရု




ခရုမျိုးဝင်များ

(၁) တက်စမေးနီးယားကျွန်းရှိကင်းမွန်

(၂) ရေချိုအရပ်များတွင်တွေ့ရသောခရုမျိုး၏အခွံ

(၃) အရစ်ရှိသောကုန်းခရုပက်ကျိတမျိုး

(၄) ခုံစုံခရုမျိုးဝင်မုံးကောင်၏အခွံတခြမ်း

လုံးကဲ့သို့ အခွံတခုတည်းပါရှိသော ခရုမျိုးဖြစ်က ခွံထီးခရုဟူ၍၎င်း ယောက်သွားကဲ့သို့ အခွံနှစ်ခြမ်းစပ်ပါရှိက အခွံစုံခရုဟူ၍၎င်းခေါ်သည်။ အခွံပါသည်ဖြစ်စေ မပါသည်ဖြစ်စေ အခွံဖြစ်ပေါ်ဖန်တီးပေးနိုင်သော အပေါ်ယံအရေခွံ တထပ်ကား အားလုံးမှာပင် ပါရှိကြ၏။ ရေငန်တွင် ခရုမျိုးပေါင်းစုံကိုတွေ့ရ၏။ သို့သော်ရေချိုနှင့် ကုန်းတွင်နေသောခရုမျိုးလည်းရှိသေးသည်။

ကမ္ဘာ့အရပ်ရပ်၌ ယခုအခါ ခရုမျိုးပေါင်း ၆၅၀၀၀ ခန့်မျှရှိ၍ ယင်းတို့ကို အောက်ပါအတိုင်း မျိုးပေါင်း ၅ မျိုးခွဲခြားထားသည်။

(၁) ဂက်စထရိုပဒါ၊ ဤဝေါဟာရမှာ ဝမ်းပိုက်ဖြင့်သွားသောသတ္တဝါမျိုးဟု အဓိပ္ပါယ်ရ၍၊ ဤမျိုးပေါင်းတွင် ပက်ကျိနှင့်တကွ၊ ရေချို၊ ရေငန်အပြင်ကုန်းမှာပါတွေ့ရသော ခရုလုံး၊ ခရုစေတီများ ပါဝင်သည်။ ကမ္ဘာ့အရပ်ရပ်တွင် တွေ့ရသောခရုမျိုး အားလုံး အနက် တဝက်ကျော်ကျော်သည် ဤမျိုးပေါင်း၌ ပါဝင်သည်။ ယင်းတို့သည် မိမိတို့၏ ဝမ်းပိုက်အရေပြားကို မြေပေါ်၌တွန့်၍တွန့်၍ တနေရာမှ တနေရာသို့ တွားသွားကြသည်။

ဦးခေါင်းဦးချိုသဏ္ဌာန် ဦးမှင်တစုံပါတတ်သည်။ ထိုဦးမှင်များ၏ထိပ်ဖျား၌ မျက်စိတလုံးစီပါသည်။ အကယ်၍ဦးမှင်နှစ်စုံပါရှိပါက နောက်ပိုင်းအစုံတွင် မျက်စိများပါရှိသည်။ ပက်ကျိကဲ့သို့သော အကောင်မျိုးအချို့တွင် အခွံလုံးဝမရှိဘဲ အချို့တွင် အလွန်သေးငယ်သော အခွံကလေးသည် ကိုယ်အတွင်း၌ နစ်မြုပ်နေသည်။ ကျန်အခွံရှိသော အမျိုးတို့တွင် အခွံသည်အခွံထီးဖြစ်၍၊ ဝက်အူလိမ်အရစ်များဖြင့် ကတော့ပုံများလည်းရှိတတ်သည်။

(၂) လမယ်လီဗရန်ကီးယား။ ဤမျိုးပေါင်းတွင် ရုပ်၊ ခုံး၊ ယောက်သွား၊ ကမာစသော ရေနေအခွံစုံ ခရုအားလုံးပါဝင်သည့်အတွက်၊ သာမန်အားဖြင့် အခွံစုံခရုမျိုးဟုလည်း ခေါ်ကြသည်။ အခွံနှစ်ခြမ်းသည် တနေရာ၌ ပတ္တာဆက်ဆက်နေ၍၊ ထိုအခွံများကို အလိုရှိသလို ပိတ်နိုင် ဖွင့်နိုင်သည်။ ဤခရုမျိုး၏ခြေထောက်မှာ ပုဆိန်သွားပုံသဏ္ဌာန်ရှိ၍၊ တခါတရံ ယင်းတို့ကို ပယ်လီဆိုင်ပေါ့ (ပုဆိန်သွားပုံခြေထောက်ရှိ သောသတ္တဝါ) ဟုလည်းခေါ်ကြသည်။ ဤခြေထောက်ဖြင့် သူတို့သည် သဲထဲ၌ထဲ၌ တွင်းတူးပြီးခိုအောင်းနိုင်ကြသည်။ လမယ်လီဗရန်ကီးယား ဟုခေါ်ခြင်းမှာ ဤခရုမျိုး၏ပါးဟက်များသည် သစ်ရွက်သဏ္ဌာန်ပြားချပ်၍ အထပ်ထပ်ပါရှိသောကြောင့်ဖြစ်သည်။ (လမယ်လီ၊ ပါးလွှာသောအပြား၊ ဗရန်ကီးယား၊ ပါးဟက်)။

(၃) ဆယ်ဖလောပဒါ။ ဤဝေါဟာရမှာ ဦးခေါင်းတွင် ခြေထောက်ပေါက်သော သတ္တဝါမျိုးဟု အဓိပ္ပါယ်ပေါက်သည်။ ခရုမျိုးအားလုံးတွင် ဤသတ္တဝါမျိုးသည် ကိုယ်အင်္ဂါအစိတ်အပိုင်း အပြည့်စုံဆုံး အဆင့်အတန်းအမြင့်ဆုံးဖြစ်၍၊ အသိဉာဏ်အရာ၌ ကျောရိုးရှိတိရစ္ဆာန်များနှင့် အနီးစပ်ဆုံးဖြစ်သည်။ ယင်းတို့သည် ရေငန်သတ္တဝါများဖြစ်ကြသည်။ ဤခရုမျိုး၏ဦးခေါင်းတွင် မျက်စိနှစ်လုံးပါရှိ၍၊ ပါးစပ်ပတ်လည်၌ စုတ်ယူနိုင်သော အင်္ဂါအဖုကလေးများနှင့် ပြည့်စုံနေသည်။ ဦးမှင် ၈ ချောင်းသော်၎င်း၊ ၁၀ ချောင်းသော်၎င်းပါရှိသည်။ ပါးစပ်တွင် ကြက်တူရွေးနှုတ်သီးကဲ့သို့ မာကျောသော နှုတ်သီး တမျိုးလည်း ပါရှိတတ်သည်။ ဘဝဲ၊ ကင်းမွန် နှင့်၊ကင်းမွန်ဘဲလိပ်တို့သည် ဤမျိုးပေါင်းတွင်ပါဝင်သည်။ သူတို့သည် အစာကိုဖြစ်စေ၊ ရန်သူကိုဖြစ်စေ၊ ဦးမှင်များဖြင့် ရစ်ပတ်ကာ ရုန်းမလွတ်နိုင်အောင် ဖမ်းစုတ်ထားပြီးလျှင် နှုတ်သီးဖြင့်ကိုက်ဖြတ်စားမျိုလေ့ရှိသည်။ ဤခရုမျိုးတွင် ရန်သူနှင့်တွေ့က အကာအကွယ်အလို့ငှာ ပန်းထုတ်နိုင်သော မင်ရည်အိတ်လည်းပါရှိတတ်၍၊ ထွက်ပြေးလိုသော အခါ ထို အရည် ကို မှုတ် ထုတ် ပြီး ရေကို နောက်ကျိစေ၍၊ တဟုန်ထိုး နောက်ဆုတ်ပြေးတတ်သည်။

ယင်း တို အနက် နေ့ တီလပ် ဟု ခေါ် သော လှပသည့် ပင်လယ်ခရုလုံးတမျိုးတွင်သာ အခွံပါရှိ၍ ကျန်ခရုမျိုးတို့၌ လုံးဝအခွံမပါချေ။ ပါပြန်လျှင်လည်း သေးငယ်၍ကိုယ်ထဲ၌ နစ်မြုပ်နေသည်။

(၄) အမ်ဖီနျူရာ။ ဤခရုမျိုးသည် ရေငန်သတ္တဝါ သက်သက်ဖြစ် သည်။ မာသော အခွံရှိ၍ အမ်ဖီနျူရာဟုခေါ်သည်။ ကိုယ်ထည်မှာ ခပ်ဝိုင်းဝိုင်းပြားပြားဖြစ်၍ ဦးခေါင်းသီးခြားမရှိချေ။ ကိုယ်အပေါ်ပိုင်းတွင်သာ သေးငယ်သော အခွံပါရှိ၍ အခွံမှာပါးလွှာကာ တခု ပေါ် တခု ထပ် လျက်ရှိတတ်သည်။ ကိုယ်အောက်ပိုင်းတပိုင်းလုံးမှာ ခြေထောက်သဖွယ်ဖြစ်၍၊ ဤခြေထောက်ကို တွားသွားရန်နှင့် ကျောက်တွင်ကပ်တွယ်နေရန် အသုံးပြုသည်။

(၅) စကက်ဖိုပဒါ။ ဤခရုမျိုး၌ ဆင်စွယ်နှင့်ပုံသဏ္ဌာန်တူသော အခွံရှိ၍ စကက်ဖိုပဒါဟုခေါ်သည်။ ဤမျိုးပေါင်းတွင် အမျိုးအနည်းငယ်သာပါ၍၊ အထက်တွင်ဖော်ပြခဲ့သော မျိုးပေါင်းတို့လောက် မထင်ရှားချေ။ ယင်းတို့သည် သေးငယ်သောရေသတ္တဝါများဖြစ်ကြ၏။ သူတို့၏အခွံမှာ တဖက်သို့ရှူးသွားသော ပြွန်ကောက်ကလေးသဖွယ်ဖြစ်၍ ထိပ်နှစ်ဖက်စလုံး၌ အပိတ်မရှိဘဲပွင့်နေသည်။ ခရုဆင်နှာမောင်းဟုခေါ်သော ခရုမျိုးသည် ဤမျိုးပေါင်းတွင်ပါဝင်သည်။

ခရုမျိုးဝင် သတ္တဝါတို့၏အရွယ်မှာ အစားစား ရှိသည်။ အလွန်သေးငယ်သော အကောင်များလည်းရှိ၍ ကင်းမွန်ဘဲလိပ်အကြီးစားများမှာ အလျားပေ ၃၀ ကျော်အထိရှိသဖြင့် ကျောရိုးမဲ့သတ္တဝါထဲ၌ အရှည်လျားဆုံးပင်ဖြစ်သည်။ ယင်းတို့သည် များသောအားဖြင့် နှေးကွေးကြ၏။ သို့သော် ကင်းမွန်ဘဲလိပ်၊ ဘဝဲစသော အကောင်အချို့မှာ

အလွန်လျင်မြန် ဖျတ်လတ်ကြသည်။ ကမာကောင်သည်လည်း ယော်ရှယ်စဉ်ကဖျတ်လတ်၍ ကြီးပြင်းလာသောအခါကျမှ ကျောက်တုံးကျောက်ဆောင်များတွင် တွယ်ကပ်ပြီးမလှုပ်မရှားဘဲနေသည်။

ကမ္ဘာတွင် ခရုများပေါ်စက ယင်းတို့အားလုံးသည်ပင်လယ်၌သာကျက်စားခဲ့ကြကြောင်းကို တူးဖော်ရရှိသောရှေးခေတ်ကျောက်ဖြစ်ရုပ်ကြွင်းများမှ လေ့လာသိရှိရပေသည်။ ထိုနောက် ရေချိုတွင် အချို့ကျက်စားလာကြ၍နောင်သော်ကုန်းပေါ်တွင်ပါ ကျက်စားလာကြသည်။ ယခုအခါ ပါဏဗေဒအလိုအရ ဂက်စရိုပဒါ ခရုမျိုးတို့သည် ကုန်းသတ္တဝါအပေါင်းတွင် အမျိုးများပြားသော မျိုးပေါင်းတခုဖြစ်နေကြောင်းသိရသည်။

ခရုတို့၏အခွံများသည် ပုံသဏ္ဌာန်အမျိုးမျိုးရှိ၍ အလွန်လှပသည်။ ခရုတမျိုး၏အခွံကို ခရုသင်းဟုခေါ်၏။ ခရုသင်းကို ပင်လယ်ကမ်းခြေ၊ အင်းအိုင်ကြီးများ၏ကမ်းပါးနှင့် မြစ်ကမ်းပါးတို့တွင် တွေ့ရသည်။ ခရုသင်းသည် ပျော့ပျောင်းသောခရုကိုယ်ခန္ဓာကို ကာကွယ်သော အပြင်ခွံဖြစ်သည်။ ထိုအခွံ၌ ထုံးနှင့်ထုံးကျောက်စသည့်ပစ္စည်းများ၏မူလအခြေခံဖြစ်သော ကယ်လဆီယမ်ကာဗွန်နိတ်ကိုတွေ့ရသည်။

ခရုသင်းအခွံတွင် အလွှာသုံးလွှာပါရှိသည်။ အပြင်လွှာသည်မာကျော၍ ပါးလွှာ၏။ ထိုအလွှာတွင် ထုံးဓါတ်မပါရှိချေ။ အလယ်လွှာသည် ကယ်လဆီယမ်ကာဗွန်နိတ် ပါရှိသောအလွှာဖြစ်သည်။ အောက်ဆုံးအလွှာကား ရောင်ပြေးအလွှာ သို့မဟုတ် ကနုကမာနှင့်တူသော အလွှာဖြစ်သည်။ ကြယ်သီး၊ ရင်ထိုးစသော မိန်းမတို့၏အလှသုံးပစ္စည်းများကို ထိုအလွှာမှပြုလုပ်ယူကြသည်။

မြန်မာလူမျိုးတို့သည် မင်္ဂလာအခမ်းအနား ဖြစ်သော လက်ထပ်မင်္ဂလာ၊ ရှင်ပြုမင်္ဂလာစသည်တို့တွင် ရှေးထုံးစဉ်လာအရ ခရုသင်းမှုတ်လေ့မှုတ်ထရှိကြသည်။ ဟိန္ဒူလူမျိုးတို့၏ ဘုရားရှိခိုးကျောင်းများတွင်လည်း ခရုသင်းမှုတ်ရိုးထုံးရှိသည်။

ခရုမျိုးဝင်သတ္တဝါ အမျိုးမျိုးကိုပင် ကမ္ဘာအရပ်ရပ်ရှိလူမျိုးတို့ စားသုံးကြရာ အများဆုံးစားသုံးကြသော ခရုမျိုးတို့မှာ ပင်လယ်မှရသော ကမာ၊ ယောက်သွား၊ ရှပ်၊ စသည်တို့ဖြစ်ကြသည်။ လူတို့စားသုံးရန်ဟင်းလျာအလို့ငှာ အချို့နိုင်ငံ၌ ကမာ၊ ယောက်သွား စသောခရုမျိုးကို အကြီးအကျယ်မွေးမြူကြသည်။ ခရုပင်လိမ်ကိုလည်း စားကြ၏။ ကင်းမွန်ဘဲလိပ်နှင့် ဘဝဲတို့ကိုမူ အချို့အရပ်ဒေသများ၌



ခရေပင်၏အသီးနှင့်အရွက်များပုံ

စားကောင်းသောက်ဖွယ်အနေနှင့်တန်ဖိုးထား၍စားသောက်ကြသည်။ ကင်းမွန်လိုအကောင်မျိုးကို ယခုအခါပြည်ကြီးငါးဟု ဆို၍စားကြသည်။ ခရုတို့၏အသားကို ငါးဖမ်းရန်အတွက် ငါးစာအဖြစ်ဖြင့်လည်း အချို့နိုင်ငံ၌ အမြောက်အမြားအသုံးပြုကြ၏။ ရေချိုမှရသော ခရုမျိုးကိုကား စားသုံးလေ့မရှိကြပေ။ ခရုခွံအချို့၌ ပုလဲရောင်ထနေသော ကနုကမာအထပ်ပါရှိ၍ ထိုအခွံမျိုးမှ ကြယ်သီး၊ ရင်ထိုး၊ ဆေးလိပ်ခွက်စသော အလှသုံးကနုကမာထည်များ ပြုလုပ်ကြသည်။ အချို့ကမာမျိုးမှ အဖိုးထိုက်တန်သောပုလဲများကိုလည်းရရှိသည်။ (ကနုကမာ၊ ကမာ၊ ကင်းမွန်၊ နှင့်ပက်ကျိ ခရုပက်ကျိ၊ ခရုခွံ — ရှု။)

**ခရေပင်**။ ။ခရေပင်ကို ခယားပင်ဟုလည်းခေါ်၍ ချယားပင်ဟုလည်း လူသိများသည်။ ခရေပင်သည် မြန်မာနိုင်ငံတွင် တနင်္သာရီတိုင်းနှင့် ဗန်းမော်ခရိုင်တို့၌ အလေ့ကျပေါက်တတ်၍၊ အခြားဒေသများ၌လည်း စိုက်ပျိုးထားသည်ကို တွေ့ရသည်။ ခရေပင်သည် ပေ ၅၀ ခန့်အထိမြင့်နိုင်၍၊ အမြဲစိမ်းအရွက်များ ထူထပ်စွာရှိသဖြင့် အရိပ်ကောင်းကို ပေးနိုင်သည်။ ကြီးခဲသောအပင်မျိုးဖြစ်သော်လည်း ရနံ့သင်းသော အပွင့်များနှင့် အရိပ်ကောင်း ရသည့်အတွက် ဥယျာဉ်ခြံမြေများတွင် စိုက်ပျိုးထားလေ့ရှိကြသည်။ မျိုးပွားလိုသော် အစေ့ကိုစိုက်ပျိုးရလေသည်။

အခေါက်၏အရောင်မှာ အနက်ရောင်မှုံပြာဖြစ်၍ ကြမ်းသည်။ အရွက်များမှာ ၃၊ ၄ လက်မရှည်၍ ချောမွတ်ပြောင်

လက်သည်။ ခရေပင်နှင့်စပ်လျဉ်း၍ လူသိအများဆုံး၊အထူးသဖြင့် အမျိုးသမီးများ အသိအများဆုံးကား လှပ၍ရနံ့သင်းသော အပွင့်များပင်ဖြစ်လေသည်။ ခရေပွင့်သည်ဖြူ၍ အချင်း ငွေမတ်စေ့ခန့်ရှိသည်။ ကြယ်ပွင့် ကလေးများနှင့် သဏ္ဍာန်တူ၍ နွေဦးပေါက်မှ မိုးကျသည်အထိ ပွင့်ကြသည်။ ကလေး သူငယ် တို့ သည် နံနက်အစောကြီးထကာ ခရေပင် အောက်၌ ဖွေးဖွေးဖြူကြွေကျနေသော ခရေပွင့်များကို အလုအယက် ကောက်ပြီးသော် တုတ် တံ ကလေး များ ဖြင့် သီ၍ ဘုရားတင်လေ့ရှိကြသည်။ အမျိုးသမီးများက ကြိုးဖြင့်သီကုံး၍ ဦးခေါင်း၌ပန်ဆင်လေ့ရှိကြသည်။

အသီးများမှာ တလက်မခန့်ရှည်၍ မှည့်လျှင်အရောင်ဝါ



ခေတ်မှီရေကြောင်းသုံးခရိုနိုမီတာတခု

လာသည်။ ခရေစေ့များကို ကလေးသူငယ်တို့သည် တွင်းထဲသို့ကျအောင် လက်ဖြင့်တောက်တမ်း ကစားလေ့ရှိကြရာ ခရေစေ့တွင်းကျ ဟူသောစကားမှာ ထိုကစားနည်းမှ စတင်ပေါ် ပေါက်လာပေသည်။

ခရေသား၏အရောင်မှာ နီညစ်ညစ်ဖြစ်၍၊ အသားကျစ်ခြင်း၊ မာကျောခြင်း၊ ခိုင်ခံ့ခြင်း၊ ကြာရှည်ခံခြင်း၊ ပြောင်လက်လာအောင် အရောင်တင်နိုင်ခြင်းများကြောင့် ယင်းအသားဖြင့် အဆောက်အအုံ၊ ဘီရို၊တန်တား၊ လှည်း၊ လှေနှင့် ဆန်ထောင်းကျည်ပွေ့များပြုလုပ်ကြသည်။

ခရေပင်၏ ဆေးဖက်ဝင်သောအကျိုးကား အသီးနှင့် အခေါက် တို့ ၌ ချုပ်စေတတ် သည့် သတ္တိရှိ သည်။ အစေ့များကို ရေ၌နူးအောင်စိမ်ပြီးနောက် ကျိုချက်လျှင်လည်း အကြော အဆစ် ရောင် နာများ တွင် လိမ်းရသောဆီတမျိုး ရနိုင်သည်ဟုဆိုလေသည်။

**ခရိုနိုမီတာနာရီ။** ။ခရိုနိုမီတာ ဟူသောဝေါဟာရမှာ ဂရိဘာသာစကားမှ ဆင်းသက်လာသောဝေါဟာရဖြစ်၏။ အချိန်ကိုတိုင်းတာသည့်ကရိယာဟုအဓိပ္ပါယ်ရသည်၊ဥရောပတိုက်၌ အချိန်တိကျမှန်ကန်စွာပြသည့် နာရီအကောင်းစားမျိုးကို ခရိုနိုမီတာဟု ယနေ့တိုင်ခေါ် ဝေါ် နေကြပေသည်။ ယေဘုယျအားဖြင့်ကားတိုင်ကပ်နာရီ၊စားပွဲတင်နာရီ၊ လက်ပတ်နာရီ ဟူသမျှသည် ခရိုနိုမီတာပင်ဖြစ်သည်။ အချိန်ကိုတိုင်းတာသော ရှေးခေတ်ပေါ် နေနာရီ၊ ရေနာရီ၊ သဲနာရီ ဟူသမျှကိုလည်း ခရိုနိုမီတာဟူ၍ပင်ခေါ် နိုင်သည်။ နေမှကျသော အရိပ်ဖြင့် အချိန်ကို တိုင်း တာလျှင် နေနာရီဟုခေါ် သည်။ ရေနာရီမှာ ရှေးမြန်မာတို့၏ ခေတ်သုံးနာရီဖြစ်သည်။ ကြေးဖလားမြုပ်၍ နစ်သောအချိန်ကို နာရီအမှတ်အသားနှင့် ပိုင်းခြားသတ်မှတ်သည်။ သဲနာရီမှာ အလွန်ခါးသိမ်သော ဖန်ပုလင်းထဲ၌ သဲထည့်၍၊ ဖန်ပုလင်းအထက်ပိုင်းမှအောက်ပိုင်းသို့ သဲများ တမှုန့်မကျန် ကျဆင်း သွားသောအချိန်ကို အမှတ်အသားပြုသောနာရီဖြစ်သည်။

ပင်လယ်ကူးသင်္ဘောများ သမုဒ္ဒရာ၌ခရီးသွားစဉ်၊ မိမိတို့ရောက်ရှိဆဲနေရာ လောင်ဂျီတွဒ်ကိုရှာရန် အသုံးပြုသော ရေကြောင်းသုံးနာရီမျိုးကိုလည်း ခရိုနိုမီတာဟုခေါ် သည်။

ရေကြောင်းသွားလာရေးတွင်ရောက်ရှိနေသောလောင်ဂျီတွဒ်ကို သိရန်မှာလွန်စွာအရေးကြီးသည်။ အဆိုပါလောင်ဂျီတွဒ်ကိုသိရှိနိုင်ရန် ရောက် နေသောအရပ်ရှိ အချိန် နာရီ နှင့် ဂရင်းနစ်စံချိန်တို့ကို နှိုင်းရှည့်ကြည့်ခြင်းဖြင့် တွက်ချက်ရနိုင်ဖွယ်ရှိကြောင်း ရေနယေး ဂျင်မာ ဖရီးဆီးယပ်ဆိုသူ ဒပ်ချလူမျိုး နက္ခတ်ဆရာကြီးတဦးက ၁၅၃၀ ပြည့်နှစ်တွင် ရှေးဦးစွာအကြံပေးခဲ့သည်။ သို့သော် သင်္ဘော၏ လှုပ်ရှားမှုဒဏ်နှင့် ဒေသ အပြောင်း အလဲ ကြောင့် တွေ့ကြုံ ရ သော အပူအအေးပြောင်းလဲမှုဒဏ်တို့ကို တကယ်တမ်း ခံနိုင်ရည်ရှိသည့် နာရီမျိုးကို ကြံစည်ရသည်မှာမလွယ်ချေ။ ယင်းနာရီမျိုးဖြစ်အောင် ကြိုးစားသူများ ရှိခဲ့ဘူးသော်လည်း ၁၈ ရာစုတိုင်အောင် မည်သူမျှ အောင်မြင်စွာ မတီထွင်နိုင်ခဲ့ကြပေ။ သို့ဖြစ်၍ ထိုစဉ်က သင်္ဘောမာလိန်မှူးတို့သည် ကြယ်နှင့်လတို့၏အနေအထားများမှ လောင်ဂျီတွဒ်ကို အကြမ်းတွက်ချက်ရသည့် သမားရိုးကျနည်းဖြင့်သာ ကျေနပ်ခဲ့ကြရသည်။

၁၇၁၄ ခုနှစ်တွင်ထုတ်ပြန်သောဗြိတိသျှအစိုးရ၏ကြေညာချက်တရပ်မှာ ရက်သတ္တ ၆ ပတ်မျှ ပင်လယ်အတွင်း ခရီး

လှိုင့်စမ်းသပ်ပြီးသောအခါတွင် တွက်ချက်ရရှိသော လောင်ဂျီတွဒ်သည် ၂ ဒီဂရီ (မိုင် ၃၀) ထက်ပို၍ မလွဲစေရမည့် ရေကြောင်းသုံးနာရီကိုကြံစည်ပြုလုပ်နိုင်သူအားဆုငွေပေါင်ပေါင်း ၂၀,၀၀၀ ပေးမည်ဟူ၍ဆိုသည်။

ယင်းသို့ကြေညာပြီးသည့်နောက်တွင် ခရစ်နှစ် ၁၇၂၈ မှ ၁၇၆၀ ခုနှစ်များ အတွင်းတွင် ယော့ရှိုင်ယာခရိုင်မှ ဂျွန်ဟယ်ရီဆန် ဆိုသူ လက်သမားသည် ထိုဆုကိုရည်မှန်း၍ အမျိုးမျိုးကြိုးစားစမ်းသပ်၏။ ဟယ်ရီဆန်သည် ယော့ရှိုင်ယာခရိုင် ဖေါင်လဗီမြို့တွင် ၁၆၉၃ ခုနှစ်၌ဖွားမြင်၍ ၁၇၇၆ ခုနှစ်တွင်ကွယ်လွန်သည်။ လက်သမားဆရာတဦး၏ သားဖြစ်သည့်အလျောက် ငယ်ရွယ်စဉ်ကပင် လက်သမားအလုပ်နှင့်အသက်မွေးခဲ့၏။ စက်မှုပညာကို ဝါသနာအလျောက် မိမိဖါသာလေ့လာတတ်ကျွမ်းခဲ့၏။

ဟယ်ရီဆန်သည် ၇ နှစ်မျှ အမျိုးမျိုးစမ်းသပ်ကြိုးစားပြီးနောက် သူ၏ပဌမခရိုနိုမီတာကို ၁၇၃၅ ခုနှစ်တွင် တင်ပြခဲ့သည်။ သူသည် ၄၅ နှစ်အတွင်း အဆိုပါပဌမခရိုနိုမီတာအပါအဝင် ခရိုနိုမီတာပေါင်း ၅ လုံးကို တခုထက်တခုသာအောင် ကြံစည်ပြုလုပ်ရာ စတုတ္ထအကြိမ်မှာပင် အစိုးရကြေညာထားသော အင်္ဂါရပ်များနှင့်ညီညွတ်သည့် ခရိုနိုမီတာကို ပြုလုပ်နိုင်သည့်အတွက် ဆုငွေပေါင်ပေါင်း ၂၀,၀၀၀ ကိုဆွတ်ခူးသွားလေသည်။ သူ၏စတုတ္ထမြောက် ခရိုနိုမီတာကို အစိုးရက ၁၇၆၁ ခုနှစ်တွင် လက်တွေ့စမ်းသပ်ကြည့်သည်။ ပင်လယ်ထဲ၌ ၆၁ ရက်မျှ ခရီးလှိုင့်ပြီးသောအခါ ထိုခရိုနိုမီတာသည် လောင်ဂျီတွဒ်ရှာရာ၌ ၅ မိုင်အတွင်း မှန်အောင်ပင် အချိန်တိကျမှန်ကန်ကြောင်းတွေ့ခဲ့ရသည်။

ခရိုနိုမီတာသည် သာမန်နာရီများနည်းတူ သံပတ်ဖြင့်သွားသော နာရီမျိုးပင် ဖြစ်သည်။ သို့သော် မည်သည့်ဒေသမျိုးသို့ သွားရသည်ဖြစ်စေ အပူအအေးကြောင့် နာရီအသွားနှေးသွားခြင်း မြန်လာခြင်းမရှိဘဲ တသမတ်တည်းရှိစေရန် အထိန်းများ တပ်ဆင်ပေးထားသည်။ အထိန်းများမှာ ကြေးဝါနှင့် သံမဏိပြားကလေး နှစ်ခုထပ်ထားသော သတ္တုပြားကလေးများ ဖြစ်ကြ၏။ အထိန်းသတ္တုပြား၏ သဘောမှာ ဤသို့ဖြစ်၏။ ကြေးဝါသည် အပူချိန်တက်လာလျှင် သံမဏိထက်ပို၍ စန့်ထွက်စမြဲတည်း။ အပူချိန်တက်၍ ကြေးဝါစန့်ထွက်လာသောအခါ၊ အထိန်းသတ္တုပြားရှိ ကြေးဝါဖက်မျက်နှာစာသည်ခုံးလာပြီးလျှင်၊ သံမဏိဖက်သို့ ကွေးသွားသည်။ အပူချိန်လျော့လာသောအခါ ကြေးဝါသည် သံမဏိထက်ပို၍ ကျုံ့ဝင်သည့်အတွက် သံမဏိဖက်မှ ခုံးလာပြီးနောက် ကြေးဝါဖက်သို့ကွေးသွားသည်။ နာရီသည် သာမန်အားဖြင့်၊ ပူသောရာသီ၌အသွားမြန်၍ အေးသောရာသီ၌ အသွားနှေးတတ်ရာ အဆိုပါအထိန်းများ တပ်ဆင်ပေးထားသည့်အတွက် အပူအအေးပြောင်းလဲသော်လည်း၊



ဂျွန်ဟယ်ရီဆန်နှင့်သူတီထွင်သည့်ခရိုနိုမီတာ

အသွားမြန်ခြင်း၊ နှေးခြင်းဖြစ်မလာပေ။ ထို့ပြင် နာရီတွင် ထည့်ထားသောဆီသည် အေးသောရာသီ၌ ခဲ၍သွားတတ်သည့်အတွက်၊ ခရိုနိုမီတာတွင် ဆီထည့်မပေးရဘဲနှင့် သွားနိုင်အောင်လည်း စီမံထားလေသည်။

ယခုသော် တခေတ်ထက်တခေတ် တိုးတက်လာသော စက်မှုသိပ္ပံပညာ၏ကျေးဇူးကြောင့် ဟယ်ရီဆန် တီထွင်ခဲ့သော ခရိုနိုမီတာမျိုးထက် ခေတ်မှီကောင်းမွန်သည့် ခရိုနိုမီတာများပင် ပေါ်ပေါက်ခဲ့ပေပြီ။ ဝိုင်ယာလက်နှင့် ရေဒီယိုများ ပေါ်ပေါက်လာသည့်အတွက်လည်း မိမိတို့ ခရိုနိုမီတာများ အချိန်မှန်မမှန်ကို အချိန်မရွေးသက်ဆိုင်ရာဗဟိုဌာနနှင့် တိုက်ဆိုင်၍ကြည့်နိုင်ကြပေပြီ။ (နာရီကြီးငယ်များ—ရှု။)

**ခရင်းကောင်။** ။ပင်လယ်ကမ်းခြေသို့ ရောက်ဘူးသူတို့သည် ကျောက်ဆောင်၊ တန်တားတိုင်၊ သစ်တုံးသစ်လုံးများပေါ်၌ အစုအပြုံလိုက် တွယ်ကပ်နေသော ခရင်းကောင်များကို တွေ့ဘူးကြပေမည်။ ခရင်းကောင်တို့သည် ခွက်ပုံရှိသောအခွံအတွင်း၌ နေထိုင်ကြ၍၊ ယင်းတို့အပေါ်ကို ဖိနပ်မပါဘဲ တက်နင်းမိလျှင် ခြေဖဝါးကိုပဲ့သွားအောင် စူးရှတတ်သည်။ အခွံ၏အတွင်းဖက်၌ ထိပ်ဝကိုလိုသလို ပိတ်နိုင်ဖွင့်နိုင်သော လေးရွက်ဆိုင်ထိပ်ဖုံးများ ပါရှိသည်။ ရေကျ၍ခရင်းကောင်များပေါ် နေချိန်၌ ကုတ်ခြစ်သံကဲ့သို့ အသံသဲ့သဲ့ကြားရတတ်ရာ၊ထိုအသံမှာ အခွံအတွင်းရှိ ခရင်းကောင်လှုပ်ရှား၍ ထိပ်ဖုံးအခွံကလေးများ အချင်းချင်းပွတ်တိုက်မိရာမှ ထွက်ပေါ်လာ

သောအသံဖြစ်သည်။ ခရင်းကောင်ကို အများကပင် ခရုတမျိုးဟု ထင်မှတ်နေကြသည်။ သို့သော် ယင်းတို့သည် အမှန်စင်စစ် ခရုမျိုးတွင်မပါဝင်ဘဲ ဗုဇွန်တုပ်ကြီး ကနန်းမျိုးတွင် ပါဝင်သောရေသတ္တဝါတမျိုးဖြစ်သည်။

ခရင်းကောင်အမျိုးမျိုးရှိသည်။ အချို့မှာ အထက်တွင်ဖေါ်ပြသကဲ့သို့ ကျောက်ဆောင်များပေါ်၌၎င်း၊ အချို့မှာ တန်တားတိုင်၊ သစ်တုံးသစ်လုံးများသာမက လှေသင်္ဘောတို့၏ဝမ်းပိုက်၊ ပဲ့တက်မနှင့် ဇမန်းယပ်ပန်ကာများပေါ်၌၎င်း တွယ်ကပ်နေတတ်သည်။ အချို့မှာ လိပ်ကျောကုန်းပေါ်၌



ခရင်းကောင်များတွယ်ကပ်နေသောသင်္ဘောဖေါ့

တွယ်ကပ်တတ်၍၊ ဝေလငါးကိုယ်ပေါ်၌ တွယ်ကပ်နေတတ်သောအမျိုးလည်းရှိသည်။

တောင်အမေရိကတိုက် ချီလီနိုင်ငံ၌ ကျောက်ဆောင်များပေါ်တွင် တွယ်ကပ်နေသော ခရင်းကောင်များမှာ အချင်း ၃ လက်မ အလျား ၉ လက်မခန့် အထိကြီးမား၍၊ ထိုအကောင်များ၏အသားကို စားကောင်းသောက်ဖွယ်တခုအနေနှင့် စားသောက်ကြသည်။ ဂျပန်နိုင်ငံတွင် ခရင်းကောင်အငယ်စားတမျိုး တွယ်ကပ်အောင် ဝါးလုံးများကို ကမ်းခြေ၌ တမင်္ဂလာ ချထားပြီးနောက် သုံးလတကြိမ်လောက် ခရင်းကောင်များကို ရိုက်ခွာယူ၍ မြေသြဇာပြုလုပ်ကြသည်။

သို့သော် အထူးသဖြင့် ပင်လယ်ကူးသင်္ဘောကြီးများတွင် ဝမ်းပိုက်၊ ပဲ့တက်မနှင့်ငမန်းယပ်များ၌ သိန်းသန်းကုဋေနှင့်ချီ၍ တွယ်ကပ်တတ်သောခရင်းကောင်မျိုးမှာ လူတို့အားကြီးစွာသော အနှောင့်အယှက်ကိုပေးကြ၏။ တကောင်ချင်းဆိုလျှင် ဘာမျှအရေးမပြုလောက်သော်လည်း၊ ထုထယ်ကြီးမားစွာနှင့် စုပေါင်းတွယ်ကပ်မိသောအခါ ယင်းတို့သည် သင်္ဘော၏အသွားနှုန်းကို ထက်ဝက်နီးပါးပင် လျော့သွားစေနိုင်သည်။ ထို့ကြောင့် သင်္ဘောတည်ဆောက်သူနှင့် သင်္ဘောသားတို့သည် အဆိုပါခရင်းကောင်မျိုး တွယ်ကပ်သည့်အန္တရာယ်ကို ငွေကုန်ကြေးကျခံ၍ အမြဲတွန်းလှန်ဖြိုဖျက်နေကြရသည်။

ခရင်းကောင်တို့၏ ကြီးပြင်းပုံသဘာဝမှာ အတော်ပင်ထူးဆန်းသည်။ ခရင်းကောင်သည် ပေါက်ဖွားစအချိန်၌ စွန်(လေတံခွန်) နှင့်ပုံသဏ္ဍာန်တူ၍၊ ယင်းတွင် ချိုကလေးနှစ်ချောင်း၊ အမြီးရှည်ကလေးတချောင်း၊ ပြွန်ပုံပါးစပ်တခု၊ မျက်စိတလုံးနှင့် ရေကူးရန်ခြေထောက် ခြောက်ချောင်းပါလာသည်။ ထိုအကောင်ကလေးသည် ရေထဲ၌ပက်လက်လှန်ကာ ခြေထောက်များကို ဆောင့်ကန်ကန်ယင်း ကူးခတ်သွားလာ၍နေသည်။ ဗုဇွန်တုပ်ကြီး ကနန်းမျိုးဖြစ်သည့်အတိုင်း အရေများကို အကြိမ်ကြိမ်လဲယင်းနှင့် ကြီးပြင်းလာရာမှ အခွံနှစ်ထပ်ပေါက်လာသည်။ မျက်စိနှစ်လုံး ခြေထောက်ဆယ့်နှစ်ချောင်း ဖြစ်လာပြီး၊ အာရုံမှင်ကလေးနှစ်ချောင်းလည်းပေါက်လာသည်။ ထိုအချိန်တွင် ရေအကူးရပ်ကာ ရေအောက်သို့ ဦးခေါင်းဖက်မှ နစ်ဆင်းသွားပြီးလျှင် ကျောက်ဆောင် သစ်တုံး စသဖြင့် ရရာအမှီ တခုခုပေါ်တွင်



ခရင်းကောင်များခြစ်ယူနေသောဆလုံအမျိုးသမီးတဦး



မီးပွင့်များဖြင့်အဆန်းတကြယ်ဝေဆာနေသောခရစ္စမတ်သစ်ပင်

မိမိကိုယ်မှထုတ်သော ကော်စေးတမျိုးဖြင့် အမြဲတမ်းတွယ်ကပ်လိုက်သည်။

ဤသို့တွယ်ကပ်ပြီးသောအခါ ခရင်းကောင်ကလေးသည် မိမိကော်စေးဖြင့်ဆက်လက်၍ မိမိနေထိုင်ရန် အခွံကိုဆောက်လုပ်သည်။ အခွံပြီးစီးသွားသောအခါ မိမိကိုယ်မှ အရေခွံနှစ်ထပ်ကိုစွန့်ပစ်လိုက်သည်။ မျက်စိများပျောက်ကွယ်သွားပြီးနောက် ခြေထောက်များလည်း ငှက်မွေးကဲ့သို့ ဖွာထွက်လာသည်။ ကျွန်ုပ်တို့မြင် တွေ့ရသော ခရင်းကောင်များမှာ ထိုကဲ့သို့ နေထားတကျဖြစ်နေသော အင်္ဂါစုံခရင်းကောင်များပင်ဖြစ်သည်။

ခရင်းကောင်တို့၏ စားသောက်ပုံမှာလည်း ထူးဆန်း၏။ ရေကျ၍ ခရင်းကောင် ခွံထိပ် ဖုံးပိတ်နေ ချိန်တွင် ခရင်းကောင်၏ခြေထောက်များကို ကျွန်ုပ်တို့မမြင်ရချေ။ သို့သော် ရေဖုံးလာသောအခါ ခရင်းကောင်သည် ထိပ်ဖုံးကိုဖွင့်၍ မိမိခြေထောက်များကို အပြင်သို့ထုတ်လိုက်သည်။ ခြေထောက်ကလေးများသည် ဟိုမှသည်မှ လှုပ်ယမ်း၍နေကြ၏။ ထိုခြေထောက်ကလေးများသည် ခရင်းကောင်အဖို့ အစာဖမ်းယူသော ပိုက်ကွန်ပင်ဖြစ်ပေသည်။ ရေထဲ၌ မှုန်မှုန်မွှားမွှားပါလာသော အစာများ အတော်အသင့် ကပ်ငြိသောအခါ ခရင်းကောင်သည် ခြေထောက်များကို အခွံတွင်းသို့ ဆွဲသွင်းပြီးလျှင် ထိုအစာများကိုစားသောက်သည်။

**ခရစ္စတယ်။** ။ပုံဆောင်ခဲ — ရှု။

**ခရစ္စမတ်။** ။ယခုခေတ်တွင် ကမ္ဘာပေါ်ရှိခရစ်ယန်တို့သည် ခရစ်တော်၏မွေးနေ့ အထိမ်းအမှတ်ဖြစ်သော ခရစ္စမတ်ပွဲတော်ကို နှစ်စဉ်နှစ်တိုင်း တခမ်းတနားကျင်းပကြသည်။ ယင်းသို့ကျင်းပခဲ့ကြသည်မှာ နှစ်ပေါင်းများစွာကြာမြင့်ပြီးဖြစ်သော်လည်း၊ ခရစ်တော်၏ မွေးနေ့ခုနှစ်ကိုကား ယနေ့ထက်တိုင် အတိအကျမသိရှိကြချေ။ ခရစ်တော်ကွယ်လွန်ပြီးနောက် အနှစ် ၃၀၀ အတွင်းတွင် ပွဲတော်ကျင်းပမည့်နေ့ရက်ကို ခရစ်ယန်တို့ အချင်းချင်းသဘောကွဲလွဲခဲ့ကြသည်။ ရှေးဦးစွာပွဲတော်ကို မေလတွင်ကျင်းပ၏။ ထိုနောက် ဧပြီလတွင် ကျင်းပပြန်သည်။ ထိုမှတဖန် ဇန္နဝါရီလသို့ ပြောင်းရွှေ့ကျင်းပပြန်သည်။ အေဒီ ၃၀၀ ပြည့်နှစ်ကျမှသာ ဒီဇင်ဘာလ ၂၅ ရက်နေ့ကို ပွဲတော်နေ့ဟု အတည်တကျ သတ်မှတ်ခဲ့ကြ၏။ ထိုအခါမှစ၍ ယနေ့တိုင် ခရစ္စမတ်ပွဲတော်ကို ဒီဇင်ဘာလတွင်ကျင်းပကြလေသည်။



ခရစ္စမတ်လက်ဆောင်ပေးလေ့ရှိသူစန္တာကလော့

ခရစ်ယန်ကျမ်းစာတွင်ပါရှိသော ခရစ်တော်၏ ဖွားမြင်ပုံအကြောင်းကိုထောက်ရှုလျှင် ခရစ်တော်၏ မွေးနေ့သည်

ဒီဇင်ဘာလအတွင်းတွင် ဖြစ်နိုင်ဖွယ်ရာမရှိချေ။ သို့သော် ခရစ်တော်မပေါ်မီ ရှေးနှစ်ပေါင်းများစွာကပင် နတ်ကြီးများကိုးကွယ်ပူဇော်ရာ ပွဲတော်များကို ရာသီဥတုကောင်းမွန်သော ဒီဇင်ဘာလအတွင်းတွင် ကျင်းပမြဲဖြစ်ခဲ့ရာ၊ ထိုနတ်ပွဲတော်များမှ ပြောင်းလဲလာသောခရစ္စမတ်ပွဲတော်ကိုလည်း ဒီဇင်ဘာလအတွင်းတွင် ကျင်းပခြင်းပင်ဖြစ်သည်။

ခရစ္စမတ်ပွဲတော်သည် ခရစ်ယန်များ၏ အထွတ်မြတ်ဆုံးပွဲတော်ဖြစ်၏။ ခရစ္စမတ်ပွဲတော်၏ ဓလေ့ထုံးစံများသည် ဘာသာအယူဝါဒ ပွဲတော်သက်သက်အဖြစ်မှ တဖြည်းဖြည်းပြောင်းလဲကာ၊ ရာသီဥတု၊ မိရိုးဖလာအယူဝါဒ၊ အမျိုးသားရေးစသော လောကီဓလေ့များ ပါဝင်သောပွဲဖြစ်လာသည်။

ခရစ်ယန်နိုင်ငံ အသီးအသီး၌ ခရစ္စမတ်ပွဲတော်ကို ကျင်းပရာတွင် မိမိတို့နိုင်ငံ မိမိတို့လူမျိုးဆိုင်ရာ ဓလေ့ထုံးစံများအတိုင်း ကျင်းပကြသည်။ ပွဲတော်နေ့တွင် ယောကျ်ားမိန်းမလူကြီးလူငယ်မရွေး မိမိတို့လုပ်ငန်းများကို ရပ်စဲလျက် ပျော်ပွဲရွှင်ပွဲစားသောက်ပွဲများကို တခမ်းတနားကျင်းပကြသည်။ခရစ်ယန်နိုင်ငံတိုင်း၌လိုလိုပင် ခရစ္စမတ်ပွဲတော်သီချင်းများကို တပျော်တပါးသီဆိုလေ့ရှိကြသည်။ အင်္ဂလန်နိုင်ငံတွင် ပွဲတော်မတိုင်မီ ညနေတွင် ပြတင်းများအောက်၌ စုရုံး၍ပွဲတော်သီချင်းများကို သီဆိုကြသည်။ ပွဲတော်တွင်အရေးပါလှသော ခရစ္စမတ်သစ်ပင်ကိုလည်း မီးပွင့်များဖြင့်လှပစွာ အဆန်းတကြယ်တန်ဆာဆင်ကြသည်။

ခရစ္စမတ်ပွဲတော်နေ့တွင် ခရစ်ယန်များသည် မိမိတို့ခင်မင်သော မိတ်ဆွေများ ဆွေမျိုးများထံသို့ လက်ဆောင်များပေးပို့လေ့ရှိ၏။ ထိုအလေ့အထမှာ ရှေးရောမခေတ်ကပင် အစပျိုးခဲ့သော အလေ့အထဖြစ်ပေသည်။ ခရစ်ယန်ကလေးသူငယ်များသည် ပွဲတော်အခါတွင် သူတို့အား စန္တကလော့သည် လက်ဆောင်ပစ္စည်းများ လာရောက်ပေးလေ့ရှိသည်ဟု ယုံကြည်ကြသည်။ စန္တကလော့မှာ ခရစ်ယန်လောကတွင်ပါသော စိန်နစ်ကလပ်ပင်ဖြစ်လေသည်။ အင်္ဂလန်နိုင်ငံနှင့် အမေရိကန်ပြည်ထောင်စုတွင် ကလေးသူငယ်တို့သည် ပွဲတော်နေ့မတိုင်မီ ညနေတွင် စန္တကလော့လာ၍ လက်ဆောင်ထည့်နိုင်ရန် ခြေအိတ်ရှည်များကို အလွတ်ချိတ်ဆွဲထားလေ့ရှိ၏။ ပြင်သစ်နိုင်ငံတွင်ကား ကလေးများသည် လက်ဆောင်များကိုခံယူရန် သစ်သားဖိနပ်များကို မီးဖိုပေါ်တွင် တင်ထားလေ့ရှိ၏။ နော်ဝေးနိုင်ငံတွင်မူ ကလေးသူငယ်များသည် လက်ဆောင်ကစားစရာများကို အိမ်တွင်းအိမ်ပြင်များ၌ တပျော်တပါးလိုက်လံရှာဖွေတတ်ကြလေသည်။



ခရစ်တော်ဖွားမြင်ခြင်းကိုဤသို့ပြဇာတ်ဖြင့်သရုပ်ဖော်ကြသည်။

# ခရစ်ယန်တို့၏ကယ်တင်ရှင်

**ရှေးနှစ်ပေါင်း ၂၀၀၀ ခန့်က နွားတင်းကုပ်တွင် မထင်မရှားဖွားမြင်သော ခရစ်တော်ယေရှုသည် မိမိဟောပြောသောအယူဝါဒကြောင့် လက်ဝါးကပ်တိုင်၌တင်၍အသတ်ခံရ၏။ သို့ရာတွင် ယခုအခါ ထိုအယူဝါဒကို သက်ဝင်ယုံကြည်သူခရစ်ယန်များအား ကမ္ဘာအရပ်ရပ်၌ တွေ့နိုင်ပေသည်။**

**ခရစ်တော်၊ယေရှု။** ။ခရစ်တော်ယေရှုမပေါ်ထွန်းမီ နှစ်ပေါင်းများစွာကပင် ပညာရှိကြီးများသည် ထာဝရဘုရားသခင်က လူသတ္တဝါတို့အားကယ်တင်ရန် သာမန်လူတို့ထက် မြင့်မြတ်သော ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်ကို လူ့လောကသို့ စေလွှတ်လိမ့်မည်ဟု ကောလာဟလစကား ပြောကြားခဲ့ကြသည်။ အထူးသဖြင့် ယဟူဒီ (ယုဒ) လူမျိုးတို့သည် ထိုပုဂ္ဂိုလ်ပေါ်လာမည့်အချိန်ကိုစောင့်မျှော်လျက်ရှိခဲ့ကြသည်။ သာမန်လူတို့ထက် ထူးကဲမြင့်မြတ်သူဟု ဆိုသောကြောင့် ထူးထူးခြားခြား ခမ်းနားတင့်တယ်စွာ ပေါ်ပေါက်လာမည်ဟု အထင်ရှိကြ၏။ သို့ဖြစ်၍ နွားတင်းကုပ်တွင် ယေရှုကို မွေးဖွားသောအခါ သူတို့မျှော်လင့်နေသော ပုဂ္ဂိုလ်မြတ်ဟူ၍ မထင်မှတ်ကြပေ။ ခရစ်တော်ကိုမဖွားမြင်မီ ကောင်းကင်တမန် ဂေးဗရီယယ် (ဂါဗြေလ) သည် မေရီ (မာရိ) ထံသို့ရောက်လာ၍ သားယောကျ်ားကို ဖွားမြင်လိမ့်မည်။ ထိုသားသည် လူတို့အားအပြစ်မှ ကယ်တင်မည့်သူဖြစ်သောကြောင့် ယေရှု ဟူသောအမည်ဖြင့် မှည့်ရမည်ဟု ပြောခဲ့ဘူး၏။ ယေရှု၏မယ်တော် မေရီသည် ခင်ပွန်းသည် နက်ဇရက် (နာဇရက်) မြို့သား ဂျိုးဇက် (ယောသပ်) နှင့်အတူ သန်ကောင်စာရင်းဝင်ခြင်းငှာ ဂျူဒါပြည် (ယုဒပြည်) ဗက်သလီဟမ် (ဗက်လင်)မြို့သို့သွားလေ၏။ ဗက်သလီဟမ်မြို့သို့ရောက်သောအခါ တည်းခိုစရာနေရာ မရှိသောကြောင့် နွားတင်းကုပ်တခု၌ ဝင်ရောက်တည်းခိုကြရသည်။ ထိုနေ့ညဥ့်၌ပင် ခရစ်တော်ကိုဖွားမြင်သဖြင့် သူငယ်တော်ကို နွားစားခွက်တွင် သိပ်ထားရလေသည်။ ခရစ်တော်ယေရှုကို မည်သည့်နေ့ရက်တွင် ဖွားမြင်သည်ဟု အသေအချာ မပြောနိုင်သော်လည်း အေဒီ ၃၀၀ ပြည့်နှစ်လောက်ကစ၍ ဒီဇင်ဘာလ ၂၅ ရက်နေ့ကို ခရစ်တော်ဖွားမြင်သည့်နေ့အဖြစ် အထိမ်းအမှတ်ပွဲများ ပြုလုပ်လာခဲ့ကြသည်။ (ခရစ္စမတ် — ရှု။) ခရစ်တော်ဖွားမြင်သည့်ညတွင် သိုးထိန်းများထံသို့ ကောင်းကင်တမန် တပါးရောက်လာ၍ ခရစ်တော်ဖွားမြင်သည့်သတင်းကို ပြောကြားသဖြင့် နွားစားခွက်၌သိပ်ထားသော သူငယ်တော်ကိုသွား၍ ဖူးမျှော်ကြ၏။ ကောင်းကင်၌လည်း ထူးဆန်းသောကြယ်သစ်တလုံး ထွက်ပေါ်လာသည်။ နက္ခတ်တာရာတို့ကို အမြဲစောင့်ကြည့်နေသော အရှေ့ဖက်ပြည်မှ နက္ခတ်ဆရာ ပညာရှိကြီးများသည် ထိုကြယ်ကိုမြင်လေလျှင် ထာဝရဘုရားသခင် စေလွှတ်သော ယဟူဒီလူမျိုးတို့၏ ဘုရင်ပေါ်ထွန်းသည့် နိမိတ်ဟုဆိုကာ ကြယ်ကြီးညွှန်ရာသို့ ပညာရှိကြီး ၃ ဦးတို့ လိုက်လာကြလေသည်။ ထိုပညာရှိကြီးများကို မေဂျိုင် (မာဂုပညာရှိ) ဟုခေါ်သည်။ မေဂျိုင်တို့သည် လက်ဆောင်ပဏ္ဏာများကိုယူဆောင်၍ ဂျရုဆလမ်း (ယေရုရှလင်) မြို့သို့ရောက်ရှိလာကြ၏။ ထိုအခါက ပါလက်စတိုင်းပြည်ကို အုပ်ချုပ်လျက်ရှိသော ဟဲရဒ် (ဟေရုဒ်) မင်းသည် မေဂျိုင်တို့ရောက်လာကြောင်းကြားသဖြင့် ဆင့်ခေါ်၍စုံစမ်းမေးမြန်းလေသည်။ ပညာရှိတို့က ယဟူဒီတို့၏ရှင်ဘုရင် ဖွားမြင်ခြင်းကြောင့် ဖူးတွေ့ရန်လာကြကြောင်း လျှောက်တင်ကြ၏။ ဟဲရဒ်မင်းလည်း ဖွားမြင်လတ်သောသူငယ်သည် ထီးနန်းကိုလုပ်ကြံမည့်သူ ဖြစ်မည်ဟုယူဆသဖြင့် စိုးရိမ်ပူပန်ခြင်းဖြစ်လေသည်။ သို့ရာတွင် ပညာရှိတို့အား ဗက်သလီဟမ်မြို့၌ အကယ်ပင် ခရစ်တော်ဖွားမြင်ကြောင်းတွေ့ရလျှင် သူ့ထံသို့ပြန်လာ၍ လျှောက်တင်ရန် မှာကြားလိုက်၏။ ပညာရှိတို့လည်း ဗက်သလီဟမ်မြို့သို့ရောက်လျှင် ခရစ်တော်ကို မယ်တော်မေရီ ခမည်းတော်ဂျိုးဇက်တို့နှင့်အတူ နွားတင်းကုပ်၌တွေ့ရှိသဖြင့် ပါလာသောလက်ဆောင်ပဏ္ဏာများကို ဆက်သ၍ပြန်ကြ၏။ သို့ရာတွင် ဟဲရဒ်မင်း၏ အကြံကိုသိသဖြင့် အပြန်တွင် ဟဲရဒ်မင်းမှာကြားသည်ကို ဆန့်ကျင်၍ ဂျရုဆလမ်းမြို့သို့ မဝင်တော့ဘဲ အခြားလမ်းမှ တိတ်တဆိတ်ပြန်ကြလေသည်။

ဟဲရဒ်မင်းသည် မေဂျိုင်တို့၏ လှည့်ဖြားခြင်းကိုခံရသောကြောင့် အလွန်အမျက်ထွက်၍ ဗက်သလီဟမ်မြို့ရှိ အသက် ၂ နှစ်အောက် ကလေးများကိုသုတ်သင်ပစ်ရမည်ဟု အမိန့်ထုတ်ပြန်လေသည်။ ထိုကဲ့သို့ လူမမယ်ကလေးများအား သတ်ပစ်ခြင်းကို 'အပြစ်ကင်းသူများကိုသတ်ပွဲ' ဟုခေါ် စမှတ်ပြုကြလေသည်။ ခမည်းတော်ဂျိုးဇက်သည် အီဂျစ်နိုင်ငံသို့ ထွက်ပြေးတိမ်းရှောင်နေရန် ကြိုတင်၍အိပ်မက်မြင်မက်သဖြင့် ခရစ်တော်ယေရှုသည် အသက်ဘေးမှ လွတ်မြောက်ခဲ့လေသည်။ ဘေးရန်ကင်းချိန်ရောက်မှ နက်ဇရက်မြို့သို့ပြန်လာကြသည်။

ခရစ်တော် အသက် ၃၀ မတိုင်ရောက်မီက အဖြစ်အပျက်အကြောင်းကို အနည်းငယ်မျှသာ သိရှိရသည်။ အသက် ၁၂ နှစ်အရွယ်တွင် မိဖနှစ်ပါးနှင့်အတူ ဂျရုဆလမ်းမြို့သို့ ဘုရားဖူးသွားကြ၏။ အပြန်တွင် ယေရှုကို မတွေ့သဖြင့် မိဖများက လိုက်လံရှာဖွေကြရာ ဘုရားကျောင်းအတွင်း၌ ကျမ်းတတ်ပုဂ္ဂိုလ်များ၏အလယ်တွင် ခက်ခဲနက်နဲသော တရားစကားများကို ဆွေးနွေးလျက်ရှိကြောင်း အံ့ဩစွာ






အပေါ်ပုံ (ဝဲ) ခရစ်တော်ဖွားမြင်သောညကိုဤသို့သရုပ်ပြပုံဆောင်၏။

အပေါ်ပုံ (ယာ) ယဟူဒီတို့အမြင် အားဖြင့် အပြစ်ရှိသည်ဟုဆိုသော လေဝိလူမျိုးအိမ်၌ ခရစ်တော်စားသောက်နေပုံ

အောက်ပုံ (ဝဲ) လက်ဝါးကပ်တိုင်ပေါ်၌ရိုက်ထားခြင်းခံရသောခရစ်တော်ယေရှုပုံ

အောက်ပုံ (ယာ) ခရစ်ယန်တို့၏အယူတွင် ခရစ်တော်သည် အသေခံပြီးနောက် ၃ ရက်မြောက်သော နေ့တွင်အသက်ပြန်၍ရှင်သည်ဟုယုံကြည်ကြ၏။ ဤပုံမှာခရစ်တော်သင်းချိုင်းထဲမှထွက်လာပုံဖြစ်သည်။





တွေ့ကြလေသည်။ ယေရှုသည် အသက် ၃၀ အရွယ်မှစ၍ တရားဒေသနာများကို စတင်ဟောပြောသည်။ ဝမ်းကွဲနောင်တော်ဂျွန် (ယောဟန်) က ယေရှုကိုဂျော်ဒန် (ယော်ဒန်) မြစ်၌ ဗတ္တိဇံမင်္ဂလာပေးသည်။ ဤသို့ပေးရာ၌ ယေရှုသည်လူအများ မြော်လင့်နေသော ကယ်တင်ရှင် မဆိုင်ယာ (မေရှိယ) ပင်ဖြစ်သည်ဟု ဂျွန်က ကျေညာလေသည်။ ထိုနောက် ယေရှုသည် တောသို့ဝင်၍ တရားကျင့်လေ၏။ ထိုအခါမာရ်နတ်သည် ယေရှုအား ဤလောက၌ရှိသမျှသော တိုင်းနိုင်ငံများကိုရင်း၊ ထိုတိုင်းနိုင်ငံများ၏ ဘုန်းစည်းစိမ်ကိုရင်း ပြ၍စုံစမ်းသွေးဆောင်လေ၏။ သို့ရာတွင် ယေရှုသည် မာရ်နတ်၏ အလိုသို့မလိုက်ဘဲ အရပ်ရပ်သို့ လှည့်လည်ကာ မေတ္တာတရားကို ဟောပြောသည်။ မကျန်းမာသူများ၏ အနာရောဂါများကိုလည်း ပျောက်ကင်းစေသည်။ ထို့ပြင် နတ်ဆိုးတို့ကိုလည်း နှင်ထုတ်သည်။ ယေရှုသည် မိမိအား ကူညီရန် တမန်တော် ၁၂ ပါးကို ရွေးကောက်ထားသည်။

ဓမ္မဟောင်းကျမ်းလာ အယူဝါဒအတိုင်းမဟုတ်ဘဲ တရားမှန်ကိုဟောနေသော ယေရှုအား ယဟူဒီသာသနာ့ခေါင်းဆောင် ဖဲရဆီး (ဖါရိရှဲ) နှင့် ဟဲရဒ်မင်း၏နောက်လိုက်များက ရန်ငြိုးဖွဲ့လေသည်။ ယေရှုသည် ရန်များလာသောကြောင့် တိုင်ယာ (တူရုမြို့) နှင့်ဆိုင်ဒွန် (ဇိဒုန်) မြို့များသို့ ရှောင်တိမ်းကာ နောက်လိုက်များကို တရားဟောမြဲ ဟောပြောနေ၏။ ယေရှု၏ တရားများမှာ ပုံဆောင်ဝတ္ထုများဖြင့် ယှဉ်၍ဟောသော မေတ္တာတရားဖြစ်၏။ အကျဉ်းအားဖြင့် ယေရှုဟောသောတရားမှာ ထာဝရဘုရားကို အကြွင်းမဲ့ချစ်၍ အချင်းချင်း ချစ်ခင်ရန်ပင်ဖြစ်၏။ ယေရှု၏တရားများကို သာမန်ပုဂ္ဂိုလ်များက ကြိုက်နှစ်သက်၍ လက်ခံကြသော်လည်း ယဟူဒီလူမျိုး သာသနာ့ခေါင်းဆောင် များကမူ ယေရှုကို သတ်ပစ်ရန် အချက်ကောင်းရှာကြံလျက် ရှိကြသည်။ ထိုနောက် ယေရှုသည် ပသခါပွဲခေါ် ယဟူဒီပွဲတော်သို့တက်ရောက်ရန် ဂျရုဆလမ်မြို့သို့လာလေသည်။ တမန်တော်များနှင့်အတူ ညစာစားသောက်နေချိန်တွင် ဖါရဆီများခေါင်းဆောင်သော ရန်သူများရောက်ရှိလာလေသည်။ တမန်တော်များထဲမှ ဂျူဒါ အစ္စကဲရီးယက် (ယုဒရှကာရုတ်) ဆိုသူသည် သစ္စာဖောက်၍ ယေရှုအား ရန်သူများလက်သို့အပ်လိုက်လေ၏။ သာသနာရေးရုံးတွင် ယေရှုကို ဦးစွာစစ်ဆေးပြီးနောက် ရောမဘုရင်ခံ ပွန်းရှပ် ပိုင်းလတ် (ပုန္တိပိလတ်) မင်းထံသို့ ပို့လေသည်။ ပိုင်းလတ်မင်းသည် ယေရှုအား လွှတ်ပစ်ချင်သော်လည်း ယဟူဒီလူမျိုး အကြီးအကဲများနှင့် နောက်လိုက်များက ယေရှုကို ကားစင်တင်၍ သတ်ရန် တောင်းဆိုကြလေသည်။ ဤသို့ဖြင့် ယေရှုကို ကားစင်သို့ ယူဆောင်သွားရန် အမိန့်ပေးလိုက်လေသည်။ ထိုနောက် ယေရှုအား လူဆိုးသူဆိုးများကဲ့သို့ပင် လက်ဝါးကပ်တိုင်၌ ရိုက်၍သတ်ပစ်ကြသည်။ လက်ဝါးကပ်တိုင်၌ ဝေဒနာခံစားနေစဉ် 'အိုအဘ၊ သူတို့၏အပြစ်ကိုလွှတ်တော်မူပါ။ သူတို့သည် ကိုယ်ပြုသောအမှုကိုမသိကြပါ' ဟု ရန်သူတို့အတွက် ဆုတောင်း၍ အသက်ကိုချုပ်လေ၏။ အသေခံပြီးနောက် ၃ ရက်မြောက်သောနေ့တွင် သေခြင်းမှပြန်၍ အသက်ရှင်သည်ဟူ၍ရင်း၊ ကောင်းကင်ဘုံသို့မတက်မီ သူ၏ တပည့်များထံ လာရောက်သေးသည်ဟူ၍ရင်း ခရစ်ယန်တို့ ကယုံကြည်ကြသည်။ ထို့ပြင် ခရစ်တော်ယေရှုသည် လူဇာတိကိုခံယူသောဘုရားဖြစ်၍ လူတို့၏အမြင့်မြတ်ဆုံး ပုဂ္ဂိုလ်တော်ဖြစ်သည်ဟူ၍ရင်း၊ ထာဝရဘုရား၏ အကြောင်းကို ထင်ရှားစွာဖွင့်ပြသော ပုဂ္ဂိုလ်လည်းဖြစ်သည် ဟူ၍ရင်း၊ လူသတ္တဝါများကို မကောင်းမှုမှရင်း၊ ထာဝရပျက်စီးဆုံးရှုံးခြင်းမှရင်း၊ ကယ်တင်၍ ထာဝရအသက်ကို ရစေတော်မူသောအရှင်ဟူ၍ရင်း၊ တပည့်တော်များက ယုံကြည်ကြလေသည်။ (ခရစ်ယန်အယူဝါဒ — လည်းရှု။)

**ခရစ်ယန်လူငယ်များအသင်း။** ။ဝိုင်၊ အမ်၊ စီ၊ အေ၊ ဟုမြန်မာတို့နှုတ်ကျိုး၍ခေါ်နေကြသော ခရစ်ယန်လူငယ်များအသင်းသည် လူမှုပေါင်းသင်းဆက်ဆံရေးနှင့် အယူဝါဒဆိုင်ရာလုပ်ငန်းများအတွက် မူလကရည်စူး၍ ဖွဲ့စည်းတည်ထောင်ခဲ့သော လူငယ်အဖွဲ့အစည်း တခုဖြစ်၏။ ထိုအသင်းကို ဂျော့ဝီလျံဆိုသော လူငယ်တဦးသည် ခရစ် ၁၈၄၄ ခုနှစ်တွင် အင်္ဂလန်ပြည်၌စတင်တည်ထောင်ခဲ့သည်။

ဂျော့ဝီလျံသည်လန်ဒန်မြို့သို့နယ်မှလာရောက်ကာစိန်ပေါဘုရားရှိခိုးကျောင်းဝင်းရှိ အထည်တိုက်ကြီး တတိုက်တွင် အလုပ်လုပ်ကိုင်နေယင်း လုပ်ဖော်လုပ်ဖက်လူငယ်များအား ဖိတ်ခေါ်ပြီးလျှင် သမ္မာကျမ်းစာကို လေ့ကျက်ခြင်း၊ ဘုရားဝတ်ပြုခြင်း၊ စသည်တို့ကို ပြုလုပ်ခဲ့သည်။ ထိုသို့ မိတ်ဆွေတစုနှင့် သိုက်မြိုက်စွာ ကောင်းရာကောင်းကျိုးတို့ကို ပြုလုပ်နိုင်ခဲ့ရာမှ လူငယ်များနှလုံးရည် တိုးတက်မှုကိုရှေးရှုသော အသင်းတသင်းတည်ထောင်ရန် အကြံပေါ်ပေါက်ခဲ့လာ၏။ သို့အားလျော်စွာ ၁၈၄၄ ခုနှစ်ဇွန်လ ၆ ရက်နေ့တွင် ခရစ်ယန်လူငယ်များအသင်းကို အသင်းသား ၁၂ ဦးနှင့် စတင်တည်ထောင်လိုက်လေသည်။

အသင်းလုပ်ငန်းသည် တစတစ ကျယ်ပြန့်လာပြီးလျှင် အခြားနိုင်ငံများသို့ တဖြည်းဖြည်းပျံ့နှံ့သွား၏။ အသင်းကို စတင်ပျိုးထောင်ခဲ့သော ဂျော့ဝီလျံမှာလည်း နောင်တွင် အလုပ်ကြီးပွား၍ အထည်တိုက်၌ အကြီးအကဲဖြစ်လာပြီးလျှင် ၁၈၉၄ ခုနှစ်၌ ဆာဘွဲ့ဖြင့် ခြီးမြှင့်ခြင်းခံရလေသည်။ ဂျော့ဝီလျံသည် အခြေအနေ တိုးတက်လာသည်နှင့်အမျှ ခရစ်ယန်လူငယ်များအသင်း၏ ကြီးပွားရာကြီးပွားကြောင်းကိုလည်း အစဉ်တစိုက်ကြိုးပမ်းခဲ့လေသည်။

ခရစ်ယန်လူငယ်များအသင်း၏ အထိမ်းအမှတ်မှာ အနီရောင်တြိဂံဖြစ်ပေသည်။ ဂျီနီးဗားမြို့၌ အပြည်ပြည်ဆိုင်ရာ ခရစ်ယန်လူငယ်များ အဖွဲ့ချုပ်တည်ရှိ၍ ကမ္ဘာ့အရပ်ရပ်ရှိ အသင်းခွဲများနှင့် ဆက်သွယ်လျက်ရှိသည်။ ၁၉၅၄ ခုနှစ် အကုန်တွင် နိုင်ငံပေါင်း ၇၂ နိုင်ငံတို့၌ အသင်းခွဲပေါင်း ၁၀,၀၀၀ ကျော်တို့သည် တာဝန်ခံအရာရှိပေါင်း ၆၀၀၀ ခန့်နှင့် အသင်းလုပ်ငန်းများကို ဆောင်ရွက်လျက်ရှိလေသည်။ အသင်းဝင်ဦးရေမှာ နှစ်စဉ်တိုးတက်ခဲ့သည်ဖြစ်ရာ ၁၉၅၄ ခုနှစ်တွင် ကမ္ဘာတဝှန်းလုံးရှိ အသင်းဝင်ပေါင်းမှာ ၄,၀၀၀,၀၀၀ ကျော်မျှဖြစ်လေသည်။

မျက်မှောက်ခေတ်တွင် ခရစ်ယန်လူငယ်များအသင်း၏ ရည်ရွယ်ချက်မှာ ယခင်အခါများကထက်ပင် ကျယ်ပြန့်လာလေတော့သည်။ လူမျိုးမရွေး၊ ဘာသာမရွေး၊ လူငယ်များ၏စည်းရုံးရေးကို အဓိကထား၍၊ လူမှုဝန်ထမ်းစိတ်ဓါတ်မွေးမြူမှု၊ စာရိတ္တကောင်းမွန်မှု၊ အပေါင်းအသင်းဝင်ဆံ့မှု၊ ကိုယ်လက်ကြံ့ခိုင်မှု၊ ပညာရည်တိုးတက်မှု တို့သည်လည်း အသင်း၏ရည်ရွယ်ချက်တွင် အကျုံးဝင်လျက်ရှိပေသည်။ အသင်းတိုက်များတွင် စာသင်တန်းများ၊ ဟောပြောပွဲများ၊ မိတ်ဆက်ပွဲများ၊ ဆွေးနွေးပွဲများ၊ ကစားခုန်စားပွဲများ စသည်တို့ကို အသင်းဝင်တို့၏အကျိုးအလို့ငှာ မကြာခဏပြုလုပ်ပေးလေ့ရှိသည်။

ပဌမကမ္ဘာစစ်ကြီးအတွင်း၌ ခရစ်ယန်လူငယ်များအသင်းဝင်တို့သည် ရန်ပုံငွေအမြောက်အမြားစုဆောင်းကာ၊ စစ်သားများစိတ်လက်ဖျော်ဖြေရေးနှင့် သက်သာချောင်ချိရေးတို့အတွက် စစ်တပ်ရိပ်သာများကို ဖွင့်လှစ်ဆောင်ရွက်ခဲ့ကြသည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌လည်း အလားတူစစ်တပ်ရိပ်သာအမြောက်အမြားကို တိုးချဲ့၍ဖွင့်လှစ်ခဲ့ကြသည်။ မြန်မာနိုင်ငံတွင် ရန်ကုန်မြို့၊ မန္တလေးမြို့၊ မေမြို့နှင့် မော်လမြိုင်မြို့များ၌ ဝိုင်၊ အမ်၊ စီ၊ အေ၊ အသင်းများ တည်ထောင်ပြီးဖြစ်သည်။

ခရစ်ယန်လူငယ်များအသင်းနှင့် ရည်ရွယ်ချက်ချင်းတူညီသော အသင်းတခုမှာ ဝိုင်၊ ဒဗျူ၊ စီ၊ အေ၊ ခေါ် ခရစ်ယန်မိန်းကလေးများအသင်းဖြစ်၏။ ထိုအသင်းကို အင်္ဂလန်ပြည်တွင် ၁၈၅၅ ခုနှစ်၌ စတင်တည်ထောင်ခဲ့သည်။ ခရစ်ယန်လူငယ်များအသင်းသည် အမျိုးသားများအတွက် အကျိုးဆောင်သကဲ့သို့၊ ဝိုင်၊ ဒဗျူ၊ စီ၊ အေသည် အမျိုးသမီးများအတွက် အကျိုးဆောင်လေသည်။ အသင်း၏အထိမ်းအမှတ်မှာ အပြာရောင်တြိဂံဖြစ်သည်။ ယခုအခါ နိုင်ငံပေါင်း ၆၈ နိုင်ငံတွင် ခရစ်ယန်မိန်းကလေးအသင်းဝင်ပေါင်း ၅၀၀,၀၀၀ ကျော်မျှရှိလေသည်။ မြန်မာနိုင်ငံတွင် ရန်ကုန်မြို့၊ မန္တလေးမြို့၊ မေမြို့၊ တောင်ကြီးမြို့ နှင့် မော်လမြိုင်မြို့များ၌ ဝိုင်၊ ဒဗျူ၊ စီ၊ အေ၊ အသင်းများဖွင့်လှစ်ပြီးဖြစ်သည်။




ရန်ကုန်မြို့ရှိခရစ်ယန်လူငယ်အသင်းအဆောက်အဦ

# ခရစ်ယန်သာသနာပြုပြင်ပြောင်းလဲရေး

ခရစ်ယန်သာသနာ သန့်ရှင်းရေးကိုရှေးရှုလျက် ဥရောပနိုင်ငံများမှ ခေါင်းဆောင်အသီးသီးတို့၏ ဆောင်ရွက်ချက်တို့သည် အဆုံး၌ ခရစ်ယန်သာသနာတွင် ဂိုဏ်းကွဲမှုများကို ပေါ်ပေါက်စေ၏။ ထိုအရေးအခင်းသည် ထိုခေတ်ဥရောပတိုက်တခုလုံးကို သိမ့်သိမ့်တုန်သွားစေသဖြင့် ခရစ်ယန်သာသနာ့သမိုင်းတွင်သာမဟုတ် ဥရောပသမိုင်းတွင်ပါ အရေးပါသောအခန်းတရပ်ပင်တည်း။

**ခရစ်ယန်သာသနာအရေးပုံ။** ။ဥရောပတိုက်၌ ရီနေဆွန်းခေါ် ခေတ်ဆန်းချိန် (ဥဘဏ်သစ်အရေးပေါ်ပုံ) သို့ ရောက်ရှိလာသော် စာပေနှင့်အနုပညာတို့ ပြန်လည်ဆန်းသစ်လာသောကြောင့်၎င်း၊ ခရီးထွက်၍ စူးစမ်းရှာဖွေလေ့လာသဖြင့် အတွေ့အကြုံ ပွါးများလာသောကြောင့်၎င်း၊ လူတို့၌အတွေးအခေါ် အမြော်အမြင်များ ကျယ်ဝန်းလာ၍၊ ဝေဖန်သောစိတ်ဓါတ်သစ်သည် ထွန်းကားခဲ့သည်။ ဤခေတ်အတွင်း၌ပင်လျှင်၊ ဂျာမနီပြည်တွင် ခရစ် ၁၅၂၅ ခုနှစ်မှစ၍၊ လူမှုရေးရာနှင့် စီးပွားရေးရာတို့တွင် မကျေနပ်မှုများကြောင့်၊ တောင်သူလယ်သမား အရေးတော်ပုံတရပ်ဖြစ်ပွါးခဲ့လေသည်။ ဤအရေးတော်ပုံနှင့်ယှဉ်၍၊ ဂျာမနီပြည်တွင် အမျိုးသားစိတ်သည် ပြင်းထန်စွာ ပေါ်ပေါက်လာခဲ့ပြန်သည်။ (ဥဘဏ်သစ်အရေးပုံ၊ ခရီးထွက်စူးစမ်းခြင်း — ရှု)။

ဤအကြောင်းတရားများ ပေါ်ပေါက်ဆဲတွင်၊ ခရစ်ယန်သံဃာအဖွဲ့သည် အကျင့်သိက္ခာပျက်ပြားလာသောကြောင့် လူတို့အကြည်ညိုမဲ့လာကြသည်။ ထိုခေတ်က အကြီးအကဲဖြစ်သော ခရစ်ယန်ဘုန်းကြီးများသည် မြေပိုင်ရှင်ကြီးများအဖြစ်နှင့် စည်းစိမ်ချမ်းသာကို ခံစားနေကြ၏။ စစ်တပ်များကိုလည်း ထားရှိ၏။ နိုင်ငံရေး၌လည်း ပါဝင်စွက်ဖက်၏။ ဤအကြောင်းတို့ကြောင့် ခရစ်ယန်သံဃာအဖွဲ့၏ ဩဇာတန်ခိုး ကြီးမားကျယ်ပြန့်နေသည်ကို လူတို့သည် စူးစမ်းဆင်ခြင်၍ ဝေဖန်လာကြလေသည်။ ခရစ်ယန်သံဃာအဖွဲ့က ဟောပြောခဲ့သမျှ သဘောတရားတို့သည် ဘုရားသခင်၏ အလိုတော်နှင့် ညီညွတ်ပါလေစ၊ ခရစ်တော်ဟောပြောသော တရားကိုယ်မှ ဟုတ်ပါလေစ၊ ခရစ်ယန်သံဃာအဖွဲ့ဝင်တို့သည်၊ လူသာမန်တို့ထက်လွန်ကဲသော တန်ခိုးဣဒ္ဓိနှင့်ပြည့်စုံသည်ဆိုခြင်းမှာ ဟုတ်ပါလေစ၊ စသည်ဖြင့် လူတို့သည်သံသယဖြစ်လာကြကုန်၏။ အယုတ်သဖြင့်၊ ရောမမြို့ပုပ်ရဟန်းမင်းထံသို့ ဘဏ္ဍာတော် ဆက်သရသည်ကိုပင်လျှင် ဂျာမန်လူမျိုးများက မကျေနပ်နိုင်တော့ချေ။

ယင်းအခြေ၌ စက္ကူလုပ်ခြင်းနှင့် စာပုံနှိပ်ခြင်းအတတ် ထွန်းကားလာလေရာ၊ ဥရောပတိုက်၌ အသိဉာဏ်အလင်းရောင်သည် ထွန်းပြောင်လာခဲ့သည်။ နိုင်ငံအသီးသီးမှ ပညာရှိများသည် လက်တင်ဘာသာနှင့် ရေးသားထားသော ခရစ်ယန်ကျမ်းစာများကို မိမိတို့တိုင်းရင်းသားဘာသာသို့ ပြန်ဆိုရေးသား ပုံနှိပ်ထုတ်ဝေခဲ့ကြ၏။ ထိုအခါမှစ၍ ခရစ်ယန်တရားကို ခရစ်တော်၏အာဘော်နှင့် ညီမညီ စိစစ်လေ့လာ သုံးသပ်နိုင်ခဲ့ကြလေရာ၊ ရီနေဆွန်းခေတ်ပြင်ဆရာကြီးတို့သည် ခရစ်ယန်သံဃာအဖွဲ့ကို အပြင်းအထန်ပြစ်တင်ရှုတ်ချကာ၊ ပြုပြင်ပြောင်းလဲရေးကို နှိုးဆော်ခဲ့လေသည်။ ဤသို့လျှင် ခရစ်ယန်သာသနာ့အရေးပုံ၏အကြောင်းရင်းခံတို့သည် ဖြစ်ပေါ်လာခဲ့၏။

ပဌမ၌ ခေတ်ပြင်ဆရာတို့သည် ကက်သလစ်ခေါ် ဗရင်ဂျီသာသနာအာဏာပိုင်တို့အား ခြားနားတော်လှန်ခြင်းကိုမပြုကြသေးဘဲ၊ ခရစ်ယန်သံဃာအဖွဲ့၏ အာဏာစက်အတွင်းမှ ပင်နေ၍၊ ပြုပြင်ရေးကို လုပ်ဆောင်ခဲ့ကြ၏။ ၁၅၀၀ ပြည့်နှစ်တွင် ဒပ်ချလူမျိုး အီရက်ဇမပ်က 'ဂျာမနီပြည်သည် ထွက်ပြေးတိမ်းရှောင်နေသောဘုန်းကြီးများ၊ အိမ်ထောင်သည်ဘုန်းကြီးများ၊ ဝေ်၍တောင်းစားနေရသောဘုန်းကြီးများဖြင့် ပြည့်နှက်လျက်ရှိသည်။ ထိုဘုန်းကြီးများသည် မိမိတို့ကိုယ်တိုင် စာပေလည်းမသင်၊ အခြားသူတို့ကိုလည်း သင်မပေး။ သာသနာတော်၏ စည်းကမ်းနည်းလမ်းများကို လိုက်နာခြင်းနှင့် သာသနာတော်ကို ရိုသေကိုင်းညွတ်ခြင်းတို့လည်း အလျဉ်းမရှိတော့ပြီ' ဟုရေးသားခဲ့ဘူးသည်။ ထိုနောက် အီရက်ဇမပ်သည် သာသနာကိုသန့်ရှင်းအောင် မြီးပင့်သောအားဖြင့် မူလဂရိဘာသာနှင့် ရေးသားထားသောဓမ္မသစ်ကျမ်းကို လက်တင်ဘာသာသို့ ပြန်ဆိုခဲ့သည်။ ထိုမှတပါး ခရစ်တော်၏ အန္တေဝါသိကများ ဟောကြားသောတရားကိုယ်တို့ကို ဋီကာဖွင့်ခဲ့လေသည်။ အီရက်ဇမပ် သည် ကျမ်းပြုသောနည်းဖြင့် ခရစ်ယန်သံဃာအဖွဲ့ကို ပြုပြင်ပြောင်းလဲရန် ကြိုးစားခဲ့သည်။ (အီရက်ဇမပ် — ရှု)။

သို့သော်၊ ပုပ်ရဟန်းမင်းကို ပဌမဦးစွာ တော်လှန်ဝံ့သူကား မရှိနှမ်းပါး ဆင်းရဲသားဖြစ်သော ဂျာမန်လူမျိုး မာတင်လူသာပင်တည်း။ မာတင်လူသာကို သူ၏မိဘများက ရှေ့နေရှေ့ရပ်ဖြစ်စေလို၏။ ထို့ကြောင့် မိမိတို့ကိုယ်တိုင်က ချို့ငဲ့စွာ ခြိုးခြံနေထိုင်၍ သားဖြစ်သူကို ပညာပေးခဲ့၏။ သို့ပါသော်လည်း ပညာတတ်၍ လူလားမြောက်လာသောအခါ မာတင်လူသာသည် ၁၅၀၅ ခုနှစ်တွင် ဗိုမင်နီကန်ဘုန်းကြီးကျောင်း၌ ခရစ်ယန်ဘုန်းကြီးအဖြစ် ခံယူလိုက်၏။ သို့ရာတွင် အပြစ်မှလွတ်မြောက်ရာလွတ်မြောက်ကြောင်း အတွက် ခရစ်ယန်သံဃာအဖွဲ့ကပြဋ္ဌာန်းထားသည့်ဒဏ်ခံခြင်း၊ ဆုတောင်းခြင်း၊ အာဟာရဖြတ်ခြင်းစသောအာပတ်ဖြေနည်းများကိုကျေနပ်နှစ်သိမ့်ခြင်းမရှိ၍၊ စိတ်နှလုံးညှိုးချုံး ပူဆွေးရခဲ့သည်။ (လူသာ, မာတင် — ရှု။)

သို့နှင့်ခရစ်တော်၏တပည့်ကြီး စိန့်ပေါ်၏တရားစာများနှင့် စိန့်အော်ဂတ်စတင်း၏ ကျမ်းများကိုဖတ်ရှုရာမှ၊ ဒဏ်ခံခြင်း၊ ဆုတောင်းခြင်း၊ အာပတ်ဖြေနည်းစသည်တို့သည် ပြုခဲ့သော မကောင်းမှုများအတွက် အပြစ်ဒဏ်မှ မလွတ်မြောက်စေနိုင်၊ ခရစ်တော်ကို အကြွင်းမဲ့ယုံကြည်ကိုးစား ကြည်ညိုခြင်းသာ လျှင် အပြစ်မှလွတ်မြောက်စေနိုင်မည်ဟု သဘောပေါက် လာသည်။ ဤအယူအဆသာလျှင် သမ္မာကျမ်းစာအလိုနှင့် ညီညွတ်သောကြောင့် သမ္မာကျမ်းသည်သာလျှင် ကောင်း ကင်ဘုံရှိ ဘုရားသခင်ထံ ချဉ်းကပ်နိုင်ရန် လူသတ္တဝါတို့အား လမ်းမှန်ကိုညွှန်ပြနိုင်သည်ဟု မာတင်လူသာကဆိုသည်။ ဤအယူအဆမှာ လူသတ္တဝါတို့သည် သံဃာအဖွဲ့ကို အကြောင်းပြု၍ သာလျှင် လွတ်မြောက်နိုင်သည်ဟူသော ဗရင်ဂျီသံဃာအဖွဲ့ကြီးစည်းရုံးရေးကို များစွာထိခိုက်စေ၏။

မာတင်လူသာသည် ခရစ်ယန်ဘုန်းကြီးဘဝမှ ထွက်ခဲ့ပြီး နောက် ၁၅၀၈ ခုနှစ်တွင် ဝစ်တင်ဗတ်တက္ကသိုလ်၌ ဗြဟဒေဝ ဗေဒ ပါမောက္ခအဖြစ်ဆောင်ရွက်သည်။ ဤအခါတွင် မိမိ အယူအဆများကို စတင်ဟောပြောခဲ့သည်။ ထိုကြောင့် မကြာမီ မာတင်လူသာနှင့် ခရစ်ယန်သံဃာအဖွဲ့သည် ပဋိ ပက္ခဖြစ်လာရလေသည်။

ဤပဋိပက္ခအတွင်း၊ မာတင်လူသာ၏ အယူအဆမှာ လျင်မြန်စွာပျံ့နှံ့သွားခဲ့သည်။ မာတင်လူသာသည် ပုပ် ရဟန်းမင်း၏ ခေါင်းဆောင်မှုကိုပယ်သည်။ ခရစ်ယန်ဘုန်း ကြီးများသည်သာမန်လူထက်တန်ခိုးဣဒ္ဓိပါဒ်ရှိသည်ဟူသော အစွဲကို ချွတ်သည်။ ရဟန်းယောကျ်ား ရဟန်းမိန်းမတို့ အဓိဋ္ဌာန်ပြုသောအလုပ်သည် အလဟဿ ဖြစ်သည်ဟုဆို သည်။ အဆုံး၌ ခရစ်ယန်ဘုရားရှိခိုးကျောင်းများသည်ပင် လျှင် မလိုဟုပယ်လေသည်။ ဤသို့လျှင် ၁၅၂၀ ခုနှစ်၌ မာတင်လူသာသည် ပုပ်ရဟန်းမင်းနှင့် သံဃာအဖွဲ့ကိုတော် လှန်လေသည်။

၁၅၂၅ ခုနှစ်၌ကား ပုပ်ရဟန်းမင်းအား တော်လှန်သည့် အရေးမှာ အတော်ခရီးရောက်လာခဲ့သည်။ ထိုကြောင့် ပုပ် ရဟန်းမင်းသည် သာသနာ့အစည်းအဝေးများ ကျင်းပ၍၊ လူသာ၏ဟောပြောချက်များကို ဖြေကြားရှင်းလင်းပြခဲ့ သည်။ သို့သော် မည်သူမျှမကျေနပ်ပေ၊ ပုပ်ရဟန်းမင်း၏ ဟောပြောချက်ကို မယုံကြည်သူတို့သည် ခရစ်တော်၏ တရားများကို မိမိတို့၏ကိုယ်ပိုင်ဥာဏ်ဖြင့် အဓိပ္ပါယ်ကောက် ယူကာ၊ ခရစ်ယန်ဂိုဏ်းသစ် တည်ထောင်ကြလေသည်။ ဂိုဏ်းသစ်တည်ထောင်သူတို့သည် ပုပ်ရဟန်းမင်းကို သာ သနာ့အရေးဆိုင်ရာ ခေါင်းဆောင်ဟု အသိအမှတ်မပြု တော့ဘဲ သက်ဆိုင်ရာသက်ဆိုင်ရာနိုင်ငံတို့တွင် ဂိုဏ်းအုပ် ဂိုဏ်းချုပ်အသီးသီးတို့ကို တင်မြှောက်ခဲ့ကြလေသည်။ ထို စဉ်က ဂျာမနီပြည်မှာ နိုင်ငံတနိုင်ငံအဖြစ်ဖြင့် မတည်ရှိဘဲ ပြည်နယ်ကလေးများ ဖွဲ့စည်းကာ သီးခြားကွဲပြားစွာရှိ၏။ လူသာနေထိုင်သော ဆက်စွန်နီပြည်နယ်၌ ဖရက်ဒရစ် မင်းသားကိုယ်တိုင်ကလည်း တရားမျှတသည်ဖြစ်လေရာ၊ လူသာနှင့် သူ၏နောက်လိုက်များမှာ ပုပ်ရဟန်းမင်းနှင့် ဗရင်ဂျီဂိုဏ်းဝင် ရောမသာသနာစောင့် ကေရာဇ်ဖြစ်သော ပဋ္ဌမချားဘုရင်တို့၏ ရာဇမာန်မှကင်းလွတ်ခဲ့ကြသည်။ စင်စစ်သံဃာအဖွဲ့ကို မာတင်လူသာ အတိုက်အခံပြုသည့် ခေတ်မှာ ယခင်က ယင်းကဲ့သို့ အတိုက်အခံပြုခဲ့ဘူးသော အင်္ဂလန်ပြည်၏ ဝစ်ကလစ်နှင့် ဗိုဟီးမီးယားပြည်၏ ဂျွန် ဟပ်စ တို့၏ခေတ်လောက်မဆိုးချေ။ ဂျွန်ဟပ်စမှာ ယင်းသို့ အတိုက်အခံပြုခြင်းကြောင့် မီးတင်ရှို့ကာအသတ်ခံရသည်။ (ဝစ်ကလစ်, ဂျေ၊ ဟပ်စ, ဂျွန် — ရှု။)

ထိုကြောင့်၊ ရောမမြို့ပုပ်ရဟန်းမင်းက မာတင်လူသာကို ဆင့်ခေါ်သောအခါ၊ ဂျွန်ဟပ်စ၏ အဖြစ်အပျက်ကို မမေ့ သေးသောလူသာသည် ရောမမြို့သို့ မသွားဘဲနေခဲ့သည်။ ရောမမြို့ပုပ်ရဟန်းမင်းလည်း သူ၏အမိန့်ကိုတော်လှန်သော မာတင်လူသာအား ကြဉ်လိုက်လေသည်။ ယင်းသို့မာတင် လူသာကိုကြဉ်သည်ဟု ကျေညာသောအမိန့်စာကို လူသာ သည် ပရိသတ်ရှေ့တွင် မီးရှို့လိုက်သောအခါ၊ လူအပေါင်း တို့က သောင်းသောင်းဖြဖြ သြဘာပေးကြလေသည်။ ထို အခါမှစ၍ မာတင်လူသာသည် ပုပ်ရဟန်းမင်း၏အမိန့်ကို ကန့်ကွက်သောအနေနှင့် ဂိုဏ်းသစ်တခုကိုတည်ထောင် လိုက်လေသည်။

မာတင်လူသာက သာသနာပိုင်ပုပ်ရဟန်းမင်းကို တော် လှန်နိုင်ခြင်းမှာ ပုံနှိပ်စက်များ ထွန်းကားလာခြင်းကြောင့်၊ သာသနာဆိုင်ရာအယူအဆသစ်တို့ကို အလွယ်တကူဖြန့်ဖြူး နိုင်ခြင်းနှင့်၊ မင်းညီမင်းသားတို့က သာသနာ့ပစ္စည်းတို့ကို လိုချင်တပ်မက်သော လောဘဖြင့်၊ လူသာကို ဝိုင်းဝန်းကာ ကွယ်ကာ၊ မီးလောင်လေပင့် ပြုလုပ်ကြခြင်းတို့ကြောင့် ဖြစ်၏။ လူသာကို နှိမ်နင်းနိုင်မည့်သူမှာလည်း ပဋ္ဌမချား ဘုရင်သာလျှင်ရှိ၏။ သို့သော် ချားဘုရင်မှာ ပြင်သစ်ပြည် နှင့် စစ်ဆင်နေရသောကြောင့်၊ လူသာကို မနှိမ်နင်းအား ပေ။ အချိန်နှောင်းမှ ချားဘုရင်က လူသာနှင့် စေ့စပ်သော် လည်းအထမမြောက်ချေ။

ဥရောပတလွှား၌ ဂိုဏ်းသစ်ဂိုဏ်းဟောင်း နှစ်စုကွဲသွားပြီး သည့်နောက်၊ ဂိုဏ်းသစ်ကိုကိုးကွယ်သောနိုင်ငံတို့နှင့် ဂိုဏ်း ဟောင်းကိုကိုးကွယ်သောနိုင်ငံတို့သည် ပဋိပက္ခဖြစ်လာကြ သည်။ အထူးသဖြင့် ချားဘုရင်၏ နိုင်ငံတွင်း၌ပင်လျှင် အဆိုပါဂိုဏ်းသစ်ဂိုဏ်းဟောင်းနှစ်စုကွဲသည် အချင်းချင်းစစ် မက်ဖြစ်ပွားကြလေသည်။ ပဌမစစ်ပွဲ (၁၅၄၆–၄၇) ၌ ဆက်စွန်နီမင်းသားက သစ္စာဖောက်သဖြင့် ဂိုဏ်းသစ်သည် တဖြည်းဖြည်းအင်အားကြီးမားလာရာ ချားဘုရင်မှာဂျာမန်

နိုင်ငံအသီးသီးတို့၌ အုပ်ချုပ်သူမင်းညီမင်းသားတို့ မိမိနှစ်သက်ရာအယူဝါဒကို လိုက်နာကိုးကွယ်နိုင်ခွင့် ပေးလိုက်လေသည်။ (နှစ်သုံးဆယ်စစ်ပွဲ — ရှု။)

ထိုဂိုဏ်းသစ်ကို နှောင်းအခါ၌ ပရိုတက်စတန့်ဂိုဏ်း ဟုခေါ်ကြသည်။ ။ ထိုဂိုဏ်းသစ်သည် ဂျာမနီမြောက်ပိုင်းတွင်သာမကဘဲ၊ အင်္ဂလန်၊ ဆွစ်ဇာလန်၊ ဆွီဒင်၊ ဗိုဟီးမီးယား၊ နော်ဝေး၊ ဒိန်းမတ်၊ စကော့တလန်စသော အခြားနိုင်ငံများတွင်လည်း ပေါ်ပေါက်လာခဲ့လေသည်။ (ကယ်လဗင်၊ ဂျေါနော့၊ ဂျွန်လည်း — ရှု။)

အင်္ဂလန်ပြည်၌ အဋ္ဌမဟင်နရီဘုရင် လက်ထက်မှစ၍ သာသနာပြောင်းလဲမှုများ ပေါ်ပေါက်လာခဲ့သည်။ ဟင်နရီဘုရင်သည် သူ၏မိဖုရားကက်သရင်းကို ကွာရှင်းလိုရာ၊ ပုပ်ရဟန်းမင်းက သဘောမတူပေ။ ထို့ကြောင့် ၁၅၃၀ ခုနှစ်တွင် ဟင်နရီဘုရင်သည် ပုပ်ရဟန်းမင်းကို အင်္ဂလန်ပြည်သံဃာအဖွဲ့၏ခေါင်းဆောင်ဟု အသိအမှတ်မပြုတော့ဘဲ၊ မိမိကိုယ်တိုင် အင်္ဂလန်ပြည်၏ သံဃာအဖွဲ့ခေါင်းဆောင်အဖြစ် ခံယူလိုက်လေသည်။ ဟင်နရီဘုရင်ကို အင်္ဂလိပ်လူမျိုးတမျိုးလုံးလိုလိုပင် ဝိုင်းဝန်းထောက်ခံကြသဖြင့်၊ အင်္ဂလန်ပြည်သံဃာအဖွဲ့သည်လည်း ဗရင်ဂျီသံဃာအဖွဲ့မှ ခွဲထွက်ကာ ဂိုဏ်းသီးခြားထောင်လေသည်။ (ဟင်နရီ၊ အင်္ဂလိပ်ဘုရင်များ — ရှု။) ဗရင်ဂျီဂိုဏ်းဝင် မေရီဘုရင်မလက်ထက်၌ ပရိုတက်စတန့်ဂိုဏ်းဝင်များ နှိပ်ကွပ်ခြင်းခံခဲ့ရသော်လည်း၊ အယ်လစ်ဇဗက်ဘုရင်မ လက်ထက်ကျသော် ဂိုဏ်းသစ်မှာကောင်းစွာ အမြစ်တွယ်သွားလေတော့သည်။

ခရစ်ယန်သာသနာအရေးပုံ၏ ပဌမပိုင်းမှာ အင်္ဂလိပ်ဘာသာဖြင့် 'ရီဖွမ်မေးရှင်း' ခေါ်သည်။ တိုက်ရိုက်အားဖြင့် 'ပြုပြင်ရေး' ဟုအဓိပ္ပါယ်ရရှိသော်လည်း၊ အမှန်မှာ ဗရင်ဂျီသံဃာအဖွဲ့၏ အချို့အချက်အလက်များကို တော်လှန်ပယ်ရှားခြင်းဖြစ်သည်။ ဗရင်ဂျီသာသနာကို ပြုပြင်ပြောင်းလဲလိုက်သည်မဟုတ်၊ ခရစ်ယန်သာသနာအရေးပုံ၏ ဒုတိယပိုင်းဟုဆိုအပ်သော 'ကောင်တာရီဖွမ်မေးရှင်း' ခေါ် ဗရင်ဂျီသံဃာအဖွဲ့အတွင်းတွင် ပြုပြင်ပြောင်းလဲ ပညတ်မှုများအကြောင်းကို အောက်၌အကျဉ်းအားဖြင့် ဆက်လက်ဖေါ်ပြပါအံ့။

ဗရင်ဂျီဂိုဏ်းဆိုင်ရာ အာဏာပိုင်များသည် ထိုသို့ဥရောပတိုက်၌ ပရိုတက်စတန့်ဂိုဏ်း အနှံ့အပြားပြန့်ပွားသွားပုံကို သိမြင်ကြသောအခါ နိုးကြားထကြွလာ၍ သူတို့ဂိုဏ်းသန့်ရှင်းရေးကိစ္စများကိုအားသွန်ဆောင်ရွက်ခဲ့ကြ၏။ သာသနာပြုပြင်ရေး ဥပဒေများထုတ်ပြန်၍ သာသနာ့ဝန်ထမ်းတို့ကို ဝိနည်းသိက္ခာနှင့်အညီ ကျပ်တည်းစွာ ကျင့်ကြံနေထိုင်စေ၏။ ထရင့်မြို့၌ကျင်းပသောသာသနာကောင်စီ (၁၅၄၇–၆၃) ၏ဆုံးဖြတ်ချက်အရ သာသနာအညစ်အကြေးများကို ရှင်းလင်းသုတ်သင်၍ ဗရင်ဂျီဂိုဏ်းတည်တံ့ခိုင်မြဲအောင် ကြိုးစားခဲ့ကြ၏။ ၁၆ ရာစုနှစ် နောက်ပိုင်း၌ ပုပ်ရဟန်းမင်းအဆက်ဆက်ကလည်း သူတို့အပေါ်၌ သစ္စာရှိနေသေးသော တိုင်းပြည်များ၌ တော်လှန်ရေးစိတ်ဓါတ်များ မပေါ်ပေါက်အောင် အမျိုးမျိုးကြိုးစား ဆောင်ရွက်ခဲ့ကြ၏။ ဂျက်ဇူးအစ်ခေါ် သာသနာ့ဝန်ထမ်း အစည်းအရုံးကလည်း ဗရင်ဂျီဂိုဏ်း ခိုင်မြဲကြီးပွားစေရန် ကမ္ဘာအရပ်ရပ်သို့ လှည့်လည်စွန့်စားကာ သာသနာပြုစုကြလေသည်။

၁၆ ရာစုနှစ် အလယ်လောက်တွင် သာသနာအရေးပုံမှာ ပြီးဆုံးသွားလေသည်။ ထိုရာစုနှစ်ကုန်သောအချိန်၌ဥရောပတိုက်မှာ ပရိုတက်စတန့်ဂိုဏ်းဝင် တိုင်းပြည်များကတဖက်၊ ဗရင်ဂျီဂိုဏ်းဝင် တိုင်းပြည်များကတဖက် နှစ်ခြမ်းကွဲသွားပြီးဖြစ်၏။ ဤဂိုဏ်း ၂ ခု ပဋိပက္ခဖြစ်မှုမှစတင်၍ နောင်အခါ၌ ပြင်သစ်နှင့် အခြားဥရောပနိုင်ငံများတွင် ရက်စက်ကြမ်းကြုတ်သော အယူဝါဒစစ်ပွဲများဖြင့် သွေးချောင်းစီးခဲ့လေသည်။ (ခရစ်ယန်အယူဝါဒ— ရှု။)

# ယေရှုတည်ထောင်ခဲ့သောအယူဝါဒ

**ကမ္ဘာပေါ်ရှိ အယူဝါဒများတွင် အပါအဝင်ဖြစ်သော ခရစ်ယန်အယူဝါဒ ပေါ်ပေါက်လာပုံ၊ ရှေးနှစ်ပေါင်း ၂၀၀၀ ခန့်မှ မျက်မှောက်ခေတ်အထိ ထိုအယူဝါဒပျံ့နှံ့လာပုံတို့ကို ဤအကြောင်းရပ်တွင် ဖတ်ရှုလေ့လာခြင်းအားဖြင့် ခရစ်ယန်အယူဝါဒ သမိုင်းကိုအကျဉ်းချုံး၍သိနိုင်ပေလိမ့်မည်။**

**ခရစ်ယန်အယူဝါဒ။** ။ကမ္ဘာပေါ်တွင် အထင်အရှားရှိသော အဆုံးအမများတွင် ခရစ်ယန်အယူဝါဒသည် တခုအပါအဝင်ဖြစ်ပေသည်။ ခရစ်ယန်သာသနာကို တည်ထောင်ခဲ့သူမှာ ယေရှုဖြစ်၏။ ယေရှုသည် ပါလက်စတိုင်းပြည် ယဟူဒီ (ယုဒ) လူမျိုးတို့ထဲမှ ပေါ်ထွန်းလာသူဖြစ်သည်။ (ခရစ်တော်၊ ယေရှု — ရှု။)

ခရစ်ယန်သာသနာသည် တရှိန်တည်းနှင့် ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့သွားသည်မဟုတ်ချေ။ ယေရှု အသေသတ်ခြင်းခံရချိန်၌ ခရစ်ယန်အယူဝါဒီပေါင်း ၅၀၀ ကျော်မျှသာရှိသေး၏။ ယေရှု အသေသတ်ခြင်းခံရပြီးနောက် များမကြာခင် ယေရှု၏တပည့် တမန်တော်တို့သည် ဂျေရုဆလမ် (ယေရုရှလင်) မြို့တွင် ယေရှု၏တရားကို ဟောပြောခြင်းဖြင့် လူပေါင်းများစွာတို့ကို ခရစ်ယန်သာသနာထဲသို့ သွတ်သွင်းနိုင်ခဲ့ကြလေသည်။



ရောမခေတ် နီးရိုးဘုရင်ရှေ့တွင် ခရစ်ယန်အယူဝါဒီတို့အား ဤသို့ခြသေ့စာကျွေးခဲ့၏။

သို့သော် ဂျူးဆလမ်းမြို့ရှိ ယဟူဒီလူမျိုးခေါင်းဆောင်တို့သည် အယူဝါဒသစ်ကို လက်မခံနိုင်ကြသဖြင့် အပြင်းအထန် အတိုက်အခံပြုကြသောကြောင့် တမန်တော်တို့သည် ဆမဲရီးယား (ရှမာရိ) ပြည်၊ ဒမက်စကပ် (ဒမာသက်) မြို့နှင့် အန္တီယော့ (အန္တိအုတ်) မြို့များသို့ ရှောင်တိမ်းခဲ့ကြရလေသည်။

ထိုမြို့များ၌ ပီတာ (ပေတရု) နှင့်အပေါင်းပါ တမန်တော်များသည် ခရစ်ယန်သာသနာရေးလုပ်ငန်းများကို အားထုတ်ဆောင်ရွက်ခဲ့ကြလေသည်။ ထိုအချိန်အထိ ခရစ်ယန်အယူဝါဒကို သက်ဝင်ယုံကြည်ကြသူများမှာ ယဟူဒီလူမျိုးများသာဖြစ်၏။

ထိုနောက်မှ နောင်အခါ တမန်တော်စိန်ပေါ (ရှင်ပေါလု) ဟုအမည်တွင်သော တားဆပ် (တာရှု) မြို့သား ဆော (ရှောလု) သည်ယဟူဒီလူမျိုးမဟုတ်သောတပါးအမျိုးသားများကိုပါ ခရစ်ယန်သာသနာတွင်းသို့ သိမ်းသွင်းခဲ့လေသည်။

စိန်ပေါသည် အရပ်ရပ်သို့လှည့်လည်၍ ခရစ်ယန်တရားကို ဟောပြောရာ၌ အန္တီယော့မြို့သို့ ရောက်သည့်အခါတွင် ယေရှု၏ နောက်လိုက်တပည့်များသည် ခရစ်ယန်ဟူသော အမည်ကို အဦးဆုံးခံယူခဲ့ကြသည်။ စိန်ပေါ၏ ကြိုးစားဟောပြောမှုကြောင့် အာရှမိုင်းနား၊ ဂရိပြည်နှင့်ရောမနိုင်ငံတို့တွင် ခရစ်ယန်သာသနာတော်ပျံ့နှံ့သွားလေ၏။

ထိုအချိန်ကစ၍ ခရစ်ယန်သာသနာသည် ထွန်းကားပျံ့နှံ့လာခဲ့ရာ အေဒီပဌမရာစုအကုန်၌ အာရှမိုင်းနားတွင် ခရစ်ယန်များကို အနှံ့အပြား တွေ့ရှိရလေသည်။

အေဒီ ၁၅၀ ပြည့်နှစ်သို့ ရောက်သည့်အခါ ရောမနိုင်ငံထဲတွင် ခရစ်ယန်အသင်းတော်များ မြောက်မြားစွာထင်ရှားပေါ်ပေါက်လာခဲ့သည်။ အာရေဗျပြည်နှင့် ပါးရှားပြည်စသော အရှေ့ဖက်တိုင်းပြည်များ၌ပင် ခရစ်ယန်အသင်းတော် အနည်းငယ်ပေါ်ပေါက်ခဲ့သေးသည်။ ထိုနောက် နှစ်ပေါင်းတရာခန့်ကြာသည့်အခါ၊ ခရစ်ယန် သာသနာသည် ဥရောပတိုက်နှင့်ဗြိတိန်ကျွန်းသို့ ရောက်ရှိသွားလေသည်။

ခရစ်ယန် တရားသည် မာနကို နှိမ့်ချရန် နှင့် ညီအစ်ကိုအရင်းကဲ့သို့ တဦးကိုတဦး ချစ်ခင်ရန် သွန်သင်ပေးသဖြင့် ဆင်းရဲနွမ်းပါးသူများနှင့် ညှဉ်းဆဲခံရသူများစွာတို့ ခရစ်ယန်အယူဝါဒသို့ အဦးဆုံးကူးပြောင်းခဲ့ကြလေသည်။ သို့နှင့် ခရစ်ယန်အယူဝါဒီဦးရေမှာ တိုးတက်များပြားလာသည်။

ရောမနိုင်ငံတော်အတွင်း နေထိုင်ကြသူအပေါင်းတို့သည် ဘုရင်ကေရာဇ်ကို ဘုရားတဆူသဖွယ် ကိုးကွယ်ကြရ၏။ နတ်များကို ပူဇော်ပသခြင်းကဲ့သို့သော ထုံးစံဓလေ့များကိုလည်း အထိုက်အလျောက် ကျင့်သုံးခဲ့ကြရ၏။ သို့သော် ခရစ်ယန်များသည် ထာဝရဘုရားတဆူတည်းကိုသာ အထွတ်အထိပ်ထားသဖြင့် ဘုရင်ကေရာဇ်ကိုလည်း ရှိမခိုး။ နတ်ဘုရားများကိုလည်း ပူဇော်ပသခြင်း မပြုကြချေ။ သို့ဖြစ်၍ ရောမဘုရင်မင်းတို့သည် ခရစ်ယန်များကိုနှိပ်ကွပ်ရန် စိုင်းပြင်းခဲ့ကြသည်။ ခရစ်ယန်များသည် မည်မျှပင် နှိပ်စက်ကလူပြုခြင်းခံရသော်လည်း သူတို့၏အယူဝါဒကို မစွန့်ကြချေ။

ထို့ပြင် မြို့ကြီးများတွင် ရံဖန်ရံခါ ခရစ်ယန်မဟုတ်သူများက လူစုလူဝေးဖြင့် ခရစ်ယန်တို့အား ရိုက်ပုတ်သတ်ဖြတ်ခဲ့ကြ၏။ ဖမ်းဆီးချုပ်နှောင်၍ ခြသေ့စာကျွေးခဲ့ကြ၏။ သို့ရာတွင် ခရစ်ယန်များကား ပျောက်ကွယ်မသွားပေ။ မြေအောက်လိုဏ်ခေါင်းများ အတွင်း၌ ပုန်းလျှိုး နေထိုင်ကာ ခရစ်ယန်သာသနာရေးလုပ်ငန်းများကို ဆက်လက်လုပ်ကိုင်ခဲ့ကြ၏။

ရောမဘုရင် နီးရိုးလက်ထက် အေဒီ ၆၄ ခုနှစ်နှင့် ဒိုမစ်ရှန်လက်ထက် အေဒီ ၉၅ ခုနှစ်များတွင် ခရစ်ယန်တို့အားအပြစ်ရှာ၍ သတ်ဖြတ်ညှဉ်းဆဲ ခဲ့ကြလေသည်။ ခရစ်ယန်တို့အား သတ်ဖြတ်ညှဉ်းဆဲခြင်းမှာ ဒိုင်အိုကလီးရှန်းဘုရင်လက်ထက် အေဒီ ၃၀၃ ခုနှစ်မှအစပြု၍ အရက်စက်ဆုံးဖြစ်ခဲ့သည်။ ခရစ်ယန်တို့ကို ထောင်သွင်းအကျဉ်းထား ၏။ သားရဲတိရစ္ဆာန်တို့ အစာအဖြစ်ကျွေးသတ်၏။ လူစည်ကားသည့် နေရာများ၌ မီးတိုက်သတ်၏။ ထို့ပြင် ရောမတိုင်းရင်းသား အဖြစ်မှလည်း ပယ်ထုတ်ခဲ့ကြ၏။

သို့သော် အေဒီ ၃၁၁ ခုနှစ် ရောမဘုရင် ဂလီရီယပ် လက်ထက်သို့ ရောက်သည့်အခါ ခရစ်ယန်တို့အား မိမိတို့နှစ်သက်ရာအယူဝါဒကို လွတ်လပ်စွာကိုးကွယ်ခွင့်ပြုသည့် အမိန့်ပြန်တမ်းတရပ် ထုတ်ပြန်ခဲ့သည်။

အေဒီ ၃၂၄ ခုနှစ်တွင် ကွန်စတန်တင်းဘုရင်ကိုယ်တိုင် ခရစ်ယန်အယူဝါဒီ တယောက်ဖြစ်လာသည့်အပြင် ခရစ်ယန်အယူဝါဒကိုလည်း နိုင်ငံတော်၏အယူဝါဒဟူ၍ အသိအမှတ်ပြုခဲ့လေသည်။ (ကွန်စတန်တင်းဘုရင်ကြီး — ရှု။)

ကနဦးအချိန်မှစ၍ ခရစ်ယန်အစုအသင်းတိုင်းတွင် ခေါင်းဆောင်အဖြစ် တဦးတယောက်ကို တင်မြှောက်ထားတတ်ကြလေသည်။ ထိုခေါင်းဆောင်ဘုန်းကြီးသည် သက်ဆိုင်ရာ ခရစ်ယန်စုကို သာသနာရေးနှင့်စပ်လျဉ်း၍ သွန်သင်လမ်းပြရသည်။ နေအိမ်များ၌ပြုလုပ်သော ဘုရားဝတ်ပြုစည်းဝေးများတွင် ဦးစီးခေါင်းဆောင်လုပ်ရသည်။ ထိုအစည်းအဝေးများတွင် ခရစ်ယန်တို့သည် ဓမ္မသီချင်းများသီဆို၍ ခရစ်တော်နှင့်တမန်တော်တို့ နောက်ဆုံးညစာစားပွဲ အထိမ်းအမှတ်ကိုပါပြုလုပ်ကြလေသည်။ ယခုအခါတွင် ထိုအထိမ်းအမှတ်ပွဲကို ပွဲတော်မင်္ဂလာဟုခေါ်သည်။

ထိုခရစ်ယန်အစုအသင်း တနည်းအားဖြင့် အသင်းတော်များကို တဖန်စုပေါင်း၍အကြီးအကဲတယောက် ရွေးကောက်တင်မြှောက်ကြသည်။ ထိုအကြီးအကဲကို ဗစ်ရှော့ဟူ၍ရင်း၊ ဂိုဏ်းအုပ်ဟူ၍ရင်း ခေါ်ကြသည်။ ခရစ်ယန်အသင်းတော်တခုစီတွင် သင်းထောက်တယောက်ဖြစ်စေ၊ ထိုထက်ပို၍ဖြစ်စေရှိတတ်သည်။ သင်းထောက်လုပ်သူတို့၏ ဝတ်တရားမှာ မကျန်းမာသူများ၏အိမ်သို့ သွားရောက်ခြင်းနှင့် ဆင်းရဲနွမ်းပါးသူတို့အား ကူညီထောက်ပံ့ခြင်းဖြစ်လေသည်။

ထိုသို့အားဖြင့် ခရစ်ယန်အယူဝါဒီများ တနေ့တခြားတိုးတက်များပြားလာရာ ခရစ်ယန်အသင်းတော်တို့လည်း အင်အားတောင့်တင်းလာကြသည်။

ထိုအခါ ခရစ်ယန်အသင်းတော်များကို စည်းကမ်းတကျအုပ်ချုပ်ရန် လိုအပ်လာသဖြင့် ထိုအသင်းတော်များ အုပ်ချုပ်ရေးအတွက် အရေးကြီးသောပြောင်းလဲမှုများ ပေါ်ပေါက်လာခဲ့လေသည်။ သို့နှင့် နောင်တွင် ရောမနိုင်ငံတော်ကို အုပ်ချုပ်သည့်စံနစ်အတိုင်း ခရစ်ယန်အသင်းတော်ကိုလည်း အုပ်ချုပ်လာသည့်အခါ ခရစ်ယန်အသင်းတော်တွင် ထိပ်ဆုံးမှပုဂ္ဂိုလ်ကို ပုပ်ရဟန်းမင်း (ပါပရဟန်းမင်း) ဟု ခေါ်ခဲ့ကြသည်။ ထိုအခါ ရောမမြို့တော်ရှိ ဂိုဏ်းအုပ်သည် တမန်တော်စိန်ပီတာ (ရှင်ပေတရု) ၏အရိုက်အရာကိုဆက်ခံသူဖြစ်၍ ခရစ်ယန်အယူဝါဒတွင် အချုပ်အချာအာဏာပိုင် ဖြစ်သည်ဟုဆိုသည့်အတိုင်း ခရစ်ယန်အားလုံးက အသိအမှတ်ပြုခဲ့ကြရာ ထိုပုဂ္ဂိုလ်သည် ပုပ်ရဟန်းမင်းဖြစ်လာ၏။ (ပုပ်ရဟန်းမင်းများ — ရှု။)

ရဟန်းအဖြစ်သို့ဝင်သူများသည် အိမ်ထောင်မပြုပါဟူ၍ ကတိဝန်ခံချက် ပြုထားရသည်။ ထိုသူတို့အား အသင်းတော်ခုံရုံး၌သာ စစ်ဆေး၍အပြစ်ပေးပိုင်ခွင့်ရှိသည်။

ထိုခေတ်အခါက ခရစ်ယန်အယူဝါဒီ ရဟန်းများသည် ဆံပင်ကိုပယ်၍ သာမန်လူတို့နှင့် ကွဲပြားခြားနားသော အဝတ်အထည်ကို ဝတ်ဆင်ကြရ၏။ ဂိုဏ်းဉပဒေကိုလိုက်နာ၍ တရားကျင့်နေသော ရသေ့၊ ရဟန်းများနှင့် ဂိုဏ်းသားများ၏ သာရေးနာရေးကို စောင့်ရှောက်သောဂိုဏ်းချုပ်၊ ဂိုဏ်းအုပ်စသည့် ရဟန်းများဟူ၍ ၂ မျိုး ၂ စားရှိသည်။

သာသနာရေးကိစ္စများမှာ ၇ ခုမျှရှိသည်။ ခရစ်ယန်အယူဝါဒသို့ဝင်သည့် အထိမ်းအမှတ်ဖြစ်သော ဗတ္တိဇံမင်္ဂလာ၊ အသင်းတော်သားအဖြစ် အတည်ပြုသော လက်တင်မင်္ဂလာ၊ ပွဲတော်မင်္ဂလာ၊ ရဟန်းတပါးပါးထံတွင် အပြစ်ကိုဝန်ချသည့် မင်္ဂလာ၊ ထိမ်းမြားမင်္ဂလာ၊ သေခါနီးဆီလိမ်းဘိသိက်မင်္ဂလာနှင့် ရဟန်းခံမင်္ဂလာတို့ဖြစ်လေသည်။ သို့သော် သာသနာရေးပုံပြီးသည့်နောက် ဗရင်ဂျီဂိုဏ်းမှတပါး အခြားဂိုဏ်း



ရှေးခေတ်ကခရစ်ယန်အယူဝါဒအတွက် အသက်စွန့်သူများအားမြေအောက်လိုဏ်ခေါင်းတွင်မြှုပ်နှံနေကြပုံ

အချို့တို့တွင် ဗတ္တိဇံမင်္ဂလာနှင့် ပွဲတော်မင်္ဂလာ ၂ ခုကိုသာ ဆက်လက်ဆောင်ရွက်ကြသည်။

ထိုခေတ်တွင် ချမှတ်ထားခဲ့သော အသင်းတော်စည်းကမ်းများအရ ကောင်းမှုကုသိုလ် တခုခုပြုလုပ်လျှင် လူ့ဘဝ၌ ပြုခဲ့သော အပြစ်ကိုခံရမည့်ဒဏ်မှ လွတ်ငြိမ်းချမ်းသာခွင့်ပေးရေးနှင့်စပ်လျဉ်း၍ မဖွယ်မရာများ ပေါ်ပေါက်ခဲ့သည်တွင် ရောမကက်သလစ်အသင်းတော် (ဗရင်ဂျီဂိုဏ်း) အတွင်း အငြင်းပွားမှုများ၊ တော်လှန်မှုများ ပေါ်ပေါက်ခဲ့ရသည်။ အပြစ်ကျူးလွန်သူများကို အသင်းတော်မှ ထုတ်ပယ်ထားနိုင်သည်။ ထိုနည်းတူ မြို့ကြီးများ၊ တိုင်းပြည်များ၌ပင် သာသနာရေးဆိုင်ရာဝတ်ပြုကိုးကွယ်မှုတို့ကို အသင်းတော်က တားမြစ်နိုင်သည်။ ဘုရားရှိခိုးကျောင်း ပရိဝုဏ်တွင်းသို့ ဝင်ရောက်ခိုလှုံသူတို့သည် ရာဇဝတ်ဘေးနှင့် ညှဉ်းဆဲခြင်းဘေးမှ လွတ်ရာလွတ်ကြောင်းအတွက် အခွင့်အရေး တောင်းဆိုပိုင်ခွင့်ရှိသည်။

ဂိုဏ်းအုပ်သည် မိမိ၏အသင်း တည်ရာရပ်ကွက်တွင် တန်ခိုးအာဏာအရှိဆုံး ပုဂ္ဂိုလ်ဖြစ်သည်။ သူ၏ပိုင်နက်အတွင်းရှိ အထင်ရှားဆုံးမြို့တွင် ကသီဒရယ်ဘုရားရှိခိုးကျောင်းတည်ရှိလေသည်။ ဂိုဏ်းဝင်ရဟန်းများသည် ဂိုဏ်းအုပ်ကိုဝိုင်းဝန်းကူညီကြရသည်။

ရောမဧကရာဇ်ဘုရင် ကွန်စတန် တင်း သည် အေဒီ ၃၃၀ ပြည့်နှစ်တွင် မြို့တော်ကို ရှေးဟောင်းမြို့ဖြစ်သော ဗိုင်ဇင်းရှမ်မြို့သို့ ပြောင်းရွှေ့ခဲ့၏။ ထိုမြို့ကို ပြုပြင်ချဲ့ထွင်ကာ ကွန်စတန်တီနိုပယ်မြို့ဟု သမုတ်ခဲ့လေသည်။ ကွန်စတန်တီနိုပယ်မြို့တွင်ရှိသော ဂိုဏ်းအုပ်သည် ရောမမြို့ရှိ ပုပ်ရဟန်းမင်း၏ ချုပ်ချယ်မှုကို မခံလိုသဖြင့် သီးခြားဂိုဏ်းခွဲ တည်ထောင်လိုက်သည်။ ပုပ်ရဟန်းမင်းမှာမူ ရောမမြို့၌နေလျက် ခရစ်ယန်အသင်းတော်များကို အုပ်ချုပ်ရ၏။

ထိုကြောင့် ၁၀၅၄ ခုနှစ်တွင် ရောမအသင်းတော်နှင့် အရှေ့ပိုင်း အယူမှန် အသင်း တော် တနည်း အားဖြင့် ဂရိအသင်းတော်ဟူ၍ ၂ ဂိုဏ်းပေါ်ပေါက်ခဲ့၏။ ထိုပြင် အရှေ့ပိုင်းအသင်းတော်တွင် ရုရှနိုင်ငံ၊ ဂရိနိုင်ငံ၊ ဆားဗီးယားနိုင်ငံ၊ ရူမေးနီးယား နိုင်ငံနှင့် ဗူလဂေးရီး ယား နိုင်ငံ အမျိုးသားအသင်းတော်များ ပေါ်ပေါက်လာခဲ့ပြန်သည်။ ထိုနောက် ရောမအသင်းတော်အတွင်း၌ အယူဝါဒကွဲပြားမှု၊ အာဏာကို အလွဲသုံးစားမှုနှင့် ပုပ်ရဟန်းမင်း ရာထူးဆက်ခံမှုများနှင့်စပ်လျဉ်း၍ မကြာခဏ အငြင်းအခုံဖြစ်ပွားကြသည်။ ထိုကြောင့် အသင်း တော်ညီလာခံများ ကျင်းပ၍ အဆိုပါအငြင်းပွားချက်များကို ဆုံးဖြတ်ကြရလေသည်။ ထိုအဆုံးအဖြတ်ကို ပြုလုပ်သော ၁၂၁၅ ခုနှစ်တွင်ကျင်းပသည့် လက်တရန် ညီ

လာခံ၊ ၁၄၀၉ ခုနှစ်တွင်ကျင်းပသည့် ပီစာညီလာခံ၊ ၁၄၁၄ ခုနှစ်မှ ၁၄၁၇ ခုနှစ်အထိ ကျင်းပသည့် ကွန်စတန့်ညီလာခံ နှင့် ၁၄၃၁ ခုနှစ်မှ ၁၄၄၉ ခုနှစ်အထိကျင်းပသည့် ဗားလ ညီလာခံတို့မှာထင်ရှားသည်။

ထိုကဲ့သို့သော သာသနာရေးကိစ္စများနှင့် စပ်လျဉ်း၍ မကြာခဏ အငြင်းအခုံဖြစ်ပွားလာခဲ့ရာ နောက်ဆုံး ၁၆ ရာစု တွင် သာသနာအရေးပုံ ပေါ်ပေါက်ခဲ့လေသည်။ ထို သာ သနာ အရေးပုံမှာ ဗရင်ဂျီဂိုဏ်းကို သာမက ယင်းဂိုဏ်း ၏ သာသနာရေး အယူဝါဒတို့ကိုပါတော်လှန်သော သာသနာ ရေး ထကြွမှုကြီး ဖြစ်သည်။ ထိုအရေးပုံကြောင့် ဗရင်ဂျီ ဂိုဏ်းကို ကန့်ကွက်၍ခွဲထွက်ခဲ့သော ပရိုတက်စတန့်ဂိုဏ်းနှင့် ဂိုဏ်းခွဲများပေါ် ပေါက်လာလေသည်။ (ခရစ်ယန်သာသနာ အရေးပုံ — ရှု။)

ဂျာမနီပြည်မှ မာတင်လူသာဆိုသူ ရဟန်းတပါးသည် ထိုသာသနာအရေးပုံကို လှုံ့ဆော်ပေးသူဖြစ်သည်။ မာတင် လူသာ သည် ဂျာမနီ ပြည်၌ သာသနာ ရေးပြောင်း လဲမှု များကို ဦးစီးဆောင်ရွက်ခဲ့သည့်နည်းတူ အခြားသောတိုင်း ပြည်များ၌လည်း အခြားပုဂ္ဂိုလ်များက ဦးစီးခေါင်းဆောင် ပြုခဲ့ကြသည်။ (လူသာမာတင် — ရှု။)

ဆွစ်ဇာလန်ပြည်တွင် ပေါ်ထွက်ခဲ့သော သာသနာပြုပြင် ရေး ခေါင်းဆောင်မှာ ဦးရစ် ဇွင်းဂလီး ဆိုသူဖြစ်သည်။ ပြင်သစ်ဘုန်းကြီး ဂျွန် ကယ်လဗင်သည် ဂျီနီးဗားမြို့တွင် ဇွင်းဂလီး ၏ သာသနာပြုပြင် ရေး လုပ်ငန်း ကို ဆက်လက် ဆောင်ရွက်ခဲ့သည်။ ကယ်လဗင်၏ အယူဝါဒသည် ဂျီနီးဗား မြို့၌သာမက အခြားတိုင်းပြည်များသို့လည်း ပျံ့နှံ့သွားလေ သည်။ အထူးသဖြင့် စကော့တလန်ပြည်၌ ကယ်လဗင်၏ အယူဝါဒမှာ ယနေ့တိုင်ထွန်းကားလျက်ရှိလေသည်။

ပြင်သစ်နိုင်ငံ၌လည်း ကယ်လဗင်၏အယူဝါဒကို သက်ဝင် ယုံကြည်သူဟျူးဂျနိုးတို့၏ အခြေတည်ရန်အခွင့်ရခဲ့ကြ၏။

အင်္ဂလန်ပြည်၌ ဖြစ်ပွားခဲ့သော သာသနာရေးပြောင်း လဲမှုမှာ ဥရောပတိုက်တွင် ဖြစ်ပွားသကဲ့သို့ အယူဝါဒတိုက် ပွဲဟုမဆိုသာချေ။ နိုင်ငံရေးရာနှင့် ပိုမို၍သက်ဆိုင်သည်။ ထိုစဉ်က ပုပ်ရဟန်းမင်းသည် အင်္ဂမဟင်နရီဘုရင်နှင့် ကက် သရင်းမိဖုရားတို့၏ အိမ်ထောင်မှုနှောင်ကြိုးကို ပယ်ဖျက်ပေး ရန် ငြင်းဆိုလိုက်သဖြင့် ဟင်နရီဘုရင်သည် အင်္ဂလန်ပြည်ရှိ ခရစ်ယန် အသင်း တော်ကို ပုပ်ရဟန်း မင်း ၏ အာဏာစက် အောက်မှလွတ်မြောက်ရေးအတွက်ပါလီမန်လွှတ်တော်အား အက်ဥပဒေများပြုလုပ်အတည်ပြုရန် တိုက်တွန်းခဲ့လေသည်။

သို့နှင့် ၁၅၃၄ ခုနှစ်တွင် ပါလီမန်၌အတည်ပြုလိုက်သော အထွတ်အထိပ်အက်ဥပဒေအရ ရှင်ဘုရင်သည် အမျိုးသား အသင်း တော် သစ် ၏ အထွတ် အထိပ် ဖြစ် လာ လေသည်။ ထိုကဲ့သို့ အင်္ဂလန်ပြည်ရှိအသင်းတော်၌ ပြောင်းလဲမှုရှိလာ သော်လည်း သာသနာရေးအယူဝါဒနှင့် ဝတ်ပြုကိုးကွယ် ပုံတို့မှာ ဗရင်ဂျီဂိုဏ်းအတိုင်းပင် တည်ရှိနေသေး၏။ ဆဋ္ဌမ အက်ဒွပ်ဘုရင်လက်ထက် ၁၅၄၉ ခုနှစ်နှင့် ၁၅၅၂ ခုနှစ်တို့ တွင် ဆုတောင်းချက်စာအုပ်များ ထွက်ပေါ်လာသောအခါ ကျမှ အင်္ဂလန်ပြည်သည် ပရိုတက်စတန့်အယူဝါဒ ယူသော နိုင်ငံအစစ် ဖြစ်လာသည်။ တျူဒါမင်းဆက် မေရီဘုရင်မ လက်ထက်တွင် ပရိုတက်စတန့်ဂိုဏ်းကိုနှိမ်၍ အင်္ဂလန်ပြည် ရှိအသင်းတော်ကို ရောမကက်သလစ်အသင်းတော်နှင့် တဖန် ပူးပေါင်းလိုက်ပြန်သည်။ အဲလစဇဗက်ဘုရင်မသည် ပြုပြင် ပြီးအသင်းတော် (ပရိုတက်စတန့်) ကိုပြန်လည်ထူထောင်၍ ၁၅၅၉ ခုနှစ် အထွတ်အထိပ် အက်ဥပဒေအရ အသင်းတော်၏ ဦးစီးဦးကိုင် ဖြစ်လာလေသည်။ အညီညွှတ်အက်ဥပဒေသည် ပရိုတက်စတန့်ဝတ်ပြုပုံ၊ ဝတ်ပြု နည်းများကို အတည်ပြု၍ ၁၅၇၆ ခုနှစ်တွင် ပုဒ်မပေါင်း ၃၉ ခုဖြင့် အင်္ဂလန်အသင်း တော်၏ဝါဒကို ချမှတ်လိုက်ရာ ထိုဝါဒသည် ယခုထက်တိုင် တည်မြဲလျက်ရှိလေသည်။

သမ္မာကျမ်းစာနှင့် မညီညွတ်သော အလေ့အကျင့်များကို အရေးတကြီးပယ်ဖျက် ပြုပြင်ရန်လိုလားသော အင်္ဂလိပ်လူ မျိုးများလည်းရှိလေသည်။

ပျူရီတန်ဟုခေါ်သော ဤသူတို့သည် ဝါဒအားဖြင့်၎င်း၊ အသင်းတော် အုပ်ချုပ်ပုံအားဖြင့်၎င်း၊ ကွဲပြားသော အစု အသင်းများ ဖြစ်လာကြလေသည်။ ထိုအစုအသင်းတို့တွင် နှစ်ခြင်းအသင်းတော်၊ ကွန်ဂရီဂေးရှင်း နဲ အသင်း တော် နှင့် မိတ်ဆွေခေါ် ကွိတ်ကာများပါဝင်ကြသည်။ (ပျူရီတန် များ — ရှု။)

ဂျီနီးဗားမြို့၌ ရဟန်းကယ်လဗင် တီထွင်သော ပရက်ဇ ဗီတီးရီးယန်းဝါဒခေါ် အသင်းတော်အုပ်ချုပ်ပုံကို ဂျွန်နော့ သည် စကော့တလန်ပြည်သို့ ယူဆောင်လာခဲ့သည်။ ၁၇ ရာစုခေတ်အတွင်း၌ အင်္ဂလန်ပြည်တွင် မငြိမ်မသက်ဖြစ်ရာမှ မက်သဒစ်ဝါဒဖြစ်ပေါ် လာသည်။ ဗရင်ဂျီသာသနာပြုဆရာ များ သည် သာသနာပြုရန် စိတ်ဇောဖြင့် ကမ္ဘာ့သစ်ရှိ သာသနာမရောက်သေးရာ အရပ်များသို့သွား၍ သာသနာ တော် အတွက် သာမက ကုးသန်းရောင်းဝယ်ရေး အတွက် ကိုပါ လမ်းထွင်ခဲ့ကြလေသည်။ အမေရိကန်ပြည်နယ် ၁၃ နယ်တွင် ပြောင်းရွှေ့နေထိုင်ကြသူများမှာ အများအားဖြင့် အင်္ဂလန်နှင့် အခြားဥရောပနိုင်ငံများမှ လွတ်လပ်စွာ ကိုး ကွယ်မှုအတွက် ဝါဒကွဲလာသူများဖြစ်ကြသည်။

သာသနာအရေးပုံ ဖြစ်ပွားပြီးသည့်နောက် ဗရင်ဂျီဂိုဏ်း ဝါဒသည် သာသနာပြု ပုဂ္ဂိုလ်များ ၏ လုံ့လအား ထုတ်မှု ကြောင့် ကမ္ဘာ့အရပ်ရပ်သို့ အနှံ့အပြား ရောက်ရှိသွားလေ သည်။ ပရိုတက်စတန့် ဂိုဏ်းဝင်ဖြစ်သော ဝီလျံကေရီသည် ခရစ်နှစ် ၁၇၉၃ ခုနှစ်တွင် အိန္ဒိယသို့သွားရောက်၍ စတင်

သာသနာပြုခဲ့သည်။ ထိုပြင် ဒေးဗစ် လစ်ဗင်းစတုန်းသည်လည်း အာဖရိကတိုက်အတွင်း ဒေသများသို့စွန့်စားသွားရောက်၍ သာသနာပြုခဲ့လေသည်။

အသင်းတော်အယူဝါဒနှင့် အသင်းတော်အုပ်ချုပ်ပုံတို့ ကွဲပြားခြားနားနေသည်ကို ပြန်လည်စည်းရုံးမှုအတွက် ကြိုးပမ်းခြင်းသည် ယခုခေတ် ခရစ်တော်သာသနာ တိုးပွားမှုအတွက် အရေးကြီးသော အချက်တရပ်ဖြစ်သည်။ ဗြိတိန်နိုင်ငံတွင် မက်သဒစ်အသင်းတော် ၃ ခုသည် စည်းရုံးမိကြလေပြီ။ အင်္ဂလန်အသင်းတော်နှင့် အင်္ဂလန်အသင်းတော်ဩဝါဒကိုမလိုက်နာသည့် အသင်းများ၏ ပူးပေါင်းမှုသည် ယခုအခါ ပိုမိုတိုးတက်လာလေသည်။

ထိုနောက်တွင်လည်း ခရစ်ယာန်အသင်းတော်သစ်များနှင့် ဂိုဏ်းသစ်များ အခါအားလျော်စွာ ပေါ်ပေါက်လာခဲ့သည်။ ကယ်ဆယ်ရေးတပ်၊ ခရစ်တော်သိပ္ပံဂိုဏ်းနှင့် အမ်၊ အာ၊ အေခေါ် စာရိတပြန်လည်မြှင့်တင်ရေး ဂိုဏ်းတို့သည် အသစ်ပေါ်ပေါက်လာသော ခရစ်ယာန်အစုအသင်းများဖြစ်သည်။

ကမ္ဘာပေါ်တွင် ခရစ်ယာန်ဦးရေ သန်းပေါင်း ၇၀၀ ခန့်ရှိသည်ဟု ခန့်မှန်းရသည်။ ထိုလူဦးရေ၏ ထက်ဝက်ကျော်မှာ ဗရင်ဂျီဂိုဏ်းဝင်များဖြစ်သည်။ ပရိုတက်စတန့်ဂိုဏ်းဝင်များမှာ သန်းပေါင်း ၂၀၀ ခန့်မျှရှိ၍ ကျန်ခရစ်ယာန် ဦးရေတွင် အရှေ့ပိုင်းအယူမှန်အသင်းတော်တနည်းအားဖြင့်ဂရိအသင်းတော်ဝင်ခရစ်ယာန်တို့ရင်း၊ အီဂျစ်ခရစ်ယာန်တို့ရင်း ပါဝင်ကြလေသည်။

ခရစ်တော်အသေသတ်ခြင်းခံရပြီးနောက်နှစ်များမကြာမီ အရှေ့အာရှဖက်တွင် စိန်တောမတ် (ရှင်သောမ) ၏ကြိုးပမ်းမှုကြောင့် အိန္ဒိယပြည်တောင်ပိုင်း၌ ခရစ်ယာန်အသင်းတော်များပေါ်ပေါက်လာ၏။ တရုပ်ပြည်တွင် အေဒီ ၆၃၅ ခုနှစ်၌ နက်စတိုးရီးယန်းများ သာသနာပြုခြင်းကြောင့် မြို့များစွာတွင် ခရစ်ယာန်လူစုများပေါ်ပေါက်လာလေသည်။ ထိုအချိန်လောက်တွင် မြန်မာနိုင်ငံ၌ နက်စတိုးရီးယန်းသာသနာပြုများ ရောက်ရှိဘူးသည်ဟု အဆိုပင်ရှိသော်လည်း သက်သေခံအထောက်အထား အခိုင်အလုံတခုမျှမရှိချေ။ ၁၅ ရာစုနှစ်မရောက်မီ မြန်မာနိုင်ငံသို့ ခရစ်ယာန်ဝါဒ ရောက်လာသည်ဟု ဆိုဖွယ်ရာသာဓကများကို ကျွန်ုပ်တို့မတွေ့ရပေ။ ၁၆ ရာစုနှစ်ဦးလောက်သို့ရောက်ခါမှ မြန်မာနိုင်ငံတွင် ခရစ်ယာန်ဘုရားရှိခိုးကျောင်းအကြောင်းနှင့် ခရစ်ယာန်ကိုးကွယ်သူဦးရေ ၁၀၀၀ ခန့်ရှိကြောင်းဖြင့် အနောက်နိုင်ငံသားတို့၏ အမှတ်အသားများတွင် တွေ့ရသည်။ သို့သော် မြန်မာနိုင်ငံသို့ခရစ်ယာန်သာသနာရောက်ရှိလာသည်ဟု အခိုင်အလုံပြောနိုင်သောအချက်မှာ ဘုရင့်နောင်လက်ထက်တွင် ပေါ်တူဂီလူမျိုးများနှင့် ဆက်သွယ်ရာမှအစပြု၍ ခရစ်ယာန်သာသနာပြုလုပ်ငန်းများပေါ်ပေါက်လာသော အချက်ပင်ဖြစ်၏။

ခရစ် ၁၆၇၉ ခုနှစ်တွင် သံလျင်မြို့သို့ရောက်လာသော ပါရစ်နိုင်ငံ



ရန်ကုန်မြို့ရှိထင်ရှားသော စိန်ပေါကသီဒရယ်ဘုရားရှိခိုးကျောင်း

ခြားသာသနာပြုအဖွဲ့သည် မြန်မာနိုင်ငံတွင် ပဥ္စမ သာသနာပြုအဖွဲ့ဟုဆိုကြသည်။ ၁၇၂၁ ခုနှစ်မှအစပြု၍ ရောမကက်သလစ် သာသနာပြုကျောင်းများ ထွန်းကားလာလေသည်။ ၁၈၀၇ ခုနှစ်တွင် အင်္ဂလိပ်နှစ်ခြင်းသာသနာပြုအသင်းအည် မြန်မာနိုင်ငံသို့ရောက်ရှိလာသဖြင့် ပရိုတက်စတန့်ဂိုဏ်းများ မြန်မာနိုင်ငံ၌ စတင်၍အခြေစိုက်ကြသည်။ ၁၈၁၃ ခုနှစ်တွင် အမေရိကန်သာသနာပြုဆရာ ယုဒသန်သည် မြန်မာနိုင်ငံသို့ရောက်ရှိလာလေ၏။ ထိုအခါမှအစပြု၍ ခရစ်ယန်လူဦးရေလည်း တိုးပွားလာလေသည်။ ဆရာယုဒသန်သည် သမ္မာကျမ်းစာကို မြန်မာဘာသာပြန်ဆိုသည်။ မြန်မာအဘိဓာန်ကျမ်းကိုလည်း အင်္ဂလိပ်လိုပြုစုခဲ့သည်။ (ယုဒသန် — ရှု။) ယခုအချိန်၌ မြန်မာနိုင်ငံတွင် ခရစ်ယန်ဦးရေ ၆၀၀,၀၀၀ မျှရှိသည်ဟုခန့်မှန်းရသည်။ အိန္ဒိယနိုင်ငံတွင် ခရစ်ယန်ဦးရေ ၈,၀၀၀,၀၀၀၊ သီဟိုဠ်ကျွန်းတွင် ၇၀၀,၀၀၀၊ အင်ဒိုနီးရှားတွင် ၃,၀၀၀,၀၀၀၊ တရုပ်နိုင်ငံတွင် ၅,၀၀၀,၀၀၀၊ ဂျပန်နိုင်ငံတွင် ၅၀၀,၀၀၀၊ ကိုရီးယားနိုင်ငံတွင် ၆၀၀,၀၀၀၊ ဖိလစ်ပိုင်ကျွန်းစုတွင် ၁၆,၀၀၀,၀၀၀ စသည်ဖြင့်ရှိလေသည်။ အရှေ့အာရှတွင် ခရစ်ယန်ဦးရေ အစုစုပေါင်း ၃၅,၀၀၀,၀၀၀ မျှရှိသည်ဟု ခန့်မှန်းကြသည်။

**ခရမ်း။** ။ခရမ်းပင်သည် အာလူး၊ ခရမ်းချဉ်ပင်တို့နှင့်မျိုးတူသည်။ ဘဲဥပုံသဏ္ဌာန်ဖြစ်သည်။ အရွက်များ၏အရောင်မှာ စိမ်းဖန့်ဖန့်နေသည်။ အောက်ဖက်တွင် အမွေးနုများရှိသည်။ ပန်းများပွင့်ရာတွင် ထီးတည်းပွင့်သည်။ အရောင်မှာအဖြူ၊ အဝါ၊ သို့မဟုတ် ခရမ်းရောင်နုဖြစ်သည်။ အသီးများသီးရာတွင် တွဲလျားသီး၍ ပုံသဏ္ဌာန်မှာ အလုံးပုံ၊ဘဲဥပုံ၊ ရှည်မြောမြောဖြစ်သည်။ အရှည်မှာ ၁ လက်မမှ ၁၂ လက်မအထိရှိတတ်သည်။ အရွယ်မှာ ငန်းဥအရွယ်မှ လူကြီးကန်သောဘောလုံးအရွယ်အထိရှိသည်။ အရောင်မှာ အဖြူ၊ ခရမ်းရောင်။ အနီ၊ သို့မဟုတ် အဝါဖြစ်သည်။ အခွံသည် ပြောင်ချော၍ တခါတရံ အစင်းများပါသည်။ ခရမ်းသီးများမှည့်ရန် ၃ လ ၄ လမျှကြာသည်။

ခရမ်းသီးသည် အာဟာရဓါတ်ကို ကောင်းစွာမပေးစွမ်းနိုင်သော်လည်း လူကြိုက်များပေသည်။ ခရမ်းဖြစ်ထွန်းရာမူလဇာတိမှာ အပူပိုင်းဒေသဖြစ်သည်။ သို့သော် ယခုအခါ သမပိုင်းဇုန်ရှိ အနိုင်နိုင်ငံတွင် စိုက်ပျိုးလျက်ရှိကြပေပြီ။

ခရမ်းပင်များတွင် ပိုးများကျရောက်တတ်သည်။ ပိုးကျလျှင်အရွက်များတွင် အပေါက်ငယ်ကလေးများဖြစ်လာသည်။ ထိုအခါ အပင်မကြီးထွားနိုင်တော့ချေ။ ပိုးများကိုကာကွယ်နိုင်ရန် ဗေါ်ဒိုးမစ့်ချာခေါ် အဆိပ်တမျိုးကိုအသုံးပြုကြသည်။ ထိုအဆိပ်မျိုးတွင် ဒုတ္ထာအပြာ၊ ထုံးနှင့်ရေကို ၄း ၄း ၅ အချိုးဖြင့် ရောစပ်ထားသည်။



ခရမ်းပင်နှင့်အသီးများ

ပြည်ထောင်စုမြန်မာနိုင်ငံတွင် ခရမ်းပင်များနှင့်သင့်တော်သော ရာသီဥတုရှိသဖြင့် ခရမ်းပင်များကို အမြောက်အမြားအနှံ့အပြား စိုက်ပျိုးကြသည်။ ခရမ်းအမျိုးမှာ များပြားလှပေသည်။ ထိုအနက် အသိများသော ခရမ်းမျိုးများမှာ ခရမ်းရှည်၊ ခရမ်းပုအကြီးစား၊ ခရမ်းပုအငယ်စား၊ ခရမ်းကြွပ်၊ ဆင်ခရမ်း၊ မြေပုံခရမ်း၊ ခရမ်းခဆော့၊ ခရမ်းစပ်၊ မှို့ဖျက်ခရမ်း၊ ထောပတ်ခရမ်း၊ လသာခရမ်းနှင့်ဆင်စွယ်ခရမ်းများဖြစ်ကြသည်။

ခရမ်းပင်များကို စိုက်ပျိုးရာတွင် တူးဆွထားသောမြေနှင့်မြေဩဇာ (နွားချေးခြောက်) ကိုရောကာ မျိုးစေ့များကိုပျိုးယူရသည်။ ပျိုးပင်ကလေးများ အတော်ကြီးလာသောအခါတွင် ၂ ပေခွဲစီကွာသော စိုက်ခင်းပေါင်တန်းများပေါ်တွင် တပင်နှင့်တပင် ၂ ပေစီခွာလျက် ပြောင်းရွှေ့စိုက်ရသည်။ ခရမ်းသီးများ သီးလာသောအခါ အကိုင်းဖျားတို့၌ရှိသော အညွန့်တက်များကို ချိုးဆိတ်ပေးရသည်။ သို့ဖြင့် ခရမ်းကောင်းမွန်စွာဖြစ်ထွန်းနိုင်သည်။

**ခရမ်းချဉ်။** ။ခရမ်းချဉ်ပင်၏ မူလပေါက်ရောက်ရာဒေသမှာ အမေရိကတိုက်ရှိ ပူပြင်းစိုစွတ်သောအပိုင်းဖြစ်သည်။ ၁၆

ရာစုဆန်းစအချိန်တွင် ဥရောပတိုက်သို့ ခရမ်းချဉ်ပင်ရောက်လာသည်။ ယခုအခါ၌ ကမ္ဘာပေါ်တွင် အပူပိုင်းအရပ်များနှင့် သမပိုင်းအရပ်များ၌ ခရမ်းချဉ်ပင်ကို ဟင်းသီးဟင်းရွက်ပင်အဖြစ်ဖြင့် စိုက်ပျိုးလျက်ရှိကြသည်။

ခရမ်းချဉ်ပင်သည် အသင့်အတင့်ပူနွေးသော ရာသီတွင် ပေါက်ပွါးသဖြင့် ရာသီဥတုအေးမြသော ဗြိတိသျှကျွန်းနှင့် ဥရောပတိုက်မြောက်ပိုင်းဒေသများ၌ မှန်အမိုးအကာများအတွင်းတွင် ထိုခရမ်းချဉ်ပင်ကို အပူငွေ့ပေး၍ စိုက်ပျိုးကြသည်။ အမေရိကတိုက်တွင်လည်း ဆောင်းရာသီ၌ ခရမ်းချဉ်ပင်ကို မှန်အမိုးအကာများအတွင်းတွင် စိုက်ပျိုးလေ့ရှိသည်။ သို့ရာတွင် အကာအကွယ်တစုံတရာမရှိဘဲ အပြင်ဖက်မြေယာများ၌ စိုက်ပျိုးနိုင်သော ခရမ်းချဉ်မျိုးလည်း ရှိသေးသည်။ အသီး၏အရွက်နှင့် ပုံသဏ္ဍာန် အမျိုးမျိုးကို လိုက်၍ ခရမ်းချဉ်ပင်မှာ အမျိုးမျိုးကွဲပြားလျက်ရှိသည်။ အကိုင်းအခက်ပေါ်များ၍ အသီးများသီးသည့်အခါ အကိုင်းများမြေသို့ ညွတ်ကျနေတတ်သည်။ ခရမ်းချဉ်ရွက်များတွင် အမွေးအမှင်ကလေးများရှိ၍ အနံ့ဆိုးရှိသည်။ အပွင့်မှာဝါသည်။ အသီးများ၏အတွင်းသားမှာ ပျော့အိအိဖြစ်လျက်အစေ့ဝါကလေးများပြည့်နှက်နေသည်။

ခရမ်းချဉ်ပင်သည် အဆိပ်အတောက်ရှိသော အပင်မျိုးနွယ်ထဲမှဖြစ်ခြင်းကြောင့် ၁၉ ရာစုနှစ်မတိုင်မီက လူတို့သည် ခရမ်းချဉ်သီးများကို မစားသုံးခဲ့ကြချေ။ သို့ရာတွင် ယခုအခါ၌ ခရမ်းချဉ်သီးကို အသုံးများလာကြသည်။ ခရမ်းချဉ်သီးအမှည့်များကို အစိမ်းလိုက်ဖြစ်စေ၊ ချက်ပြုတ်၍ဖြစ်စေ၊ စားသုံးကြသည်။

မြန်မာနိုင်ငံအထက်ပိုင်းတွင် ခရမ်းချဉ်ကို အနှံ့အပြား စိုက်ပျိုးကြလေသည်။ မြန်မာနိုင်ငံအောက်ပိုင်းတွင် ဗုဇွန်ခြောက်ကို ဟင်းခတ်အဖြစ်ဖြင့် အသုံးချသကဲ့သို့ အထက်ပိုင်း၌ ခရမ်းချဉ်သီးကို ဟင်းခတ်အဖြစ် တွင်တွင်ကြီးအသုံးပြုကြသည်။ အနောက်နိုင်ငံများ၌ ခရမ်းချဉ်သီးမှည့်များကို အလုံးလိုက်သော်၎င်း၊ အရည်အဖြစ်ဖြင့်သော်၎င်း၊ စည်များ ပုလင်းငယ်များတွင် ထည့်သွင်း ရောင်းချကြသည်။ ချဉ်ရည်အမျိုးမျိုးကိုလည်း ခရမ်းချဉ်သီးမှည့်များမှ ပြုလုပ်ကြသည်။ အထူးသဖြင့် ဟင်းရွက်စိမ်းလက်သုတ်တွင် ခရမ်းချဉ်သီးကို အသုံးများကြသည်။


ခရမ်းချဉ်ပင်၏အသီးနှင့်အရွက်များ

ခရမ်းချဉ်သီးမှည့်များသည် ပုပ်ပျက်ရှိယော်လွယ်သဖြင့် ၃ ရက်တခါဖြစ်စေ၊ ၄ ရက်တခါဖြစ်စေ၊ အသီးမှည့်များကိုဆွတ်ခူးရသည်။ ရပ်ဝေးသို့ တင်ပို့ရောင်းချနိုင်ရန်အတွက် အသီးစိမ်းအရင့်များကိုသာ ဆွတ်ခူးတတ်ကြသည်။ ခရမ်းချဉ်သီးသည် မြန်မာဟင်းအမျိုးမျိုးချက်ရာ၌ အသုံးဝင်သဖြင့် 'ဟင်းလိမ်မာသီး' ဟုလည်း မြန်မာနိုင်ငံအထက်ပိုင်းတွင်ခေါ်ဝေါ်ကြသည်။

ခရမ်းချဉ်ကို ရုက္ခဗေဒအရ လိုင်ကိုပါစီကမ် အက်စကျူလင်တမ် ဟုခေါ်သည်။ ယင်းနှင့်မျိုးချင်းနွယ်သော ဆိုလာနမ် ဖါရောကိုဆင်ခရမ်း၊ ဆိုလာနမ် ထရီလိုဗတမ်ကို မြေပုံခရမ်း၊ ဆိုလာနမ်

တော်ဗမ်ကို ခရမ်းချဉ်၊ မြေပစ်ခရမ်း မြပစ်ခရမ်း၊ ဟူ၍ မြန်မာတို့ကခေါ်ကြသည်။

**ခရမ်းမြို့။** ။ခရမ်းမြို့သည် ဟံသာဝတီခရိုင်အရှေ့ပိုင်းတွင် ပါဝင်သောမြို့နယ်တခုဖြစ်သည်။ ရန်ကုန်မြို့မှ ရေကြောင်းခရီးဖြင့် ၃၆ မိုင်ခန့်ကွာဝေးသည်။ မြို့၏အကျယ်အဝန်းမှာ စတုရန်း ၂ မိုင်ခန့်ရှိ၍ ၁၉၅၃ ခုနှစ်သန်ကောင်စာရင်းအရ လူဦးရေ ၁၀,၉၀၆ ယောက်ရှိသည်။

မြန်မာနိုင်ငံအောက်ပိုင်းကို အင်္ဂလိပ်တို့သိမ်းပိုက်စက ယခုခရမ်းမြို့မှာ ရေတွင်းချောင်ခရမ်းခေါ် ရွာကလေးမျှသာဖြစ်လေသည်။ ထိုရွာတွင် ကင်းဂတ်တခုကို ဖွင့်လှစ်ခဲ့ဘူးသည်။ ထိုစဉ်ကရုံးစိုက်ရာမြို့မှာ ရုံးသပြေကန်မြို့ဖြစ်သည်။ ထိုအရပ်တွင် သပြေကန်ဟူသောအမည်နှင့် နှစ်ဌာနရှိသည်။ ရုံးစိုက်ရာသပြေကန်ကို ရုံးသပြေကန်ဟုခေါ်သည်။ ရုံးသပြေကန်၏အရှေ့တောင်ဖက် ဘောချောင်းပေါ်၌တည်ရှိသော သပြေကန်ကိုမူ၊ ဘော့သပြေကန်ဟုခေါ်သည်။ ရုံးသပြေကန်မှာ ကျောက်တန်းနယ်တွင် အပါအဝင် မြို့နယ်ဖြစ်သည်။ သို့ရာတွင် ၁၉၀၄ ခုနှစ်ခန့်တွင် ရုံးသပြေကန်သည် ရေတိုက်စားခြင်းကြောင့် ကမ်းပါးပြို၍ တိမ်ကောသွားရာ ယခုခရမ်းမြို့သို့ ရုံးရွှေ့ပြောင်း၍စိုက်သည်။

ရွာတည်ရာအရပ်တွင် မြို့ဖျက်ခရမ်းများ ပေါများသဖြင့် ခရမ်းရွာဟုတွင်သည်။ ခရမ်းရွာ၌ ရေတွင်းချောင်ခရမ်းနှင့် ရွာမခရမ်းဟု အပိုင်းနှစ်ပိုင်းရှိသည်။ ရေတွင်းချောင်ခရမ်းတဲအုပ်စုကို မွန်လူမျိုးဦးမောင်၊ ဦးမြတို့ကရင်း၊ ရွာမခရမ်းတဲအုပ်စုကို မွန်လူမျိုးဦးအို၊ ဦးကလေး၊ ဦးအုံးစသည်တို့ကရင်း ပင်လယ်တိမ်ကိုင်းတောများကို ခုတ်ထွင်ရှင်းလင်းကာ လယ်လုပ်ရာမှ စတင်တည်ထောင်ခဲ့သည်ဟု ပါးစပ်ပြောအမှတ်အသားရှိသည်။

၁၉၂၄၊ ၂၅ ခုနှစ်ခန့်တွင် ခရမ်းတူးမြောင်းကို ဖေါက်လုပ်ခဲ့သည်။ ခရမ်းတူးမြောင်းမှာ ပဲခူးမြစ်ကမ်းပေါ် ရှိချောင်းဝရွာမှ ခရမ်းမြို့အထိ ၁၈ မိုင်ခန့်ရှည်လျားသည်။ ခရမ်းမှ တဆင့်ပင်လယ်သို့ပေါက်လေသည်။ ယခုအခါထိုတူးမြောင်းကို ခရမ်းမြစ်ဟုပင်ခေါ်တွင်လျက်ရှိသည်။

ခရမ်းမြို့နယ်တွင် ယခုအခါ ကျေးရွာပေါင်း ၈၀ ကျော်ရှိသည်။ မြို့နယ်တခုလုံး၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၂၄၆ မိုင်ခန့်ဖြစ်၏။ လယ်ယာကိုင်းကျွန်းများကိုမှီ၍ သက်မွေးဝမ်းကျောင်းသူများပြားသည်။ ရှေးကနိုင်ငံခြားကုမ္ပဏီကြီးများက စပါးဒိုင်များဖွင့်၍ စပါးများကို သိမ်းကျုံးဝယ်ယူခဲ့ဘူးသည်။ ယခုအခါ နိုင်ငံတော်ကောက်ပဲသီးနှံရောင်းဝယ်ရေးဘုတ်အဖွဲ့မှ စပါးများကို တိုက်ရိုက်ဝယ်ယူသော ဌာနခွဲတခု ဖွင့်လှစ်ထားသည်။ ခရမ်းမြို့နယ်တွင် ဆားချက်လုပ်ငန်းကိုလည်းလုပ်ကိုင်ကြသည်။ နာမည်ကြီးသောပဲခူးဆားသည် ခရမ်းမြို့နယ်နှင့် ကဝမြို့နယ်များမှ အများဆုံးထွက်လေသည်။ ယခုအခါ စပါးလုပ်ငန်း ဆားလုပ်ငန်းများအပြင် မြေပဲစိုက်ခြင်း၊ ကြက်ဘဲမွေးမြူခြင်း အလုပ်များကိုလည်းပြုလုပ်ကြသည်။ မြို့ပေါ်တွင် ဆန်စက်နှင့်ဆီစက်များလည်းရှိသည်။

ခရမ်းမြို့နှင့် ပဲခူးမြို့ကို ၁၉၂၈ ခုနှစ်တွင် မီးရထားလမ်းဖေါက်လုပ်ဆက်သွယ်ခဲ့သည်။ ၁၉၃၁ ခုနှစ်တွင် ခရမ်းမြို့၏တောင်ဖက် ၁၃ မိုင်ဝေးသော သုံးခွမြို့သို့ ဆက်လက်ဖေါက်လုပ်ခဲ့သည်။ ရန်ကုန်မြို့မှ ခရမ်းမြို့သို့ နေ့စဉ်မီးသင်္ဘောကလေးများ၊ မော်တော်လှေများ သွားလာလျက်ရှိသည်။



ဖွပ်လျှော်ပြီးအဝတ်အထည်များကိုနေလှမ်းနေစဉ်

သို့သော်မြစ်ချောင်းများကောသဖြင့်၊ မြို့သို့အရောက်မသွားနိုင်။ မြို့အနီးပိန်းကန်ရွာကို သင်္ဘောဆိပ်ပြုလုပ်ထားရသည်။

ခရမ်းမြို့ပေါ်တွင် နိုင်ငံတော်အစိုးရအထက်တန်းကျောင်းတကျောင်းရှိသည်။ ဆေးရုံနှင့်စာတိုက်တို့လည်းရှိသည်။ မြို့ပေါ်၌ဘုန်းတော်ကြီးကျောင်း ၁၈ ကျောင်းခန့်ရှိသည်။

ခရမ်းမြို့ပေါ်တွင် သကျမာရဇိန်ဘွဲ့ခံ၍သော သွန်းဘုရား

ကြီးတဆူရှိသည်။ ထိုရုပ်တုတော်ကို ခရမ်းမြို့မှ ဦးရွှေဖေါင်၊ ဦးဘိုးထိန်းတို့က ကြီးမှူး၍ အများကောင်းမှုဖြင့် တည်ခဲ့သည်။ ဘုရားပွဲတော်ကို နှစ်စဉ်တပေါင်းလပြည့်နေ့တွင် ကျင်းပလေ့ရှိသည်။ ခရမ်းမြို့၏အနောက်ဖက်ယွန်းယွန်းရှိ ရဲမွန်စေတီနှင့် အနောက်မြောက်ဖက် ၂ မိုင်ခန့်အကွာတွင် တည်ရှိသော ကန်ညီနောင်စေတီတို့မှာ ထင်ရှားသောစေတီ ပုထိုးများဖြစ်ကြသည်။

**ခဝါလုပ်ငန်း။** ။ခဝါလုပ်ငန်းတွင် အရင်းခံသဘောအားဖြင့် အဝတ်များကို ဖွပ်လျှော်ခြင်း၊ အခြောက်လှန်းခြင်း၊ ပြန့်၍နေစေရန် မီးပူတိုက်ခြင်းဟူ၍ လုပ်ဆောင်ဖွယ်ကိစ္စသုံးမျိုးပါဝင်သည်။ ခဝါလုပ်ငန်းကို ယခုခေတ်တိုင်အောင် အတိုင်းတိုင်းအပြည်ပြည်၌ လက်ဖြင့်ပြုလုပ်လျက်ပင်ရှိသေးသည်မှန်သော်လည်း၊ စက်မှုထွန်းကား တိုးတက်နေသော တိုင်းနိုင်ငံကြီးများတွင်မူ စက်များဖြင့် ပြုလုပ်လျက်ရှိကြပေပြီ။ အဝတ်လျှော်စက်များကိုသုံးခြင်းဖြင့် လက်နှင့်လျှော်



လျှော်မည့်အဝတ်များကို ဆလင်ဒါကြီးအတွင်းသို့ထည့်ရ၏။

ဖွပ်သည်ထက် ပို၍သေသပ် ကောင်းမွန်သည့်ပြင် အချိန်ကုန်လည်းသက်သာသည်။

အဝတ်လျှော်စက်များနှင့် လျှော်ဖွပ်နည်းမှာ ဤသို့ဖြစ်သည်။ ခဝါသည်တို့သည် အဝတ်ဟောင်းများကို မဖွပ်လျှော်မီ ရှေးဦးစွာ အဝတ်ချင်းမမှားနိုင်စေရန် ရေလျှော်ခံမင်နှင့်ဖြစ်စေ၊ အခြားတနည်းနည်းနှင့်ဖြစ်စေ၊ မှတ်သားလေ့ရှိကြသည်။ ထိုနောက်မှ ဖွပ်လျှော်မည့်အဝတ်များကို အဝတ်လျှော်ဒလိမ့်တုံးကြီးများ တပ်ထားသည့်စည်ကြီးထဲသို့ထည့်သည်။ ထိုဒလိမ့်တုံးကို သစ်သားသို့မဟုတ် အစွန်းခံသံမဏိဖြင့် ပြုလုပ်ထားသည်။ ဒလိမ့်တုံးသည် ဆပ်ပြာမြှုပ်များ ထည့်ထားသော ထိုစည်အတွင်း၌ လည်လျက်ရှိ၍၊ အဝတ်များကို ဆပ်ပြာရေထဲတွင် အကြိမ်တရာမက မွှေပေးသည်။ လက်ဖြင့်ဖွပ်လျှော်ရာမှာကဲ့သို့ အဝတ်များကို ပွတ်တိုက်ပေးခြင်း၊ ထုရိုက်ပေးခြင်း မျိုးကားမရှိပေ။ အဝတ်လျှော်စက်တွင် အဝတ်များကို ဆပ်ပြာရေထဲ၌မွှေပေးခြင်း၊ ထိုနောက် ရေသန့်ဖြင့်ကျင်းပေးခြင်း၊ ထိုနောက် တဖန် မဲနယ်ဆိုးခြင်းစသည့်အလုပ်သုံးမျိုးကို ဆယ်ကြိမ်၊ ဆယ့်နှစ်ကြိမ်မျှပြုလုပ်ပေးသည်။



အထည်များကို သံဒလိမ့်တုံးများကြားသို့ထည့်၍မီးပူတိုက်၏။

ထိုကဲ့သို့ဖွပ်လျှော်ပြီးသောအခါ အဝတ်များကို ရေညှစ်စက်သို့ ထည့်ပေးရပြန်သည်။ ရေညှစ်စက်ဟုဆိုသော်လည်း အဝတ်များကိုလိမ်၍ ညှစ်ပစ်ခြင်းမဟုတ်ပေ။ ရေညှစ်စက်တွင် သတ္တုဖြင့်ပြုလုပ်ထားသော တောင်းရှိ၏။ ထိုတောင်းကို ပက်ချာလည်စေခြင်းဖြင့် အဝတ်များမှ ရေကို စစ်ထွက်စေသည်။ ဤကဲ့သို့ ရေညှစ်ပြီးသောအခါ လေပူဖြင့် အဝတ်များကို သွေ့ခြောက်စေသည်။ ကော်တင်ရမည့် အထည်များဖြစ်က ကော်တင်ပြီးနောက် အသားပြန့်စေရန်အတွက် မီးပူတိုက်ရာဌာနသို့ ပို့ပေးရပြန်သည်။ မီးပူတိုက်ရာတွင် နည်းနှစ်မျိုးကိုအသုံးပြုကြသည်။ စားပွဲခင်း၊ မျက်နှာသုတ်ပုဝါစသည့် ရိုးရိုးအထည်များကို ရေနွေးငွေ့ဖြင့် အပူဓာတ်ပေးထားသော သံဒလိမ့်တုံးများအကြားသို့ထည့်၍ ဖိပေးရုံနှင့်ကိစ္စပြီးသည်။ အကျီစသည့် အဝတ်အထည်များကိုမူ ရေနွေးငွေ့ဖြင့် အပူဓာတ်ပေးထားသောဖိစက်နှင့် ပဌမဖိပေး



အိန္ဒိယနိုင်ငံ ဘုံဘိုင်မြို့ခဝါသည်များကား ဤသို့လျှော်ဖွပ်ကြ၏။

ပြီးနောက် ခေါက်ရိုးခေါက်သားများ ကျနသေသပ်စေရန် လူကိုယ်တိုင် ခတ်မီးပူနှင့် ထပ်မံတိုက်ပေးရသည်။ အဝတ်အထည်များပေါ်၌ အစွန်းအကွက်များ ပေကျံနေခဲ့လျှင် ထိုအစွန်းအကွက်များကို မလျှော်မဖွပ်ခင် ချွတ်ပစ်ရန် လို၏။ သို့သော် အဝတ်ကို မနာစေရန် အရေးကြီးသည့်အတွက် ထိုကိစ္စတွင် ကျွမ်းကျင်နားလည်သူများကိုယ်တိုင် ဂရုတစိုက်ပြုလုပ်ပေးရန်လိုပေသည်။

ပိုး၊ ဖဲ၊ ကတ္တီပါ၊ သက္ကလတ်၊ သားမွေး၊ သိုးမွေးစသည့် အဖိုးတန်အထည်များဖြစ်မူ ခြည်ထည်များကို ဖွပ်လျှော်သကဲ့သို့ မဖွပ်လျှော်ရပေ။ ထိုအနုထည်များကို အခြောက်လျှော်ခြင်းဖြင့် ခဝါချပေးရ၏။ အခြောက်လျှော်နည်းတွင် ပိုး၊ ဖဲ၊ သက္ကလတ်၊ သိုးမွေးစသည့်အနုထည်များကို ဗင်ဇင်း သို့မဟုတ် ခတ်ဆီစသည့်အရည်တခုခုတွင် ထည့်၍ စိမ်ပေးခြင်း၊ သို့မဟုတ် ထိုအရည်တခုခု ဆွတ်ထားသော အဝတ်ဖြင့် ပွတ်သပ်ခြင်းဖြင့် အထည်တွင်ရှိသောချေးနှင့် ဆီစသည့်အညစ်အကြေးများကို ကျွတ်စေသည်။ သွေ့ခြောက်သွားသောအခါ အထည်ကို ဝက်မှင်ဘီးအနုစားဖြင့်ပွတ်တိုက်ပြီးနောက် သံဒလိမ့်တုံးများဖြင့် ပြန့်အောင်ဖိပေးသည်။ ယခုအခါ ဗင်ဇင်းနှင့်ခတ်ဆီတို့အစား များသောအားဖြင့် ပက်ထရိုလီယမ်နက်ဖသားဟု ခေါ်သော အဖျော်ပစ္စည်းကို အသုံးများကြသည်။

**ခဝဲပင်။** ။ခဝဲပင်သည် ဗူးဖရုံစသော အပင်မျိုး၌ပါဝင်၍ နှစ်စဉ်စိုက်ပျိုးရသောအပင်မျိုးဖြစ်၏။ နွယ်ပင်ကဲ့သို့ လိမ်ယှက်၍ပေါက်တတ်၏။ ခဝဲသီးသည် အလျား ၇ လက်မမှ ၁၅ လက်မခန့်အထိ ရှည်၏။ ခဝဲသီး၏ အဖျားပိုင်းသည် အနည်းငယ်ထွား၍ အညှာဖက်သို့သေးသွယ်သွား၏။ လတ်ဆတ်နေချိန်၌ ခဝဲသီးသည် အစိမ်းရင့်ရောင်ရှိ၏။ သခွါးသီးကဲ့သို့ လုံးချောမဟုတ်ဘဲ စောင်းပါရှိ၏။ အရည်ရွှမ်း၍ ပွ၏။ အစေ့မှာသခွါးစေ့နှင့်တူ၏။ အပွင့်မှာအဝါရောင်ရှိ၏။ ဗြိတ္တိသျှသီ တန်ဆောင်မုန်းလတွင် ပွင့်သောပန်းအဖြစ်ထင်ရှား၏။

ခဝဲပင်ကို အသီးအလို့ငှာစိုက်ပျိုးကြ၏။ မြန်မာနိုင်ငံအနှံ့အပြားတွင် ပေ ၄၀၀၀ ထက်နိမ့်သော အရပ်ဒေသတို့၌ စိုက်ပျိုးနိုင်၏။ ခဝဲသီးတွင် ပါရှိသောစောင်းများကို ခြစ်ထုတ်ပြီးလျှင် အခွံပါးပါးသင်ပြီးသည့်နောက် ကြော်ချက်သော်၎င်း၊ ဟင်းချိုသော်၎င်းချက်၍စားကြသည်။

မြေပြင်ညီညာသောဒေသများ၌ ခဝဲပင်ကို အများအား

ဖြင့် ပြေီလအလယ်မှစ၍ ဇူလိုင်လအလယ်ထိ စိုက်ပျိုးကြ၏။ မျိုးစေ့ ၂ပေါင် ၃ ပေါင်လောက်သည် တကေကျယ်ဝန်းသော မြေကွက်ပေါ်၌ ကြဲဖြန့်စိုက်ပျိုးရန်အတွက် လုံလောက်၏။ စိုက်ပျိုးပုံကား မြေတွင်အကွာအဝေး ၆ လက်မစီခြားသော တွင်းများကိုစီတန်းကာတူးရသည်။ ထိုနောက် မျိုးစေ့များကို တွင်းထဲသို့ထည့်၍ တွင်းများကို မြေကြီးဖြင့်ဖို့ရ၏။ တွင်းတတန်းနှင့်တတန်း ၆ ပေကွာထားတတ်၏။ မိုးအနည်းငယ်ရွာသွန်းသော ဒေသများတွင် ခဝဲပင်ကို စင်မထိုးဘဲစိုက်ပျိုးကြ၏။ သို့သော် မိုးများစွာရွာသွန်းသောဒေသများတွင် စင်ထိုး၍ စိုက်ပျိုးကြရ၏။ အကြောင်းမူကား စိုစွတ်သောမြေပေါ်တွင် ကြာမြင့်စွာ ခဝဲသီးကျနေပါမူ ပုပ်လွယ်တတ်သောကြောင့် ဖြစ်လေသည်။ ခဝဲပင်ကို မြေသြဇာကောင်းသော နေရာများတွင်စိုက်ပျိုးကြ၏။ မြေသြဇာညံ့ဖျင်းသော ဒေသများ၌ကား ပြာနှင့် နွားချေးအဆွေးများကို မြေသြဇာအဖြစ် အသုံးပြုကြ၏။ မိုးကောင်းစွာရွာသွန်းလာသည့်အချိန်ထိ ရေမှန်မှန်လောင်းပေးရ၏။ အချိန်မှန်ပေါင်းသင်ပေးမှ အပင်များသန်စွမ်း၏။



ခဝဲစင်တွင်တွဲလျားသီးနေသောခဝဲသီးများ

အယဉ်မျိုး၊ အရိုင်းမျိုးဟူ၍ ခဝဲသီး ၂ မျိုးရှိရာ အရိုင်းမျိုးသည် ခါးသောအရသာရှိ၏။ အချို့ကမြေကျော်သဖြင့် ခဝဲသီးခါးသည်ဟုယူဆကြ၏။ယင်းယူဆချက်သည်မမှန်ချေ။

**ခအောင်းပင်။** ။ခအောင်းပင်ကို ရုက္ခဗေဒအရ ဖစ်ကပ်ဟစ္စပီဒါ ဟုခေါ်သည်။ ထိုအပင်မှာ အပင်ငယ်ကလေးဖြစ်သည်။ ထိုအပင်၏အသီးကိုစားရသည်။ အသားကိုစဉ်း၍ ဆေးရွက်ကြီးနှင့်ရောကာ ဆေးလိပ်လိပ်သောက်ကြသည်။ အသီး၊ အစေ့နှင့်အခေါက်များသည် အန်ဆေးများဖော်စပ်ရာတွင် အသုံးဝင်သည်။ အသီးကိုအနာအုံရန်အတွက်လည်း အသုံးပြုနိုင်သည်။ ထိုအပင်မှအမျှင်များလည်းရသည်။

**ခါ။** ။ခါသည် ရစ်နှင့်မျိုးတူဖြစ်သည်။ မြန်မာများတွင် အကြီးအငယ် ရှိသေအပ်ကြောင်း သင်ခဏ်းစာပါသော ဆင်မျောက်ခါဝတ္ထုကို ငယ်စဉ်ကဖတ်ဘူးကြသူများသဖြင့်၊ ခါကိုအမည်အားဖြင့်သော်မျှ သိသူများကြသည်။ ခါအော်သံကိုကြားဘူးကြသူများလည်း အနည်းအများ ရှိပေလိမ့်မည်။ သို့သော် ခါကိုမြင်ဘူးသူ အလွန်ရှားသည်။ ခါသည် လူအမြင်ကိုမခံ ကြောက်ရွံ့တတ်သည်။

ခါအမျိုးမျိုးရှိသည်။ မြန်မာနိုင်ငံရှိခါမျိုးကို ဖယ်ယာဗားမိဖရန်ကိုလင်ဟူ၍ အင်္ဂလိပ်ဝေါဟာရဖြင့်၎င်း၊ ဖရန်ကိုလင်နပ် ပင်တေဒိနပ် ဖယ်ရေဟူ၍ လက်တင်ဝေါဟာရဖြင့်၎င်း ခေါ်ဝေါ်ကြသည်။ မြန်မာခါသည် အလျား ၁၃ လက်မခန့်ရှိ၏။ ငှက်တောင်မှာ အကြေးကွက်ကဲ့သို့ အကွက်များရှိ၍ မွဲခြောက်ခြောက် အရောင်ရှိသည်။ ခါမ၏ ရင်နှင့်



ခအောင်းပင်စည်တွင်တွယ်၍ သီးနေသောခအောင်းသီးများ

ဝမ်းပိုင်းသည် ဖြူ၍အနက်စင်းများရှိသည်။ ခါအော်သံမှာ တက်တက်တူခါးခါး ဟူသောအသံဖြစ်သည်။

အထူးသဖြင့် ဆောင်းရာသီနံနက်ခင်းနှင့် ညနေမှောင်စပျိုးသည့်အချိန်တွင် ခါများအသံပေးကြသည်။ ခါအော်သည့်အခါ လည်ပင်းကို အထက်သို့ဆန့်၍ အော်လေ့ရှိသည်။

ခါသည်တောနက်ရာတွင်မနေဘဲ သွေ့ခြောက်သည့်ဒေသ၌နေသည်။ အထူးသဖြင့် လယ်ကွက်များအနီးရှိ တောစပ်တွင်ကျက်စားသည်။ တနင်္သာရီတိုင်းမှလွဲ၍ မြန်မာနိုင်ငံတဝှမ်းလုံးတွင် ခါကိုတွေ့ရသည်။ မိုးခေါင်ရေရှားရပ်ဝန်းတွင် အမြောက်အမြားနေကြ၍ ပဲ၊ မြေပဲ၊ သစ်စေ့နှင့်ပိုးမွှားများကို စားသောက်သည်။ ရာသီဥတု အဆင်သင့်ပါက ပေ ၅၀၀၀ အမြင့်အထိရှိသော ဒေသများတွင် ခါများနေကြသည်။ ခါသည် အအုပ်အသင်းနှင့်မနေဘဲ တကောင်တည်းဖြစ်စေ အဖိုအမ စုံတွဲ၍ဖြစ်စေသွားလာကျက်စား၏။

မတ်လနှင့်စက်တင်ဘာလအတွင်းတွင် ခါကလေးများဥမှပေါက်ကြသည်။ ခါသည်မြေပေါ်တွင်ကျင်းယက်၍ အသိုက်လုပ်လေ့ရှိ၏။ တမြုံလျှင် ၃ ဥမှ ၆ ဥအထိရှိတတ်၍ တဥလျှင်ပျမ်းမျှအလျား ၁.၃၉ လက်မနှင့် ပြက် ၁.၁၅ လက်မရှိသည်။ ဥအရောင်မှာ အဝါနုမှ အဝါရင့်ရောင်ဖြစ်သည်။ ခါပေါက်စကလေးများသည် ဥမှပေါက်ပြီးမကြာမီပင် ပြေးလွှားနိုင်ကြသည်။

မြန်မာနိုင်ငံတွင် ခါ ဆယ် မျိုးခန့်ရှိသည်ဟု အချို့ကဆိုသော်လည်း၊ အသေအချာ ခါမျိုးခွဲခြား၍ ပြထားသည်ကို မတွေ့ရပေ။ မဟာအဓိကရ ကန်တော်မော်ကွန်းတွင်မူ ခါ ၄ မျိုးရှိကြောင်း ဖော်ပြထား၏။ ထိုမော်ကွန်းတွင် 'လေးမျိုးခါငှက်၊ တက်တက်တူခါး၊ ပြဿဒါးနှင့်၊ ကျောက်တံခါး၊ ခရား၊ နောက်သုံးပါးမူ၊ စွမ်းပကားသတ္တိ၊ ယှိသည်မှန်လှ၊ ရခဲစွတည့်၊' ဟုဆိုထားသည်။ ခါအော်သံနှင့်စပ်လျဉ်း၍ 'တက်တက်တူခါးခါး၊ မြီးညှောင့်ခေါင်းရှည်ရှားလှသည့်၊ ခါများတသဲသဲတည့်၊' ဟု ရာမရကန်တွင်ပါရှိသည်။ 'ရဂုံကြေ့သည်မြိုင်ငူ၊ တက်တက်တူရွှေခါပြောက်တွေကာ၊ ဖော်မစုံပင်မြုံ အောက်မှာ၊ ကိုင်းလျှောက်တယ်လေး' ဟု တောဖွဲ့တွင်စပ်ဆိုထားသည်။

အနောက်နိုင်ငံများတွင် ငှက်ပစ်ဝါသနာပါသူတို့သည် ခါပစ်ချိန် (ဝါ) ခါပစ်ရာသီဟု သတ်မှတ်ထားသည့်လများတွင် ခါပစ်ထွက်လေ့ရှိကြသည်။ ဗြိတိန်နိုင်ငံတွင်၊ အင်္ဂလိပ်ဝေါဟာရအားဖြင့် ပါးထရစ်ဟုခေါ်သောခါကို မြေပိုင်ရှင်ကြီးများ၊ နယ်ရှင်ကြီးများသည် အချိန်ကျလျှင် အပျော်အပါးပစ်ခတ်ရန် ကျယ်ဝန်းသောခြံတောကြီးများကို သတ်သတ်ထားလေ့ရှိကြ၏။ ဤသို့အပျော်အပါး ခါပစ်ရခြင်းကို အထက်တန်းစားများ၊ သူဌေးကြီးများသည် အမြတ်တနိုးဂုဏ်ယူကြလေသည်။



တက်တက်တူခါးခါးဟုအသံပေးတတ်သည့်ခါ

အင်္ဂလန်ပြည်တွင် ခါ ၂ မျိုးကို တွေ့ရသည်။ အညိုရောင်ရှိသောသာမန်ခါမျိုးနှင့် ပြင်သစ်ခါ သို့မဟုတ် ခြေထောက်နီခါမျိုးတို့ဖြစ်သည်။ အညိုရောင်ခါသည် ဗြိတိန်ကျွန်းဇာတိဖြစ်သည်။ ရင်အုပ်တွင်သစ်ကျားသီးရောင်ရှိသော မြင်းခွာပုံအမှတ်ရှိသည်။ ကျန်အမွေးအတောင်များမှာ အညိုရောင်ဖြစ်၍၊ ဦးခေါင်းမှာ သစ်ကျားသီးရောင်ထနေသည်။ မြေကြီး၌ဝပ်နေသောအခါ ရုတ်တရက်မတွေ့နိုင်ချေ။ ထိုခါမျိုးသည် ဗြိတိန်ကျွန်းတွင် လွန်ခဲ့သောရာစုနှစ်အတွင်း၌ တိုးပွားလာသည်။

ဒုတိယအမျိုးဖြစ်သော ပြင်သစ်ခါကို ဥရောပတိုက်မှ အင်္ဂလန်ပြည်သို့ ၁၈ ရာစုအတွင်း၌ ယူဆောင်လာခဲ့ကြသည်။ ထိုခါမျိုး၏ အရောင်မှာပျော့၍ အလှယ်တကူမြင်တွေ့နိုင်သည်။ ဦးခေါင်းနှင့်ရင်အုပ်တွင် အမဲမှတ်များရှိ၍၊ လည်ပင်းပတ်လည်၌ အပြာရောင်ဝိုင်းလျက်ရှိသည်ကိုထူးခြားစွာတွေ့မြင်နိုင်ပေသည်။

အာဖရိကတိုက်၊ ဥရောပတိုက်မြောက်ပိုင်း၊ အီရန် (ပါးရှား) နိုင်ငံ၊ တိဗက်ပြည်၊ အာရှတိုက်နှင့်၊ တောင်နှင့်မြောက်အမေရိကတိုက်များတွင်လည်း ခါအမျိုးမျိုးရှိကြသည်ကိုတွေ့မြင်နိုင်ပေသေးသည်။

**ခါစီလူမျိုး။** ။ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားများဖြစ်ကြသော မွန်၊ ပလောင်၊ ဝ တို့နှင့် ပြောဆိုသော ဘာသာစကား၌ရှင်း၊ မျိုးရိုးဇာတိ၌ရှင်း အလွန်တူညီကြသည့် ပြည်ထောင်စုအပနေ လူမျိုးတမျိုးမှာ ခါစီလူမျိုး ဖြစ်သည်။ ခါစီတို့သည် မွန်၊ ပလောင်တို့ကဲ့သို့ပင် မွန်ခမာအစုခွဲဝင် ဘာသာစကားကို ပြောဆိုကြ၍ လူမျိုးအားဖြင့် မွန်ဂိုအနွယ်ဝင်များ ဖြစ်ကြသည်။ ယင်းတို့သည် အိန္ဒိယနိုင်ငံ အာသံပြည်တွင် အနောက်ဖက် ဂါရိုတောင်များနှင့် အရှေ့ဖက် ကပီလီမြစ်တို့စပ်ကြား ရှိ (ကမ္ဘာ့ပေါ် တွင်မိုးအများဆုံးရွာသွန်းသော) ချယ်ရာပွန်ဂျီမြို့နှင့် ရှိလောင်မြို့တို့ကိုဗဟိုပြုသည့် ခါစီနှင့်ဂျိန်းတိယ တောင်တန်းခရိုင်များတွင် နေထိုင်ကြသည်။ လူဦးရေမှာ ၂၀၀,၀၀၀ ကျော်မျှ ရှိလေသည်။

အာသံပြည်ရှိ တိုင်းရင်းသားများမှာ တိဗက်မြန်မာ အစုဝင်ဘာသာစကားများကို ပြောဆိုကြသည်။ သို့သော် ခါစီတို့မှာ တိဗက်မြန်မာအစုဝင် ဘာသာစကားကို ပြောဆိုလေ့ရှိသော လူမျိုးများအကြားဝယ် ထီးတည်းဖြစ်နေသော မွန်ခမာများပင် ဖြစ်လေသည်။ အာသံပြည်တွင် မွန်ခမာစကားကို ခါစီတို့သာ ယခုအခါ ပြောဆိုနေကြသော်လည်း တိဗက်မြန်မာအစုဝင်ဘာသာစကားများကို ပြောဆိုသူတို့နှင့် အင်ဒိုအာရီယန်လူမျိုးတို့ မရောက်မီအခါက မွန်ခမာစကားကိုပြောဆိုသူများသည် အိန္ဒိယနိုင်ငံတွင် တောင်ဖက် ချိုတာနဂ္ဂပူ ကုန်းမြင့်အထိ မြောက်မြားစွာပျံ့နှံ့ နေထိုင်ခဲ့သည်ဟု ယူဆနိုင်သည်။ မွန်ခမာစကားကိုပြောသော မွန်ဒလူမျိုးများကို ယခုတိုင်အောင် ချိုတာနဂ္ဂပူ ကုန်းမြင့်၌ တွေ့ရသေး၏။

ခါစီတို့မှာ အလွန်ရှေးကျသောအယူဝါဒနှင့် ယဉ်ကျေးမှုများကို ယနေ့တိုင် လက်ခံကျင့်သုံးနေကြသည်။ သေဆုံးသူများကို အမှတ်တရဖြစ်စေရန်သော်၎င်း၊ တိုက်ပွဲများ၊ အမဲလိုက်ခြင်းများ၊ အရေးကြီးသော ရွာအတွင်း အဖြစ်အပျက်များကို အမှတ်တရဖြစ်စေရန်၎င်း၊ ကျောက်တုံး၊ ကျောက်တိုင်ကြီးများကို စိုက်ထူထားကြ၏။ အခြား ယဉ်ကျေးမှုအသစ် မည်သို့ပင်ရောက်လာစေကာမူ ခါစီတို့သည် မိမိတို့၏မူရင်းယဉ်ကျေးမှုကို မစွန့်လွှတ်ဘဲ နေလာခဲ့သူများ ဖြစ်ကြသည်။

ဂျိန်းတိယတောင်တွင်နေကြသော ခါစီတို့ကို စင်တင်ဟုခေါ်သည်။ ယင်းတို့မှာ ဂျိန်းတိယမဟာရာဇာတို့၏လက်အောက်ခံဖြစ်ခဲ့ကြသည်။ ခါစီတို့မှာ မည်သည့် အချိန်ကမှ အုပ်ချုပ်ရေး ဖွဲ့စည်းမှုတခုတည်းအတွင်းတွင် နေထိုင်ခဲ့ကြသည်မရှိ။ သူတို့၏သဘာဝသည် အစုငယ်ကလေးများအနေဖြင့် တကွဲတပြားစီ လွတ်လပ်စွာနေထိုင်ကြ၏။ တခါတရံ စွန့်စားလိုသော ခေါင်းဆောင်များပေါ် ပေါက်၍ နီးစပ်ရာအစုငယ်များကိုပူးပေါင်းကာ အနည်းငယ်ကျယ်ပြန့်သော အုပ်ချုပ်မှုမျိုးကို ပေးနိုင်ခဲ့သော်လည်း ထိုအုပ်ချုပ်မှုမှာ မကြာမတင်ပင်ပျက်ပြားကာ အစုငယ်များ အဖြစ် ထပ်မံ၍ ကွဲသွားပြန်လေသည်။ မည်သို့ပင်ဖြစ်စေ ခါစီတို့သည် မိမိတို့အစုနှင့် မိမိတို့လွတ်လပ်စွာ နေထိုင်ခဲ့ကြသူများဖြစ်၏။

အလွန်ရှေးကျသောအချိန်က အမျိုးသမီးတဦးတည်းက ခင်ပွန်းသည်အများကိုယူသော အိမ်ထောင်စံနစ်မျိုးရှိခဲ့ဘူးဟန်တူသည်။ ခါစီတို့၏ လူနေထိုင်မှုဖွဲ့စည်းပုံမှာထူးခြား၏။ အမျိုးသမီးတို့သည် အမျိုးသားတို့ထက် ဩဇာအာဏာနှင့် အခွင့်အရေးများတွင် ပိုမိုရှိသူများဖြစ်သည်။ အခြားလူမျိုးတို့တွင် ဖခင်ဦးစီး သည့် အိမ်ထောင် စု စံနစ် များ ရှိသော်လည်း ခါစီတို့အတွက်မူ မိခင်ဦးစီးသည့်အိမ်ထောင်စုစံနစ်သာရှိ၏။ ထိုစံနစ်မှာလည်း သာမန်မဟုတ်ဘဲ စည်းကမ်းဥပဒေများဖြင့် ဆီလျော်ကျနစွာ ပေါ်ပေါက်တိုးတက်လာသည့်စံနစ်ဖြစ်သည်။ မိခင်သည် အိမ်ထောင်၏ဦးစီးသာမက အိမ်ထောင်ကိုပိုင်ဆိုင်သူလည်းဖြစ်သည်။ အိမ်ထောင်စုကို မိခင်က စုစည်းထား၏။ အချို့ဒေသများတွင် မိခင်သာလျှင် အိမ်ထောင်ပစ္စည်းများကိုပိုင်၏။ သူကသာလျှင် အမွေခွဲဝေ ပေးနိုင်သည်။ မွေးဖွား သည့် ကလေး တို့မှာ မိခင်၏လူမျိုးစုဝင်များဖြစ်သည်။ ဖခင်နှင့်မသက်ဆိုင်ပေ။ ဖခင်လုပ်သူ ရှာဖွေရရှိသည့်ပစ္စည်းတို့သည် သူ့မိခင်၏အမျိုးစုအတွက် ဖြစ်သည်။ သေဆုံးလျှင်ပင် သူ၏အရိုးများကို မိခင်၏ဆွေမျိုးများအတွက်စိုက်ထူထားသော ကျောက်တိုင်အဝိုင်းများသို့ ပို့ရသည်။ အချို့ဒေသ၌သော်ကား လင်သည်မယားနှင့်အတူမနေ၊ အတူမစား၊ မိုးချုပ်ခါမှ ဇနီးရှိရာသို့လာလေ့ရှိသည်။ ခါစီတို့သည် ရှေးဖိုးဖွားစဉ်ဆက်ကို ကိုးကွယ်ယုံကြည်သူများဖြစ်သည်။ ကွယ်လွန်သော ရှေးဆွေစဉ်မျိုးဆက်ကို အမှတ်တရဖြစ်စေရန် တောင်ကုန်းတောင်ထိပ်တို့၌ စိုက်ထူသော ကျောက်တိုင်ဝိုင်းများကိုပင် လျှင် ထိုလူစု၏ ကိုယ်စားဖြစ်သော မိန်းမအကြီးအကဲ၏ အမည်နှင့်ပညတ်ခေါ်ဝေါ်ကြသည်။ မိခင်ဦးစီးသောစံနစ်မှ ပေါက်ဖွားလာသည့် အကြီးအကဲတဦး သေဆုံးသောအခါ သူ၏နေရာကို သူ၏သားက မဆက်ခံရချေ။ သူ၏နှမ သို့မဟုတ် အမ၏သားကသာ ဆက်ခံရသည်။ အယူဝါဒရေးဆိုင်ရာ၌လည်း မိန်းမတို့ပင်ခေါင်းဆောင်ကြ၏။ ယောကျ်ားတို့မှာ နောက်လိုက်မျှသာဖြစ်သည်။ အိမ်စောင့်နတ်များနှင့်နာမှုသေမှုကို အစိုးရသည်ဟုယူဆထားသော နတ်များမှာလည်း နတ်သမီးများသာဖြစ်သည်။ အချို့နေရာများတွင် မိန်းမတို့မှာ နယ်၏ဦးစီးခေါင်းဆောင် ဖြစ်သည်သာမက အယူဝါဒဦးစီးခေါင်းဆောင်လည်းဖြစ်သည်။

ခါစီဘာသာစကားသည် ပြည့်စုံကုံလုံသောသဒ္ဒါရှိသည့် ဘာသာစကားဖြစ်၏။ ၁၈၄၂ ခုနှစ်တွင် ချယ်ရာပွန်ဂျီမြို့၌

ဗြိတိန်နိုင်ငံဝေလနယ်မှ ကယ်လဗင်မက်သဒစ် သာသနာပြုအဖွဲ့အခြေစိုက်၍ ခါစီဘာသာစကားကို လေ့လာပြီးလျှင် ရောမအက္ခရာတို့ဖြင့် ခါစီစာကိုတီထွင်ပေးခဲ့၏။ ထိုနောက်သော် ခါစီသူငယ်တန်းဖတ်စာများ၊ ခါစီသဒ္ဒါစာအုပ်များ၊ အဘိဓာန်များပေါ်ပေါက်လာ၍ ၁၉ ရာစုနှစ်ကုန်လုနီးသော် ခါစီဂျာနယ် ၂ စောင်ပင် ပေါ်ထွက်လာခဲ့လေသည်။ ယခုအခါ၌ အယူဝါဒရေးသာမက လောကီရေးဆိုင်ရာ ခါစီစာပေအများအပြားပေါ်ထွက်နေပြီဖြစ်၏။

ခါစီတို့သည် အထက်၌ဆိုခဲ့သည့်အတိုင်း မိဖကိုရင်း၊တောတောင်ရေမြေတို့ကို ကိုယ်စားပြုသောနတ်တို့ကိုရင်း ကိုးကွယ်ကြသည်။ ထူးခြားသောအလေ့အထတခုမှာ အရေးကြီးကိစ္စတခု ဆောင်ရွက်ရန်ပေါ်ပေါက်လျှင် ရှေ့ရေးကိုသိစေရန် ကြက်ဥကိုခွဲ၍ ရှေးဖြစ်ဟောသည့် ဓလေ့ဖြစ်သည်။ ယခုအခါ၌ ခရစ်ယန်အယူဝါဒကို သက်ဝင်ယုံကြည်သူများရှိနေပေပြီ။

ခါစီတို့သည် ကျန်းမာတောင့်တင်း သန်စွမ်းသူများဖြစ်၏။ လူများစုမှာ လယ်ယာဖြင့် အသက်မွေးကြသည်။ စပါး၊ အာလူး၊ လိမ္မော်၊ ကွမ်းသီးနှင့် ကွမ်းပင်များကိုစိုက်ပျိုးကြသည်။ အချို့မှာ ကူလီအလုပ်ဖြင့် အသက်မွေးကြ၏။ တောင်ကုန်းထူထပ်၍ လမ်းပန်းမသာယာသောကြောင့် ပစ္စည်းများကို လူဖြင့်သာသယ်ယူကြသည်။ အချို့မှာ လမ်းကူလီလုပ်ငန်းများကို လုပ်ကြသည်။ မိမိတို့ဆင်မြန်းရန် အဝတ်အထည်ရက်လုပ်ခြင်း၊ ပျားမွေးခြင်း၊ တိရစ္ဆာန်မွေးမြူခြင်းများကိုလည်းပြုလုပ်ကြ၏။

ပဌမအင်္ဂလိပ်မြန်မာနယ်ချဲ့စစ်မဖြစ်မီက ခါစီတို့မှာဗြိတိသျှတို့၏ဩဇာခံမဟုတ်ဘဲ လွတ်လပ်စွာနေထိုင်ခဲ့ကြသည်။ ထိုစစ်ပြီးသည့်နောက် ၁၈၂၆ ခုနှစ်ကစ၍ ဗြိတိသျှအရှေ့အိန္ဒိယကုမ္ပဏီက ခါစီတို့၏နယ်တွင် ဝင်ရောက်ခြယ်လှယ်ခဲ့ကြ၏။ ၁၈၂၇ ခုနှစ်တွင် စီလဟက်မှ ခါစီနယ်ကိုဖြတ်၍ ဂေါဟတ်သို့ လမ်းဖေါက်ရန် မစ္စတာဒေးဗစ်စကော့ဆိုသူ စတင်ဆောင်ရွက်ရာမှ အစပြု၍ ခါစီတို့သည် ဗြိတိသျှတို့ကို လက်နက်ကိုင်ကာ တော်လှန်တိုက်ခိုက်ခဲ့ကြရာ ၁၈၃၃ ခုနှစ်မှအရှုံးနှင့်ပြီးဆုံးခဲ့လေသည်။ ထိုအချိန်မှစ၍ ဗြိတိသျှတို့၏ဩဇာအာဏာ တည်မြဲခဲ့ပြီးလျှင် နိုင်ငံရေးကိုယ်စားလှယ်တဦးကို ထားရှိအုပ်ချုပ်ခဲ့လေသည်။ နိုင်ငံရေးကိုယ်စားလှယ်အဖြစ် ရှေးဦးစွာဆောင်ရွက်ရသူမှာဗိုလ်ကြီးလစ္စတာဖြစ်၏။

ခါစီနယ်တွင် နယ်ငယ်ကလေးပေါင်း ၂၅ နယ်ရှိသည်။ ၁၅ နယ်မှာ စီယင်ခေါ်သော ခါစီအကြီးအကဲတို့က အုပ်ချုပ်၏။ စီယင်တို့မှာ မိသားတစုတည်းကပင်ဖြစ်သော်လည်း အများသဘောတူ ရွေးကောက်တင်မြှောက်ခြင်းခံရသူများဖြစ်၏။ နယ်တနယ်မှာ နယ်ကလေးများကိုစုပေါင်းထား၍ ရွေးချယ်တင်မြှောက်သော အရာရှိများက အုပ်ချုပ်ရသောနယ်ဖြစ်သည်။ ကျန်နယ် ၉ နယ်မှာလည်း အများသဘောတူ ရွေးကောက်တင်မြှောက်သော အကြီးအကဲတို့က အုပ်ချုပ်သောနယ်များဖြစ်၏။ ရွေးကောက်တင်မြှောက်သည် ဆိုစေကာမူ ဗြိတိသျှအစိုးရ၏ သဘောတူညီချက်ရမှသာ အတည်ဖြစ်သည်။ ယခုအခါ၌ ခါစီတို့မှာ လွတ်လပ်သောအိန္ဒိယသမတနိုင်ငံ၏ အာသံပြည်နယ်တွင် ငြိမ်းချမ်းသာယာစွာနေထိုင်လျက်ရှိကြပေသည်။

ဦးဘရှင်။



ကန္တာရခရီးဖြင့်ခါတွမ်းမြို့သို့ဝင်ရောက်လာကြသောခရီးသည်များ



ဆူဒန်ပြည် မြို့တော်ခါတွမ်းမြို့၏ရှုခင်းသာတရပ်ကို ဤသို့တွေ့ရ၏။

**ခါတွမ်းမြို့။** ။ခါတွမ်းမြို့သည် ဆူဒန်ပြည်၏မြို့တော်ဖြစ်၍၊ ဝှိုက်နိုင်းမြစ် (နိုင်းမြစ်ဖြူ) နှင့် ဗလူးနိုင်းမြစ် (နိုင်းမြစ်ပြာ) တို့ ဆုံရာတွင်တည်ရှိသည်။ ထိုမြို့နှင့် ဆက်လျက်ရှိသော အွမ်းဒါမန် ခေါ် နေရာမှာ အစ္စလမ်အယူဝါဒီများဖြစ်သော ဒါးဗစ်ရသေ့များ၏ မြို့တော်ဟောင်းနေရာဖြစ်သည်။

ခါတွမ်းမြို့မှာ ထိုစဉ်အခါက ဗြိတိသျှစစ်သေနာပတိ လော့ကစ်ချနာ ပေးခဲ့သည့်ပုံစံအရ ၁၈၉၈ ခုနှစ်တွင် တည်ဆောက်ခဲ့သောမြို့ဖြစ်၍၊ အလွန်လှပတင့်တယ်သော ကျောက်ဖြူအဆောက်အအုံများ၊ အုတ်အဆောက်အအုံများ၊ ဥယျာဉ်ပန်းခြံများဖြင့် သာယာလှသောမြို့တမြို့ဖြစ်လေသည်။

၁၈၈၅ ခုနှစ်တွင် မွတ်စလင်အယူသည်းခေါင်းဆောင် မာဒီတော်လှန်ထကြွစဉ်က၊ ဆူဒန်နယ်မှ ဗြိတိသျှအမျိုးသားများနှင့် အီဂျစ်တိုင်းရင်းသားများ ပြောင်းရွှေ့ရေးကိုစီစဉ်ပေးရန် ဗြိတိသျှစစ်ဗိုလ်ချုပ်မှူး ဂေါ်ဒွန်ကို ခါတွမ်းမြို့သို့ စေလွှတ်ခဲ့၏။ သို့ရာတွင် ဂေါ်ဒွန်ဆိုက်ရောက်ချိန်တွင် မာဒီခေါင်းဆောင်သောသူပုန်များသည် အွမ်းဒါမန်မြို့ဟောင်းနေရာ၌ အခိုင်အမာတပ်စွဲပြီးဖြစ်၍ ခါတွမ်းမြို့မှာ အဝိုင်းခံရပြီးလျှင် ဗိုလ်ချုပ်မှူးဂေါ်ဒွန်သည်လည်း ၁၈၈၅ ခုနှစ် ဇန္နဝါရီလ ၂၆ ရက်နေ့တွင် အသတ်ခံရလေသည်။ မြို့တွင်းရှိအဆောက်အအုံများကိုလည်း သောင်းကျန်းသူများက ဖျက်ဆီးပစ်လေသည်။

မာဒီသူပုန်များသည် အွမ်းဒါမန်ကို မြို့တော်ပြုလုပ်၍ အုပ်စိုးခဲ့ရာ ၁၈၉၈ ခုနှစ်တွင်မှ ဗြိတိသျှစစ်သေနာပတိ လော့ကစ်ချနာခေါင်းဆောင်သော အင်္ဂလိပ်အီဂျစ်ရှင်း စစ်တပ်များက ပြန်လည်သိမ်းပိုက်နိုင်ခဲ့သည်။ ထိုနောက် ခါတွမ်းမြို့မှာ အစိုးရဌာနချုပ်တည်ရာ မြို့ဖြစ်လာပြန်သည်။

ခါတွမ်းမြို့သည် အချက်အခြာနေရာကောင်းတွင် တည်ရှိသဖြင့် ကူးသန်းရောင်းဝယ်ရေးအတွက် အရေးပါအရာရောက်သည်။ တောင်ဖက်ရှိမြို့များနှင့်၎င်း၊ မြောက်ဖက်ရှိမြို့များနှင့်၎င်း၊ မီးရထားလမ်း အဆက်အသွယ်ရှိလေသည်။ ပင်လယ်နီဆိပ်ကမ်း မြို့များနှင့်လည်း မီးရထားလမ်းဖြင့် ဆက်သွယ်ထားသည်။ ဗြိတိန်နှင့် တောင်အာဖရိက၊ အရှေ့အာဖရိကလေကြောင်းလမ်းတွင် တည်ရှိသောလေဆိပ်တခုလည်းဖြစ်ပေသည်။

ခါတွမ်းမြို့၏လူဦးရေမှာ ၁၉၄၈ ခုနှစ် သန်ကောင်စာရင်းအရ ၇၁,၄၀၀ ခန့်ဖြစ်သည်။

**ခါးပတ်။** ။ခါးဝတ်မြဲရန် ခါးတွင်ပတ်သောတန်ဆာကို ခါးပတ်ဟုခေါ်သည်။ ခါးပတ်ကို နှစ်ပေါင်းများစွာကစတင်၍ အသုံးပြုခဲ့ကြသည်။ မြက်ခါးပတ်၊ အဝတ်ခါးပတ်၊ ငွေခါးပတ်၊ ရွှေခါးပတ်၊ ပိုးခါးပတ်၊ သားရေခါးပတ်စသဖြင့် ပစ္စည်းအမျိုးမျိုးဖြင့်ပြုလုပ်သော ခါးပတ်များစွာ ရှိလေသည်။ ခါးပတ်များတွင် သားရေခါးပတ်ကို ရှေးနှစ်ပေါင်းများစွာကစ၍ ယခုတိုင်သုံးစွဲကြသည်။ ယခုခေတ် ပလပ်စတစ်

စုတွင် ကြယ်အလုံးပေါင်း ၇ လုံးပါဝင်သောကြောင့် ခုနစ်စဉ်ကြယ်ဟု ခေါ်ဝေါ်ကြသည်။

အာစမေဂျာ နက္ခတ်အနီးတွင်ပင် အာစာမိုင်းနားခေါ် နက္ခတ်တခုရှိသေးသည်။ အာစာမေဂျာနှင့် အာစာမိုင်းနား ဆိုသည်မှာ လက်တင်ဘာသာ စကားများဖြစ်ကြ၍ ဝက်ဝံကြီး၊ ဝက်ဝံငယ်ဟူ၍ အသီးသီးအဓိပ္ပါယ်ရသည်။ ထိုနက္ခတ်များထဲတွင် ပါရှိသောကြယ်လုံးများကို တလုံးနှင့် တလုံး ဆက်စပ်ကြည့်တတ်လျှင် ဝက်ဝံရုပ်နှင့် အနည်းငယ်တူသော ပုံသဏ္ဌာန်ကို မြင်ရသည်ဟုဆိုသည်။ ထိုနက္ခတ်များသည်အဘယ်ကြောင့်ဝက်ဝံများနှင့်တူရကြောင်းစပ်လျဉ်း၍ ရှေးဟောင်းဒဏ္ဍာရီများရှိလေသည်။

အာစာမိုင်းနား နက္ခတ်ထဲတွင် ပါသောကြယ်များကို ပုံဖေါ်လျှင် အမြီးထောင်နေသော ဝက်ဝံတကောင်၏ ပုံသဏ္ဌာန်ထင်ပေါ်သည်။ သို့ရာတွင် အာစာမေဂျာနက္ခတ်တွင်ပါဝင်သော ခုနစ်စဉ်ကြယ်မှာမူ ဝက်ဝံတကောင်၏အမြီးနှင့် ကိုယ်အစိတ်အပိုင်းအချို့ကိုသာ ပေါ်လွင်စေသည်။




ခုနစ်စဉ်ကြယ်ကို ဥတုအလိုက်ကောင်းကင်၌မြင်ရပုံ

ခုနစ်စဉ်ကြယ်၏တည်နေပုံမှာ ထယ်ပုံနှင့်တူသည်။ ထယ်လက်ကိုင်ရိုးနှင့် တူသောအပိုင်း၌ ကြယ် ၃ လုံးရှိသည်။ ကျန်လေးလုံးမှာ ကြယ် ၃ လုံးထိပ်၌ ကန့်လန့်ဖြတ်လုံးစီတွဲလျက် ၂ တန်းရှိသည်။ အစွန်းဆုံးကြယ် ၂ လုံးတွဲအတန်းမှ ရှေးသို့မျဉ်းဖြောင့်တခုကို ဆွဲလိုက်လျှင် ထိုမျဉ်း၏အဆုံး၌ တလုံးတည်းတောက်ပနေသော ကြယ်ကြီးကိုမြင်ရလိမ့်မည်။ ထိုကြယ်ကြီးမှာဓူဝံကြယ်ပင်ဖြစ်သည်။ ဓူဝံကြယ်သည်အာစာမိုင်းနား နက္ခတ်တွင်ပါရှိ၍ဝက်ဝံ၏အမြီးနှင့်တူသောအပိုင်းတွင် အမြီးထိပ်ဖျား၌တည်ရှိပေသည်။

မြောက်ဖက်ကောင်းကင်ပြင်ရှိ ကြယ်တာရာများသည်ဓူဝံကြယ်ကိုလှည့်ပတ်၍ နေသဖြင့် ခုနစ်စဉ်ကြယ်သည်လည်း အလားတူပင် အချိန်နာရီနှင့်ရာသီဥတု အလိုက် ရွေ့လျားပြောင်းလဲ၍ နေပေသည်။ ဆောင်းဥတု ညဉ့်ဦးပိုင်းတွင်ထယ်လက်ကိုင်ရိုးနှင့်တူသော ကြယ် ၃ လုံးတန်းသည် တောင်ဖက်သို့ညွှန်၍ နေသည်ကို တွေ့မြင်ရပေမည်။ နွေကူးဥတု ညဉ့်တွင်မူ ယင်းကြယ်တန်းသည် အရှေ့ဖက်သို့ညွှန်လျက်၊ နွေဥတုတွင်မူ မြောက်ဖက်သို့ ညွှန်ကာ၊ ဆောင်းကူးဥတုတွင်ကား အနောက်ဖက်သို့ညွှန်ပြ၍ နေပေလိမ့်မည်။

ဓူဝံကြယ်ကြီးသည် အခြားကြယ်များကဲ့သို့ နေရာပြောင်းရွှေ့ခြင်းမရှိဘဲ ထာဝစဉ်တနေရာထဲတွင် တည်နေပေသည်။ ထို့ကြောင့် ရှေးအခါက သင်္ဘောသားများသည် မိမိတို့ရောက်ရှိနေသောနေရာကို သိရှိနိုင်ရန်အတွက် ဓူဝံကြယ်ကို ကြည့်၍ ခရီးသွားလာကြရလေသည်။

**ခုနစ်နှစ်စစ်** (ခရစ် ၁၇၅၆-၆၃)။ ။ဤစစ်တွင် ဥရောပတတိုက်လုံးရှိ နိုင်ငံကြီးတိုင်းလိုလိုပင် ပါဝင်တိုက်ခိုက်

ခဲ့ကြသည်။ ဤစစ်သည် ဥရောပတိုက်တွင်သာမက၊ အမေရိကတိုက်နှင့် အိန္ဒိယပြည်တို့သို့လည်း ပျံ့နှံ့သွားခဲ့သည်။

ခုနစ်နှစ်စစ် ဖြစ်ပွားရခြင်း၏အကြောင်းရင်းမှာ ပရပ်ရှားပြည်နှင့် ဩစတြီးယားပြည်တို့ ဆိုင်လီးရှားပြည်နယ်ပိုင်ဆိုင်ခွင့်ကို လုကြခြင်းဖြစ်သည်။ ၁၇၄၀ ပြည့်နှစ်တွင် ပရပ်ရှားပြည့်ရှင်၊ ဘုရင်ဖရက်ဒရစ်–သ–ဂရိတ်သည်ဩစတြီးယားပိုင် ဆိုင်လီးရှားပြည်နယ်ကို အဓမ္မသိမ်းယူခဲ့၏။ ထို့အတွက် ဩစတြီးယားပြည့်ရှင်မ၊ မရီးယာတရီးဇားသည် ဆိုင်လီးရှားပြည်နယ်ကို ပြန်ရရန်ကြိုးစားသည်။

မရီးယာတရီးဇားသည် ဩစတြီးယားပြည့်ရှင်မဖြစ်သည့်အပြင်၊ ဟန်ဂေရီနှင့် ဗိုဟီးမီးယားပြည်တို့၏ ဘုရင်မလည်းဖြစ်၏။ သူ၏ထီးနန်းဆက်ခံမှုကို ပရပ်ရှား၊ ဗာဗေရီးယား၊ ဆက်စွန်နီနှင့် စပိန်ဘုရင်များက ကန့်ကွက်၍၊ သူပိုင်နယ်များကို လုယူရန်ကြံရွယ်ကြ၏။ ထိုကြောင့် ဩစတြီးယားနန်းဆက်ခံရေးစစ်ဟု အမည်တွင်သောစစ် (၁၇၄၀–၁၇၄၈) ကို တိုက်ခိုက်ခဲ့ရလေသည်။ ထိုစစ်အတွင်း၌ပင်လျှင် ဆိုင်လီးရှားပြည်နယ်ကို ပြန်သိမ်းနိုင်အောင် ကြိုးစားခဲ့သော်လည်း မအောင်မြင်ခဲ့ချေ။ သို့သော် မြော်လင့်ချက်ကြီးစွာဖြင့် ဆက်လက်ကြိုးစားခဲ့သည်။

ဖရက်ဒရစ်ကို ကြောက်ရွံ့မုန်းတီးနေသော ရုရှားဘုရင်မ အယ်လစ်ဇဗက်နှင့်၎င်း၊ ယခင်ကရန်သူဖြစ်ခဲ့သော ပြင်သစ်ပြည်နှင့်၎င်း၊ မရီးယာတရီးဇားသည် ၁၇၅၆ ခုနှစ်တွင် မဟာမိတ် ဖွဲ့ပြီးသောအခါ၌ ဖရက်ဒရစ်ကို တိုက်ခိုက်ရန် စီစဉ်၏။ ပဌမတွင် ပြင်သစ်နှင့်မဟာမိတ် ဖွဲ့နိုင်ရန်အတွက် အခက်အခဲ တွေ့ခဲ့ရသော်လည်း၊ ပရပ်ရှားက ဗြိတိန်နှင့် မဟာမိတ်စာချုပ် ချုပ်ဆိုလိုက်သည့်အတွက် ပြင်သစ်ကို ဩစတြီးယားဖက်သို့ပါအောင် ဩစတြီးယားနိုင်ငံခြားရေးဝန်ကြီး ကောင်းနစ်က အရဆွဲနိုင်ခဲ့သည်။

မရီးယာတရီးဇားနှင့် မဟာမိတ်တို့၏ အရိပ်အခြေကို စောင့်ကြည့်နေသော ပရပ်ရှားဘုရင် ဖရက်ဒရစ်–သ–ဂရိတ်သည် လက်ဦးနှင့်အောင် ဩစတြီးယား၏ဘက်တော်သားဆက်စွန်နီပြည်ကို ၁၇၅၆ ခုနှစ်အောက်တိုဘာလတွင် စတင်တိုက်ခိုက်သည်။ ယင်းသို့ဖြင့် ခုနစ်နှစ်စစ် စတင်ဖြစ်ပွားခဲ့လေသည်။ ဩစတြီးယားက စစ်ကူပို့ခဲ့သော်လည်း၊ အရေးမလှဘဲ ဆက်စွန်နီမှာ ဖရက်ဒရစ်အား အညံ့ခံလိုက်ရလေသည်။ ဖရက်ဒရစ်မှာ ပွဲဦးထွက်၌ အောင်ပွဲခံလိုက်ရသော်လည်း၊ သူ့ဖက်တွင် ဗြိတိန်တဦးတည်းသာ ရှိခဲ့လေ၏။ ဗြိတိန်ကလည်း ထိုအချိန်တွင် ထိရောက်စွာကူညီခြင်းမပြုသေး။ ထို့ပြင် ၁၇၅၇ ခုနှစ်တွင် ဆွီဒင်ပြည်သည် ဩစတြီးယားဖက်သို့ ပါသွားပြန်လေရာ ဥရောပတတိုက်လုံးလိုလိုနှင့် ယှဉ်ပြိုင်တိုက်ခိုက်နေရသည့်အတွက် ဖရက်ဒရစ်အဖို့ စစ်အောင်မြင်ရန်မှာ ခက်ခဲနေခဲ့၏။

အင်အားပင်မမျှသော်လည်း ဖရက်ဒရစ်သည် အလျှော့မပေးချေ။ မိမိ၌ရှိသမျှသော စစ်အင်အားကို ယုံကြည်စိတ်ချ၍ လျင်မြန်ဖျတ်လတ်စွာ စီမံခန့်ခွဲပြီးလျှင် ပြန်လှန်တိုက်ခိုက်ခဲ့လေသည်။ သူသည် ဗိုဟီးမီးယားပြည်ကို ချင်းနင်းဝင်



အင်္ဂလိပ်နှင့်ပြင်သစ်ရေတပ်တို့ ကီးဗရွန်ပင်လယ်တွင် အကျိတ်အနယ်တိုက်ခိုက်နေကြစဉ်



ဖရက်ဒရစ်–သ–ဂရိတ်ဘုရင်သည် ဩစတြီးယန်းစစ်ဗိုလ်များအား တိုက်ပွဲအပြီးတွင်ရုတ်တရက်သွားတွေ့ပုံ

ရောက်တိုက်ခိုက်ခဲ့ရာ ပရာဟာမြို့အနီး တိုက်ပွဲတွင် အနိုင်ရလိုက်ပြီး၊ ပရာဟာမြို့ကို ဝန်းရံထားနိုင်ခဲ့သည်။ သို့သော် ကိုလင်တိုက်ပွဲတွင် အရေးနိမ့်ခဲ့၏။ ရော့စဗတ်တိုက်ပွဲ၌ကား ဖရက်ဒရစ်သည် ပြင်သစ်တို့ကို အနိုင်ရလိုက်ရာ အလွန်ထင်ရှားကျော်ကြားသွားခဲ့သည်။ ထိုနောက် တလခန့်အကြာ၊ ၁၇၅၇ ခုနှစ် ဒီဇင်ဘာလတွင်လည်း ဩစတြီးယားစစ်တပ်တို့အား လူသင်းတိုက်ပွဲတွင်အပြတ်အသတ်တိုက်နိုင်ခဲ့သည်။

၁၇၅၈ ခုနှစ်နွေဦးပေါက်တွင် ဖရက်ဒရစ်၏အခြေအနေမှာ အတော်ကောင်းမွန်လာ၏။ ဗြိတိန်တွင် ဝီလျံပစ်မှာဝန်ကြီးချုပ်ဖြစ်လာပြီးလျှင် ပရပ်ရှားကို ထိရောက်စွာကူညီခဲ့လေသည်။ ဗြိတိသျှစစ်တပ် အသစ်ထပ်မံဖွဲ့စည်းကာ၊ ပရပ်ရှား၏ရန်သူများကို တိုက်ခိုက်ခဲ့ရာတွင် အောင်ပွဲများ ရရှိခဲ့၏။ သို့သော် ၁၇၆၀ ပြည့်နှစ်တွင် ဗြိတိန်၌ တတိယဂျော့ဘုရင် နန်းတက်လေသည်။ ထိုဘုရင်သည် ပစ်၏ စွမ်းရည်သတ္တိကို မလိုလားသူဖြစ်၏။ ထို့ကြောင့် ပစ်မှာ ၁၇၆၁ ခုနှစ်တွင် ရာထူးမှထွက်လိုက်ရသည်။ ပရပ်ရှားအား ပေးနေခဲ့သောထောက်ပံ့ကြေးများကိုလည်း ရပ်စဲလိုက်သဖြင့် ပရပ်ရှားမှာ အလွန်အားလျော့သွားခဲ့လေသည်။

ပင်ကိုယ်အခြေတောင့်လှသည်မဟုတ်သည့်ပြင် စစ်စရိတ်များကလည်း အလွန်ကြီးလေးသဖြင့် ပရပ်ရှားသည် အခက်ကြုံခဲ့ရသည်။ သို့ဖြစ်၍ ၁၇၆၂ ခုနှစ်တွင် ပရပ်ရှားမှာ အဆိုးဆုံးသောအခြေသို့ ရောက်ခဲ့လေသည်။ သို့သော် ကံအားလျော်စွာ ရုရှဘုရင်မ အယ်လစ်ဇဗက်သည် ထိုနှစ်တွင်ပင်ကွယ်လွန်၍ တတိယပီတာနန်းတက်သည်။ ပီတာဘုရင်မှာ ဖရက်ဒရစ်ကို လိုလားသူဖြစ်သောကြောင့် ပရပ်ရှားနှင့် သူ့တနိုင်ငံတည်း စစ်ပြေငြိမ်းလိုက်လေ၏။ ထို့ပြင် ဆွီဒင်နှင့် ပြင်သစ်တို့ကလည်း ဩစတြီးယားနှင့် မဟာမိတ်အဖြစ်မှ နုတ်ထွက်လိုက်ကြလေသည်။ သူတဦးတည်း ဆက်၍မတိုက်နိုင်သောကြောင့် ဩစတြီးယားမှာ ဟူးဗက်စဗတ်မြို့တွင် ၁၇၆၃ ခုနှစ် ဖေဖွာရီလ ၁၅ ရက်နေ့၌ ပရပ်ရှားနှင့် စစ်ပြေငြိမ်းလိုက်ရလေ၏။

အမေရိကတိုက်၌လည်း ထိုစစ်ဖြစ်ပွားခဲ့သည်။ ယင်းစစ်ကို ရက်အင်ဒီးယန်း ခေါ် အိန္ဒိယလူနီများနှင့် ပြင်သစ်တို့စစ်ဟူ၍လည်း အမေရိကန်များကခေါ်သည်။ သို့သော် ဖြစ်

ပွားချိန်မှာ ဥရောပ၌ စစ်မဖြစ်မီ တနှစ်ခန့်ကဖြစ်သည်။ အမေရိကတိုက်တွင် ကိုလိုနီနယ်သစ်များထူထောင်၍၊ ဗြိတိသျှနှင့်ပြင်သစ်တို့ အပြိုင်နယ်ချဲ့ခဲ့ရ၏။ စစ်ပွဲဖြစ်ပွားပုံမှာ စိန့်လောရင့်မြစ်မှသည် မစ်စစ်စပီမြစ်အထိ ပြင်သစ်တို့က ခံတပ်များဆောက်လုပ်သည်။ ထိုဆောက်လုပ်ထားရာမြေကို အင်္ဂလိပ်ပိုင် ဗာဂျင်းနီးယားနယ်သစ် ဘုရင်ခံက သူတို့ပိုင်ဆိုင်သည်ဟု အခိုင်အမာ တောင်းဆိုလေသည်။ ယင်းသို့ တောင်းဆိုဆဲ တွင် ပြင်သစ်တို့၏ခံတပ်မှ ဖို့ဒူးကိန်းကို ဂျော့ဝါရှင်တန်ခေါင်းဆောင်သော ဗြိတိသျှတပ်ဖွဲ့အား စေလွှတ်ကာတိုက်ခိုက်စေသည်။ ထိုမှအစပြု၍ စစ်ဖြစ်ခဲ့ရသည်။ သို့သော် ဝါရှင်တန်တို့ အရေးမလှဘဲ ဆုတ်ခွာခဲ့ရသဖြင့်၊ ဗိုလ်ချုပ်မှူးဗရက် ဒေါက်ကိုယ်တိုင် သွားရောက်တိုက်ခိုက်ပြန်သည်။ သို့နှင့်လည်းအရေးမလှဘဲ၊ ဗြိတိသျှကိုလိုနီနယ်သစ်များမှာ ပြင်သစ်တို့၏ဖိနှိပ်မှုကို ပိုမိုခံရလေတော့သည်။ ပြင်သစ်တို့၏ ဘက်တော်သား ရက်အင်ဒီးယန်းများသည် နယ်စပ်နားရှိ ဗြိတိသျှတို့၏စခန်းများကို တခုပြီးတခု ဝင်ရောက်တိုက်ခိုက်ခဲ့၏။ ၁၇၅၈ ခုနှစ်တွင်ကား၊ ဗြိတိသျှဝန်ကြီးချုပ် ပီလျံပစ်သည် လက်နက်ရိက္ခာပြည့်စုံသော စစ်တပ်နှင့် ရေတပ်ကိုလွှတ်ကာ ကိုလိုနီနယ်သားတပ်များ၏အကူအညီဖြင့် တိုက်စေသဖြင့်၊ ပြင်သစ်ခံတပ်များ အတော်ပင်ပြိုပျက်သွားသည်။ နောက်တနှစ်တွင်ကား ဗိုလ်ချုပ်ဝုသည် ကွိဗက်မြို့ကို အသက်စွန့်ကာသိမ်းပိုက်ခဲ့လေသည်။

ခုနစ်နှစ်စစ်အပြီးတွင် အမေရိကတိုက်၌ ဗြိတိသျှနှင့် ပြင်သစ်တို့၏ အင်အားပြိုင်ပွဲကြီး ပြီးဆုံးသွားလေသည်။ အမေရိကတိုက်၌ နိုင်ငံတော်တည်ဆောက်ရန်ဟူသော ပြင်သစ်တို့၏မျှော်မှန်းချက်မှာလည်း ပျက်ပြားသွားရလေ၏။ အကြောင်းမှာ ပြင်သစ်တို့သည် ဗြိတိသျှတို့အား ကနေဒါတနယ်လုံး ပေးအပ်လိုက်ရသောကြောင့်ပေတည်း။

အိန္ဒိယပြည်တွင်လည်း ဗြိတိသျှတို့သည် ပြင်သစ်တို့အပေါ် အရေးသာခဲ့၏။ ဗြိတိသျှတို့၏ အရှေ့အိန္ဒိယကုမ္ပဏီသည် ကုန်သွယ်ရန်စခန်းများဖွင့်ခဲ့ရာ ယင်းတို့မှတဆင့် နိုင်ငံတော်ထူထောင်ရန် အလားအလာများ ပေါ်ပေါက်ခဲ့လေသည်။ ဤအတွင်းပြင်သစ်ဘုရင်ခံဒူးပလိတ်ကအညှန့်ခူးရန်ကြိုးစားခဲ့လေသည်။ သို့ရာတွင် အရှေ့အိန္ဒိယကုမ္ပဏီ၏ စာရေးဖြစ်ခဲ့ဘူးသော ရောဗတ်ကလိုက်၏စွမ်းဆောင်ချက်ကြောင့်၎င်း၊ ပြင်သစ်အစိုးရက အားပေးခြင်းမပြုသောကြောင့်၎င်း၊ ပြင်သစ်တို့အရေးမှာ မအောင်ဘဲ ရှိခဲ့ရလေသည်။ ကလိုက်သည်အိန္ဒိယပြည်ကို ဗြိတိသျှတို့စိုးမိုးနိုင်ရန်အတွက် အခြေခံချပေးခဲ့သည်။ ဤသို့လျှင် အိန္ဒိယ၌ ဗြိတိသျှနှင့်ပြင်သစ်တို့ အင်အားပြိုင်မှုသည် ၁၇၆၃ ခု၊ ဖေဖွာရီလ ၁၀ ရက်နေ့တွင်ချုပ်ဆိုသော ပါရစ်စစ်ပြေငြိမ်းရေးစာချုပ် ချုပ်လိုက်သည်တွင် အဆုံးသို့ရောက်လေ၏။ (ကလိုက်, အာ — ရှု။)

ခုနစ်နှစ်စစ်အပြီးတွင် ဥရောပ၌ နယ်နိမိတ်အပြောင်းအလဲများ မရှိလှချေ။ ဆိုင်လီးရှားပြည်နယ်မှာ ပရပ်ရှားလက်အောက်တွင်ပင် ဆက်လက်တည်ရှိခဲ့လေသည်။ ပရပ်ရှားဘုရင် ဖရက်ဒရစ်-သ-ဂရိတ်အတွက် အောင်မြင်မှုဖြစ်၍ သူ့တန်ခိုးကြီးမားလာသည်။ သို့သော် ထိုစစ်အပြီးတွင် အများဆုံးအကျိုးအမြတ်ဖြစ်ထွန်းသူကား ဗြိတိန်ပင်တည်း။ ဗြိတိန်သည် ကနေဒါနယ်ကြီးကိုပြင်သစ်ထံမှရလိုက်သည့်ပြင် အနောက်အိန္ဒိယကျွန်းစုရှိ ကျွန်းအများအပြားကိုလည်း ရရှိခဲ့သေးသည်။ စပိန်ထံမှလည်း ဖလော်ရီဒါနယ်ကို ရလိုက်ပြန်သေး၏။ ဖလော်ရီဒါနယ်အစား ပြင်သစ်၏ဘက်တော်သားဖြစ်ခဲ့သူစပိန်အား ပြင်သစ်က မြောက်အမေရိကတိုက်၊ မစ်စစ်စပီမြစ် အနောက်ဖက်ဒေသ၊ လူဝီးဇီယန္နားနယ်ကို လွှဲပြောင်းပေးလိုက်သည်။

ပြင်သစ်မှာစစ်ရှုံးသည့်ပြင် ကိုလိုနီနယ်များပါ လက်လွှတ်ခဲ့ရသဖြင့် ဥရောပနိုင်ငံများအလယ်တွင် အတော်ပင်မျက်နှာငယ်ခဲ့သည်။ ဤအကြောင်းကြောင့် ပြည်တွင်းအခြေအနေ ဆိုးဝါးလာခဲ့ရာ၊ ပြုပြင်ရေးများ ပြင်းပြင်းထန်ထန်မလုပ်ကိုင်ခဲ့လျှင် တော်လှန်ရေးဖြစ်ပွားမည့် အကြောင်းများပင်လျှင် ပေါ်ပေါက်လာခဲ့သည်။ နောက်ပိုင်းတွင်ကား ဂျာမနီခေါင်းဆောင်မှုအတွက် ပရပ်ရှားနှင့် ဩစတြီးယားတို့သည် ဆက်လက်အားပြိုင်ခဲ့ပြန်လေသည်။

**ခူကောင်**။ ။လိပ်ပြာ၏ဘဝဖြစ်စဉ်၌၊ လိပ်ပြာသည် ဥမှပေါက်လျှင်ပေါက်ခြင်း လိပ်ပြာဟူ၍ ဖြစ်မလာချေ။ ပိုးလောင်းကောင်ဘဝမှတဆင့် လိပ်ပြာဘဝသို့ အသွင်ပြောင်းရသေးသည်။ ထိုလိပ်ပြာဖြစ်ရမည့် ပိုးလောင်းကောင်ကို ခူဟူ၍၎င်း၊ ပေါက်ဖတ်ဟူ၍၎င်း၊ ခေါ်ကြသည်။ ခူနှင့်ပေါက်ဖတ် ခြားနားချက်မှာ၊ ခူ၌အမွေးရှိ၍ ပေါက်ဖတ်၌ အမွေးမရှိခြင်းပင်တည်း။ လိပ်ပြာဥမှ ခူပေါက်ဖွားလာပုံမှာ ဤသို့ဖြစ်သည်။

ပဌမတွင် လိပ်ပြာများသည် မိမိတို့၏ဥများကို သစ်ရွက်များပေါ်တွင်အုကြ၏။ လိပ်ပြာမတကောင်သည် တကြိမ်လျှင်ဥပေါင်း ၁၀၀၀ မှ ၁၂၀၀ ခန့်အထိအု၏။ လိပ်ပြာဥတို့သည် ပုလဲလုံးကလေးများနှင့်တူ၍ တခုနှင့်တခုစပ်ကာ သစ်ရွက်များပေါ်တွင် အထပ်လိုက်ကပ်လျက်ရှိကြ၏။ ဥများအုပြီးနောက် ၄၊ ၅ ရက်အကြာတွင် ဥများမှခူကောင်ကလေးများ ပေါက်လာသည်နှင့်တပြိုင်နက် အစာကိုလောဘတကြီး စတင်စားသောက်တတ်ကြလေသည်။ ထိုခူကောင်ကလေးများ ပေါက်ခါစ၌ ရက်အတော်ကြာမျှ သစ်ရွက်ပေါ်တွင် တစုတဝေးတည်းနေ၍ သစ်ရွက်မှအစိမ်းရောင်တစ်ရှူးများကို ဝိုင်း၍စားကြသည်။ အရွက်အားလုံးကိုကား မစားကြချေ။ ထိုကြောင့် ခူကောင်ကျသော


ပေါက်ဖတ်ဟုခေါ် လေ့ရှိသည့်ခူကောင်

ပြောင်းလဲရန် ၂ နှစ် ၃ နှစ်မျှပင်ကြာ၏။ မြန်မာနိုင်ငံကဲ့သို့ နိုင်ငံများ၌မူ ရက်ပေါင်း ၂၀ မှ တလကျော်မျှကြာသည်။ ခူကောင်၌ အများအားဖြင့် ဦးခေါင်းမှအပ အပိုင်း ၁၂ခုရှိ၏။ ဦးခေါင်းပိုင်းမှ စ၍ရေတွက်သော် ပဌမအပိုင်း ၃ ခုတွင်တခုစီ၌ အဆစ် ၅ ခုစီရှိသော ခြေထောက်များ ရှိ၏။ ယင်းတို့သည် နောင်အခါတွင် ကိုယ်လက်အင်္ဂါပြည့်စုံသော အင်းဆက်ပိုး၏ ခြေထောက်များ ဖြစ်လာကြ၏။ ရင်ပိုင်းတွင်လည်း ခြေထောက်ငုတ်တိုကလေးများရှိသေး၏။ သို့သော် ယင်းတို့သည် အမှန်အားဖြင့် ခြေထောက်များမဟုတ် ကြဘဲ နောက်ဆုံးခွာထုတ် လိုက်သော ခူကောင်၏ ကိုယ်မှအရေပြားနှင့် ကပ်၍ပါသွားကြလေသည်။

အပင်၏အရွက်ကိုကြည့်လျှင် အဖြူရောင်ရှိ၍ ဆန်ခါကဲ့သို့ ထုတ်ချင်းပေါက် မြင်နိုင်သည်။ ယင်းတို့သည် အနည်းငယ် ကြီးထွားလာမှပင် အုပ်စုခွဲ၍ အရွက်များကို အားလုံးစားကြသည်။ ခူကောင်သည် အပင်များကိုဖျက်ဆီးတတ်သည်။ ယင်းတို့၏ရန်ကို ကာကွယ်ရန်မှာ ဥများနှင့်ပိုးကောင်ကလေးများရှိသော အရွက်တို့ကို သုတ်သင်ပစ်ရသည်။ ဤကဲ့သို့ ကြိုတင် ကာကွယ်ခြင်း မပြုလုပ်လျှင် ထိုဥများနှင့်ပိုးကောင်ကလေးများ သည် အသီးအနှံစိုက်ခင်းများကို အကြီးအကျယ်ဖျက်ဆီးနိုင်ကြသည်။

ခူကောင်များသည် တဖြည်းဖြည်း ကြီးထွားလာသော အခါ အပေါ်ယံအရေပြားသည် အခြားတိရစ္ဆာန်များကဲ့သို့ မကြီးဘဲ အလွန်တင်းကျပ်၍လာ၏။ ထိုအခါ မိမိတို့ကိုယ်တွင်ရှိသော အရေပြားကို ခွာထုတ်ပစ်ရန် ကြိုးစားကြ၏။ မကြာမီအတွင်း ဦးခေါင်းအရင်းနားမှစ၍ အရေပြားသည် ကွဲထွက်သွား၏။ ထိုအခါ ကိုယ်ကိုတွန့်လိမ်၍ အရေပြားအတွင်းမှထွက်လာကြ၏။ ထိုနောက် ခူကောင်၏ကိုယ်ပေါ်တွင် နူးညံ့သောအရေပြား အသစ်တထပ်ဖုံးလွှမ်းလာပြန်သည်။ ထိုအရေပြားသည် ခွာထုတ်လိုက်သော အရေပြားဟောင်းအောက်တွင် ရှိနေသောအရေပြား တထပ်ပင်ဖြစ်သည်။ နောက်ရက်အနည်းငယ်အတွင်း ထိုအရေပြားသည်လည်း ကနဦးစွန့်ပစ်လိုက်သော အရေပြားကဲ့သို့ပင် ကိုယ်မှကျွတ်ထွက်သွားပြန်သည်။ ခူကောင်သည် ကောင်းစွာမကြီးထွားမီ ၄၊၅ ကြိမ်မျှအရေလဲ၏။ သမပိုင်းဇုန်ဒေသများ၌ ခူကောင်ဘဝသည် ၂ လ၊ ၃ လမျှကြာ၏။ အလွန်အေးသောဒေသများ၌ ခူကောင်ဘဝမှ လိပ်ပြာဘဝသို့

ဦးခေါင်းတဖက်တချက်၌ မျက်စိနှင့်တူသော အကွက်ကလေး ၆ ခုရှိ၏။ ထိုအကွက်တို့သည် မျက်စိအတုများဖြစ်သည်။ ထိုမျက်စိတုများဖြင့် မမြင်ကြချေ။ ခူကောင်သည် မိမိကိုယ်ကို တနေရာမှတနေရာသို့ ရွေ့သွားရာ၌ ဦးခေါင်းတွင်ရှိသော အဆစ်များရှိသည့် ဦးမှင် ၂ ခုဖြင့် စမ်း၍သွား၏။ ခူကောင်၏ ကိုက်နိုင်သောပါးစပ်သည် အရည်ကိုစုတ်ယူနိုင်သော လိပ်ပြာ၏ပါးစပ်နှင့် အလွန်ပင်ကွာခြားသည်။ ခူကောင်၏ကိုယ်သည် ပြောင်ချော၍သော်လည်းနေသည်၊ သို့မဟုတ်အမွေးနု အမွေးကြမ်းတို့ဖြင့်သော်လည်း ဖုံးလွှမ်းလျက်ရှိသည်။ ခူကောင်၏အမွေးတွင် တောက်ပြောင်သောအရောင်များရှိတတ်သည်။

တိရစ္ဆာန်တို့သည် မိမိတို့၏ခန္ဓာကိုယ်ကို အပူအနွေးနှင့် ရန်သူဘေးရန်မှ ကာကွယ်နိုင်ရန်အလို့ငှါ သဘာဝကပန်တီးပေးသည်။ ယင်းသို့ဖြစ်ရာ ခူကောင်များသည်လည်း မိမိတို့ကိုယ်ကို ကာကွယ်နိုင်သော အရည်အခြင်းနှင့်ပြည့်စုံ၏။ အချို့ခူကောင်များသည် အပင်များပေါ်၌ နေစဉ် ယင်းတို့ကို လွယ်ကူစွာမမြင်နိုင်အောင် ပတ်ဝန်းကျင်ရှိအရောင်များကို ဆင်ထားတတ်ကြ၏။ (ကာကွယ်ရောင် — ရှု။) အချို့၌ ဆိုးရွားသောအနံ့ရှိသည့် အရည်တမျိုးကိုထုတ်နိုင်သော ဂလင်းများပါရှိ၏။ ထိုကြောင့် ခူကောင်များကိုငှက်နှင့် အခြားတိရစ္ဆာန်ငယ်များသည် မနှစ်သက်ကြချေ။ အာဖရိကတိုက်ရှိ ခူကောင်တမျိုး၏အမွေးများသည် အဆိပ်ဖြစ်စေသဖြင့် ထိုအမွေးများကို မြားဆိပ်အဖြစ် အသုံးပြုကြသည်။ ခူကောင်များသည် မျက်စိအတုများဖြင့် မိမိတို့၏ရန်

သူကို ခြောက်လှန့်ကြ၏။ ထိုပြင် အချို့ခူကောင်တို့၏ ကျောတွင် ရှည်၍ ကြာပွတ်နှင့်တူသောအမျှင်များ ပါရှိသည်။ ထိုအမျှင်များကို မွှေ့ရမ်းခြင်းဖြင့် မိမိတို့ကိုယ်ကိုကာကွယ်နိုင်ကြလေသည်။

ဤကဲ့သို့ မိမိတို့ကိုယ်ကို ကာကွယ်နိုင်ကြသော်လည်း အစဉ်မပြတ် ပေါက်ဖွားလျက်ရှိသော ခူကောင်များသည် အနည်းငယ်မျှလောက်သာ လိပ်ပြာဘဝသို့ ရောက်နိုင်ကြလေသည်။ အဘယ်ကြောင့်ဆိုသော် မိမိတို့ထက်ကြီးသော တိရစ္ဆာန်များ၏အစာကို ခံကြရသည့်ပြင် အလွန်ငယ်သော ပါရာဆိုက်ပိုးကောင်ကလေးများကလည်း ယင်းတို့ကို ထိုးဖောက်သတ်ဖြတ်၍ စားကြသောကြောင့် ဖြစ်လေသည်။ (လိပ်ပြာနှင့်ပိုးဖလံ — လည်းရှု)



ပြောင်လက်သောအမွေးများရှိသည့် လိပ်ပြာလောင်းခူကောင်

**ခူနာ။** ။ခူနာသည် လက်ချောင်းတွင်ပေါက်လေ့ရှိသည့် အနာတမျိုးဖြစ်၏။ ထိုအနာမျိုးပေါက်လျှင် သတိမမူက လက်ဆစ်များကိုပင် ဖြတ်ပစ်ရတတ်သည်။ ထိုအနာဖြစ်ပေါ်သည့် အကြောင်းရင်းမှာ အစဉ်ပွတ်တိုက်မှုကြောင့် ဖြစ်သည်ဟုဆိုသည်။ ထိုပြင် စတြက်တိုကောကပ်ခေါ် ဗက်တီးရီးယားကြောင့်လည်း ဖြစ်တတ်သေးသည်ဟုဆိုသည်။ ထိုအနာမျိုးသည် လက်ချောင်းရှိ တစ်ရှူး (အသားမျှင်) များတွင် သွေးသွားစုရာမှ စတင်ဖြစ်ပေါ်တတ်သည်။ ထိုသို့သွေးသွားစုခြင်းကြောင့် လက်ချောင်း၏အရေပြားသည် တင်းမာပြီးရောင်လာလေသည်။

ထိုအနာဖြစ်ပေါ်စဉ် အလွန်ကိုက်ခဲနာကျင်၍ နောက်မကြာမီ အနာတွင်ပြည်တည်လာတတ်၏။ ကုသပုံနည်းမှာ လက်ချောင်းရောင်လာသည်ကို သိသည်နှင့်တပြိုင်နက် ၂ နာရီခြား တခါမျှ အဝတ်ပိုင်းကို ရေနွေးတွင်စိမ်၍ ကျပ်ပူထိုးပေးရ၏။ အနာဖြစ်နေသော အစိတ်အပိုင်းကို ငြိမ်ငြိမ်ထားရသည်။ အန်တီဖလိုဂျစ်စတင်ကိုလည်း အပေါ်မှအုံပေးရ၏။ အကိုက်အခဲကို အက်စပီရင်ဆေးပြားများမှီဝဲခြင်းဖြင့်သက်သာစေနိုင်သည်။

ရောင်ခါစ၌ လက်ချောင်းသည်ပြောင်၍နီလာပြီးနောက် တဖြည်းဖြည်းအဝါပုပ်ရောင် ဖြစ်သွားသည်။ ထိုအခြေ၌ အနာအတွင်းရှိ ပြည်များကို ခွဲထုတ်ပစ်ရသည်။ အနာခွဲကရိယာများကို အသုံးမပြုမီ ရေနွေးပြုတ်၍ ပိုးများကိုသေစေရသည်။ ပိုးသတ်မထားသော ကရိယာများဖြင့်မဖောက်ခွဲသင့်ပေ။ ပိုးများကြောင့် အနာတွင်အဆိပ်ဖြစ်စေတတ်သည်။ ခွဲစိတ်သောအခါ၌ အနာကိုသင့်ရုံလောက်ခွဲ၍ ပြည်ကိုထုတ်ပြီးလျှင် အနာပေါက်ထဲသို့ ဆေးရည်စိမ်ထားသောဂွမ်းဖတ်များကိုထည့်ပေးရသည်။ လူနာကိုလည်း ပင်နီဆီလင်ဆေးထိုးပေးလေ့ရှိသည်။

**ခေပဒူတ။** ။မြန်မာအစတကောင်းကဟု ဆိုရိုးရှိသော တကောင်းပြည်ကြီးတွင် ဇမ္ဗုဒီပ ဓဇရာဇာ ဒုတိယမင်းဆက်၏ အဆုံးဖြစ်သော သတိုးမဟာရာဇာမင်းကြီး၏ မိဖုရားကြီး မောင်တော်မှာ ခေပဒူတဖြစ်၍ မင်းကြီးက အိမ်ရှေ့အရာ ခန့်အပ်တော်မူလေသည်။

သာသနာနှစ် ၄၀ ပြည့်တွင် တောဝက်ကြီးတကောင်သည် ကျေးစွန်ရွာနား၌နေသူတို့ မသွားသာအောင် နှောင့်ယှက်ဖျက်ဆီး၏။ ထိုအကြောင်းကို သတိုးမဟာရာဇာမင်းကြီးကြားလတ်သော် ခေပဒူတကိုခေါ်၍ ဝက်ကြီးကိုနိုင်အောင်ခွင်းသတ်လေဟု အမိန့်ရှိရာ၊ အိမ်ရှေ့မင်းလည်း သည် ဝက်ကြီးမသေဘဲကို နေပြည်တော်သို့ မပြန်ပြီဟု နားတော်လျှောက်ပြီးလျှင် လက်နက် ၅ ပါးကိုကိုင်ဆောင်လျက် ဝက်ကြီးရှိရာသို့သွားလေ၏။ ဝက်ကြီးသည် ရှေးဦးစွာ မောရှမ်းပြည်ဖက်သို့ပြေးလေ၏။ ဝက်ကြီးသည် တခုသောနေရာ၌ တောင်ကြားထဲသို့ဝင်၍ပြေးလေရာ ထိုအရပ်ကို ဝက်ဝင်ဟု ယခုတိုင်အောင်တွင်လေသည်။

ဝက်ကြီးသည် ထိုအရပ်မှ အစဉ်တစိုက်တောင်ဖက်သို့ ပြေးလာခဲ့ရာ၊ မြစ်ကျဉ်းတနေရာ၌ ရေအယဉ်ကို ဖြတ်ကူးလေသော်၊ ဝမ်းကိုမျှရေမစွတ်သဖြင့် ထိုအရပ်ကို ဝက်မစွတ်ဟု ခေါ်၏။ ထိုမှတဖန်ပြေးပြန်ရာ နောင်အခါ သရေခေတ္တရာပြည် တည်ထောင်မည့်ဒေသအနီး ကျွန်းတခုသို့ရောက်သွား

လေသည်။ ခေပဒူတသည် ဝက်ကြီးကို ထိုကျွန်း၌ပင် သတ်ဖြတ်အောင်နိုင်လေသည်။ ထိုကျွန်းကို ယခုတိုင် ဝက်ထိုးကျွန်းဟူ၍တွင်လေသည်။

အိမ်ရှေ့မင်းသည် ဝက်ကြီးကိုအောင်မြင်ပြီးနောက် အကြံတော်ဖြစ်သည်မှာ မိမိယခုလာခဲ့သောခရီးသည် အလွန်ဝေးလှသည်။ တကောင်းပြည်သို့ပြန်၍ ဝက်သေကြောင်းကို မင်းကြီးအားလျှောက်ထားသော်လည်း မင်းကြီးယုံတော်မမူရာ။ ယုံကြည်သည့်တိုင် ပစ္စုပ္ပန်စီးပွားမျှသာ ဖြစ်ချေမည်။ မိမိမှာလည်း အသက်အရွယ်တန် ပြီဖြစ်၍ အိမ်ရှေ့မင်းစည်းစိမ်ကို ခံစားသည်ထက် လောကုတ္တရာစီးပွားကို ရှာဖွေကမြတ်ပေလိမ့်မည်ဖြစ်သည်။ ထိုသို့ သတိသံဝေဂရကာ ထိုအရပ်တွင် ရသေ့သူမြတ်ပြု၍နေထိုင်လေရာ မျှားမကြာမီအတွင်း ဈာန်အဘိညာဉ်ကိုရလေသည်။

အခါတပါး၌ ရသေ့ကြီးသည် မိမိကျောင်းသခ်မ်း အနီးတွင် သမင်မမှဖွားမြင်သည်ဆိုသော အဆင်းအင်္ဂါနှင့်ပြည့်စုံသည့် သတို့သမီးတယောက်ကို သမီးအဖြစ်မွေးမြူထား၏။ အရွယ်သို့ရောက်လျှင် ဘေဒါရီဟုအမည်မှည့်လေသည်။

အိမ်ရှေ့မင်း ခေပဒူတ ဝက်ကြီးကို ခွင်းမည်ဟုလိုက်သောနှစ်မှာပင် တကောင်းမိဖုရားကြီး၌ သားတော်မဟာသမ္ဗဝ၊ စူဠသမ္ဗဝ၊ ဟူသော မျက်မမြင်အမွှာညီနောင် ၂ ပါးကိုဖွားမြင်လေသည်။ မင်းကြီးသည် ရှက်စနိုးရကား မင်းသား ၂ ပါးအား ဖျောက်ဖျက်ရန်အမိန့်ရှိ၏။ မိဖုရားကြီးသည် မသတ်ရက်သည်နှင့် ကွယ်ဝှက်၍ ထားခဲ့လေသည်။ မင်းသားများ အရွယ်ရောက်လတ်သော် မသေသေးကြောင်းကို မင်းကြီးသိလေလျှင် သုတ်သင်ရန်အမိန့်ရှိပြန်၏။ မိဖုရားကြီးလည်း ကံအလျောက်ဖြစ်စေတော့ဟု ခိုင်ခန့်သောဖေါင်ကိုပြုလုပ်စေလျက် နေ့ရှည်ရက်များ စားသုံးလောက်အောင် စမြိန်စာများ ဖြည့်တင်း၍ မင်းသားများအားရေဝတီမြစ်၌ မျှောလိုက်လေ၏။

ဖေါင်လည်း အစဉ်အတိုင်းမျောလေရာ ယခုစစ်ကိုင်းအမည်တွင်သောအရပ်၌ စစ်ပင်တွင် ဖေါင်ဆိုက်ကပ်၏။ ထိုအခါ စန္ဒမုခီအမည်ရှိသော ဘီလူးမသည် ဖေါင်ထက်တွင်လိုက်ပါလျက် မင်းသားတို့အား ဆေးဝါးကုပေးသဖြင့် မင်းသားတို့ မျက်စိအလင်းရသည်။ ထိုအလင်းရသည့်အရပ်ကို စလင်းဟု ခေါ်၏။ ထိုမှဆက်လက်၍ ဖေါင်မျောရာတွင် သရေခေတ္တရာပြည် ဦးရီးတော်ရသေ့၏ ကျောင်းအနီးကူဠပြင်အရပ်သို့ဆိုက်ရောက်ကြ၏။ ထိုနောက် မင်းသား ၂ ပါးနှင့် ရသေ့ကြီးတို့တွေ့ဆုံ၍ အကြောင်းမျိုးစုံကို ပြောပြလေလျှင် ရသေ့ကြီးက တူတော်များဖြစ်ကြောင်းကို သိရှိလေ၏။ ထိုအချိန်တွင် ဘေဒါရီမှာ အရွယ်ရောက်ပြီဖြစ်၍ ဘေဒါရီကို တူတော်မဟာသမ္ဗဝနှင့် သာသနာနှစ် ၆၀ ပြည့် (၄၈၄ ဘီစီ) တွင် စုံဖက်တော်မူလေသည်။

ထိုအချိန်၌ သကျအင်းအရပ်တွင်ရှိသော ပျူမိဖုရားနန်းခမ်းနှင့်တကွပျူတို့သည် ရသေ့ကြီးအားကိုးကွယ်ကြ၏။ မဟာသမ္ဗဝမင်းသည် တိုင်းပြည်အရေးကိုမြော်လျက် ပျူမိဖုရားကိုပါ မိဖုရားမြှောက်၍ တိုင်းပြည်ကိုအုပ်စိုးသည်။

ဤသို့သရေခေတ္တရာပြည် တည်ထောင်ရင်း၏အစနှင့် ခေပဒူတမင်းသား၏အကြောင်းကို ဦးကုလားမဟာရာဇဝင်စသည်တို့၌ အကျယ်ဖွင့်ဆိုထားလေသည်။

**ခေမာထေရီ**။ ။ခေမာထေရီသည် ဂေါတမမြတ်စွာဘုရား၏ လက်ျာရံအဂ္ဂသာဝိကာတပါးဖြစ်၍ ပညာတေဒဂ်ဘွဲ့ကို ဘိက္ခုနီမများအနက် ခံယူရရှိသော ရဟန္တာမဖြစ်သည်။

ခေမာထေရီသည် ပဒုမုတ္တရဘုရားရှင်လက်ထက်တွင်ကျွန်မအဖြစ်ရင်း၊ ဝိပဿီဘုရား လက်ထက်တွင် ဘိက္ခုနီမအဖြစ်ရင်း၊ ကဿပဘုရားလက်ထက်တွင် ဘုရင့်သမီးတော်အဖြစ်ရင်း၊ အသီးသီးကျင်လည်ခဲ့၍ ဂေါတမမြတ်စွာဘုရားလက်ထက်တော်တွင် မဒ္ဒတိုင်း သာဂလပြည့်ရှင်၏ သမီးတော်ဖြစ်ရာ ဖွားသောခဏ၌ လူအပေါင်းတို့အားဥပဒ်မှ ကင်းစင်မှုရသဖြင့် ခေမာ အမည်ရ၍ အလွန်အဆင်းလှပသည်။

အရွယ်သို့ရောက်သော် မာဂဓပြည့်ရှင် ဘုရင်ဗိမ္ဗိသာရမင်းကြီးနှင့် လက်ထပ်မင်္ဂလာပြု၍ လက်ျာစံမိဖုရားကြီးဖြစ်လာသည်။ ဗိမ္ဗိသာရမင်းကြီးမှာ မြတ်စွာဘုရားကို အလွန်ကြည်ညို၍ ဝေဠုဝန်ကျောင်းတော်ကို ဆောက်လုပ်လှူဒါန်းသော်လည်း မိဖုရားကြီးမှာမူ အဆင်းဂုဏ်ကြောင့် မာနတက်၍ မြတ်စွာဘုရားကို မဖူးမမြော်ဘဲနေသည်။ မင်းကြီးကဖျောင်းဖျခေါ်ဆောင်သော်လည်း မလိုက်ပါချေ။

တနေ့သောအခါ ပရိယာယ်ဖြင့် မြတ်စွာဘုရားကိုဖူးတွေ့စေရန် ဥယျာဉ်တော်သို့ ထွက်တော်မူချင်အောင်၊ ဥယျာဉ်တော်အကြောင်းကို ဗိမ္ဗိသာရမင်းကြီးက အထူးခြီးကျူးဖွဲ့နွဲ့၍ပြောပြသည်။ ထိုအခါမှ မိဖုရားသည် သွားလိုစိတ်ထက်သန်ကာ ဥယျာဉ်တော်သို့သွားသည်။ ထိုအခါ ဘုရင့်အမိန့်တော်အရ မလွှဲမရှောင်သာဘဲ မြတ်စွာဘုရားကို ဝင်၍ဖူးရတော့သည်။ ဖူးမိသောအခါ၊ မိမိမျှမက အဆင်းလှပသောနတ်သမီးတို့ မြတ်စွာဘုရားထံတွင် ဝပ်တွားကြည်ညိုနေကြသည်ကို မြင်ရသည်တွင်မှ၊ မာန်မာန ကင်းစင်စွာကြည်ညိုစိတ်ထက်သန်လာ၍ တရားရသည်။ မြတ်စွာဘုရား၏တရားတော်ကို ကြားနာရသောအခါ လူဝတ်ကြောင့်ဖြင့်ပင် ရဟန္တာဖြစ်၍၊ ဗိမ္ဗိသာရမင်းကြီးကိုခွင့်ပန်ကာ၊ ရဟန်းပြုသည်။ ထိုအခါဘိက္ခုနီမဖြစ်၍၊ ခေမာထေရီတွင်သည်။

**ခဲ**။ ။ခဲပုပ် (ဝါ) ခဲမပုပ်ကို သာမန်အားဖြင့် ခဲဟူ၍အခေါ်များသည်။ ခဲပုပ်ကို ရှေးခေတ်ကစ၍ သိရှိသုံးစွဲခဲ့ကြသည်။ ရောမလူမျိုးတို့သည် ခဲပုပ်နှင့်သံဖြူကို ခွဲခြားသိရှိကြပြီးလျှင်




ခဲ၏အသုံးဝင်ပုံအချို့

(၁) ရေမခေတ်မှစ၍အသုံးပြုခဲ့သောခဲပိုက်လုံးများ
(၂) သံဖြူနှင့်ရောစပ်ရသောခဲဂဟေ




(၃) ခနောက်စိမ်းနှင့်ရောစပ်ပြုလုပ်ထားသောခဲစာလုံးများ
(၄) သေနတ်ကျည်ဆံထိပ်ရှိစိန်သတ္တုဖြင့်ရောစပ်ထားသောခဲသီးများ
(၅) အိုးခွက်ပစ္စည်းစသည်တို့အတွက် ကြွေရောင်တင်ဆေးရည်တွင်လည်းခဲကိုရောစပ်ရသည်။
(၆) ခဲရောစပ်ထားသည့်ပိုးသတ်ဆေးရည်
(၇) ခြယ်ဆေးနှင့်အရောင်တင်ဆေးရည်များတွင်ခဲထည့်ရသည်။



ပိုက်လုံး၊ ရေစည်စသော အသုံးအဆောင်အများကိုပင် ခဲပုပ်ဖြင့်ပြုလုပ်သုံးစွဲခဲ့ကြသည်။ ခဲသတ္တုရိုင်းကို ကမ္ဘာပေါ်တွင် အနှံ့အပြားတွေ့ရှိရသော်လည်း ခဲသန့်သန့်ကိုမူ သဃံဇာတအဖြစ်ဖြင့် တွေ့ရခဲသည်။ အများဆုံးတွေ့ရသော ခဲသတ္တုရိုင်းမှာ ကန့်နှင့်ပေါင်းစပ်လျက်ရှိသည့် ဂလီးနားခေါ် လက်ဆာလဖိုက် (ဒ) ဖြစ်သည်။ ခဲကို ကာဗွန်နိတ်နှင့် ဆာလဖိတ်အဖြစ်ဖြင့်လည်း တွေ့ရသည်။ သို့သော် ဂလီးနားလောက် အမြောက်အမြားမတွေ့ရချေ။

ခဲသတ္တုရိုင်းများအနက် ဂလီးနားတွင် ခဲအများဆုံးပါဝင်သည်။ ဂလီးနားတွင် ခဲ ၈၆.၆ ရာခိုင်နှုန်းနှင့် ကန့် ၁၃.၄ ရာခိုင်နှုန်းပါဝင်သည်။ ထိုကြောင့် ခဲကို ဂလီးနားမှ အများဆုံးထုတ်ယူကြသည်။ ခဲကို အလွယ်ဆုံးထုတ်ယူနည်းမှာ ကန့်အားလုံးထွက်သွားသည်အထိ ဂလီးနားကို မီးတိုက်ယူသည့်နည်းပင်ဖြစ်သည်။

ခဲပုပ်သည် သတ္တုဒြပ်စင်တခုဖြစ်၍၊ ရေထက် ၁၁½ ဆခန့်ပိုလေးသည်။ လေးသော်လည်း ပျော့ပျောင်း၏။ ခဲသန့်သန့်အရောင်မှာ ဖြူပြာပြာဖြစ်သည်။ လှီးဖြတ်ပြီးစနေရာတွင် ပြောင်လက်နေသော်လည်း လေသလပ်ခံလိုက်သောအခါ တခဏနှင့် အရောင်မှိန်သွားတတ်သည်။ ခဲကို လွယ်ကူစွာ အပြားခတ်နိုင်သော်လည်း နန်းဆွဲ၍ကား ကောင်းစွာမရချေ။ အလွယ်တကူ အပြားခတ်ယူနိုင်ခြင်း၊ အလွယ်တကူ ပုံသွင်းနိုင်ခြင်း၊ အလွယ်တကူ ချေးမတက်နိုင်ခြင်းတို့ကြောင့် ခဲပိုက်လုံးနှင့် ခဲပြားများပြုလုပ်ရာ၌ အသုံးချသည်။ ခဲ၏အရည်ပျော်မှတ် (အရည်ပျော်သောအပူချိန်အမှတ်) မှာ စင်တီဂရိတ် ၃၂၇ ဖြစ်၏။ သို့သော် သံဖြူ ၂၅ ရာခိုင်နှုန်း ရောထားသောခဲသတ္တုစပ်မှာ စင်တီဂရိတ် ၁၈၁ ၌ အရည်ပျော်သဖြင့်၊ ယင်းသတ္တုစပ်ကို ဂဟေအဖြစ်ဖြင့်အသုံးပြုသည်။ တယ်လျူရီယမ် ၁ ရာခိုင်နှုန်း ရောပေးသောအခါ ပိုက်လုံးများပြုလုပ်ရန်အတွက် အလွန်မာသော ခဲသတ္တုစပ်တမျိုးကိုရသည်။ ခဲတွင် ခနောက်စိမ်း (အန်တီမိုနီ) အနည်းငယ်ရောပေးသောအခါ ခဲစာလုံးသတ္တုကိုရသည်။ သေနတ်ကျည်ဆံခဲမှာ စိန်သတ္တု (အာစနစ်) အနည်းငယ်ရောထားသောခဲဖြစ်၏။

တကမ္ဘာလုံးတွင် တနှစ်တနှစ်လျှင် ခဲတန်ချိန် ၁၅၀၀,၀၀၀ ခန့် အသုံးပြုကြသည်။ အသုံးများသော ခဲဒြပ်ပေါင်းများမှာ ခဲဖြူ၊ ခဲနီနှင့် လစ်သတ်တို့ဖြစ်ကြ၏။ ခဲဖြူမှာ ခဲပါဝင်သောကာဗွန်နိတ်တမျိုးဖြစ်၍ လွန်ခဲ့သည့်နှစ်ပေါင်း ၂၀၀၀ ခန့်ကပင် အဖြူရောင်ခြယ်ဆေးအဖြစ်ဖြင့် အသုံးပြုခဲ့ကြသည်။ ခဲဖြူကို ကြွေရောင်တင်ဆေးနှင့် အခြားပစ္စည်းများပြုလုပ်ရာ၌လည်း အသုံးပြုကြသည်။ ခဲဖြူပြီးနောက် အရေးကြီးသောခဲဒြပ်ပေါင်းများမှာ လစ်သတ်နှင့်ခဲနီတို့ဖြစ်ကြ၏။ ယင်းတို့ကို သံချေးတားဆေး၊ ပိုးသတ်ဆေးလုပ်ငန်း၊ ဗက်ထရီလုပ်ငန်း၊ ရော်ဘာလုပ်ငန်း၊ ကြွေရောင်တင်လုပ်ငန်း၊ ဖန်လုပ်ငန်းနှင့် ဓာတ်ဆီလုပ်ငန်းတို့တွင် အမြောက်အမြားအသုံးပြုကြလေသည်။

ခဲကို မြန်မာနိုင်ငံ ရှမ်းပြည်နယ်မြောက်ပိုင်းရှိ ဘော်တွင်းသတ္တုတွင်းများမှထုတ်၍ နိုင်ငံခြားသို့တင်ပို့ခဲ့၏။ ထိုသတ္တုတွင်းများ၌ ခဲသတ္တုရိုင်းတန်ချိန်ပေါင်း ၄၃၀၀,၀၀၀ ခန့်ရှိမည်ဟု ခန့်မှန်းရသည်။

၁၉၀၈–၁၃ ခုနှစ်များတွင် ဘော်တွင်းသတ္တုတွင်းမှ ခဲတန်ချိန် ၄၆,၀၀၀ ကို ထုတ်၍ရောင်းချခဲ့သည်။ ၁၉၂၄–၂၈ ခုနှစ်များတွင် တန်ချိန် ၂၉၇,၇၁၅ အထိ တိုးတက်ကာရောင်းချနိုင်ခဲ့သည်။

ရှမ်းပြည်နယ်တောင်ပိုင်းရှိ ဘော်ဇိုင်းသတ္တုတွင်း၌လည်း ခဲကို ထုတ်ယူခဲ့ကြသည်။ ခဲသတ္တုရိုင်းကို ၁၀ ပေအနက်လောက်တွင် တွေ့ရသည်။ ခဲသတ္တုရိုင်း တူးရာတွင် လူနှစ်ယောက်သည် သံမဏိစိုများကို အသုံးပြု၍ တလှည့်စီတူးကြကြ၏။ ကျန်လူများက သတ္တုရိုင်းများကို အပေါ်သို့သယ်ကြသည်။ နေ့စဉ် ခဲသတ္တုရိုင်း အလေးချိန် ၁၈၂၅ ပေါင်ကို အရည်ကျို၍ ခဲထုတ်ယူကြသည်။ ခဲကို အရည်ကျိုရာတွင် သံအရည်ကျိုသည့် မီးဖိုမျိုးကိုသုံးသည်။ ဘော်ဇိုင်းမှရသည့် ½ လက်မကျော်သောခဲရိုင်းတုံးတွင် ခဲ ၇၅ ရာခိုင်နှုန်း၊ သွပ် ၀.၃၀ ရာခိုင်နှုန်းနှင့် ငွေ ၁၄ အောင်စပါဝင်သည်။ ½ လက်မမကျော်သော ခဲရိုင်းတုံးတွင် ခဲ ၆၀ ရာခိုင်နှုန်း၊ သွပ် ၀.၃၀ ရာခိုင်နှုန်းနှင့် ငွေ ၈.၈ အောင်စပါဝင်သည်။

ခဲသည်အလွန်အသုံးဝင်သော်လည်း ခဲဒြပ်ပေါင်းဟူသမျှ အဆိပ်ဖြစ်သောကြောင့် ခဲလုပ်ငန်းဖြင့် အသက်မွေးသူတို့သည် သတိကြီးစွာ ထားကြရလေသည်။ သတိမမူသော အလုပ်သမားဖြစ်ပါက ခဲဒြပ်ပေါင်းများ ကိုယ်တွင်းသို့ တနည်းနည်းဖြင့် တဖြည်းဖြည်းဝင်ရောက်ရာမှ၊ ကြာသော် လူကို ဥပဒ်ရောက်လောက်အောင် အဆိပ်ပိတတ်သည်။ ခဲဆိပ်သည် အထူးသဖြင့် နဗ်ကြောအဖွဲ့နှင့် သွေးကိုထိန်းပေးသော တစ်ရှူး (အသားမျှင်) များကို ချွတ်ယွင်းပျက်ပြားစေတတ်သည်။ ခဲဆိပ်မိပန်များလွန်းလျှင် တက်ချက်တတ်သည်။ အချို့မျက်စိကွယ်တတ်သည်။ အချို့လည်း အသက်ပင်ဆုံးရှုံးရသည်အထိ ရောဂါရတတ်သည်။

**ခဲခြင်း**။ ။အရည်တခုသည် တဖြည်းဖြည်းအပူချိန်လျော့၍ အေးသည်ထက် အေးသွားသောအခါ၊ နောက်ဆုံး၌ အခဲအဖြစ်သို့ ကူးပြောင်းသွားမှုဖြစ်သည်။ ဤသို့ အရည်ဘဝမှ အေးပြီးခဲသွားသောအပူချိန်ကို အရည်ခဲချိန် (ဝါ) အရည်ခဲမှတ်ဟုခေါ်သည်။ အလွန်အေးသောဒေသတို့၌ ရေခဲခြင်း၊ ဆီးနှင်းကျခြင်း စသည်တို့မှာ ရေခဲလောက်အောင် အပူချိန်လျော့ကျသွားခြင်းကြောင့်ပင်ဖြစ်သည်။ ရေခဲမှတ် (ရေ၏



**အပူချိန် ၃၂ ဒီဂရီအမှတ်သို့ ရောက်သောရေမျက်နှာသည် ရေခဲပြင် အဖြစ်သို့ပြောင်းလဲသွားပေလိမ့်မည်။ ရေခဲပြင်၏အောက်တွင်မူ အပူချိန် အမှတ်သည် ပိုမိုများ သေးသဖြင့် ရေသည် အရည်အတိုင်းပင်ရှိနေမည်။ ထို့ကြောင့် အပင်ငယ်များနှင့် ရေသတ္တဝါများသည် ရေခဲပြင်၏ အောက်တွင်ဆက်လက်အသက်ရှင်နိုင်ပေသည်။**

ခဲချိန်အမှတ်) မှာ စင်တီဂရိတ်ပြဒါးတိုင်အရ သုညဒီဂရီ ဖြစ်၍၊ ဖါရင်ဟိုက်ပြဒါးတိုင်အရ ၃၂ ဒီဂရီဖြစ်သည်။

ရေဘဝမှ ရေခဲဘဝသို့ ကူးပြောင်းသွားပုံနှင့် ရေခဲမှတ်တို့ကို လက်တွေ့စမ်းသပ်ကြည့်ရှုလိုလျှင် အောက်ပါနည်းဖြင့် စမ်းသပ်နိုင်သည်။ ရေခဲကို အတုံးကလေးများဖြစ်အောင် ထုခွဲပြီးနောက် ခွက်ထဲတွင် ဆားလက် ၂ ဆုပ် ၃ ဆုပ်စာမျှနှင့် ရောမွှေပြီးထားပါ။ ထိုနောက် ဖန်ပြွန် သို့မဟုတ် သတ္တုဗူးခပ်ငယ်ငယ်တခုတွင် ရေနှင့်ပြဒါးတိုင် တချောင်းကိုထည့်ပြီးလျှင် ထိုပြွန်ကို အထက်ပါရေခဲခွက်ထဲ၌ နှစ်ထားပါ။ ရေခဲ၏အအေးရှိန်ကြောင့် ပြဒါးတိုင်အမှတ်သည် တဖြည်းဖြည်းလျော့ဆင်းလာပြီးလျှင် စင်တီဂရိတ်ပြဒါးတိုင်ဖြစ်သော် သုညဒီဂရီ၊ (ဖါရင်ဟိုက်ပြဒါးတိုင်ဖြစ်သော် ၃၂ ဒီဂရီ) အရောက်တွင် ပြွန်ထဲရှိရေသည် ခဲစပြုလာပြီးလျှင် ပြဒါးတိုင်အမှတ်သည် ရေအားလုံးခဲသွားသည့်တိုင်အောင် မပြောင်းဘဲတည်နေသည်ကို တွေ့ရလိမ့်မည်။ ရေနည်းတူ အရည်ဘဝမှအေးပြီးနောက် ခဲသွားနိုင်သောအခြားပစ္စည်းများလည်း အမြောက်အမြားရှိ၏။

ရေဘဝမှ ရေခဲဘဝသို့ ကူးပြောင်းနေချိန်တွင် အပူချိန်သည် အတိုးအလျော့မရှိဘဲ တန့်နေသည်။ ရေခဲဘဝမှ အရည်ပျော်ချိန်တွင်လည်း ရေခဲအားလုံး အရည်ပျော်သည် အထိ အပူချိန်မှာ တသမတ်တည်းတန့်နေသည်။ ဤကဲ့သို့ အရည်ပျော်နေချိန်တွင် ရေခဲသည် ဘေးပတ်ဝန်းကျင်ရှိ အရာဝတ္ထုတို့မှ အပူကို အစဉ်တစိုက် စုတ်ယူလျက်ရှိသည်။ အသီးအနှံ၊ သားငါးမှစ၍ အစားအစာများကို မပုပ်မသိုးအောင်သိုမှီးသော အအေးသေတ္တာ၊ အအေးခန်းများကို ကြံစည်ပြုလုပ်ရာတွင် ဤအပူချိန် တန့်နေတတ်သောသဘောကိုပင်မှတည်၍ ပြုလုပ်ထားခြင်းဖြစ်သည်။

ဆားရည်သည် ဖါရင်ဟိုက်ပြဒါးတိုင်အရ သုညအောက် ၇ ဒီဂရီရောက်မှ ခဲနိုင်သဖြင့် ရေရိုးရိုး၏ ခဲချိန်အမှတ်အောက် ၃၉ ဒီဂရီ လျော့လေသည်။ ထို့ကြောင့် ဆားရောထားသောရေခဲသည် အပူကိုစုတ်ယူယင်း အရည်ပျော်ကာ ဆားရည်ဖြစ်သွားစဉ်တွင်၊ ထိုဆားရည်၌ မိမိကိုယ်တိုင် ခဲသွားလောက်အောင်မအေးသော်လည်း ရေကိုခဲစေနိုင်လောက်အောင်ကား အေး၍နေသည်။ ဤအချက်ကို ထောက်သဖြင့် ရေခဲနှင့်ရေခဲမုန့်များပြုလုပ်ရာ၌ ဆားရည် သို့မဟုတ် ဆားရောထားသောရေခဲအား အသုံးပြုသည့်အဓိပ္ပါယ်ကို သဘောပေါက်နိုင်ပေသည်။

ရေခဲနှင့်တကွ သတ္တုအများမှာ ခရစ္စတယ်ပွင့်တတ်သော ပစ္စည်းများဖြစ်၍ ထိုပစ္စည်းများတွင် အရည်ခဲမှတ်နှင့် အရည်ပျော်မှတ် (အရည်ပျော်ချိန်အမှတ်) တို့သည်

အတူတူပင်ဖြင်သည်။ သံ၊ ဖန်၊ ထေ့ဝပတ်၊ ဖယောင်းတို့ကဲ့သို့ ခရစ္စတယ်မပွင့်တတ်သော (ဝါ) ပွင့်ပုံမဲ့ပစ္စည်းများတွင်မူ အရည်ခဲမှတ် အရည်ပျော်မှတ်ဟူ၍ အတိအကျမရှိချေ။ ထိုပစ္စည်းမျိုးကို အပူတိုက်ပေးသောအခါ အခဲဘဝမှ တဖြည်းဖြည်းပျော့ပျောင်းလာကာ ရှေးဦးစွာခဲရာမှ ပျစ်ပြီးလျှင် နောက်ဆုံးတွင် ပျစ်ရာမှသွက်သွားသည်။

အရာဝတ္ထုတို့၌ များသောအားဖြင့် ပူလျှင်ကားထွက်၍ အေးလျှင်ကျုံ့ဝင်သွားတတ်သော သဘောရှိမြဲဖြစ်သည်။ သို့ရာတွင် စင်တီဂရိတ် ၄ ဒီဂရီအထက်သို့ ပူလာလျှင်ဖြစ်စေ၊ ထိုဒီဂရီအောက်သို့ အေးသွားလျှင်ဖြစ်စေ အရွယ်ပမာဏ ကားထွက်တတ်ခြင်းမှာ ရေ၏ထူးခြားသောဂုဏ်တရပ်ပင်ဖြစ်သည်။ ရေသည် ရေဘဝမှ ခဲသွားသောအခါ အရွယ်ပမာဏအားဖြင့် ၁၀ ပုံ ၁ ပုံနီးပါး ကားထွက်လာသည်။ ထို့ကြောင့် အရွယ်ချင်းတူလျှင် ရေထက် ရေခဲက ပေါ့သည့်အတိုင်း ရေခဲသည်ရေထဲတွင် ပေါလောပေါ်နေနိုင်သည်။ အလွန်အေးသော ဒေသတို့၌ ရေခဲလောက်အောင် အေးသောဥတုရာသီတွင် ရေသွယ်ပြွန် (ပိုက်လုံး) များကွဲထွက်တတ်ခြင်းမှာလည်း ပြွန်တွင်းရှိ ရေခဲရာတွင် အရွယ်ပမာဏ ကားထွက်လာသည့် ဒဏ်ကြောင့်ပင်ဖြစ်သည်။

**ခဲတံ။** ။ရှေးက ခဲတံပြုလုပ်ရာတွင် ခဲကိုအသုံးပြုခဲ့ခြင်းကြောင့် ယခုတိုင်အောင် ခဲတံဟုခေါ်တွင်နေသော်လည်း ယခုခေတ်သုံးခဲတံများတွင် ခဲလုံးဝမပါချေ။ ခဲအစား ဂရက်ဖိုက် (ခဲနက်) ခေါ် တွင်းထွက်ကာဗွန် တမျိုးကိုသာအသုံးပြုထားသည်။ ရှေးရောမလူမျိုးတို့ခေတ်မှစ၍ ပုံဆွဲခြင်း၊ ရေးမှတ်ခြင်းတို့တွင် မြေဖြူများ၊ ရောင်စုံမြေပုံများ ခဲများကိုအသုံးပြုလာခဲ့ကြသည်။ သို့သော် ၁၆ ရာစုနှစ်ကုန်ခါနီးလောက်တွင် ဂရက်ဖိုက်ကို အင်္ဂလန်ပြည် ကမ်ဗာလန်ခရိုင်တွင် အမြောက်အမြား တွေ့ရှိခဲ့ရာမှ အစပြု၍ ခဲအစား ဂရက်ဖိုက်ကို စတင်အသုံးပြုလာခဲ့ကြလေသည်။ (ဂရက်ဖိုက် — ရှု။)

ကမ္ဘာ့အရပ်ရပ်တွင် ခဲတံကို မည်မျှအသုံးများသနည်းဆိုလျှင် ခဲတံလုပ်ရန် သစ်များခုတ်လှဲမှုကြောင့် အချို့သစ်တောကြီးများပင် ကုန်လုနီးပါးဖြစ်ခဲ့ရလေသည်။ ခဲတံပြုလုပ်ရန်အတွက် အကောင်းဆုံးသစ်သားမျိုးမှာ ပျော့စေးစေးဖြစ်နေသည့် ဆီဒါအနီခေါ် ထင်းရှူးတမျိုးဖြစ်သည်။ ဤသစ်မျိုးကို အမေရိကန်ပြည်ထောင်စု ဗာဂျင်းနီးယားပြည်နယ်မှ အမြောက်အမြားရရှိ၍၊ ထိုထက်အနည်းငယ်မာကျောလေးလံသော အမျိုးအစားကို အာဖရိကတိုက် အရှေ့ပိုင်းရှိ ကင်းနယားနယ်မှရသည်။ သို့သော် အဆိုပါသစ်မျိုး ရှားသွားပြီဖြစ်သည့်အတွက်၊ ယခုအခါ ကာလီဖိုးနီးယားပြည်နယ်မှရသော မွှေးကြိုင်သည့်ဆီဒါသစ်မျိုးကို အမြောက်အမြားအသုံးပြုနေကြရသည်။

ဂရက်ဖိုက်ကို ခဲဆန်အဖြစ် စတင်အသုံးပြုစဉ်က တွင်းထွက်ဂရက်ဖိုက်ကို ပဌမညက်ညက်ကြေအောင်ကြိတ်ချေ၍၊ အတုံးဖြစ်အောင် တဖန်ဖိပေးရသည်။ ထိုနောက် အတုံးများမှ အရွယ်တော်အချောင်းကလေးများရအောင် ခွဲစိတ်ဖြတ်တောက်ပြီးလျှင် ခဲဆန်အိမ်ကလေးများ၌ ထည့်၍အသုံးပြုခဲ့ကြလေသည်။ သို့သော် ဂရက်ဖိုက်ချည်းသက်သက်မှာ ပျော့လွန်းသည့်အတွက် ၁၈ ရာစုနှစ် ကုန်ခါနီးအချိန်လောက်ကစ၍ ဂရက်ဖိုက်တွင် မြေစေးကို အမာအပျော့လိုသလို ရောစွက်လုပ်ကိုင်လာကြသည်။ လက်သမားခဲတံအတွက် ဂရက်ဖိုက်ကို ဖယောင်းသို့မဟုတ် အမဲဆီအနည်းငယ်နှင့်ရော၍ ထည့်ရသည်။ ထိုခဲတံ၏ ခဲသားမှာ



ခဲတံများကိုစက်ဖြင့်ချွန်ပေးခြင်းဖြင့် ငွေနှင့်အချိန်ကိုသက်သာစေသည်။

အလွန်ပျော့၏။ ရောင်စုံခဲတံများပြုလုပ်ရာတွင်မူ ဂရက်ဖိုက်ကိုအသုံးမပြုတော့ဘဲ မြေဖြူ၊ မြေစေး၊ သို့မဟုတ်ဖယောင်းတို့ကို အရောင်ဆေးနှင့်ရော၍အသုံးပြုသည်။

ဝက်အူရစ်ခဲတံဟူ၍လည်း ခဲတံတမျိုးပေါ်ပေါက်ခဲ့သည်။ ထိုခဲတံမျိုးတွင် ခဲဆန်ကို သစ်သားအိမ်မှာကဲ့သို့ အသေထည့်မထားပေ။ သတ္တုအိမ်တွင် အရှင်ထည့်ထားပြီးနောက် ဝက်အူကို လှည့်ပေးခြင်းဖြင့် ခဲဆန်ကို လိုသလောက်

ထုတ်နိုင်သွင်းနိုင်သည်။ ခဲဆန်သွင်းလိုသောအခါ ခဲဆန်၏ ထိပ်ကို သတ္တုအိမ်အတွင်းရှိ ပြွန်ချောင်းလုံး ကလေး တွင် သွင်းပေးရသည်။ ထိုပြွန်ချောင်းကို သတ္တုအိမ်တွင်းရှိ ဝက်အူရစ်၊ အပေါ်ထိပ်ဖုံးနှင့်ဆက်ထား၍ ထိပ်ဖုံးကိုလှည့်ပေးသောအခါ ခဲဆန်သည် ထိပ်ဝမှထွက်လာသည်။ ဤနည်းဖြင့်ခဲဆန်ကို သတ္တုအိမ်မှ အလိုရှိသလို ထွက်စေဝင်စေနိုင်သည်။ ခဲဆန်အပိုများကိုလည်း ခဲတံထိပ်ရှိ ခဲဖျက်အိမ်တွင် ဆောင်ထားနိုင်သည်။

ခဲတံနှင့် ရေးရာတွင် ခဲရာပို၍ မဲစေရန် ခဲဆန်ပြုလုပ်ရာ၌ ဂရက်ဖိုက်တွင် တခါတရံ ဆီမှိုင်းအနည်းငယ် ရောစပ်ပေးလေ့ရှိကြသည်။ ယခုခေတ် ခဲဆန်လုပ်ငန်းတွင် ဤသို့ ဂရက်ဖိုက်နှင့် မြေစေး၊ ဆီမှိုင်းအစရှိသည်တို့ ရောထားသောပစ္စည်းကို ရှေးဦးစွာ အပေါက်ကလေးများ ဖေါက်ထားသောခွက် ထဲတွင် ညက်၍နယ် သားရလာသည့် တိုင်အောင် ရေဖိအားစက်ဖြင့် နယ်ပေးသည်။ နယ်သားကောင်းလာသောအခါ အလိုရှိသောခဲဆန်အရွယ် ဖေါက်ထားသော အပေါက်ကလေးများမှတဆင့် ညှစ်ထုတ်ပေးသည်။ ထိုအခါ အောက်တွင်ခံထားသော ပျဉ်ပြားပေါ်သို့ ခဲဆန်များသည် နန်းကြိုးကလေးများပမာ ခွေ၍ကျဆင်းလာသည်။ ထိုခဲဆန်အခွေများကို အရှည်လိုသလောက်ဖြတ်၍ စန့်အောင်ဆန့်ပြီးလျှင် အခြောက်ခံပေးရသည်။ ထိုနောက် ခွက်တခုတွင်ထည့်၍ ကာဗွန်မှုန့်ဖြူးပေးပြီးလျှင် အပူခန်းတွင် ရေငွေ့ခြောက်သွားအောင် ပေါင်မုန့်ဖုတ်သကဲ့သို့ အပူတိုက်ပေးရသည်။

ခဲဆန်သွင်းရန် သစ်သားအိမ်ပြုလုပ်ပုံမှာ အရှည် ၇ လက်မ၊ ပြက် ၂ လက်မ၊ ထု ⅜ လက်မအရွယ်ရှိသော ပျဉ်ပြားတချပ်ပေါ်၌ စက်ဖြင့်ခဲဆန်ဝင်ဆံ့ရုံ ပြောင်းကြောင်း ၆ ခုထိုးပေးသည်။ ထိုပြောင်းကြောင်းများထဲတွင် ခဲဆန်များကိုထည့်ပေးသည်။ ထိုနောက်အလားတူ ပြောင်းကြောင်း ၆ ခု ထိုးထားသော အခြားပျဉ်ပြားတချပ်ကို ကော်ရည်သုတ်ပြီးလျှင် အပေါ်မှအံကျအုပ်ပေး၍ ဖိထားလေသည်။ ခြောက်သောအခါ အဆိုပါပျဉ်နှစ်ချပ်သည် တသားတည်းနှင့်မခြားကပ်သွားသည်။ ထိုအခါ စက်ဖြင့် ခဲတံခြောက်ချောင်းဖြစ်အောင်ခွဲစိတ်၍ စောင်းသပ်ပြီးလုံးပေးသည်။ ထိုနောက် အရောင်တင်ဆေးသုတ်ခြင်း၊ တံဆိပ်နှိပ်ခြင်း၊ ခဲဖျက်များတပ်ပေးခြင်းနှင့် သေတ္တာများတွင်ထည့်ခြင်းစသောအလုပ်အားလုံးကို စက်ဖြင့်ပင်လုပ်ကိုင်သွားသည်။ ခဲတံများတွင် H နှင့် B စာလုံးတို့ဖြင့် အပျော့၊ အမာ၊ အမဲဟူ၍ အစားစားခွဲခြားထားသည်။ H မှာ Hard (မာသော)၏ အတိုကောက်ဖြစ်၏။ B မှာ Black (မဲသော) ၏ အတိုကောက်ဖြစ်သည်။ ဥဒါဟရုဏ် HB အမှတ်အသား ပါသောခဲတံများသည် မာ၍မဲ၏။ B အမှတ်အသားပါလျှင် ပျော့၍၊ BB အမှတ်အသားပါလျှင် ပိုမိုပျော့၍ မဲသည်ဟုသိသာနိုင်ပေသည်။

**ခဲနက်**။ ။ဂရက်ဖိုက် — ရှု။

**ခဲမဖြူ**။ ။သံဖြူ — ရှု။

**ခဲမသော**။ ။တန်စတင် — ရှု။

**ခဲလံကျည်တောက်**။ ။ခဲလံကျည်တောက်ခေါ် ကောက်ညှင်းကျည်တောက်မှာ မြန်မာနိုင်ငံတွင် အလွန်ထင်ရှား၍ လူအများစားသုံးသောမုန့်ဖြစ်သည်။ ခဲလံ ဆိုသောစကားမှာ ရှမ်းဘာသာစကား ခဝ်လံမှဆင်းသက်လာသည်။ ဝါးထဲသို့ကောက်ညှင်းဆန်ထည့်၍ ချက်သောထမင်း (ဝါ) စားဖွယ်ကို ရှမ်းတို့က ခဲလံဟုခေါ်သည်။ မြန်မာတို့က ကျည်တောက်ဆိုသောမြန်မာစကားနှင့် တွဲဖက်ကာ ခဲလံကျည်တောက်ဟု ခေါ်ဝေါ်ကြသည်။ ခဲလံချောင်း ဟုလည်းခေါ်ကြသည်။ အနောက်ရိုးမတောင်ခြေနှင့် မြစ်ဝကျွန်းပေါ်ကမ်းရိုးတန်း ဒေသတို့တွင်မူ ကောက်ညှင်းကျည်တောက်ဟူ၍ မြန်မာစကားသက်သက်ဖြင့် ခေါ်ဆိုကြသည်။ ခဲလံကျည်တောက်ကို ရှေးက ပေါင်းတင်းကျည်၊ ပေါင်းစည်ကြီးဟုလည်းခေါ်လေသည်။

ခဲလံကျည်တောက်ပြုလုပ်ရန် အတွက် အကောင်းဆုံးဝါးမှာ တင်းဝါးဖြစ်သည်။ ခဲလံကျည်တောက်ပြုလုပ်ပုံမှာ ရှေးဦးစွာ ကောက်ညှင်းဆန်ကို ရေစင်စင်ဆေးပြီးလျှင် တောင်းပလုံးများနှင့် ရေစစ်ရသည်။ ရေစစ်ပြီးကောက်ညှင်းဆန်ကို



ခဲလံကျည်တောက်ဖုတ်နေစဉ်

အသင့်ဖြတ်ထားသော တဖက်ပိတ်ဝါးကျည်တောက်ထဲသို့ ထည့်ရသည်။ အချို့ဒေသများတွင် အုန်းသီးမှုန့်နှင့်ဆား

အနည်းငယ်ကိုလည်း ရောရှ၍ထည့်လေ့ရှိသည်။ ထိုနောက် ရေများ ထည့်ပေးရသည်။ ဆန်ကရေကို စုတ်ယူသဖြင့် ရေမကြာခဏ ခန်းခြောက်သွားတတ်သဖြင့် ထပ်ကာထပ်ကာ ထည့်၍ပေးရသည်။ နောက်ဆုံးရေကို ဆန်ထက်လက်သုံးသစ်ခန့်ပေါ် အောင်ထည့်ပြီးလျှင် ပွင့်နေသောကျည်တောက်၏အဝကို ကောက်ရိုးသန့်သန့်ဖြင့်ဖြစ်စေ ဖက်ရွက်သန့်သန့်ဖြင့်ဖြစ်စေ ပိတ်ဆို့ရသည်။

ခဲလံကျည်တောက်ဖုတ်ရာတွင် အထူးသတိပြုရမည့်အချက်မှာ ကျည်တောက်ထဲမှ ကောက်ညှင်းဆန်များ ကျက်ပြီးနောက် အနည်းငယ်ဆန့်ထွက်နိုင်စေရန် ကျည်တောက်တွင် ဆန်ကို အနည်းငယ်လျှော့၍ ထည့်ရခြင်းဖြစ်သည်။ သို့မဟုတ်က မီးဖုတ်သည့်အခါကျည်တောက်ကွဲထွက်တတ်သည်။

ခဲလံကျည်တောက်ကိုဖုတ်မည့်အခါ ဝါးအစိုတချောင်း၏အရင်းအဖျားကို ဒေါက်ထောက်၍တန်းရသည်။ ထိုတန်းတဖက်တချက်တွင် ဝါးကျည်တောက်များကို ခတ်စောင်းစောင်းစီ၍ ထောင်ထားရသည်။ ထိုနောက် ကောက်ရိုးများ သစ်ရွက်ခြောက်များကို ကျည်တောက်များပတ်ပတ်လည်တွင် ဝိုင်းရံစုပုံကာ မီးတိုက်ရသည်။ သစ်ကြီးဝါးကြီးဖြင့်မီးတိုက်လျှင် ကျည်တောက်များလောင်ကျွမ်းသွားမည်စိုးသဖြင့် သစ်ရွက်ဝါးရွက်များဖြင့် မီးတိုက်ရလေသည်။ ကောက်ညှင်းကျည်တောက် ထောင်ထားသောဝါးတန်းအောက်၌ မီးကျီးဖို၍ ဖုတ်သည်လည်းရှိသည်။ ဝါးကျည်တောက်အပေါ် ခွံများ လောင်ကျွမ်း၍ ကောက်ညှင်းနပ်သောအခါ မီးဖိုမှ ကျည်တောက်များကို ထုတ်ယူရသည်။ ထိုနောက်အေးချိန်တန်၍ ဝါးကိုခွဲလိုက်လျှင် ဝါးအမြှေးများဖြင့် ရစ်ပတ်နေသဖြင့် ငွေတောင့်သဖွယ် ဖြူဖွေးသောကောက်ညှင်းကျည်တောက်ကိုရရှိသည်။

ဝါးထဲတွင်ကျက်ပြီးသားဖြစ်နေသော ကောက်ညှင်းကျည်တောက်မှာ ဝါးမြှေးနှင့်ကပ်၍ သေသပ်ချောမောလှသည်။ ကောက်ညှင်းကျည်တောက် ပြုလုပ်ပုံကို ရှေးသူဟောင်းတို့က စကားထာသဘောဖြင့် အောက်ပါအတိုင်း ရေးသားဖွဲ့ဆိုထားသည်။

အစွယ်နှစ်ချောင်း ဖြူလွှင်လွှင်၊ တောမှာပေါက်တဲ့ဆင်။
ဆင့်ပါန်ဆင်မင်း သူ့ဝမ်းခေါင်း၊ ခြသေ့်အပေါင်းအောင်း။
လုံစွာပိတ်၍ မီးမှာထား၊ ငွေတောင့်ထိုအလား။
ဘုရားတရား တင်ပါလေ၊ တို့လဲအမျှဝေ။

ဆင်ဆိုသည်မှာ ဗဒ္ဒဟူးနံ ဝါးကိုဆိုလိုသည်။ ခြသေ့်ဆိုသည်မှာ အင်္ဂါနံဖြစ်၍ဆန်ကိုဆိုလိုသည်။ ဝါးကျည်တောက်ထဲတွင် ဆန်ကိုထည့်၍ မီးဖုတ်လျှင် ငွေတောင့်သဖွယ်ကောက်ညှင်းကျည်တောက်ရရှိကြောင်းကို ပဟေဠိလုပ်ထားခြင်းဖြစ်သည်။

**ခေါ်ခွက်**။ ။စုန်း၊ ကဝေ၊ တစ္ဆေတို့ကိုယုံသူများသည် မိမိတို့၏သားသမီး အိမ်သူအိမ်သားတစုံတယောက် မမာမကျန်းဖြစ်သည့်အခါ၊ သူရဲတစ္ဆေ စသည်တို့ ဖမ်းစားသည်ဟုယူဆကြသည်။ ဤသို့ဖမ်းစားခြင်းကိုကုသရန် ပယောဂဆရာများကို မေးမြန်းလေ့ရှိကြသည်။ ထိုအခါ ပယောဂဆရာတို့က တစ္ဆေသူရဲတို့ကို ကျွေးမွေးရမည်ဟုညွှန်ကြားလျှင်၊ အစာကို ခေါ်ခွက်တွင်ထည့်၍ကျွေးသည်။ ဤသို့ကျွေးခြင်းကို ခေါ်စာကျွေးသည်ဟုခေါ်သည်။ ခေါ်စာထည့်၍ကျွေးသောခွက်ကို ခေါ်ခွက်ဟုခေါ်သည်။

ခေါ်မှာ မွန်စကားဖြစ်သည်။ ခွက် ဟုအဓိပ္ပါယ်ရသည်။ ခေါ်ခွက်ကိုနှီးဖြင့်ရက်လုပ်သည်။ ခေါ်ခွက်နှစ်မျိုးရှိလေသည်။ တမျိုးမှာခေါ်ပက်လက်ဖြစ်၍၊ ကျန်တမျိုးမှာခေါ်ပန်းတောင်းခေါ် အောက်ခြေပါသောခေါ်ခွက်ဖြစ်သည်။

ပယောဂဆရာများညွှန်ကြားချက်အရ ခေါ်ခွက်ထဲတွင် မကျန်းမာသူ၏ အဝတ်အစား၊ ခြေသည်းလက်သည်းအနည်းငယ်စီနှင့် ထမင်းဆုပ်များ၊ ငါးသို့မဟုတ်အမဲသားနှင့် ခေါင်ရမ်းပန်းအစရှိသော ပန်းနီမျိုးများကိုထည့်၍ နေဝင်ဆည်းဆာအချိန်၌ ရွာပြင်သို့သွားပြီးလျှင် ချထားရသည်။ အမဲသားငါးနှင့် ထမင်းဆုပ်များအရေအတွက်မှာ ပယောဂဆရာများ၏ ညွှန်ကြားချက်အတိုင်းပင် ဖြစ်ရသည်။ ခေါ်ခွက်ကိုချထားသူသည် ခေါ်ခွက်ကို ချထားခဲ့ပြီးနောက်၊ နောက်ဖက်သို့ပြန်မကြည့်ဘဲ အိမ်သို့ပြန်လာရလေသည်။ အိမ်သို့ရောက်လျှင် လှေခါးရင်းမှနေ၍ မမာသူ၏မွေးနေ့ကိုပေါ် ထုတ်ကာ မာပြီလားဟုမေးရသည်။ မေးပုံဖြေပုံကား၊ ‘တနင်္ဂနွေသားမာပြီလား၊ ချာပြီလား၊ လွတ်ပြီလား၊ ကျွတ်ပြီလား’ ဟု မေးရသည်။ ထိုအခါ အိမ်သူအိမ်သားများက ‘မာပြီချာပြီ။လွတ်ပြီကျွတ်ပြီ’ ဟုပြန်ပြောရသည်။

လူသူကင်းသောနေရာတွင် ထမင်း၊ အမဲသားငါးများကို ချထားသဖြင့် ရွာခွေးများ သွားရောက်စားသောက်ကောင်းစားသောက်ကြပေလိမ့်မည်။ သူရဲတစ္ဆေများကို ယုံကြည်သူတို့ကမူ မိစ္ဆာအစိမ်းများက ခွေးသဏ္ဍာန်ဖြစ်စေ၊ ခွေးကိုစီး၍ဖြစ်စေ လာရောက်စားသောက်သည်ဟုယူဆကြသည်။

ဤအကြောင်းကိုရည်ရွယ်၍ ကလေးသူငယ်များ အစဉ်အလာ သီဆိုလေ့ရှိသည်မှာ ‘ခေါ်ခွက်ထဲက၊ အမဲဒူးရိုး၊ ပန်းပုဆိုးနှင့်ဂျမ်းထိုးလို့နေ၊ ခွေးမပိန်တာ၊ လကျာ်ဖက်က၊ သိုင်းကွက်ကျနင်း’ ဟူသည်ကို အမှတ်အသားတွေ့ရသည်။

**ခေါ်ပျဉ်**။ ။ခေါ်ပျဉ်သည် ကောက်ညှင်းနှင့်လုပ်ထားသောမြန်မာမုန့်တမျိုးဖြစ်၏။ ပြုလုပ်ရာတွင် ပဌမကောက်ညှင်းဆန်ကို ရေနှင့်စင်အောင်ဆေး၍ ပေါင်းအိုးတွင်ထည့်ပြီးပေါင်းရ၏။ နူးနပ်သောအခါ ပေါင်းအိုးမှကောက်ညှင်းကိုယူ၍ အသင့်ဆေးထားသောမောင်းဆုံ သို့မဟုတ် လက်ဆုံ

တွင်ထည့်ပြီး ညက်အောင်ထောင်းပေးရသည်။ ညက်၍ စေးလာသောအခါ ဆုံတွင်းမှတဖန်ယူပြီး သန့်ရှင်းစွာဆေး ထားသော စကောများတွင်ထည့်၍ အထူလက်မဝက်သာ သာမျှရှိသော အပြားဖြစ်စေရန် လက် သို့မဟုတ် ဒလိမ့်တုံး ဖြင့် ဖိပေးရသည်။ တခါတရံ အပေါ်ယံ၌ နှမ်း လုံး ကလေး များကိုဖြူး၍လည်းခေါပျဉ်မုန့်များကိုလုပ်လေ့ရှိသည်။

ထိုနောက်ကတ်ကျေးဖြင့် အလိုရှိသော ပုံစံအချိုးအစား အတိုင်း ဖြတ်တောက်ရသည်။ စားသောအခါတွင် အုန်း သီးမှုန့်၊ နှမ်းထောင်းများနှင့်ရောစားလေ့ရှိကြသည်။ ပို၍ အရသာရှိစေရန် နှမ်းဆီအစိမ်းဆမ်း၍လည်းစားကြသည်။ ခေါပျဉ်တွင်ချိုဆိမ့်သောအရသာရှိသည်။

ရှမ်းလူမျိုးသည် ခေါပျဉ်ကို နေဖြင့်အခြောက်လှန်း၍ စား လိုသောအခါမှ ဆီဖြင့်ကြော်စား၏။ သို့မဟုတ် မီးကင်၍ လည်းစားသည်။ ထိုခေါပျဉ်ခြောက်များကို ခေါပုပ်ဟု လည်းခေါ်သည်။ ထိုသို့ခေါ်ခြင်းသည် ပုပ်သောအနံ့ရှိခြင်း ကြောင့်မဟုတ်၊ အချိန်ကြာရှည်၍ ရက်ပုပ်ခံနိုင်သော ကြောင့်သာ ဖြစ်တန်ရာသည်။

**ခို**။ ။ခိုသည် မြန်မာနိုင်ငံတွင် လူသိများသောငှက်တမျိုး ဖြစ်သည်။ ခိုသည် ချိုးနှင့်အတူ ကိုလမ်ဗီဒီမျိုးရင်းတွင်ပါ ဝင်၍ တကမ္ဘာလုံး၌ ယခုအခါ ခိုနှင့်ချိုးမျိုးပေါင်း ၆၅၀ ကျော်မျှရှိသည်ဟုသိရသည်။ အရွယ်အားဖြင့်ကား ခိုကချိုး ထက်ကြီးလေသည်။ ဝင်ရိုးစွန်းဒေသများမှလွဲလျှင် ကမ္ဘာ အရပ်ရပ်၌ ခိုကိုတွေ့နိုင်၍ အထူးသဖြင့် အပူပိုင်းဒေသများ တွင် ပေါများသည်။ မြန်မာနိုင်ငံတွင်မူ အမြို့မြို့အရွာရွာ မှာပင် ခိုကိုတွေ့ရသည်။

ခိုတွင်အမျိုးများသလောက် အဆင်းသဏ္ဌာန်တွင်လည်း အနည်းနှင့်အများကွဲပြားကြသည်။ သို့သော်အပြာရောင်ကို အများဆုံးတွေ့ရ၏။ ယေဘုယျအားဖြင့် ခိုအားလုံးသည် အမြီးကော့၍၊ ခြေထောက်နီသည်။ အလျား ၁၃ လက်မ ခန့်ရှိ၍ ကိုယ်ကာယတုတ်ခိုင်သည်။ ထူးခြားချက်ကား ခိုနှင့်ချိုးတို့သည် ရေသောက်ရာတွင် အခြားငှက်များကဲ့သို့ ခေါင်းမမော့ဘဲ တဆက်တည်းသောက်လေ့ရှိကြသည်။

ခိုသည် သဘာဝအားဖြင့် တောတွင်းကျက်စားသောငှက် ဖြစ်သော်လည်း အလွန်ယဉ်ပါးလွယ်သည်။ ခိုရိုင်းများကို ရှေးနှစ်ပေါင်း ၅၀၀၀ လောက်ကစ၍ မွေးမြူခဲ့ကြောင်း အမှတ်အသားများတွေ့ရသည်။ ခိုသည် သစ်သီးနှင့်သစ်စေ့ များကို စားတတ်သည်။ အဖိုနှင့်အမ တစုံသည် ရာသက်ပန် ပေါင်းသင်း၍ စုံတွဲသော်၎င်း၊ သင်းဖွဲ့၍သော်၎င်း နေတတ်သည်။ ခိုသည် နေရာမြဲ၍ ကျက်စားရာဒေသကို များစွာခင်တွယ်သည့်အတိုင်း မိုင်ပေါင်းများစွာဝေးကွာသောအရပ်မှ နေရင်းဌာနသို့ရောက်အောင် ပြန်လာတတ်သည်။ ထို့ကြောင့် ရှေးဂရိနှင့် ရောမလူမျိုးတို့လက်ထက်မှစ၍ ပြီးခဲ့သော ဒုတိယကမ္ဘာစစ်ကြီး အထိ ခိုမျိုးအချို့ကို သတင်းပို့ခိုများအဖြစ်နှင့် မွေးမြူအသုံးပြုခဲ့ကြရာ၊ ယင်းတို့၏စွမ်းဆောင် စွန့်စားမှုကို တကမ္ဘာလုံးကပင် အံ့ဩချီးကျူး ခဲ့ကြရပေသည်။ သတင်းပို့ခိုတို့သည် တနာ ရီလျှင်ပျမ်းမျှမိုင် ၄၀ နှုန်းပျံသန်းနိုင်ခဲ့ကြသည် ဟု အဆိုရှိလေသည်။

သတင်းပို့ရန်အပြင် ပြိုင်ပွဲ အလှသက်သက် နှင့် စားသုံးရန်အတွက်လည်း ခိုအမျိုးမျိုးကို မွေးမြူကြသည်။ အင်္ဂလန်ပြည်နှင့်ဥရောပတိုက် တွင် ခိုများနေရင်းဌာနသို့ အမြန်ပျံပြိုင်ပွဲ ယခုတိုင်လုပ်လေ့ရှိသည်။

ခိုသည် တနှစ်ပတ်လုံး သားပေါက်တတ်၍၊ အသိုက်များကိုသစ်ပင်သစ်ကိုင်းထက်နှင့်တကွ အိမ်၊ တန်ဆောင်း၊ ကျောင်းစသည်ခေါင်မိုး များပေါ်တွင် သစ်ခက်၊ အမွေးအတောင်တို့ ဖြင့်ဆောက်လုပ်ကြသည်။ တမြိုလျှင် ၂ ဥရှိ



ကျက်စားရာဒေသရင်းကိုခင်တွယ်တတ်သည့်ခိုသတ္တဝါ

တတ်၍ အသိုက်လုပ်ရာ၌၎င်း၊ သားငယ် သမီးငယ် များကို စောင့်ရှောက်ရာ၌၎င်း၊ အဖိုနှင့်အမ ၂ ကောင်စလုံးပင် တာဝန်ယူလေ့ရှိသည်ကိုတွေ့ရသည်။

**ခေါက်ဆွဲ။** ။ခေါက်ဆွဲသည် လူမျိုးတိုင်းလိုပင် နှစ်သက်သောတရုပ်အစာဖြစ်သည်။ ထိုစကားသည် တရုပ်စကားမှ ဆင်းသက်လာသည်။ ခေါက်ဆွဲကို ချက်ပြုတ်သောအခါ အသား၊ ဟင်းသီးဟင်းရွက်နှင့် ဘဲဥတို့ကိုရောထည့်၍ ချက်ပြုတ်ကြော်လှော်လေ့ရှိသည်။

မြန်မာနိုင်ငံ၌ ခေါက်ဆွဲဆိုင်များကို မြို့တိုင်း၌လိုပင်တွေ့နိုင်၏။ ခေါက်ဆွဲသည် မူလကမြန်မာနိုင်ငံ၌ ရှိခဲ့ဟန်မတူပေ။ နိုင်ငံခြားသားများ ဝင်ရောက်လာမှပင် ခေတ်စားလာပုံရသည်။ သို့သော်မည်သည့်ခေတ်က စတင်သုံးဆောင်လာသည်ကို မပြောနိုင်ပေ။ အများအားဖြင့် ခေါက်ဆွဲကိုဂျုံဖြင့်လုပ်လေ့ရှိသည်။ ဆန်ဖြင့်လုပ်သော ခေါက်ဆွဲလည်းရှိသေးသည်။ ယင်းကိုဆန်ခေါက်ဆွဲဟုခေါ်သည်။

ခေါက်ဆွဲလုပ်ပုံသည် ပဌမဂျုံမှုန့်ကို ရေနွေးသင့်ရုံနှင့်နယ်ပေးရ၏။ ကောင်းစွာနယ်ပေး၍ ဂျုံအစေးပေါက်လာသောအခါ ယင်းကိုအလုံးကြီးများလုပ်ရ၏။ ထိုနောက် အောက်ခြေ၌ အပေါက်ငယ်များဖေါက်ထားသော ခွက်တွင်ထည့်၍ ခွက်နှင့် အံကိုက်လုပ်ထားသော ကျည်ပွေ့ဖြင့် ဂျုံစေးကို ဖိချသည်။ ထိုအခါ ဂျုံစေးသည် အပေါက်ကလေးများ၏ ပုံစံ



ခေါက်ဆွဲမျှင်များကိုအခြောက်လှမ်းနေစဉ်



အထူးမွေးမြူထားသည့်သတင်းပို့ခိုများ

အတိုင်း အချောင်းကလေးများဖြစ်၍ ထွက်လာသည်။ ခွက်အပေါက်ကလေးများမှ ထွက်လာသော ခေါက်ဆွဲဖတ်များသည် အနည်းငယ်ပျော့နေသေးသဖြင့် မသွားစေရန် ရေနွေးဖျောပေးရ၏။ အပူဖြင့်အနည်းငယ်မာသွားသောအခါ ထုတ်ယူ၍ နေဖြင့်အခြောက်လှန်းရ၏။ ထိုနောက် အလိုရှိသလိုဖြတ်ပြီး စက္ကူများနှင့်ပတ်၍ ရောင်းချလေသည်။ ခေါက်ဆွဲနည်းနည်းလုပ်လိုသောအခါ ဂျုံကိုနယ်၍အပြားများလုပ်ပြီးလျှင် အမျှင်ကလေးများရအောင် ဓါးဖြင့်လှီးပေးလေ့ရှိသည်။ ထိုနည်းသည် ခေါက်ဆွဲဆိုင်ကလေးများတွင် လုပ်လေ့ရှိသောနည်းဖြစ်သည်။ ခေါက်ဆွဲကို အလိုရှိသလို ပုံစံအမျိုးမျိုးလုပ်ယူတတ်ကြသည်။

မြန်မာနိုင်ငံ ခေါက်ဆွဲဆိုင်များတွင် တွေ့ရသောခေါက်ဆွဲလုပ်နည်းမှာ လူ့ခါးတရပ်ခန့်မြင့်သော စားပွဲပေါ်တွင် တလံကျော်မျှရှည်သောဒလိမ့်ဖြင့် ဂျုံကိုနယ်သည်။အကြိမ်ကြိမ်အဖန်ဖန်နယ်ပြီးနောက်၊ ဂျုံသားကိုပါးပါးဖြစ်အောင် ဒလိမ့်နှင့်လှိမ့်ပေးရလေသည်။ ထိုဂျုံသားပါးပါးကို အလိုရှိသလို ခေါက်၍၊ ဂျုံခေါက်ကိုဓါးဖြင့် အကွင်းလိုက်လှီးသောအခါ၊ အမျှင်တန်းနေသော ခေါက်ဆွဲကိုရလေသည်။

ခေါက်ဆွဲကိုချက်ပြုတ်စားသောက်ရာ၌ ခေါက်ဆွဲကြော်၊ ခေါက်ဆွဲပြုတ်၊ ဆီချက်ခေါက်ဆွဲ၊ ကော်ရည်ခေါက်ဆွဲ၊ ပန်း

သေးခေါက်ဆွဲ၊ ဗမာခေါက်ဆွဲဟူ၍ စီမံယူသောနည်းအလိုက် အမျိုးမျိုးရှိသည်။ အချို့ဟိုတယ်ကြီးများ၌ အထူးစီမံထားသော ခေါက်ဆွဲများရှိ၏။ ခရုအသားများထည့်ထားသော ခရုခေါက်ဆွဲနှင့် ဂျုံကိုကြက်ဥနှင့်ရော၍ ပြုလုပ်ထားသော ကြက်ဥခေါက်ဆွဲတို့သည် ပို၍အရသာထူးသဖြင့် ဈေးကြီး ပေးဝယ်ရ၏။ ခေါက်ဆွဲသည် အာဟာရဓါတ်ပါရှိသော အစာဖြစ်သည့်ပြင် စားရာ၌လည်း အရသာရှိသဖြင့် ယင်းကို လူမျိုးတိုင်းလိုပင် နှစ်သက်ကြပေသည်။

**ခေါက်ရှာဌက်**။ ။သစ်တောက်ဌက် — ရှု။

**ခင်၊ မောင်။ ဆရာ** (ခရစ် ၁၇၇၂–၁၉၂၄)။ ။ဆရာ မောင်ခင်ကို ရန်ကုန်မြို့ ပုဇွန်တောင်ရပ် မြေပိုင်ရှင် အမှုထမ်းကောင်းတံဆိပ်တော်ရမင်း ဦးဘိုးကျော်နှင့်ဒေါ်ကြာနှင်းတို့မှ ခရစ် ၁၇၇၂ ခုနှစ်တွင် ဖွားမြင်သည်။ ငယ်စဉ်က ရန်ကုန်မြို့စိန်ပေါကျောင်းတွင် ပညာသင်ပြီးနောက် ရန်ကုန်ကောလိပ်၌ဆက်လက်ပညာသင်ယူခဲ့ပြန်ရာ အက် (ဗ) အေ စာမေးပွဲကို အောင်မြင်ခဲ့လေသည်။ ထိုနောက် အင်္ဂလန်ပြည်သို့ သွားရောက်၍ ဝတ်လုံအတတ်ကို ဆည်းပူးလေ့လာသည်။ ၁၇၉၈ ခုနှစ်တွင် မစ်ဒဲတင်ပယ်မှ ဝတ်လုံစာမေးပွဲကို အောင်မြင်ခဲ့သည်။

မြန်မာပြည်သို့ပြန်လည်ရောက်ရှိလာပြီးနောက် နှစ်ပေါင်း အတော်ကြာအောင် ဝတ်လုံဘဝနှင့် အသက်မွေးခဲ့သည်။ ထိုအတောအတွင်း၌ ရန်ကုန်ကောလိပ်တွင် ဥပဒေကထိက ဆရာ အဖြစ်ဖြင့် ခေတ္တဆောင်ရွက်ခဲ့ဘူးသည်။ ထိုနောက် အစိုးရ ရှေ့နေချုပ်၏လက်ထောက် အဖြစ်ဖြင့် ခန့်ထားခြင်း ခံရသည်။ ထိုမှတဆင့် ရန်ကုန်မြို့ စမော်ကော်ရုံးကြီးတွင် တရားသူကြီးအဖြစ် ခန့်အပ်ခြင်းခံရသူ ဖြစ်လေသည်။ ဆရာ မောင်ခင်မှာ မြန်မာထဲမှ ထိုရာထူးကို ပဌမဆုံး ခန့်အပ်ခြင်းခံရသူဖြစ်လေသည်။

ထိုနောက် မျှားမကြာမီ တရားသူကြီးအဖြစ်မှ နုတ်ထွက်၍ ဒုတိယအစိုးရရှေ့နေချုပ်အဖြစ် ထမ်းရွက်ပြန်သည်။ ဒုတိယအစိုးရရှေ့နေချုပ်အဖြစ် ဆောင်ရွက်နေစဉ် ချီကုတ် ခေါ် တရားလွှတ်တော်တွင် မြန်မာထဲမှ ပဌမဆုံး တရားဝန်ကြီး အဖြစ် ခန့်အပ်ခြင်းခံရလေသည်။ ခရစ် ၁၉၂၁ ခုနှစ်တွင် ချီကုတ် တရားလွှတ်တော်တွင် တရားဝန်ကြီးချုပ်အဖြစ် ခန့်ထားခြင်းခံရသည်။ ၁၉၂၂ ခုနှစ်တွင် မြန်မာပြည် ချီကုတ်ကို ဟိုက်ကုတ် အဖြစ်သို့ တိုးမြှင့်လိုက်ရာ ဦးခင်မှာ ဟိုက်ကုတ်တရားဝန်ကြီး တဦးဖြစ်လာခဲ့သည်။

၁၉၂၃ ခုနှစ်၌ မြန်မာနိုင်ငံကို ဒိုင်အာခီ အုပ်ချုပ်ရေးစံနစ် ပေးအပ်လိုက်သောအခါ ဦးခင်အား ပြည်ထဲရေးဝန်ကြီးအဖြစ် ခန့်အပ်ခဲ့လေသည်။ ၁၉၂၄ ခုနှစ်တွင် ကေ၊ စီ၊ အိုင်၊ အီး၊ ခေါ် ဆာဘွဲ့ကို မြန်မာထဲမှ ပဌမဆုံး ချီးမြှင့်ခြင်း ခံယူရသူဖြစ်ပေသည်။

ဆာ မောင်ခင်သည် ၁၉၀၁ ခုနှစ်၌ အိမ်ထောင်ပြုခဲ့သည်။ ဇနီးမှာ ရန်ကုန်မြို့ သမာဓိမြို့ဝန် ဦးဖိုး၊ ဒေါ်ဒေါ်ရွက်တို့၏ သမီးကြီး ဒေါ်ခင်သန်းမေ ဖြစ်သည်။ ဆာမောင်ခင်နှင့် လေဒီခင်တို့တွင် သား တယောက် သမီးတယောက် ထွန်းကားခဲ့ရာ သားမှာ ဝတ်လုံတော်ရ ဦးမျိုးခင်ဖြစ်၍ သမီးမှာဒေါ်ခင်ခင်အေးဖြစ်သည်။

ဆာ မောင်ခင်သည် ရန်ကုန်မြို့ ကန်တော်ကြီးစောင်းရှိ အိုးရီးယင့် ကလပ်ကို စတင်တည်ထောင်ခဲ့သူတဦးဖြစ်သည့်အပြင် ထိုကလပ်၌ ပဌမဆုံးဥက္ကဋ္ဌလည်း ဖြစ်လေသည်။ ရန်ကုန်မြို့ မြင်းပွဲအသင်းကြီးတွင် စတူးဝပ်လူကြီးအဖြစ်ဖြင့်၎င်း၊ ဥက္ကဋ္ဌအဖြစ်ဖြင့်၎င်း ဆောင်ရွက်ခဲ့သည်။ မြန်မာနိုင်ငံ သုတေသနအသင်းကြီး၌လည်း ထိရောက်စွာ ပါဝင်ဆောင်ရွက်ကူညီခဲ့လေသည်။

ဆာ မောင်ခင်သည် အသားညို၍ အယပ်အမောင်းကောင်းပြီးလျှင် ခန့်ညားသော ဥပဓိရုပ်ရှိသည်။ အားလပ်ချိန်များတွင် မြင်းစီးခြင်း၊ ပန်းပင်စိုက်ခြင်းများကို ပြုလုပ်လေ့ရှိသည်။ မြင်းပြပွဲ၊ ခွေးပြပွဲနှင့်ပန်းပင်ပြပွဲပြိုင်ပွဲများကို ဦးစီးကျင်းပလေ့ရှိသည်။



ဂျုံပြားကိုစက်ဖြင့်နန်းဆွဲ၍ခေါက်ဆွဲမျှင်များပြုလုပ်နေပုံ

ဆာမောင်ခင်မှာ နိုင်ငံရေးသမားတဦး မဟုတ်ခဲ့သော်လည်း အုပ်ချုပ်ရေးဖက်တွင် တတ်သိကျွမ်းကျင်သော ပုဂ္ဂိုလ်တဦးဖြစ်၏။ အဂတိလိုက်စားခြင်းမှ ကင်းရှင်းသဖြင့် တရားသူကြီးကောင်းတဦးအဖြစ် ကြည်ညိုလေးစားခြင်းကို ခံရလေသည်။

ပြည်ထဲရေးဝန်ကြီး အဖြစ်ဆောင်ရွက်နေစဉ် ၁၉၂၄ ခုနှစ် အောက်တိုဘာလ ၂၂ ရက်နေ့တွင် ကွယ်လွန်သည်။

**ခင်ခင်နု။** ။ခင်ခင်နုသည် မြန်မာရုပ်ရှင်ပေါ် ပေါက်စကပင် ရုပ်ရှင်နယ်ထဲသို့ဝင်လာသော နာမည်ကျော်ဇာတ်လိုက်မင်းသမီးတဦးဖြစ်သည်။

မြန်မာနိုင်ငံ၌ ရုပ်ရှင်လုပ်ငန်းကိုစတင်တည်ထောင်သူမှာ လန်ဒန်အတ်ဦးအုန်းမောင်ဖြစ်သည်။ ဦးအုန်းမောင်သည် ခရစ် ၁၉၁၉ ခုနှစ်တွင် မေတ္တာနှင့်သူရာ ဇာတ်ကားကို ဦးစွာ ပဌမရိုက်ကူးခဲ့သည်။ ထိုဇာတ်ကား၌ ဦးညိုပုမှာ ဇာတ်လိုက်မင်းသားဖြစ်၍ မရီဆိုသူမှာ ဇာတ်လိုက်မင်းသမီးအဖြစ် ပါဝင်လေသည်။

ဦးအုန်းမောင်သည် မေတ္တာနှင့်သူရာ ဇာတ်ကားကို ရိုက်ကူးအောင်မြင်ပြီးနောက် ကျေးတောသူမနု ဇာတ်ကားကို ရိုက်ကူးရန် ခင်ခင်နုကို ဇာတ်လိုက်မင်းသမီးအဖြစ် ရွေးချယ်လိုက်သည်။ ခင်ခင်နုမှာ ရန်ကုန်မြို့ ကြည့်မြင်တိုင် စမ်းချောင်း ရှင်စောပုလမ်းတွင် မြန်မာ ၁၂၅၃ ခုနှစ်၌ ဖွားမြင်လေသည်။ ခင်ခင်နု၏ နာမည်ရင်းမှာ မငွေမြိုင်ဖြစ်သည်။ ကျေးတောသူမနု ဇာတ်ကားကို အကြောင်းပြု၍ ခင်ခင်နု တွင်လေသည်။

မငွေမြိုင်သည် မျက်ခုံးမျက်လုံးကောင်း၍ နုတံပေါ်သည်။ အသားမှာ မဖြူမညိုဖြစ်သည်။ ကိုယ်လုံးကိုယ်ထည် ပြေပြစ်သည်။ မငွေမြိုင်သည် ငယ်စဉ်ကပင် အကဝါသနာပါသည်။ အပျိုအရွယ်တွင် အရပ်ယိမ်းများ၌ ပါဝင်ကပြရာ လူအများပင် နှစ်ခြိုက်ကြသည်။ မငွေမြိုင်သည် အကကောင်းရုံမျှမက ဇာတ်မူဇာတ်ဟန်လည်း အလွန်ပါလေသည်။ ထိုးထွင်းဉာဏ်နှင့် ပြည့်စုံသူတဦး ဖြစ်သည့် အလျောက် ဆရာသင်ကြားပြသမျှကို အလွယ်တကူနှင့် နည်းယူ အတုခိုးတတ်သည်။ သီချင်းဆိုရာ၌လည်း မညံ့ခဲ့ချေ။ ထိုကဲ့သို့ ထူးချွန်သော အရည်အခြင်းများကြောင့် မငွေမြိုင်သည် နောင်အခါတွင် နာမည်ကျော် ဇာတ်လိုက်မင်းသမီးတဦးဖြစ်လာပေသည်။

လန်ဒန်အတ်ဦးအုန်းမောင်သည် ရုပ်ရှင်ထည်း၌ ခင်ခင်နု (မငွေမြိုင်) ၏ ဇာတ်ကွက်ဇာတ်လက် နိုင်နင်းပုံကို အကဲခတ်မိရကား ခင်ခင်နုနှင့်ပင် ရုပ်ရှင်များဆက်လက်ရိုက်ကူးလေသည်။ စိန်ခြူးကြာညောင်၊ ရတနာပုံ၊ ဗိုလ်ဝ၊ သားဗိုလ်ဝ၊ သမီးဗိုလ်ဝ၊ တပြည်သူ၊ မြနန္ဒာ၊ မေဒေဝီ၊ စိန်တလေး



ပထမဆုံးပြည်ထဲရေးဝန်ကြီးဖြစ်ခဲ့သောဆာမောင်ခင်

အစရှိသော ဇာတ်ကားပေါင်း ၃၀ ကျော်တွင် ခင်ခင်နုသည် ဇာတ်လိုက်မင်းသမီးအဖြစ်ပါဝင်ခဲ့လေသည်။

အပိုင်း ၄၉ ပိုင်းရှိ၍ အသံတိတ်ကားများတွင် အရှည်ဆုံးဖြစ်သော ရတနာပုံဇာတ်ကားတွင် ဇာတ်လမ်းအတိုင်း သရုပ်ပေါ်စေရန် မန္တလေးမြို့သို့ သွားရောက်ကာ ကြာမြင့်စွာအချိန်ယူ၍ ရိုက်ကူးရလေသည်။ ရတနာပုံဇာတ်ကားကို လန်ဒန်အတ်ရုပ်ရှင်ကုမ္ပဏီ တည်ထောင်ပြီးစတွင် ရိုက်ကူးရာ လူကြိုက်အလွန်များသည်။ ထိုဇာတ်ကားအပြီးတွင် ဇာတ်လိုက်မင်းသမီးခင်ခင်နု၊ ဇာတ်လိုက်မင်းသားမောင်ဘတင်၊ ဒါရိုက်တာဦးပါကြီးနှင့် ဦးတုတ်ကြီးတို့မှာ အမည်ကျော်ကြားလာခဲ့သည်။

ခင်ခင်နုသည် လန်ဒန်အတ်ရုပ်ရှင်ကုမ္ပဏီ၌ ၉ နှစ်ခန့်ဝင်ရောက်လုပ်ကိုင်ပြီးနောက် နေသူရိန်ဇာတ်ကားကို ရိုက်မည့်ဆဲဆဲတွင် ထိုကုမ္ပဏီမှ ထွက်ခဲ့လေသည်။ ထိုအချိန်၌ ခင်ခင်နုသည် ဇာတ်လိုက်မင်းသားမောင်ဘတင်နှင့် အိမ်ထောင်ကျပြီးဖြစ်လေသည်။ ခင်ခင်နုနှင့်မောင်ဘတင့်တို့သည် ခင်ခင်နုဖလင်းကုမ္ပဏီတခုကိုလည်းတည်ထောင်ခဲ့သေးသည်။ သို့သော် ထိုကုမ္ပဏီမှာ ကြာရှည်စွာမခံချေ။ အသက်

အရွယ်ကြီးရင့်လာသောအခါ ခင်ခင်နုသည် ရုပ်ရှင်လုပ်ငန်းမှအနားယူလေသည်။

၁၉၄၉ ခုနှစ်တွင် ခင်ခင်နုကွယ်လွန်အနိစ္စရောက်သည်။

**ခင်ဆုံ၊ မင်းကြီးကတော်**။ ။ခင်ဆုံမှာ ကုန်းဘောင်ခေတ်တွင်ထင်ရှားသော မြန်မာအမျိုးသမီး စာဆိုတော်တဦးဖြစ်သည်။ ဘကြီးတော်မင်း လက်ထက်တွင် ကဗျာလင်္ကာများကို ဖွဲ့ဆိုသဖြင့်ထင်ရှားသည်။ 'လှဲ့လှဲ့ကြီးညို၊ သည်ကိုယ်မှာဆည်မတုံနိုင်ဘု၊ နွေးရန်အပူ။ ။စောရွှေဆုံ၊ မယုံမပုံရသည့်မို့၊ သောကတောင်ထု'။ ဟုစာဖွဲ့သောမြဝတီဝန်ကြီးဦးစနှင့် ခေတ်ပြိုင်စာဆိုတော်တဦးဖြစ်သည်။

ဇာလွန်မြို့စား ရွှေလှံဗိုလ်နှင့်စုံဖက်သည်။ ဘကြီးတော်မင်း နန်းလွှဲ၍၊ သာယာဝတီမင်းနန်းတက်သောအခါ၊ ရွှေလှံဗိုလ်အား ကောင်းတုံဝန် (မင်းကြီး) အဖြစ် ခန့်အပ်ချီးမြှောက်သဖြင့်၊ခင်ဆုံအားလည်းမင်းကြီးကတော်ခင်ဆုံဟူ၍ခေါ်၏။

ခင်ဆုံသည် ဘကြီးတော်မင်း လက်ထက်မှစ၍၊ သာယာဝတီမင်း၊ ပုဂံမင်းနှင့် မင်းတုန်းမင်းတို့ လက်ထက်တော်များတိုင်၊ ကဗျာလင်္ကာများ ရေးဖွဲ့သည်။ ခင်ဆုံ၏ကဗျာဂီတများတွင် သီချင်းခန့်၊ ပတ်ပျိုး၊ တေးထပ်၊ သဖြန်ဒွေးချိုး၊ လေးဆစ် သဖြန်စသည်တို့ ပါဝင်သည်။ ပတ်ပျိုးသီချင်းများကို ရေးသားခြင်းဖြင့် ခင်ဆုံသည် တူရိယာဂီတဖက်တွင် နှံ့စပ်ကျွမ်းကျင်ကြောင်းသိရသည်။

ခင်ဆုံ၏ကဗျာများတွင် နက်နဲသောပါဠိဝေါဟာရများကို သုံးစွဲထားသဖြင့် ပါဠိကျမ်းဂန် တတ်မြောက်ကြောင်းကိုလည်း သိသာသည်။ အဖွဲ့အနွဲ့ယဉ်ကျေး၍၊ နန်းမှုနန်းဟန်ပါသည်။ တင်စားဖွဲ့နွဲ့ပုံများကို တွေ့မြင်ရသဖြင့် စိတ်ကူးထက်မြက်ကြောင်းထင်ရှားသည်။

ကဗျာလင်္ကာအဖွဲ့အနွဲ့ထူးချွန်သောကြောင့်၊ ကွပ်ရွာကို အပိုင်စားအသနားခံရသဖြင့်၊ ကွပ်ရွာမြို့စားခင်ဆုံ ဟူ၍လည်းတွင်သည်။ ခင်ပွန်းသည်ကောင်းတုံမင်းကြီးမှာ စောစွာကွယ်လွန်သော်လည်း၊ ခင်ဆုံသည် နောက်အိမ်ထောင်မပြုဘဲနေခဲ့သည်။

ယခုတိုင် မိုးဘွဲ့၊ ဆောင်းဘွဲ့၊ ပတ်ပျိုးများတွင် ခင်ဆုံ၏နွဲ့ပျောင်းသော အသုံးအနှုန်းများကိုတွေ့ရှိနိုင်သည်။



နာမည်ကျော်ရုပ်ရှင်မင်းသမီးခင်ခင်နု၏ဟန်မူတမျိုး

**ခင်ပုပ်ငှက်**။ ။ခင်ပုပ်ငှက်ကို မြင်ဘူးသူနည်းပါးသော်လည်း ကြီးကန်း၏ကမ္ဘာ့ရန်သူအဖြစ် သိသူများသည်။

ခင်ပုပ်ကို အရှေ့တိုင်းဒေသများတွင် အများအပြားတွေ့ရသည်။ မြန်မာနိုင်ငံ၌ ကွင်းပြင်နှင့် တောင်ခြေများတွင် ကျက်စားလေ့ရှိသည်။ မြင့်မားသော တောင်ပေါ်များ၌မူတွေ့ရခဲသည်။ ခင်ပုပ်သည် ဇီးကွက်မျိုးတွင်ပါဝင်သည်။

အလျား ၁၂ လက်မခွဲခန့်ရှိသည်။ အခြားဇီးကွက်များကဲ့သို့ နားရွက်တွင် အမွေးမရှိချေ။ ကိုယ်အောက်ပိုင်းတွင်ဖြူ၍ လည်ပင်းတွင်မည်းနက်သော အမှတ်အသားရှိသည်။ တောင်ပံရှည်၍ချွန်သည်။

ခင်ပုပ်သည် ညဥ့်ငှက်မျိုးဖြစ်၍ မှောင်သောအခါတွင် သာအစာရှာထွက်သည်။ နေရောင်ကိုကြောက်သောကြောင့်နေ့အချိန်တွင် သစ်ပင်၊ ဝါးရုံ၊ ချုံဖုတ်များတွင် ပုန်းလျှိုးနေတတ်သည်။ ပိုးမွှားများနှင့် အခြားတိရစ္ဆာန်ငယ် ငှက်ငယ်များကို ဖမ်းဆီးစားသောက်တတ်သည်။ ညဥ့်

အချိန်၌သာ အော်တတ်၍၊ ယင်း၏အော်သံမှာဇီကွက်သံနှင့်တူသည်။

သားပေါက်ချိန်မှာ ဧပြီလမှမေလ အထိဖြစ်၍ တခါတရံတွင် မတ်လမှဇွန်လ အထိဖြစ်သည်။ ဥများကို မြေမှပေ ၂၀ ခန့်မြင့်သော သစ်ခေါင်းထဲတွင် အုလေ့ရှိသည်။ တမြုံလျှင်ဥ ၃၊၄ လုံးရှိ၍၊ ဥအရွယ်မှာ ပျမ်းမျှအလျား ၁.၃၇ လက်မနှင့် ပြက် ၁.၁၆ လက်မရှိသည်။

**ခင်မောင်။ ဦး။** ။သူကြီးဂေဇက် (ခရစ် ၁၈၉၂–၁၉၅၂) ဗြိတိသျှခေတ်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံခေတ် နှစ်ခေတ်စလုံးတွင် ဦးခင်မောင်သည် နိုင်ငံတော်အစိုးရပြန်ကြားရေးဌာန ညွှန်ကြားရေးဝန်အဖြစ်နှင့် အမှုထမ်းခဲ့သည်။ ဗြိတိသျှခေတ်က အစိုးရပိုင် သူကြီးဂေဇက်သတင်းစဉ် အယ်ဒီတာအဖြစ် ဆောင်ရွက်ခဲ့ဘူးသောကြောင့်၊ သူကြီးဂေဇက်ဦးခင်မောင်ဟုပိုမို၍လူသိများသည်။

၁၈၉၂ ခုနှစ် ကြံခင်းမြို့၌ဖွားရာဇာတိရှိသော ဦးခင်မောင်မှာ ပညာအုပ်ဦးစိုးဖေ၏သားဖြစ်လေသည်။

ဦးခင်မောင်သည် ၁၉၁၆ ခုနှစ်တွင် ရန်ကုန်ကောလိပ်မှ ဘီအေအောင်ခဲ့သည်။ ထိုနောက် ဆရာဖြစ်လက်မှတ်ရရှိ၍၊ သထုံမြို့တွင် ကျောင်းဆရာလုပ်သည်။ ထိုမှ အလုပ်ထွက်



သူကြီးဂေဇက်ဦးခင်မောင်

လိုက်ပြီးနောက် မြန်မာများထုတ်ဝေသော 'ဘားမားအော့ဗဇားဗါး' ခေါ် အင်္ဂလိပ်ဘာသာနှင့် ထုတ်သောသတင်းစာတွင် အယ်ဒီတာအဖြစ်ဆောင်ရွက်သည်။ ထိုသတင်းစာတိုက်ပိတ်လိုက်ရသောအခါ သူရိယသတင်းစာတွင် အယ်ဒီတာအဖြစ်ဆောင်ရွက်ပြန်သည်။

ဦးခင်မောင်သည် ထိုခေတ်တွင် နိုင်ငံရေးလုပ်ငန်းများ၌ပါဝင်ရာ ဂျီ၊စီ၊ဘီ၊အေမြန်မာ့အသင်းချုပ်ကြီး နှင့် 'ဘားမားရီဖေါင်းလီ' တို့၌ အကျိုးဆောင်လက်ထောက်အတွင်းရေးမှူးအဖြစ်နှင့်၎င်း၊ ဝိုင်အမ်ဘီအေခေါ် ဗုဒ္ဓဘာသာကလျာဏယုဝအသင်း၌ အကျိုးဆောင် အတွင်းရေးမှူး အဖြစ်နှင့်၎င်းဆောင်ရွက်ခဲ့သေးသည်။ သူရိယသတင်းစာ၌အယ်ဒီတာလုပ်စဉ်က၊ အိန္ဒိယဥပဒေပြုလွှတ်တော်အမတ်ဖြစ်ခဲ့ဘူးသည်။

ထိုနောက်အစိုးရအလုပ်ဝင်၍၊ သူကြီးဂေဇက်သတင်းစာတွင် အယ်ဒီတာအဖြစ်ဆောင်ရွက်သည်။ မကြာမီပြန်ကြားရေးဌာန ညွှန်ကြားရေးဝန် အဖြစ် ခန့်ထားခြင်း ခံရပြီးနောက်၊ ဂျပန်များ မြန်မာနိုင်ငံကို သိမ်းပိုက်သည့်အထိဆောင်ရွက်ခဲ့၍၊ ပြည်ထောင်စုမြန်မာနိုင်ငံ အစိုးရလက်ထက်တွင် ပြန်ကြားရေးဌာန ညွှန်ကြားရေးဝန်အဖြစ်ဆောင်ရွက်ခဲ့သည်။ ထိုအခါ ဝဏ္ဏကျော်ထင်ဘွဲ့ ချီးမြှင့်ခြင်းခံရသည်။ မကျန်းမာ၍အလုပ်မှနုတ်ထွက်ခဲ့သည်။

ဦးခင်မောင်သည် အင်္ဂလိပ်မြန်မာ ၂ ဘာသာတွင် နှံ့စပ်၍ 'တောသား' ဟူသောကလောင်အမည်ဖြင့် အင်္ဂလိပ်သတင်းစာများတွင် ရေးလေ့ရှိရာ သူ့ရေးသားချက်မှာထိမိလှ၍ နိုင်ငံခြားသားများနှင့် မြန်မာများပါ အထူးနှစ်သက်ကြသည်။ အထူးသဖြင့် အင်္ဂလိပ်စာရေးရာတွင် ထူးချွန်သည်။ မျိုးချစ်စိတ်ထက်သန်၍၊ စိတ်ကောင်းရှိသည်။ သဘောထားသိမ်မွေ့၍ ကြင်နာတတ်သည်။

ဂျပန်ခေတ် ဒေါက်တာဘမော်အစိုးရလက်ထက်က ပညာစွယ်စုံကျမ်း ထုတ်ဝေရန်စီစဉ်ရာတွင် ဦးခင်မောင်မှာတာဝန်ခံတဦးဖြစ်၍၊ အဘိဓါန်ဌာန အဖွဲ့ငယ်တွင်၎င်း၊ အတိုင်ပင်ခံစာတည်းအဖွဲ့တွင်၎င်း၊ ပါဝင်ရသည်။

ဦးခင်မောင်သည် အသက် ၆၀ အရွယ် ၁၉၅၂ ခု နိုဝင်ဘာလ ၂၁ ရက်၊ ၁၃၁၄ ခုနှစ်တော်လဆန်း ၇ ရက် သောကြာနေ့တွင် ရန်ကုန်မြို့၌ ကွယ်လွန်အနိစ္စရောက်သည်။

**ခင်မောင်ရင်** (မြန်မာ ၁၂၆၄–၁၃၀၇)။ ။ထင်ရှားသောအဆိုကျော်နှင့် ရုပ်ရှင်ဇာတ်လိုက်မင်းသား တဦးဖြစ်သော ခင်မောင်ရင်သည် မြန်မာသက္ကရာဇ် ၁၂၆၄ ခုနှစ်တွင် မအူပင်မြို့၌ဖွားမြင်သည်။ မိဖများမှာ ဦးကျော်လှနှင့် ဒေါ်သောင်းမေတို့ဖြစ်ကြ၍ သားချင်းငါးဦးရှိရာ ခင်မောင်ရင်သည်သားဦးဖြစ်သည်။ငယ်နာမည်မှာမောင်တင်တည်း။

မအူပင်မြို့အစိုးရအထက်တန်းကျောင်း၌ ပညာသင်ကြား

နေဆဲ ခရစ် ၁၉၂၀ ပြည့်နှစ် ပဌမကျောင်းသားသပိတ်ကြီး နှင့်ဆုံခဲ့သည်။ ထိုနောက် မန္တလေးမြို့ အမျိုးသားအထက်တန်းကျောင်းနှင့် ဝက်စလီယန်သာသနာပြုကျောင်းများ၌ပညာဆက်လက် သင်ကြားပြန်သည်။ ကျောင်းမှထွက်သောအခါ ရေစကြိုမြို့ အမျိုးသားကျောင်းတွင် ဆရာအဖြစ်ခေတ္တထမ်းဆောင်ပြီးနောက် ရန်ကုန်မြို့အစိုးရပုံနှိပ်တိုက် လစ်သိုဂရတ်ဖစ်ဌာန (ကျောက်ပုံနှိပ်ဌာနခွဲ) တွင် ၁၀ နှစ်ကြာမျှအလုပ်လုပ်ခဲ့သည်။

အစိုးရပုံနှိပ်တိုက်တွင် အမှုထမ်းလျက်ရှိစဉ် ဘားမားဖိုတိုပလေးဖလင်း ရုပ်ရှင်ကုမ္ပဏီပိုင်ရှင် ဦးဘငြိမ်းနှင့် ရင်းနှီးလာသောအခါ ဦးဘငြိမ်း၏ တိုက်တွန်းချက်အရ 'ကေပါဒုက' ဇာတ်ကားတွင် မင်းသားအဖြစ် ပဌမဆုံး ပါဝင်အသုံးတော်ခံသည်။ ထိုနောက် မကြာမြင့်မီပင် မသန်းသန်းနှင့် အကြောင်းပါခဲ့သည်။

ခင်မောင်ရင်မှာ ဟန်အမူအရာ ကောင်းလှသဖြင့် ပွဲဦးထွက်ဇာတ်ကားပင်ဖြစ်လင့်ကစား လူအများသဘောကျကြသည်။ ထို့ကြောင့် အလုပ်မှထွက်၍ ရုပ်ရှင်နယ်သို့ဝင်ရန် ရုပ်ရှင်ကုမ္ပဏီအများက စကားကမ်းလှမ်းကြသည်။ နောက်ဆုံး၌ ဗြိတိသျှဘားမားရုပ်ရှင်ကုမ္ပဏီနှင့် နှစ်ဦးနှစ်ဖက် သဘောတူ စာချုပ်များချုပ်ဆိုပြီးနောက် အလုပ်မှထွက်၍ ရုပ်ရှင်နယ်သို့ကူးပြောင်းသွားခဲ့လေသည်။

ခင်မောင်ရင်သည် ဗြိတိသျှဘားမား ရုပ်ရှင်ကုမ္ပဏီ၌၊ နေနှင့်လရွှေနှင့်မြ၊ ဝတ္တရား၊ အချစ်ဆုံး၊ ဗိုလ်အောင်ဒင်၊ မိုးခေါင်ကျော်စွာစသော အသံတိတ်အသံထွက် ဇာတ်ကားပေါင်းများစွာတွင် ဇာတ်လိုက်အဖြစ် ပါဝင်ခဲ့လေသည်။ မိုးခေါင်ကျော်စွာမှာ ခင်မောင်ရင် နောက်ဆုံးပါဝင်သော ဇာတ်ကားဖြစ်လေသည်။

ခင်မောင်ရင်သည် ရုပ်ရှင်ထဲ၌အမူအရာသာကောင်းသည် မဟုတ်၊ အသံကောင်း၍ သီချင်းကိုငြိမ့်အေးပြတ်သားစွာ သီဆိုနိုင်သည်။ သူဆိုခဲ့သော ဇာတ်ကားထဲမှသီချင်းများ သည့်ငင်း၊ စကြာသိုက်၊ ဘိုးဘိုးအောင်၊ နဂါးနီ၊ ကုသဝတီ၊ ဆိပ်ကမ်းသာအစရှိသော ဓါတ်ပြားသီချင်းများ သည့်ငင်း၊ လူကြိုက်များ၍ ယခုထက်တိုင်ခေတ်စားလျက်ရှိသည်။

ခင်မောင်ရင်သည် ကာလပေါ်သီချင်း များကိုသာမက ရှေးသီချင်းကြီးများကိုလည်း နိုင်နင်းစွာဆိုနိုင်သည်။ မန္တလေးမြို့တွင် ကျောင်းနေစဉ်က သီချင်းကြီးသီချင်းခံများကိုဆရာကောင်းများထံတွင်နည်းယူသင်ကြားခွင့်ရရှိခဲ့သည်။ 'ပပငယ်ဝင်းဝင်း' အစချီသောပတ်ပျိုးမှာ ခင်မောင်ရင် နှစ်သက်သော သီချင်းကြီးတပုဒ်ဖြစ်သည်။ ကိုယ်တိုင်သီဆို၍ ဓါတ်ပြားသွင်းခဲ့လေသည်။ သူသည် အတီးအမှုတ်တူရိယာဖက်တွင် အဖက်ဖက်မှ ခေါက်မိသော်လည်း တရော ကိုပိုမိုနိုင်နင်းလေသည်။



အဆိုကျော်ရုပ်ရှင်မင်းသားခင်မောင်ရင်

၁၉၃၇ ခုနှစ်တွင် နဂါးနီစာအုပ်အသင်းပေါ်ပေါက်လာခဲ့ရာ ခင်မောင်ရင်သည် နဂါးနီသီချင်းကို ကိုယ်တိုင်သီဆို၍ ဝါဒဖြန့်ခဲ့လေသည်။ သူသည် ကစားခုန်စားမှုများကိုလည်း ဝါသနာပါသည်၊ အစိုးရပုံနှိပ်တိုက် စါရေးအဖြစ်ဖြင့် လုပ်ကိုင်လျက်ရှိစဉ် ဘီအေအေဘောလုံးပွဲများတွင် ဖရင်းယူနီယန်အသင်းမှ ပါဝင်ကစားခဲ့သည်။

၁၉၃၉ ခုနှစ်တွင် ခင်မောင်ရင်သည် ဗြိတိသျှဘားမားကုမ္ပဏီမှထွက်လိုက်သည်။ ထိုအချိန်တွင် သူ၏ကျန်းမာရေးအခြေအနေမှာလည်း ယုတ်လျော့နေလေပြီ။ စစ်အတွင်း၌ မအူပင်မြို့သွားရောက်၍ ညီ၊ ညီမများနှင့်အတူ နေထိုင်ခဲ့လေသည်။ ခင်မောင်ရင်သည် ၁၉၄၆ ခု နှစ်ဦး ပိုင်းတွင် အူရောင်ရောဂါနှင့်ကွယ်လွန်ခဲ့သည်။

ခင်မောင်ရင်မှာ မျိုးချစ်စိတ်ထက်သန်သော ပုဂ္ဂိုလ်တဦးဖြစ်သည်။ လူအများနှင့် ဖော်ဖော်ရွေရွေ ပေါင်းသင်းဆက်ဆံတတ်သည့်အပြင် အပေးအကမ်းရက်ရောပေသည်။ ပျော်ပျော်ရွှင်ရွှင်နေတတ်သည်။ အပေါင်းအသင်း မိတ်ဆွေသင်္ဂဟ ဆွေမျိုးသားချင်းများနှင့် စကားလက်ဆုံကျသည့်အခါများတွင် ရယ်ရွှင်စရာများကို ပြောလေ့ရှိတတ်သည်။ ခင်မောင်ရင်ရိုက်ကူးခဲ့သော ဇာတ်ကားများနှင့် သူဆိုခဲ့သောသီချင်းများမှာ ယနေ့တိုင် ကျော်ကြားလျက်ရှိသည်။

**ခင်ဦးမြို့**။ ။ရွှေဘိုမြို့၏မြောက်ဖက် ၁၄ မိုင်အကွာ စစ်ကိုင်းမြစ်ကြီးနား ရထားလမ်းပေါ်ရှိ ဘူတာရုံမြို့တမြို့ ဖြစ်သည်။



ခေါင်ရည်အိုးများကိုနေရောင်ခံ၍ကဇော်ပေါက်နေစဉ်

ရွှေဘိုခရိုင် ခင်ဦးမြို့နယ်၏ ရုံးစိုက်ရာဌာနလည်းဖြစ်လေသည်။

မြန်မာနိုင်ငံအထက်ပိုင်းကို ဗြိတိသျှတို့သိမ်းပိုက်ပြီးနောက် ၁၈၈၁ ခုနှစ်တဝိုက်တွင် ခြောက်ရွာ၊ ကံသာရွာ၊ ညောင်ဇင် ဟူသောတိုက်နယ် ၃ တိုက်ကို တပေါင်းတည်းပြု၍ ခြောက်ရွာမြို့နယ်ဟုသတ်မှတ်သည်။ ထိုမြို့နယ်၏ရုံးစိုက်ရာဒေသမှာ ခင်ဦးမြို့ဖြစ်သည်။ ယခုအခါမှာမူ ခင်ဦးမြို့နယ်ဟုတွင်သည်။

ခင်ဦးမြို့သည် မူးမြစ်တဖက်ကမ်းရှိရေဦးမြို့မှ ၁၂ မိုင်ကွာဝေး၍ ထိုမြို့နှင့် ကတ္တရာခင်းကားလမ်းပေါက်သည်။ ရွှေဘိုမြို့သို့လည်း မူးမြောင်းပေါင်ပေါ်ရှိလမ်းမှ မော်တော်ကားများဖြင့် သွားလာနိုင်သည်။ ထိုမှတပါး အရှေ့ဖက် ၂၅ မိုင်ခန့်အကွာ၊ ဧရာဝတီမြစ်ကမ်းရှိ ကဗ္ဗတ်ရွာအထိ နွေရာသီတွင် မော်တော်ကားများ သွားလာနိုင်သည့် ပေတရာလမ်းရှိ၏။ ခင်ဦးမြို့နယ်အတွင်း အခြားလမ်းပန်းအဆက်အသွယ်များမှာ၊ တူးမြောင်းပေါင်ပေါ်ရှိ လမ်းများနှင့်လှည်းလမ်းများသာဖြစ်၏။ ခင်ဦးမြို့တွင် မြို့ပိုင်ရုံး၊ ရဲဌာန၊ ကြေးနန်းနှင့် စာပို့တိုက်၊ ဈေးနှင့် စာသင်ကျောင်းများ ရှိသည်။ လူနေအိမ်ခြေ ၅၀၀ ကျော်ခန့်ရှိသည်။ ခင်ဦးမြို့ပတ်ဝန်းကျင်ရှိ နယ်မြေတွင် ဆန်စပါးအကြီးအကျယ်စိုက်ပျိုးလုပ်ကိုင်၍ မြို့ပေါ်တွင်ဆန်စက်များရှိသည်။

အလောင်းဘုရားထံ သစ္စာမခံဘဲခြားနားသော ချေစ်ညိုစားခဲ့သည့်ရွာကြီးဖြစ်၍ မြန်မာနိုင်ငံသမိုင်းတွင် ထင်ရှားသော်လည်း၊ ကုန်းတွင်းကျခြင်း၊ ပူပြင်းခြောက်သွေ့၍ နွေအခါရေရှားခြင်းတို့ကြောင့်မစည်ကားလှချေ။

**ခေါင်ရည်**။ ။ခေါင်ရည်သည် သေရည်တမျိုးဖြစ်၏။ အရောင်သည်ဖြူ၍ အနည်းငယ်နောက်၏။ အရသာမှာ ချို၍ အချဉ်ပေါက်နေသော အနံ့တမျိုးရ၏။ ခေါင်ရည်သည် အနောက်တိုင်းသားများ သောက်လေ့ရှိသော ဗီယာကဲ့သို့စိမ်ရည်တမျိုးဖြစ်သည်။

ချက်ပြီးသားကောက်ညှင်း သို့မဟုတ် ဆန်ကို တဆေးနှင့်ရော၍ ခေါင်ရည်ကိုတည်ယူကြသည်။ သို့သော် ကောက်ညှင်းနှင့်တည်ယူသော ခေါင်ရည်သည်ပို၍ကောင်းသည်ဟုဆို၏။ တဆေးဆိုသည်မှာ ဂျုံ၊ ဆန်၊ ကောက်ညှင်း၊ သကြားထန်းလျက်ကဲ့သို့သော ပစ္စည်းများကို အရက်ချက်ရာတွင်အသုံးပြုသော ကဇော်ပေါက်ပစ္စည်းတမျိုးဖြစ်သည်။ တဆေးမှာမှိုတမျိုးဖြစ်၍၊အင်ဇိုင်းခေါ် ပရိုတင်းတမျိုးသည် တဆေးတွင်ပါရှိသည်။ ထိုပရိုတင်းသည် သူနှင့်ရောစပ်သော ပစ္စည်းများ ဓာတ်ပြောင်းလဲမှုမြန်စေရန် ကူညီပေးသည်။

ခေါင်ရည်တည်ရာတွင် ပဌမကောက်ညှင်း သို့မဟုတ် ဆန်ကို ကောင်းစွာနူးနပ်အောင်ချက်ရ၏။ ကောင်းစွာကျက်သောအခါ ဆေးထားသောဖက်ရွက် သန့်သန့်များပေါ်တွင် ဖြန့်၍ အအေးခံရ၏။ အေးသောအခါမှ တဆေးနှင့်ရော၍အိုးများတွင် ထည့်ထားရသည်။ ထည့်မည့်အိုးများကို သန့်ရှင်းစွာဆေးကြောရ၏။ ငါးပိ၊ နံ့ပြာရည်ကဲ့သို့ ဆားဓာတ်ပါသည့်ပစ္စည်းများ ထည့်ပြီးအိုးများကို အသုံးမပြုကြရချေ။ အိုးသစ်များကိုသာ အသုံးပြုရသည်။ သို့ရာတွင် ခေါင်ရည်တည်ပြီးအိုးများကိုမူ ထပ်ကာထပ်ကာအသုံးပြုနိုင်သည်။ အများအားဖြင့် တောင်ပေါ်သားများသည် အခေါင်းကျယ်ဝါးဘိုး ဝါးကျည်တောက်များကို အသုံးပြုလေ့ရှိကြသည်။

ခေါင်ရည်တည်ထားသောအိုးနှင့် ဝါးကျည်တောက်များအတွင်းသို့ အမှိုက်များမဝင်နိုင်စေရန် သစ်ရွက်များနှင့် ကောင်းစွာပိတ်ထားရ၏။ အများအားဖြင့် ခေါင်ရည်အိုးနေရောင်ရစေရန် အပြင်ဖက်တွင် ထုတ်ထားလေ့ရှိကြသည်။ နေရောင်ခြည်သည် ဓာတ်ပြောင်းလဲမှုကို အထောက်အပံ့ဖြစ်စေ၏။ ရက်အနည်းငယ်မျှကြာသောအခါ အိုးနှင့်ဝါးကျည်

တောက်များအတွင်း ထည့်ထားသောပစ္စည်းများသည် ဓာတ်ပြောင်းလဲ၍ ကဇော်ပေါက်လာ၏။ ထိုအချိန်အတွင်း ၌ အိုးထဲတွင် အပေါ်ယံ၌ မှိုများဖြစ်နေ၍ ကျက်ပြီး ကောက်ညှင်း သို့မဟုတ် ဆန်ထဲမှ အရည်စိမ့်ထွက်လာ၏။ နောက်ထပ်ရက်ပေါင်းအတန်ကြာ ထားလိုက်သောအခါ ကျက်ပြီးကောက်ညှင်း သို့မဟုတ် ဆန်လုံးများသည် တဖြည်းဖြည်းကြေပျက်၍ ယင်းတို့မှကျန်ရှိသောအဖတ်များ သည် အိုးဖင်၌ အနည်ထိုင်သွားလေသည်။ ထိုအနည်များ ပေါ်၌ ကြည်လင်သောအရည်တမျိုးတက်နေ၏။ ထိုအရည် သည် ခေါင်ရည်ပင်ဖြစ်သည်။

အများအားဖြင့် တောင်ပေါ်သားများသည် ခေါင်ရည်ကို ပွဲလမ်းသဘင် အချိန်အခါကျမှသောက်ကြ၍ ဘာသာဘာဝ အလိုက် ပျော်မြူးကြလေသည်။ ခေါင်ရည်ကိုသောက် ကြရာ၌ ခွက်များနှင့် သောက်လေ့မရှိပေ။ ဝါးပြွန်ပန်တူ သို့မ ဟုတ် သဘော်ရိုးများနှင့်စုတ်၍ ဝိုင်းသောက်လေ့ရှိကြ၏။

ခေါင်ရည်ကိုတည်ရာ၌ အချိန်ကြာမြင့်စွာ ထားလေ့ရှိကြ သည်။ အချိန်ကြာရှည်စွာ ထားနိုင်သည်နှင့်အမျှ ခေါင်ရည် သည်လည်း ပို၍ကောင်းလာသည်ဟုဆို၏။ တခါတရံ ၃နှစ် မှ ၆ နှစ်မျှအထိပင် ထားတတ်ကြသည်။ ခေါင်ရည်ကိုထား သောအချိန်ကိုလိုက်၍ ၃ နှစ်ခေါင်ရည်၊ ၆ နှစ်ခေါင်ရည် အစရှိသည်ဖြင့် ခေါ်ကြသည်။ (ကဇော်ပေါက်ခြင်း။ တ ဆေး — လည်းရှု။)

**ခေါင်းကိုက်ခြင်း။** ။ခေါင်းကိုက်ခြင်းသည် ရောဂါမဟုတ် ပေ။ ကိုယ်ခန္ဓာတွင် ရောဂါတခုခုစွဲကပ်နေသည်ကို ပြသောလက္ခဏာမျှသာ ဖြစ်သည်။ ဝေဒနာ အသေးအဖွဲမျှ ဖြစ်လင့်ကစား ခေါင်းကိုက်ခြင်း သည် အလွန်အခံရကျပ်သည်။ ခေါင်းကိုက်လျှင် မျက်လုံးကိုက်ခြင်း၊ မူးဝေထိုင်းမှိုင်းခြင်း၊ ပျို့အန်ခြင်းစသည့် ဝေဒနာတို့ပါ ဖြစ်ပေါ်လာတတ်သည်။ အသက်အရွယ်မရွေး လူတိုင်းခေါင်းကိုက်တတ်သည်။ သို့သော် အသက်အရွယ် အလွန်ငယ်သူတို့နှင့် အသက်ကြီးသူတို့သည် အများအားဖြင့် ခေါင်းအကိုက်နည်းကြသည်ကို စာရင်းစုရာတွင်တွေ့ရသည်။ အကြောင်းအမျိုးမျိုး ကိုလိုက်၍ ခေါင်းကိုက်ခြင်းအမျိုး မျိုးရှိသည်။ ဦးခေါင်းတဖက်တည်း၌ ကိုက်ခဲခြင်းကို ခေါင်းတခြမ်းကိုက်ခြင်းဟုခေါ်သည်။ ခေါင်းတခြမ်းကိုက် ခြင်းသည် ရက်အပိုင်းအခြားနှင့်ကိုက်တတ်သည်။ တကြိမ် ကိုက်လျှင် ၁ ရက်မှ ၃ ရက်အထိကြာသည်။ ထိုအချိန်တွင် လူနာသည်ပျို့တတ်၏။ တခါတရံ အန်တတ်၏။ မူးဝေတတ် ၏။ အလင်းရောင်ကိုလည်း ရဲရဲမကြည့်ဝံ့ပေ။ ယောကျ်ား တို့ထက် မိန်းမတို့သည် အများအားဖြင့် ခေါင်းတခြမ်း ကိုက်တတ်သည်။ အပျိုဘော်ဝင်စအရွယ်မှ အသက် ၅၀ အရွယ်ထိမိန်းမများ ယင်းကဲ့သို့ ခေါင်းတခြမ်းကိုက်လျှင်၊ အချိန်ကျတိုင်း မှန်မှန်ကိုက်တတ်သည်။ အသက် ၅၀ ကျော်မှ ပျောက်ကင်းသွားသည်။

ဝမ်းချုပ်လျှင်လည်း ခေါင်းကိုက်တတ်သည်။ ထိုအခါ လူနာကို ဝမ်းချူပေးခြင်း ဝမ်းနုတ်ဆေးတိုက်ကျွေးခြင်းဖြင့် သက်သာရာရစေနိုင်သည်။ ဝမ်းချုပ်၍ ခေါင်းကိုက်နေစဉ် ကြေလွယ်သောအစာကို စားသင့်သည်။ မျက်စိအား စိုက်၍ခေါင်းကိုက်ခြင်းသည် မသင့်တော်သောမျက်မှန်ကို တပ်ခြင်း သို့မဟုတ် မျက်မှန်တပ်သင့်သောအချိန်တွင် မျက် မှန်မတပ်ခြင်းကြောင့်ဖြစ်တတ်သည်။ အလင်းရောင်စူးရာ၌ ၎င်း၊ အလင်းရောင်မှိန်ရာ၌၎င်း၊ အချိန်ကြာမြင့်စွာ မျက်စိ ကိုအာရုံစိုက်စေလျှင်လည်း ခေါင်းကိုက်တတ်သည်။

အလုပ်ပိုလုပ်၍ ပင်ပန်းသောအခါ၌လည်း ခေါင်းကိုက် တတ်သည်။ ထိုအခါ အိပ်ခြင်း၊ အနားယူခြင်းတို့ဖြင့် ပျောက်



တောင်ပေါ်ဒေသတခုမှခေါင်ရည်စုတ်နေသူတဦး



ရှေးမြန်မာမင်းများခေါင်းဆေးမင်္ဂလာအတွက် ရေကြည်တော်ဆက်သရသည့် ပွန်ဇလိုင်ခေါ် ခေါင်းဆေးကျွန်း

ကင်းစေနိုင်သည်။ ဆာလောင်မွတ်သိပ်သောအခါ၌လည်း ခေါင်းကိုက်တတ်သည်။ ထိုအခါမျိုးတွင် နွားနို့၊ ဆွတ်ပြုပ်၊ လက်ဖက်ရည်၊ ကာဖီစသော အစာတမျိုးမျိုးကို မှီဝဲသုံးဆောင်ခြင်းဖြင့် ပျောက်ကင်းနိုင်ပေသည်။ ဦးခေါင်းကို နေပူမိခြင်း၊ အအေးမိခြင်း တို့ကြောင့်လည်း ခေါင်းကိုက်တတ်သည်။ သွေးဆိပ်တက်ခြင်း ခဲဆိပ်တောက်ခြင်း၊ သေသောက်ကြူးခြင်းတို့ကြောင့်လည်း ခေါင်းကိုက်တတ်သည်။

ကျောက်ကြီးရောဂါ၊ ငှက်ဖျားရောဂါတို့ ဖြစ်လျှင်ရင်း၊ အူရောင်ဖျားရောဂါ ဖြစ်လျှင်ရင်း ခေါင်းကိုက်တတ်သည်။ သို့သော် အူရောင်ဖျားရောဂါကြောင့် ခေါင်းကိုက်ခြင်းသည် ငှက်ဖျားရောဂါကြောင့်ဖြစ်သော ခေါင်းကိုက်ခြင်းလောက် မပြင်းချေ။ ဦးနှောက်မြှေးရောင်ရောဂါ၊ ဦးနှောက်တွင်း သွေးကြောကြီးရောင်ရောဂါ၊ ကျောက်ကပ်ရောင်ရောဂါ (ဗရိုက်ရောဂါ) တို့၏ ရောဂါလက္ခဏာသည် ခေါင်းကိုက်ခြင်းပင်ဖြစ်သည်။ စွဲစွဲမြဲမြဲခေါင်းကိုက်နေခြင်းသည် ဦးနှောက်ဖုရောင်ရောဂါ တိုးနေသည်ကိုပြ၏။ အသက် ၅၀ လွန်မှ ခေါင်းကိုက်ခြင်းသည် သွေးအားတိုးခြင်း သို့မဟုတ် ကျောက်ကပ်ရောင်ရောဂါ ဖြစ်နေသည်ကိုပြသည်။ ထို့ကြောင့် ခေါင်းကိုက်လျှင် အဘယ်ကြောင့်ခေါင်းကိုက်သည့် အကြောင်းရင်းကို စစ်ဆေးကြည့်ရှုသင့်ပေသည်။

**ခေါင်းဆေးကျွန်း။** ။ကျိုက္ကမီခရိုင် မုတ္တမနှင့်မော်လမြိုင်မြို့အကြား သံလွင်မြစ်နှင့်ဂျိုင်းမြစ်တို့တွေ့ဆုံရာ၌ခေါင်းဆေးကျွန်းတည်ရှိလေသည်။ မြစ် ၂ ခု လေးခွဆိုင်၌ တည်ရှိသည်ကိုအစွဲပြု၍ ယင်းကျွန်းကို မွန်တလိုင်းအမည်ဖြင့် ပွန်ဇလိုင်ဟုခေါ် သည်။ ကော့ပွန်လိုင်ဟုလည်းတွင်၏။ မြတ်စွာဘုရားသခင်သည် ခေါင်းဆေးကျွန်းသို့ ကြွရောက်တော်မူခဲ့ဘူးကြောင်း၊ မြတ်စွာဘုရားသခင် ပါရမီနုစဉ် ရွှေဟင်္သာမင်းဘဝက မုတ္တမတောင်ရိုး၌ အိပ်တန်းတက်၍ မုဒုံကန်ကြီးအရပ်သို့ အစာရှာသွားလေ့ရှိကြောင်းနှင့်၊ သမိုင်းအဆိုရှိသည်။ အခါတပါး၌ ထိုသို့အစာရှာဖွေရာမှအပြန် နာဂဝိသတောင်၌နားပြီးလျှင် မြစ်တဖက်သို့ကူးလေရာ၊ လေမိုးပြင်းထန်၍ မကူးနိုင်သောကြောင့်၊ ပွန်ဇလိုင်ခေါ် ခေါင်းဆေးကျွန်း၌ တညနားနေရသည်။ မိုးသောက်မှ မုတ္တမသို့ပျံသန်းသွားရကြောင်း ဟူ၍လည်း သမိုင်းတွင်အဆိုရှိလေသည်။

မွန်ဘုရင်၊ မြန်မာဘုရင်တို့သည် ခေါင်းဆေးကျွန်းမှ ရေသည် သန့်စင်မွန်မြတ်သည်ဟု ယုံကြည်သည့်အလျောက် ယင်းရေကိုယူ၍ နှစ်သစ်ကူးသင်္ကြန်အခါအတွင်း သင်္ကြန်တော်ကြီးခေါ် ခေါင်းဆေးမင်္ဂလာပွဲများ ပြုလုပ်လေ့ရှိသည်။ ထိုအလေ့အထမှာမြန်မာနိုင်ငံအောက်ပိုင်းကိုဗြိတိသျှအစိုးရတို့သိမ်းပိုက်သည်အထိ ရှိခဲ့သည်။ ထိုသို့ သင်္ကြန်တော်ကြီးခေါ်သည်ကိုအစွဲပြု၍ ခေါင်းဆေးကျွန်းကို သင်္ကြန်ကျွန်းဟုလည်းခေါ်ကြသေးသည်။

မွန်ဘုရင်ရာဇာဓိရာဇ်၏သားတော် ဗောလောကျန်းထောအနိစ္စရောက်ပြီးသော်၊ ပြင်စည်မင်း၊ မင်းဆွေ (နောင်အခါမင်းခေါင်အမည်ဖြင့်နန်းတက်သည်) ၏ မြောက်သား

မတော်ရှင်မိနောက်၏ဝမ်း၌ ပဋိသန္ဓေနေကြောင်း၊ ထိုအခါ ရှင်မိနောက်သည် မွန်ပြည်ဒလမြို့မှသရက်သီးနှင့် မုတ္တမမြို့မှ မြေသင်းခဲကိုစားလိုခြင်း ပွန်ဇလိုင်အရပ်မှရေကို သောက်လိုခြင်းဟူသော ချင်ခြင်းများဖြစ်သဖြင့် မွန်မင်းထံသို့ သံစေလွှတ်၍ တောင်းယူရကြောင်းနှင့် မြန်မာရာဇဝင်များတွင်လာရှိသည်။ ဤအကြောင်းကိုထောက်ရှုခြင်းအားဖြင့် ရှေးကမွန်မင်းများသည် ပွန်ဇလိုင်ရေကို မည်မျှအရေးထားကြောင်းကိုသိနိုင်သည်။

ထိုကျွန်းသည် မုတ္တမမြို့ထက် မော်လမြိုင်မြို့နှင့် ပို၍နီးကပ်သည်။ ကျောက်ဆောင်ထူထပ်သည်။ ကျွန်းပေါ်ရှိအုန်းပင်သစ်ပင်များ ဝိုင်းရံလျက်ရှိသောစေတီပုထိုးများနှင့် ဘုန်းတော်ကြီးကျောင်းစရပ်စသည်များမှာ ကျွန်းကလေးအား ရှုချင်စဖွယ်ဖြစ်အောင် တန်ဆာဆင်ထားဘိသကဲ့သို့ရှိသည်။ ခေါင်းဆေးကျွန်းပေါ်ရှိ စေတီပုထိုးနှင့်သိမ်ရာများကို စစ်ကဲကြီးဦးထော်လေးက သက္ကရာဇ် ၁၁၉၃ ခုနှစ်ခန့်တွင် မွမ်းမံခုတ်ထွင်ရှင်းလင်းကြောင်းနှင့် ကျိုက်သံလန်ရင်ပြင်ပေါ်ရှိ ဦးထော်လေးကျောက်စာအရသိရှိရသည်။

ကျွန်း၏အချင်းမှာ ပေ ၉၀၀ ခန့်ရှိသည်။ ညအချိန်တွင် ကျီးငှက်များစွာတို့ ဤကျွန်း၌ အိပ်တန်းတက်လေ့ရှိသဖြင့် အနောက်နိုင်ငံသားတို့က ခေါင်းဆေးကျွန်းကို ကျီးကျွန်းဟုခေါ်ကြသည်။ မုတ္တမမြို့မှ မော်လမြိုင်မြို့သို့ သံလွင်မြစ်ကိုဖြတ်၍ သတင်းပို့ကြေးနန်းဆက်သွယ်ရာ ခေါင်းဆေးကျွန်းမှတဆင့်ဆက်သွယ်လေသည်။

ကင်းဝန်မင်းကြီးသည် သံအရာရှိကြီးအဖြစ်ဖြင့် ပြင်သစ်ပြည်သို့သွားရောက်ရာတွင် သက္ကရာဇ် ၁၂၃၅ ခုတန်ခူးလတွင် မော်လမြိုင်မြို့သို့ ရောက်ရှိသည်။ ထိုအခါ မော်လမြိုင် ရှုမျှော်ခင်းနှင့်ခေါင်းဆေးကျွန်းခေါ် သင်္ကြန်ကျွန်းအကြောင်းကို ဖွဲ့ဆိုခဲ့သောရကန်တွင် အောက်ပါအတိုင်းတွေ့ရသည်။

'ရှုလေရာပင်၊ နတ်ရွာတပြိုင်၊ မော်လမြိုင်သို့၊ ရောက်တိုင်ဝင်ဆိုက်၊ တွေ့ကြုံကြိုက်ရသည်။ မျှော်လိုက်တိုင်းလွန်ပျိုနုံ၏။ ကျတ်ရှင်သုံးလူ့၊ သဗ္ဗညူများနှင့်၊ ကြည့်ရှုဖွယ်ရန်၊ ကျွန်းသင်္ကြန်ကလဲ၊ အလွန်ထူးဆန်း၊ အံ့မခန်းနတ်နန်းနှင့်မျှဂုဏ်ရည်တူ၊ ပွန်ဇလိုင်ဝ၊ ကျွန်းယက္ခများလည်း၊ တင့်လှပေဟန်၊ ဆဒ္ဒန်ဖရုံ၊ အစုံဝဲယာ၊ ဂူပေါင်းကာလျက်၊ အံ့အာသရဲ၊ ကဲကဲလွန်လွန်၊ နတ်လာ၍ဖန်သည့်နှယ်၊ သည်ဟန်မှာ ခေါင်အမူတည့်။' စသည်ဖြင့်ဖြစ်လေသည်။

# ထူးခြားထင်ရှားသည့်မြန်မာ့ကျက်သရေဆောင်ဆင်ယင်မှုတရပ်

**ခေါင်းပေါင်းဆင်မြန်းခြင်းသည် မြန်မာ့ဆင်ယင်ထုံးဖွဲ့မှုတွင် အဓိကယဉ်ကျေးမှုတခုဖြစ်သည်။ ပွဲနေပွဲထိုင် အခမ်းအနားများတွင် မြန်မာယောကျ်ားများသည် ခေါင်းပေါင်းကိုဆင်မြန်းလေ့ရှိသည်။ ခေတ်အမျိုးမျိုးပြောင်းလဲခဲ့သော်လည်း၊ ထိုခေါင်းပေါင်းပေါင်းခြင်း အလေ့အထမှာ ကွယ်ပျောက်တိမ်ကောခြင်းမရှိဘဲ၊ မြန်မာ့ယဉ်ကျေးမှုအဖြစ် ခိုင်မြဲအောင်ဆင်ယင်ကြသည်မှာ ထူးခြားထင်ရှားသဖြင့် မြန်မာတို့ဂုဏ်ယူစရာပေ။**

**ခေါင်းပေါင်း။** ။ခေါင်းပေါင်းသည် မြန်မာလူမျိုးယောကျ်ားများဦးခေါင်းတွင်ဆင်မြန်းသော အဝတ်တန်ဆာတမျိုးဖြစ်ပေသည်။

ခေါင်းပေါင်းကို ဆင်းရဲသားများမှ ဘုရင်မင်းမြတ်အထိ အမြတ်တနိုးထားကာ ဆင်မြန်းကြသည်။ ဦးခေါင်းကို ရစ်၍ ပေါင်းရသဖြင့် ဦးရစ်ဟုလည်းခေါ်ကြသည်။

မြန်မာလူမျိုးတို့ ခေါင်းပေါင်းခြင်း အလေ့အထသည် အိန္ဒိယနိုင်ငံမှ အတုယူခဲ့သည်ဟု အချို့ဆရာတို့အယူရှိသည်။ အိန္ဒိယနိုင်ငံ၌ ဦးရစ်ပေါင်းခြင်းဓလေ့မှာ အလွန်ရှေးကျသော ထုံးတမ်းစဉ်လာတခုဖြစ်၏။ ဂေါတမမြတ်စွာဘုရား၏ဓာတ်တော်များ ခွဲဝေပွဲတွင် ဒေါနပုဏ္ဏားသည် ဓာတ်တော်များကို ဦးရစ်ကြား၌ဝှက်ထားကြောင်းနှင့် ကျမ်းဂန်များတွင်လာရှိသည်။ မြန်မာနိုင်ငံတွင်မူ ပုဂံခေတ်ကပင် မြန်မာများခေါင်းပေါင်းဆင်မြန်းနေကြပြီ ဖြစ်ကြောင်းကိုသိရှိရသည်။ ပုဂံပြည် နရသီဟပတေ့မင်းကြီးလက်ထက် ပညာရှိအမတ်ကြီးရာဇသင်္ကြံ၏သား အုတ်လုပ်ယယ်သည် ဦးခေါင်း၌ပေါင်းထုပ်ထားသော အဝတ်ကိုချွတ်၍ချပြီးလျှင် အရှင့်အမှုတော်ကို ဦးဆွေးဆံမြည့်ထမ်းဆောင်ရပါသည်ဟု လျှောက်ထားဘူးကြောင်းနှင့် နိုင်ငံသမိုင်း၌လာရှိသည်။

ခေါင်းပေါင်းပေါင်းသည့်အခါ သျှောင်ကို အုပ်၍ဖြစ်စေ ဖော်၍ဖြစ်စေ ပေါင်းကြသည်။ အထူးသဖြင့် ဘုရင်၊ မင်းညီမင်းသား၊ မှူးမတ်တို့သည် သျှောင်ကိုမအုပ်ဘဲ ဦးခေါင်းကိုရစ်ပတ်ကာ၊ ခေါင်းပေါင်းကို ခွေရစ်၍ပေါင်းကြသည်။ ထိုသူတို့၏ ခေါင်းပေါင်းကို 'ဗောင်း' သို့မဟုတ် 'ဗောင်းတော်' ဟုခေါ်ကြသည်။ အရပ်သားများကမူ သျှောင်ကိုအုပ်၍ပေါင်းလေ့ရှိသည်။ ဘုရင်မင်းညီမင်းသားတို့မှာ ရွှေကျင်ခတ်ပုဝါ သို့မဟုတ် ရွှေကြိုးခတ်ပုဝါများကို ဆင်မြန်းကြသည်။ ပတ္တမြားဖြင့်စီခြယ်ထားသော ပတ္တမြားဗောင်းတော်၊ နဝရတ်ဖြင့်စီခြယ်ထားသော နဝရတ်ဗောင်းတော်နှင့် ရွှေသားဗောင်းတော်၊ စိန်တွယ်ဗောင်းတော်၊ မြတွယ်ဗောင်းတော် များလည်းရှိသေးသည်။ ဘုရင်နှင့်မင်းသားစသည်တို့၏ ဗောင်းတော်၌ ငွေကြယ်ပွင့်ကလေးများ တပ်ထားသော တစတည်းသော ခေါင်းပေါင်းစမှာ ဦးခေါင်း၏နောက်ဖက်တွင်ရှိ၍ အပေါ်သို့တည့်တည့်မတ်မတ်



ဘုရင်ပေါင်းတစထောင်နှင့် မှူးမတ်ပေါင်းနှစ်စထောင်ခေါင်းပေါင်း

ထောင်လျက်ရှိသည်။ ခေါင်းပေါင်းစ တည့်မတ်ခြင်း၏ အဓိပ္ပါယ်မှာ ဖြောင့်မှန်တည့်မတ်ခြင်းကိုဖေါ်ကြသည်။ မင်းညီမင်းသား မှူးမတ်စသည်တို့ကား ခေါင်းပေါင်းစနှစ်စထောင်၍ပေါင်းကြရသည်။ မြန်မာဘုရင်တို့သည် ဖောင်းတော်ကို အလွန်အထွတ်အမြတ်ထားကြသည်။ ထို့ကြောင့်ဖောင်းတော်၊ သရဖူတော်၊ မကိုဋ်တော်များကို နန်းမဦးတည့်တည့်တွင် ဆောက်လုပ်ထားသော ဖောင်းတော်ဆောင်၌သီးသန့်ထားသည်။ ဖောင်းတော်ဆောင်အတွက်သီးခြား အမှုထမ်းအရာထမ်းများမရှိချေ။ ဆရာတော်သံဃာတော်များ၊ မှူးမတ်စော်ဘွားများတို့သည် ရုတ်တရက် ဘုရင်မင်းမြတ်ရှေတော်သို့ မဝင်ရသေးမီ ထိုအဆောင်၌ ခေတ္တဆိုင်းငံ့နေရသည်။ ဖောင်းတော်ဆောင်၏တောင်ဖက်၌ တောင်ဒဝယ်ဆောင်နှင့် ရွှေတိုက်တော်ဆောင်၊ မြောက်ဖက်၌မြောက်ဒဝယ်ဆောင်နှင့် လက်ဖက်ရည်ဆောင်များရှိသည်။

ဘုရင်ဖောင်းတော်များနှင့် စပ်လျဉ်း၍ 'ဖောင်းတော်နဝရတ်၊ မျက်ခတ်စီဆင်၊ မိုးနတ်သွင် တည့်' ဟူ၍၎င်း၊ 'စိန်တွယ်မြတွယ်၊ မျက်ခြယ်ဖောင်းတော်' ဟူ၍၎င်း ရှေးစာဆိုများစပ်ဆိုကြသည်ကို ပျို့၊ လင်္ကာတို့တွင်တွေ့ရသည်။

မှူးကြီးမတ်ကြီးများသည် ဖြူစင်သောပိတ်ရထည်ကို ပေါင်းချောင်ပတ်သဏ္ဍာန် လုံးကျစ်အောင်ခွေရစ်ကာ သျှောင်ကိုလုပ်၍ဆင်မြန်းကြသည်။ ထိုခေါင်းပေါင်းမျိုးကိုခေါင်းပေါင်းဖြူဖေါ့လုံးဟုခေါ်သည်။ ဇာတ်သဘင်ဝန်ကြီးများနှင့် ရှေးဆန်သောပုဂ္ဂိုလ်အချို့တို့သည် ယခုထက်တိုင် ခေါင်းပေါင်းဖြူဖေါ့လုံးနှင့် တောင်ရှည်ပုဆိုးများကို ဝတ်ဆင်လေ့ရှိကြသေးသည်။

ကုန်းဘောင်ခေတ်နောက်ပိုင်းတွင် ပြည်တွင်းဖြစ်အထည်များသာမက နိုင်ငံခြားဖြစ်ပုဝါများကိုလည်း ခေါင်းပေါင်းဆင်မြန်းလေ့ရှိကြသည်။ အနောက်နန်းမိဖုရား မမြကလေး၏မြွက်တော်စိုက်လေး ဆစ်တွင် 'နေမှိန်မှိန်၊ ဆင်ဖောင်းတော်ရွှေပုသိမ်နှင့်၊ လာချိန်တန်ပေါ့' ဆိုသော စာပိုဒ်အရ၊ထိုစဉ်အခါက ပုသိမ်မြို့သို့ အာရပ်ကုန်သည်များယူဆောင်လာသော ပိုးပုဝါများကို မင်းညီမင်းသားမှအစ လူအများဆင်မြန်းလေ့ရှိကြောင်း သိသာနိုင်ပေသည်။ ထိုခေတ်လောက်မှာပင် ကျေးတရာခေါင်းပေါင်းများ ခေတ်စားခဲ့လေသည်။ ကျေးတရာခေါင်းပေါင်းမှာ ကျေးငှက်ရုပ် ၁၀၀ ခန့်မျှရေးခြယ်ထားသော ပိုးခေါင်းပေါင်းဖြစ်လေသည်။ ကာလ



ဘိဒ္ဓေပေါင်းနှင့်အုပ်ပေါင်းပုံ

သားလုကုံထံများ ဆင်မြန်းလေ့ရှိကြသည်။ ထို့ကြောင့် လယ်ဝန်သံတော်ဆင့် ဆောမြို့စားမင်းရေး လယ်ထွန်မင်္ဂလာဖုံကြီးသံတွင် 'တာတော်ခွင်၊ ရေဝင်အောင်ရွှေကတွတ်ကို၊ မင်းလွှတ်ခဲ့လေး။ ပျိုစိုက်တဲ့လယ်ကန်သင်းမှာ၊

မြင်းနီနှင့်ညနေဆီကို၊ စိုင်းသီလိုပြေးလေ့၊ မြင်လိုက်ကဲ့နော်၊ ခေါင်းပေါ် မှာတရာကျေးနှင့်ထူးလို့ယဉ်ချေးလေ့' ဟု စပ်ဆိုထားသည်ကိုတွေ့ရလေသည်။

ဦးသျှောင်ထုံးသောအလေ့ နည်းပါးလာသောအခါ သျှောင်အစား ကြိမ်ခြင်းကိုအောက်ကခံ၍ ခေါင်းပေါင်းပေါင်းကြသည်။ ထိုသို့ပေါင်းနည်းမျိုးကို အုပ်ပေါင်းပေါင်းသည်ဟုခေါ်ကြ၏။ ဝံသာနုအသင်းများ ခေတ်စားလာသော ရန်ကုန်တက္ကသိုလ်တည်ထောင်သည့် ၁၉၂၂ ခုနှစ်လောက်မှစ၍ တက္ကသိုလ်ဘွဲ့ယူသူများသည်ခေါင်းပေါင်းနှင့်ဝတ်ရုံကို ဆင်မြန်းလျက်ဘွဲ့ယူကြ၏။ ထိုခေတ်ကတက္ကသိုလ်ကျောင်းသားများသည် ခေါင်းပေါင်းပေါင်း၍ ကျောင်းတက်ကြသည်။ ထိုကျောင်းသားများ ထွင်လိုက်သော ခေါင်းပေါင်းမှာ ခေါင်းပေါင်းစရှည်ရှည်ချထားသော အုပ်ပေါင်းဆန်ဆန် ပေါင်းနည်းမျိုးဖြစ်၍၊ ဘီအေပေါင်းဟု ခေါ်ဆိုကြ၏။ သို့သော် အုပ်ပေါင်းကဲ့သို့ခြင်းခံ၍ ခေါင်းတခုလုံးကို အုပ်မထားချေ။ ယခုခေတ်အခါတွင် ဦးခေါင်းအရွယ်နှင့် ကိုက်ညီအောင် အသင့်ပေါင်းထားသောခေါင်းပေါင်းများကို ဆိုင်များ၌ရောင်းချလေ့ရှိသဖြင့် ခေါင်းပေါင်းမပေါင်းတတ်သူများအဖို့ အလွယ်တကူဝယ်ယူဆင်မြန်းနိုင်နေကြပေသည်။

ရှမ်း၊ ကချင်၊ ကရင်၊ ကယား၊ ချင်းစသောတိုင်းရင်းသားများလည်း မြန်မာနည်းတူ အမျိုးအလိုက် ဦးခေါင်းကိုအဝတ်တန်ဆာဖြင့် ရစ်ပတ်ဆင်မြန်းကြသည်။ သို့သော် ခေါင်းပေါင်းရစ်ပတ်ပုံ၊ ပေါင်းပုံ၊ အစချပုံချင်း မတူကြချေ။

ခေါင်းပေါင်းဆင်မြန်းခြင်းသည် မြန်မာ့ယဉ်ကျေးမှု၏ အဓိကအချက်ကြီးတခု ဖြစ်သည့်အားလျော်စွာ ပွဲနေပွဲထိုင်အခမ်းအနားများတွင် တိုင်းရင်းသားများသည် ခေါင်းပေါင်းကို ဆင်မြန်းလေ့ရှိကြသည်။ နိုင်ငံတော်အတွင်း၌သာမဟုတ်ဘဲ နိုင်ငံခြားသို့ရောက်ရှိနေကြသောသံအမတ်ကြီးများနှင့် နိုင်ငံတော်သားများသည် မြန်မာအဝတ်အစားအဖြစ် ဆင်ယင်သည့်အခါ ခေါင်းပေါင်းကို ထည့်သွင်း၍ဆင်မြန်းကြသည်။ နိုင်ငံခြား၌ သွားရောက်ခိုလှုံနေထိုင်ခဲ့သော မြင်ကွန်းမင်းသားကြီးမှာ အနောက်တိုင်းအဝတ်အစားနှင့်ပင် ခေါင်းပေါင်းကိုဆင်မြန်းခဲ့လေသည်။ ခေတ်အမျိုးမျိုးပြောင်းလဲခဲ့သော်လည်း၊ ခေါင်းပေါင်းပေါင်းခြင်းအလေ့အထမှာ ကွယ်ပျောက်တိမ်ကောခြင်းမရှိဘဲ မြန်မာ့ယဉ်ကျေးမှု အဆောင်အယောင်အဖြစ် ယနေ့တိုင်ခိုင်မြဲလျက်ရှိသည်မှာ မြန်မာတို့ဂုဏ်ယူစရာပင်ဖြစ်တော့သည်။

**ခေါင်းလောင်း**။ ။တရုပ်နိုင်ငံတွင် လွန်ခဲ့သောနှစ်ပေါင်း ၄၀၀၀ လောက်က ခေါင်းလောင်းများ စတင်ပေါ်ပေါက်ခဲ့သည်ဟု အဆိုရှိသည်။ သို့ရာတွင် ခိုင်လုံသော အထောက်အထားများကားမရှိချေ။ အနောက်နိုင်ငံများတွင်မူ ရောမလူမျိုးတို့အုပ်ချုပ်သည့် တိုင်းပြည်များ၌ ခရစ်ယန်အယူဝါဒကို အတည်တကျကိုးကွယ်လာကြသော ၅ ရာစုနှစ် ၆ ရာစုနှစ်လောက်ကမှ အစပြု၍ ခရစ်ယန်ဘုရားရှိခိုးကျောင်းများတွင် ခေါင်းလောင်းများကို ထားရှိလာခဲ့ကြသည်။ ပဌမတွင် သေးငယ်သောခေါင်းလောင်းများကိုသာ ပြုလုပ်ကြ၍ နောင်သော် တဖြည်းဖြည်းကြီးသော ခေါင်းလောင်းများကို လုပ်လာနိုင်ကြသည်။ ထိုခေါင်းလောင်းများကို မြို့တွင်းမှ အားလုံးကြားနိုင်စိမ့်သောငှာ မျှော်စင်များပေါ်၌ ချိတ်ဆွဲထားလေ့ ရှိကြသည်။ အများအားဖြင့် ခေါင်းလောင်းစင်များကို ဘုရားရှိခိုးကျောင်းများနှင့် တဆက်တည်းထားလေ့ရှိကြသော်လည်း၊ အချို့နေရာများတွင် သီးခြားအဆောက်အအုံများဖြင့် ထားတတ်ကြလေသည်။

ခေါင်းလောင်းကို လူတို့သည် သာသနာရေးနှင့်ဆက်စပ်၍ အသုံးပြုလာခဲ့ကြသည့်အတိုင်း၊ မြန်မာနှင့်တကွ ဗုဒ္ဓအယူ

မြန်မာဗုဒ္ဓဘာသာတို့သည်ခေါင်းလောင်းထိုး၍အမျှဝေလေ့ရှိကြ၏။




ပီကင်းမြို့ရှိတရုပ်ခေါင်းလောင်းကြီး

ဝါဒီနိုင်ငံများတွင်လည်း ခေါင်းလောင်းကြီးငယ်များကို စေတီပုထိုး၊ သိမ်၊ ကျောင်းစသည်များ၌ ထားရှိပြီးလျှင် ကုသိုလ်ကောင်းမှုတခုခုပြုပြီးသောအခါ၊ ခေါင်းလောင်းထိုး၍ အမျှအတန်းပေးဝေလေ့ရှိကြသည်။ ရွှေတိဂုံစေတီ ရင်ပြင်တော်ပေါ်၌၎င်း၊ အခြားထင်ရှားကျော်ကြားသော တန်ခိုးကြီးဘုရားများ၌၎င်း၊ အရွယ်အမျိုးမျိုးရှိသော ခေါင်းလောင်းပေါင်းအမြောက်အမြားကို တွေ့နိုင်ပေသည်။ စေတီတော်၏ထီးတဝိုက်၌ ခြံရံချိတ်ဆွဲထားသော ရွှေဆည်းလည်း၊ ငွေဆည်းလည်း၊ ကြေးဆည်းလည်းတို့သည်လည်း ခေါင်းလောင်းအသေးစားများပင် ဖြစ်ကြရာ၊ လေတိုက်ခတ်သောအခါများ၌ ကြားရသောအသံတို့သည် သာယာနာပျော်ဖွယ်ကောင်းလှပေသည်။

ခေါင်းလောင်းကို နိုင်ငံအသီးသီး၌ ကိစ္စအမျိုးမျိုးအတွက်အသုံးပြုကြလေသည်။ သာသနာရေးကိစ္စများမှအပ၊ နန်းတက်ပွဲ၊ လက်ထပ်ပွဲစသော မင်္ဂလာအခမ်းအနားများ၌လည်း ခေါင်းလောင်းကိုထိုးတတ်ကြသည်။ စစ်ကြီးပြီးဆုံးသည့်အခါ၊ နိုင်ငံလွတ်လပ်သည့်အခါများ၌လည်း ဝမ်းမြောက်သောအထိမ်းအမှတ်ဖြင့် ခေါင်းလောင်းများကို ထိုးတတ်ကြသည်။ ဘုရင်နတ်ရွာစံသည့်အခါ၌လည်း ဝမ်းနည်းသောအထိမ်းအမှတ်ဖြင့် ကြေကွဲဖွယ်ဖြစ်အောင်ထိုးတတ်ကြသည်။ ထိုမှတပါး အစည်းအဝေးခေါ်သည့်ခေါင်းလောင်း၊ ကျောင်းတက်ကျောင်းဆင်းချိန်၌ ထိုးသောခေါင်းလောင်းများအပြင်၊ နှိုးစက်ပါသောနာရီ၌ တပ်ဆင်ထားသည့်ခေါင်းလောင်း၊ စကားပြောကြေးနန်း (တယ်လီဖုန်း) ၌ တပ်ဆင်ထားသည့် ခေါင်းလောင်း၊ အိမ်၊ ရုံး၊ ဟိုတယ်စသည်တို့၌ တပ်ဆင်အသုံးပြုသည့် လူခေါ်ခေါင်းလောင်းများလည်း ရှိပေသေးသည်။ ခေါင်းလောင်းတွင် လက်ဖြင့်ထိုးရသောခေါင်းလောင်း၊ ကြိုးဖြင့်ဆွဲရသောခေါင်းလောင်း၊ စက်တပ်ထားသောခေါင်းလောင်းဟူ၍ အမျိုးမျိုးရှိသည်။ သံစုံထိုးနိုင်အောင်အသံအမျိုးမျိုးထွက်သောခေါင်းလောင်းအများ တပ်ဆင်ထားသည့်နေရာများလည်းရှိ၏။

အင်္ဂလန်ပြည် ဗဲလဖတ်မြို့ရှိ ထင်ရှားသောစိန့်ပက်ထရစ်ခေါင်းလောင်းသည် ၆ ရာစု နှစ်လောက်က ပြုလုပ်ခဲ့သောခေါင်းလောင်းဖြစ်ပေသည်။ ထိုရှေးခေါင်းလောင်းသည် ထောင့်မှန်စတုဂံပုံဖြစ်၍ သတ္တုပြားများကို စို့များဖြင့်တော့ဆက်ကာ ပြုလုပ်ထားသည်။ နောင်သော် သတ္တုကိုအရည်ကျို၍ ပုံသွန်းသည့်အတတ် ထွန်းကားလာသည့်အတိုင်း၊ ယခုအချိန်တွင် ကမ္ဘာ့အရပ်ရပ်၌ ခေါင်းလောင်းများကို သွန်းလုပ်ယူလာကြသည်။


ကမ္ဘာ့တွင်တတိယအကြီးဆုံးဖြစ်သည့်မင်းကွန်းခေါင်းလောင်းကြီး

ကမ္ဘာပေါ်တွင် ထင်ရှားကျော်စောသော ခေါင်းလောင်းကြီးများအနက် ရုရှနိုင်ငံ မောစကိုမြို့မှ 'ဇာကိုလိုကော' အမည်ရှိခေါင်းလောင်းကြီးမှာ ကမ္ဘာတွင်အကြီးဆုံးဖြစ်၏။ တန်ချိန် ၂၀၀ ကျော်စီး၍၊ အမြင့် ၁၉ ပေ ၃ လက် မ၊ အဝန်း ပေ ၆၀၊ ၉ လက်မ၊ အထု ၂ ပေရှိ၏။ ထိုခေါင်းလောင်းကြီးကို ၁၇၃၃ ခုနှစ်တွင်သွန်းလုပ်ခဲ့ရာ ခေါင်းလောင်းတနေရာတွင်ပဲ့သွား၍၊ ထိုပဲ့သွားသည့်အစပင်လျှင် ၇ ပေမြင့်ကာ ဂ ပေကျယ်ပြီးလျှင် အလေးချိန် ၁၁ တန်စီးသည်ဟုသိရသည်။ ကမ္ဘာတွင် ဒုတိယ အကြီး ဆုံး ခေါင်း လောင်း သည် လည်း မောစကိုမြို့မှာပင်ရှိ၍၊ ထိုခေါင်းလောင်း၏တန်ချိန်မှာ ၁၂၈ တန်ရှိလေသည်။

မြန်မာနိုင်ငံ၌ ဘိုးတော်ဘုရားလက်ထက်တွင် မင်းကွန်းစေတီတော်ကြီးအနီး၌ မင်းကွန်းခေါင်းလောင်းကြီးကို သွန်းလုပ်ခဲ့လေသည်။ ထိုခေါင်းလောင်းကြီးကို သတ္တုပြားဖုံးထားသော သုံးချောင်းပူးယက်မကြီး၌ ဆွဲထားသည်။ ထိုယက်မကြီးသည် ကျွန်းတိုင်ကြီးများကို ငုံ၍ဆောက်ထားသော အုတ်တိုင်နှစ်ခုပေါ်တွင် တင်ရှိသည်။ ခေါင်းလောင်းကြီးသည် မလှဲနိုင်ချေ။ ခေါင်းလောင်းကြီးကို ထောက်ထားသည့် တိုင်ကြီးများသည် မြေလျှင်၏ ဒဏ်ကြောင့် ပျက်စီးယိုယွင်း နေကြသဖြင့် ခေါင်းလောင်းကြီး အောက်သို့ပြုတ်မကျစေရန် သစ်သားတုံးကြီးများဖြင့် ထောက်ပေးထားရသည်။ ထိုခေါင်းလောင်းကြီးကို ကြေးညိုနှင့်သွန်းလုပ်သည်။ ရွှေစင်ငွေစများကို ခေါင်းလောင်းကြီး၏ကြေးသားထဲတွင် မြှုပ်ထားသည်။

ထိုခေါင်းလောင်းကြီး၏ အပြင်ဖက်အချင်းသည် နှုတ်ခမ်းဝ၌ ၁၆ ပေနှင့် ၃ လက်မရှိသည်။ အတွင်းဖက်နှုတ်ခမ်းဝ၊ အထက် ၄ ပေနှင့် ဂ လက်မနေရာ၌ အချင်းသည် ၁၀ ပေရှိသည်။ ခေါင်းလောင်းကြီး၏ အတွင်းဖက်အမြင့်သည် ၁၁ ပေနှင့် ၆ လက်မရှိ၍ အပြင်ဖက်အမြင့်သည် ၁၂ ပေရှိသည်။ အတွင်းထိပ်ပိုင်း၏အချင်းသည် ဂ ပေနှင့် ၆ လက်မရှိသည်။ ခေါင်းလောင်းကြီး၏အထုသည် ၆ လက်မမှ ၁၂ လက်မအထိရှိ၍ အလေးချိန်မှာ အကြမ်းအားဖြင့် တန်ချိန် ဂ၀ ခန့်ရှိမည်ဟု အင်္ဂလိပ်တို့က ခန့်မှန်းခဲ့ကြသည်။ ထိုအလေးချိန်အရ မင်းကွန်းခေါင်းလောင်းကြီးသည် ကမ္ဘာတွင် တတိယအကြီးဆုံးဖြစ်သည်။

ထိုခေါင်းလောင်းကြီး အကြောင်းကို ကုန်းဘောင်ဆက် မဟာရာဇဝင်တော်ကြီးတွင် ဘိုးတော်ဘုရားသည် သက္ကရာဇ် ၁၁၇၀ ပြည့်နှစ် ကဆုန်လဆန်း ၅ ရက်နေ့တွင် သွန်းလုပ်သည်ဟုပါရှိသည်။ ခေါင်းလောင်းကြီး၏ အတိုင်းအတာကိုလည်း အဝအချင်း ၃၁ တောင် ၄ သစ်၊ (၁၆ ပေ ၈½ လက်မ) လုံးပတ် ၃၃ တောင် ၁ မိုက် ၄ သစ် (၅၀ ပေ ½ လက်မ) စောက် ၁၃ တောင် ၁ မိုက် ၄ သစ် (၂၀ ပေ၊ ၃ လက်မ) ရှိသည်။ အလေးချိန်မှာ ကြေးအချိန်ပိသာ ၅၅၅၅၅ ဖြစ်သည်ဟူ၍ ဖော်ပြထားလေသည်။ ထိုပိသာချိန်ကို တန်ချိန်ဖွဲ့လျှင် ၉၀.၅၂ တန်ရသည်။

တရုပ်နိုင်ငံပီကင်းမြို့ရှိ ခေါင်းလောင်းကြီးမှာ ၅၃ တန်အချိန်စီး၍၊ နန်းကင်းမြို့ရှိခေါင်းလောင်းမှာ ၂၂ တန်အချိန်စီးသည်။ ထိုခေါင်းလောင်းများအောက် ငယ်သောခေါင်းလောင်းများလည်း ကမ္ဘာအရပ်ရပ်၌ အများပင်ရှိသေးသည်ကိုတွေ့ရသည်။

ရှေးလူများစတင်အသုံးပြုခဲ့သော ခေါင်းလောင်းများမှာ လေးထောင့်ပုံ ခေါင်းလောင်းကလေး များသာဖြစ်ကြ၍ အချို့မှာ အလုံပိတ်ဖြစ်သော ခလောက်ကလေးများဖြစ်ကြသည်။ အဆိုပါခလောက်ကလေးမျိုးကို ခွေးနှင့်ကျွဲနွားတိရစ္ဆာန်တို့၏လည်ပင်း၌ အလှဆွဲပေးခဲ့ကြသည်။ ထိုစဉ်က ဟီဗြူးဘုန်းကြီး အချို့၏ ဝတ်ရုံများ၌လည်း ရွှေဖြင့်လုပ်သော ချူကလေးများကို တပ်ဆင်ခဲ့ကြလေသည်။



မော်စကိုမြို့ရှိကမ္ဘာတွင်အကြီးဆုံးခေါင်းလောင်း

မြန်မာနိုင်ငံတွင် ခလောက်ကို ဆင်၊ ကျွဲ၊ နွားစသော တိရစ္ဆာန်များတွင် ဆွဲပေးတတ်ကြသည်။ ထိန်းကျောင်းရသောတိရစ္ဆာန်များအား ခလောက်ဆွဲထားခြင်းကြောင့် တစိုက်စိုက်လိုက်လံကြည့်ရှုရန် မလိုတော့ချေ။ ခလောက်သံကိုနားထောင်၍ နွားကျောင်းသားသည် ကျွဲ၊ နွားများ



ရသေ့ကြီးဦးခန္တီ
သာသနာ့အဆောက်အဦများစွာကို ဦးစီးတည်ဆောက်ခဲ့သောသာသနာ့အာဇာနည်ကြီး



ဦးခန္တီကြီးမှူးမွမ်းမံခဲ့သော မန္တလေးတောင်အဆောက်အဦများကို ဤသို့တွေ့မြင်နိုင်ပေသည်။

မပျောက်အောင် ထိန်းကျောင်းနိုင်လေသည်။ ခလောက်ကို အများအားဖြင့် သစ်သားကိုထွင်းပြီး လုပ်လေ့ရှိသော်လည်း ဆင်စွယ်ခလောက်၊ သတ္တုခလောက်များလည်းရှိသည်။

ချူမျှားကိုမူကား အိမ်မွေး တိရစ္ဆာန်များ၏ လည်ပင်းတွင် အလှတပ်ဆင်ပေးတတ်ကြသည်။ ချူမှာ ကြေးဝါဖြင့် လုပ်ထားသော ခေါင်းပွအလုံးကလေးဖြစ်၍ အထဲတွင် အဆံထည့်ထားပြီး အောက်ဖက်တွင် ကွဲကြောင်း ဖေါက်ထားသည်။ ချူမျှားကို သားရေတွင်ဖေါက်၍ ချူကုံးပြုလုပ်ကာ လှည်းယဉ်ဆွဲသောနွားများတွင် တပ်ဆင်ပေးတတ်ကြသည်။ ချူသံတချင်ချင်နှင့် လှည်းယဉ်များကို တောရွာများ၌တွေ့ရလေ့ရှိသည်။ ကုလားလူမျိုးများသည် ချူမျှားကိုကြိုးဖြင့်သီကုံး၍ လက်ကောက်ဝတ်နှင့် ခြေချင်းဝတ်တို့တွင် စည်းပြီးလျှင် စည်းဝါးကျချူသံပေး၍ ကလေ့ရှိကြသည်။

**ခန္တီ၊ ဦး** (မြန်မာ ၁၂၂၉–၁၃၁၀)။ ။ဦးခန္တီသည် မြန်မာနိုင်ငံတွင် သာသနာရေးဆိုင်ရာ အဆောက်အအုံများစွာကို ဒေသအနှံ့ အပြား၌ ဦးစီးဆောင်ရွက် တည်ထားပေးခြင်းကြောင့် နိုင်ငံနှင့်အဝှန်း ထင်ရှားသောရသေ့ကြီးဖြစ်သည်။ မန္တလေးတောင်ကို မွမ်းမံသူဖြစ်သောကြောင့် မန္တလေးတောင်ရသေ့ကြီးဦးခန္တီဟု ပိုမို၍လူသိများသည်။ ဦးခန္တီကြီးမှူးနှိုးဆော်၍ ပြုလုပ်သည့်ကောင်းမှုများမှာ အလွန်များပြားလှသဖြင့် တန်ဖိုးဖြတ်ရန်လည်း မလွယ်ကူချေ။ အချို့က သန်း ၂၀ ကျော်ဖိုးရှိသည်ဟုခန့်မှန်းကြလေသည်။ အနှစ် ၄၀ ကျော်အတွင်း မြို့ပေါင်း ၂၀၊ ဌာနပေါင်း ၄၇ ဌာနတို့တွင် အမျိုးမျိုးသော အဆောက်အအုံတို့ကို တည်စိုက်ခဲ့ရာ စစ်အတွင်းက ပျက်စီးသွားသော အဆောက်အအုံ အချို့ပင် သိန်း ၂၀ ကျော်တန်ဖိုးရှိသည်ဟု ခန့်မှန်းကြသည်။

ဦးခန္တီကို အဖဦးရွှေလှ၊ အမိဒေါ်ခိုဉတို့မှ ရမည်းသင်းမြို့ အနောက်တောင် ရွာသာရွာနိဂုံး၌ ၁၂၂၉ ခု ဝါခေါင်လပြည့်ကျော် ၅ ရက် တနင်္လာနေ့တွင် ဖွားမြင်သည်။ အချို့က အမိ၏အမည်ကို ဒေါ်ကန်ဟု အမှတ်အသားပြုသည်။ ဦးခန္တီ၏ ငယ်နာမည်မှာ မောင်ဖိုးမောင်ဖြစ်သည်။ အယပ်အမောင်း ၆ ပေကျော်ရှိ၍၊ သေးသွယ်သောမျက်နှာ၊ဖြောင့်စင်းသောနှာတံ၊ ကျယ်ပြန့်သောနဖူး၊ ရှည်၍ကားသောနားရွက်၊ ချွန်သောဦးခေါင်းနှင့် သွယ်ပျောင်းသောခြေတံလက်တံများရှိသည်။ ၁၂၄၉ ခုနှစ်၌ ရဟန်းအဖြစ်သို့ရောက်သည်။ ရဟန်းဝါ ၁၂ ဝါတိုင်တိုင် စာပေကျမ်းဂန်များကို သင်ကြားတတ်မြောက်ပြီးနောက် ၁၂၆၁ ခုနှစ်တွင် ရသေ့အသွင်သို့ကူးပြောင်းကာ မန္တလေးမြို့ သာခိုတောင်၊ ရွှေမြင်တင်တောင်များ၌ ကမ္မဋ္ဌာန်းအားထုတ်သည်။

ဦးခန္တီအား တောင်ခွင်သာသနာပိုင် ဆရာတော်ကြီးက သာသနာ့ဟိတဇောနာယက ဟူသောဘွဲ့ချီးမြှင့်သည်။ ယင်းသို့ချီးမြှင့်သည်နှင့်အညီ ဦးခန္တီသည် ရွှေမြင်တင်တောင် အဝှန်း၌ စေတီ ၄၉၊ ကျောင်း ၃၄၊ တန်ဆောင်း ၁၆၊ ရုပ်ပွားတော်ကြီး ၁၅ ဆူတို့နှင့် အခြားအဆောက်အအုံများကို



ဦးခန္တီ စိုက်ထူပူဇော်ခဲ့သော ပိဋကတ်ကျောက်စာတော်များကို မန္တလေးတောင်ခြေတွင် ဖူးတွေ့နိုင်ပေသည်။

ဂ နှစ်ကာလအတွင်း တည်ဆောက်သည်။ တောင်ပခြုပ်၌လည်း ချမ်းသာရစေတီ၊ ဆုတောင်းပြည့်စေတီ၊ ကျိုက်ထီးရိုးစေတီ၊ ကျောက်ဆင်စေတီတို့ကို တည်သည်။ ထို့ပြင် ၁၂၆၂ ခုနှစ်၌ ပျဉ်းမနားဆင်ဖြူတောင်သို့ ကြွရောက်၍ ၎င်း၊ ထိုမှတဖန် လယ်ဝေးသို့ ကြွရောက်၍၎င်း၊ ၁၂၆၉ ခုနှစ်မှစ၍ မန္တလေးတောင်ကြီးသို့ ကြွရောက်၍၎င်း၊ ဘုရားပုထိုး အဆောက်အအုံ စသည်များစွာကို တည်ဆောက်လေသည်။ ထိုနောက် ၁၂၇၅ ခုနှစ်တွင် ရန်ကင်းတောင်ကိုပြုပြင်သည်။ မန္တလေးတောင်ခြေ စန္ဒာမုနိဘုရားနှင့် သထုံမြို့ ရွှေစာရံဘုရားများတွင် ကျောက်ချပ်ရေ ၃၀၀၀ ကျော်ရှိ ပိဋကတ်တော်အဋ္ဌကထာများကို ကျောက်ထက်အက္ခရာတင်ခဲ့လေသည်။ အခြားသော ဦးခန္တီ၏ကောင်းမှုကုသိုလ်တော်များကား မန္တလေးကျောက်တော်ကြီးဘုရား၊ ကုသိုလ်တော်ဘုရား၊ အာနန္ဒာဘုရားတို့၌ အရုဏ်ခံတန်ဆောင်းများ၊ အုတ်စောင်းတန်းများ၊ ရုပ်ပွားတော်များကို တည်ဆောက်ခြင်း၊ တောင်ပြုံး ဆုတောင်းပြည့်စေတီနှင့် စောင်းတန်းများတည်ဆောက်ခြင်း၊ မယ်ဥတောင်၌ စေတီပုထိုးများတည်ခြင်း၊ အမရပူရမြို့ ပုထိုးတော်ကြီးအတွင်း၌ ခေါင်းလောင်းကြီးနှင့် တန်ဆောင်းများတည်ခြင်း၊ စစ်ကိုင်းဆင်များရှင် ဘုရားကိုထီးတင်ခြင်း၊ ရွှေစာရံဘုရားကို မွမ်းမံခြင်း၊ မေမြို့ညံတောဘုရားကြီး၌ ရုပ်ပွားတော်ကြီးများတည်ခြင်း၊ ပဲခူးဟင်္သာကုန်း၌ စောင်းတန်းတန်ဆောင်းများဆောက်ခြင်း၊ မင်းဘူးနယ်ရွှေစက်တော်ဘုရား၌ စေတီ၊ ရုပ်ပွားတော်၊ တန်ဆောင်းများတည်ဆောက်ခြင်း၊ ရှမ်းပြည်ရွှေဥမင်တောင် သိန္နီနယ်ရွှေမြင်တင်တောင်များ၌တန်ဆောင်း၊ ရုပ်ပွားတော်နှင့် စောင်းတန်းများတည်ဆောက်ခြင်းတို့ဖြစ်သည်။ ဤကဲ့သို့ သာမန်လူတို့ စိတ်ကူးရန်မဝံ့သည့် အဆောက်အအုံကြီးများကို တောင်ထိပ်များပေါ်၌ တည်ဆောက်ရသည့်တာဝန်မှာ ကြီးလေးလှသော်လည်း ဦးခန္တီ၏ စေတနာအစွမ်းသတ္တိကြောင့် လွယ်ကူစွာပြီးစီးခဲ့သည်သာပင်ဖြစ်သည်။

ဦးခန္တီ၏စေတနာလုပ်ငန်းကို မြန်မာနိုင်ငံတဝှန်းလုံး သိရှိနှစ်သက်ကြသဖြင့် အနယ်နယ်အရပ်ရပ်မှ စေတနာရှင်များသည် အလှူငွေများ ရက်ရောစွာထည့်ဝင်လှူဒါန်းကြသည်။ ဦးခန္တီဆိုလျှင် သဒ္ဓါယုံကြည်ကြပေသည်။ ဗြိတိသျှအစိုးရကလည်း ဦးခန္တီအား သွားလိုရာရေကြောင်းကုန်းကြောင်းခရီးလမ်းများကို အလွယ်တကူသွားလာနိုင်ရန် ခွင့်ပြုလက်မှတ်များဆက်ကပ်လှူဒါန်းခြင်း၊ မိမိပြုစုတည်ထားသောဘုရားပွဲတော် ပျော်ပွဲ၊ ရှင်ပွဲများကျင်းပလိုက အစိုးရထံ၌ အမိန့်ခံယူရန် မလိုခြင်းစသော အထူးအခွင့်အရေးများကို ပေးထားလေသည်။

စစ်ပြီးခေတ်၌ ဦးခန္တီသည် စစ်ဒဏ်ကြောင့် မိမိ၏ကောင်းမှုများပျက်စီးရသည်ကို အသစ်ပြန်လည်ပြင်ဆင်မွမ်းမံလေသည်။ ဤသို့ပြင်ဆင်မွမ်းမံယင်းပင် အဆောက်အအုံသစ်များကိုလည်း တည်ဆောက်ရန်စီမံစိုင်းပြင်းလေသည်။ ယင်းသို့စီမံဆဲ၌ပင် ၁၃၀၇ ခုနှစ်လောက်က စွဲကပ်ခဲ့သောလေငန်း

ရောဂါဝေဒနာကြောင့် ကိုယ်တခြမ်းအနည်းငယ်သေနေရာမှ ၁၃၁၀ ပြည့်နှစ် ပြာသိုလပြည့်ကျော် ၁၄ ရက်နေ့ညတွင် ကွယ်လွန်လေသည်။ ရသေ့ကြီး၏ ရုပ်ကလပ်ကို ၂ နှစ် တိုင်ပူဇော်ကန်တော့ကြ၍ နိုင်ငံတော်အစိုးရ ထောက်ပံ့လှူ ငွေ ၅၀၀၀ ကျပ်နှင့် အရပ်ရပ်ဈာပန အလှူတော်ရန်ပုံ ငွေများစုပေါင်းလျက် ၁၃၁၂ ခုနှစ်တပို့တွဲလဆန်း ၈ ရက် နေ့မှ တပို့တွဲလပြည့်နေ့အထိ ခမ်းနားသိုက်မြိုက်စွာသင်္ဂြိုဟ် ကြသည်။

**ခန္တီးရှမ်း**။ ။ခန္တီး သည် ပြည်ထောင်စု မြန်မာနိုင်ငံမြောက် ဖျား ခန္တီးလုံခေါ် ပူတာအိုခရိုင်တွင် အများဆုံးနေထိုင် ကြသော ရှမ်းလူမျိုးတမျိုး၏ အမည်ဖြစ်သည်။ ခန္တီး ဟူ သောဝေါဟာရမှာ ရှမ်းစကားဖြစ်၍ ရွှေမြေ (ခံ — ရွှေ၊ တီ — မြေ) ဟုအဓိပ္ပါယ်ရလေသည်။ သမိုင်းအလယ်ခေတ် လောက်က မြန်မာနိုင်ငံနှင့် အိမ်နီးနားနိုင်ငံအချို့တို့တွင် ရွှေ မြေဟု အဓိပ္ပါယ်ရသည့် သုဝဏ္ဏဘုမ္မိ ဟူသောအမည်ဖြင့် မြို့ များပြည်များ ထင်ရှားခဲ့ဘူးလေသည်။ ခန္တီးလုံနယ်အတွင်း ဖြတ်သန်းစီးဆင်းသော နမ်းကွီ (မလိခ) မြစ်နှင့် ထိုမြစ် လက်တက်များတွင် ရွှေကျင်၍ ရရှိနိုင်သောကြောင့် ထိုဒေသကို ရွှေမြေ (ခန္တီး) ဟုခေါ်ဝေါ်သည်မှာ ဆီလျော် လှပေသည်။

ပုဂံခေတ်ကျောက်စာများတွင် 'ခန္တီ' ကို လူအမည် သို့မဟုတ် ဒေသအမည်အဖြစ် တွေ့ရလေသည်။ စကုအနီး လောက်တွင် ခန္တီးဒေသ ရှိကြောင်းကိုလည်း သိရသည်။ 'ခန္တီ' ဟူသော ကျောက်စာအရေးအသားသည် ခန္တီးနှင့် အတူတူဟုဆိုလျှင် ခန္တီးတို့မှာ ပုဂံခေတ်လောက်ကတည်းက မြန်မာနိုင်ငံတွင်းသို့ ရောက်ရှိနေပြီလောဟု တွေးတောယူဆ ဖွယ်ရာရှိပေသည်။

ဘာသန္တရအားဖြင့် ထိုင်တရုပ်အစုခွဲဝင် ရှမ်းမျိုးတမျိုး ဖြစ်သော ခန္တီးရှမ်းတို့သည် မြန်မာနိုင်ငံမြောက်ဖက်အစွန် ဆုံး ခရိုင်ဖြစ်သော ပူတာအိုခရိုင် (ခန္တီးလုံ) ဟူး ကောင်းမြေပြန့်၊ ချင်းတွင်းမြစ်ဝှမ်းအထက်ပိုင်းနှင့် အာသံ ပြည်အရှေ့ဖက်စွန်ဗြဟ္မပုတ္တရမြစ်တောင်ဖက်တွင်ရှိကြသော မစ်ရှမီလူမျိုးနှင့် ဆင်ပိုးလူမျိုးတို့၏ ဒေသအကြားဖြစ်သည့် ဆာဒိယနယ်တွင် အနှံ့အပြားနေထိုင်ကြ လေသည်။

ခန္တီးရှမ်းတို့ အထက်ပါဒေသများသို့ မည် သည့်အချိန်လောက်က စတင်ရောက်ရှိလာ သည်ကို အတိအကျမပြောနိုင်သေးပေ။ ယင်းတို့၏ ရွှေ့ပြောင်းနေထိုင်မှုမှာ မိုးညှင်း မိုးကောင်းရှိ ရှမ်းအမျိုးသားများနှင့်တကွ အာသံပြည် အာဟုံရှမ်းလူမျိုးတို့၏ ရွှေ့ ပြောင်းနေထိုင်မှုနှင့် ဆက်သွယ်လျက်ရှိသည် ဟု ယူဆသည်။ အာဟုံရှမ်းတို့၏ သမိုင်းများ ဖြစ်သော ဗုရန်ဂျီတို့၌ အာဟုံရှမ်းတို့သည် အာသံပြည်တွင်းသို့ ခရစ် ၁၂၂၈ ခုနှစ်က ဝင်ရောက်လာသည်ဟုဆိုသည်။ ပါမောက္ခဂျီ၊ အိပ်၊ လု (စ) က ခိုင်လုံသောတရုပ်သမိုင်း များကို ကိုးကား၍ အာဟုံတို့ ဝင်ရောက် လာသည် ဆိုသော ဗုရန်ဂျီသမိုင်းလာ သက္ကရာဇ်မှာ အနည်းဆုံးနှစ်ပေါင်း ၂၀၀ ခန့်စောလွန်းသည်ဟု ယူဆလေသည်။

မင်မင်းဆက်တရုပ်သမိုင်းများအရရှမ်း ကြီးဟုခေါ်သောရှမ်းတို့သည် ယူနန်နယ် အနောက်တောင်ဖက်ပိုင်းကို တိုက်ခိုက်သိမ်း ပိုက်သောကြောင့် ဝမ်ချီမည်သော စစ်သူကြီး သည် ခရစ်နှစ် ၁၄၄၅ ခုနှင့် ၁၄၅၀ စပ်ကြား တွင် မောစော်ဘွား စုဂျန်ဖ (သိုင်ဘွား) နှင့်သား စုချီဖ (သိုချီဘွား) တို့ကို တိုက်ခိုက်



ခန္တီးရှမ်းလုံမပျိုများ၏ဆင်ယင်ထုံးဖွဲ့မှု

နှိမ်နင်းသဖြင့် မောရှမ်းများသည် ရေဝတီမြစ်အနောက်ဖက်သို့ ဆုတ်ခွာရွှေ့ပြောင်းခဲ့သည်ဟု တွေ့ရှိရလေသည်။ ဝမ်ချီ၏ နောက်ဆုံးတိုက်ပွဲတို့တွင် မင်စစ်တပ်များသည် ရေဝတီမြစ်ကိုကျော်၍ မိုးညှင်းနယ်အတွင်းသို့ ရောက်ခဲ့၏။ ဤအချိန်လောက်မှစ၍ အနောက်ဖက်ရှမ်းနယ်များဖြစ်သော ခန္တီးလုံနှင့် အာဟုံတို့ပေါ်ပေါက်လာခဲ့သည်ဟု ယူဆဖွယ်ရာရှိလေသည်။

ခန္တီးရှမ်းတို့သည် မလိခမြစ်ဝှမ်းဒေသ ခန္တီးလုံဒေသနှင့် ဟူးကောင်းမြေပြန့်ဒေသတို့တွင် ပျံ့နှံ့နေထိုင်ခဲ့ကြသော်လည်း နောက်ပိုင်းခေတ်များတွင် မြန်မာနိုင်ငံမြောက်ဖျား၊ အာသံပြည်အရှေ့ဖျား ဒေသများသို့ ကချင်အမျိုးသားများ ရွှေ့ပြောင်းနေထိုင်လာကြသောအခါ အချို့သောခန္တီးရှမ်းတို့သည် ပူတာအိုမြေပြန့်ဒေသတွင် စုပေါင်းနေရစ်ခဲ့၏။ အချို့ကား တောင်ဖက်ချင်းတွင်းမြစ်ဖျားဒေသနှင့် အာသံပြည်ဖက်သို့ အသီးသီးရွှေ့ပြောင်းခဲ့ကြဟန်တူသည်။

အာသံပြည်ဖက်တွင် ဖြစ်ပျက်ခဲ့သော ခန္တီးတို့၏ နောက်ပိုင်းသမိုင်းကို ထောက်ရှုခြင်းအားဖြင့် ခန္တီးတို့မှာ တိုက်ရေးခိုက်ရေးတွင် စွမ်းလန်းတမံရှိခြင်း၊ ရဲရင့်ဖျတ်လတ်ခြင်း၊ လှုပ်ရှားထကြွခြင်းနှင့် ပြည့်စုံသူများဖြစ်ကြောင်း သိရပေသည်။

စွာဂဒေအို ဂေါ်ရိနတ် ဆင်ဂါမင်း လက်ထက် (၁၇၈၀–၁၇၉၅) တွင် ခန္တီးတို့သည် ဆာဒိယနယ်တွင် ဗူရဟာရာဇာနှင့်ဒေလရာဇာ မည်သောအကြီးအကဲ ၂ ဦးတို့က အုပ်ချုပ်လျက်ရှိကြောင်း၊ ဗူရဟာရာဇာနှင့် နောက်လိုက်ခန္တီးတို့သည် အာသံအရှေ့မြောက်ပိုင်း ချိုကီဟတ်၌ မိုအာမရိယာလူမျိုးများပုန်ကန်ထကြွသည်ကို အခွင့်ကောင်းယူ၍၊ မိမိတို့ဒေသမှ ဆင်းသက်တိုက်ခိုက်ကြရာတွင် အရေးနိမ့်သဖြင့် ဗူရဟာရာဇာပင်လျှင် အာသံဘုရင်လက်တွင်းသို့ ကျဆင်းခဲ့ရကြောင်း၊ နောက်လိုက်ခန္တီးတို့မှာ တိုကိုလိုင်သစ်တောတွင် အခြေစိုက်ရန် နေရာချထားခြင်းကိုခံရကြောင်း၊ ထိုနောက်သော် ဘူရဂိုဟိန်၏ အဖွဲ့အစည်းနှင့်တွဲဖက်ထားကြောင်း၊ ကမလေစွာ ဆင်ဂါဘုရင်လက်ထက် ၁၈၀၆ နှစ်တွင် အာသံအရှေ့မြောက်ပိုင်းဒေသကို တိုက်ခိုက်သိမ်းပိုက်ရာ၌ ခန္တီးတို့ထကြွတိုက်ခိုက်ပြန်ကြောင်း၊ အာဟုံဘုရင်တပ်များသည် အဗောနှင့် မိရိလူမျိုးများကို တိုက်ခိုက်နှိမ်နင်းနိုင်ခဲ့သော်လည်း ခန္တီးတို့၏ထကြွမှုကိုမူ ပရိယာယ်ဖြင့် ငြိမ်းချမ်းစေခဲ့ကြောင်း ဟူသည်တို့ကို တွန်ခွန်ဂီယဗူရန်ဂျီတွင် ပေါ်ပြထားပေသည်။

အမှန်အားဖြင့် ၁၇၉၇ ခုနှစ်တွင် ခန္တီးတို့သည် အာဟုံဘုရင်ခံ ခိုဝါဂိုဟိန်အား တော်လှန်တိုက်ခိုက်၍ အာဟုံရှမ်းတို့၏ အုပ်ချုပ်မှုမှ ကင်းလွတ်ခဲ့လေသည်။ မိမိတို့ အထဲမှ ခေါင်းဆောင်တဦးကို ရွေးချယ်၍၊ ခိုဝါဂိုဟိန်ဟူသောအမည်ဖြင့် ဆက်လက်အုပ်ချုပ်စေပြီးလျှင် ခန္တီးတို့သည် ဆာဒိယနယ်ကို လွှမ်းမိုးလာခဲ့ကြ၏။ မြန်မာနိုင်ငံ၌ အင်္ဂလိပ်တို့၏ ပဌမနယ်ချဲ့စစ်ဖြစ်ပြီးနောက် မြန်မာဘုရင်တို့၏ ဩဇာအာဏာသည် အာသံမဏိပူရတို့၌ ဆိတ်သုန်းခဲ့ရကား ထိုဒေသများသို့ အရှေ့အိန္ဒိယကုမ္ပဏီ၏ အုပ်ချုပ်ရေးကိုယ်စားလှယ်တို့ ရောက်ရှိလာပေသည်။ သို့ပင်ဖြစ်လင့်ကစား ခန္တီးတို့ပိုင်ဆာဒိယနယ်သို့ ကိုယ်ထိလက်ရောက် ဖက်စွက်ခြင်းမပြုဘဲ ခိုဝါဂိုဟိန်ဆိုသူခန္တီးခေါင်းဆောင်အုပ်ချုပ်မှုကို အသိအမှတ်ပြုရပေသည်။ ခန္တီးတို့သည် နယ်စပ်ဒေသကို စောင့်ရှောက်ရန် တာဝန်ယူရသည်။ သို့သော် အရှေ့အိန္ဒိယကုမ္ပဏီကိုယ်စားလှယ်တို့က ဗိုလ်မှူးကြီးဝှိုက်ဆိုသူကို နိုင်ငံရေးအရာရှိအဖြစ် ဆာဒိယနယ်အတွက် ခန့်အပ်ခဲ့သည်။ သို့ဖြစ်လင့်ကစား ခန္တီးတို့မှာ ဗြိတိသျှတို့၏စွက်ဖက်မှုကို မနှစ်သက်သောကြောင့် ၁၈၃၉ ခုနှစ် ဇန်ဝါရီလ ၂၈ ရက်နေ့တွင် ထကြွပုန်ကန်၍ ဆာဒိယမြို့ကို တိုက်ခိုက်ကြရာ ဗိုလ်မှူးကြီးဝှိုက်ကျဆုံးသည်သာမက ခံမြို့ကိုပင် သိမ်းပိုက်လိုက်ကြသည်။ နယ်အတွင်း၌လည်း အနှံ့အပြားတိုက်ခိုက်မှုများ ဖြစ်ပွါးခဲ့၏။ ဗြိတိသျှတို့လည်း စစ်ကူများပို့ကာ အခြေအနေကို ပြန်လည်ထိန်းသိမ်းပြီးလျှင် ဖမ်းမိသောခန္တီးတို့အား အာသံပြည်အောက်ပိုင်းသို့နယ်နှင်ရွှေ့ပြောင်းစေခဲ့လေသည်။

မြန်မာနိုင်ငံ ခန္တီးလုံဒေသရှိ ခန္တီးရှမ်းတို့မှာ အစဉ်အလာအရ မြန်မာဘုရင်တို့အုပ်ချုပ်မှုကို ခံယူကြသူများဖြစ်ကြ၏။ ကုန်းဘောင်ခေတ်တွင် မြန်မာဘုရင်တို့သည် ခန္တီးရှမ်းတို့အား မိုးကောင်းစော်ဘွားမှတဆင့် အုပ်ချုပ်ကြ၏၊ သို့ရာတွင် ခန္တီးတို့သည် မိမိတို့စော်ဘွားနှင့် မိမိတို့လွတ်လပ်စွာနေကြ၍၊ မြန်မာဘုရင်ထံသို့ အခွန်နှင့်လက်ဆောင်ပဏ္ဏာတို့ကိုသာ ဆက်သရလေသည်။ ဘိုးတော်ဘုရားလက်ထက် (ခရစ် ၁၇၈၁ – ၁၈၁၉) တွင် ခန္တီးရှမ်းများ အချင်းချင်း မသင့်မတင့်ဖြစ်၍ ဆူပူထကြွကြသောအခါ မိုးကောင်းစော်ဘွားသည် ယင်းတို့၏ဒေသကို ငြိမ်းချမ်းစေ၍ ခန္တီးစော်ဘွား၏ ဆွေတော်မျိုးတော်တို့အား မိုးကောင်းသို့ခေါ်ယူထားခဲ့သည်။ ထိုနောက်သော် ခန္တီးစော်ဘွားက ခန္တီးကိုအုပ်ချုပ်ရန် ကိုယ်စားလှယ်စေလွှတ်ပါမည့်အကြောင်း တောင်းဆိုသောကြောင့် မြန်မာဘုရင်က စော်ဘွားတဦးကိုစေလွှတ် အုပ်ချုပ်စေခဲ့၏။ ပုဂံမင်းလက်ထက် (ခရစ် ၁၈၄၆–၁၈၅၂) တွင် ခန္တီးတို့ အခွန်ပဏ္ဏာဆက်ရန်ပျက်ကွက်သောကြောင့် ပုဂံမင်းသည် စော်ဘွား ၇ ဦး ခေါင်းဆောင်သည့်တပ် ၇ တပ်ကို စေလွှတ်၍ အုပ်ချုပ်မှုကို ပိုမိုခိုင်မြဲစေခဲ့သည်။ ထိုစော်ဘွားတို့မှ ဆင်းသက်သူတို့သည် ယခုအချိန်တိုင် နယ် ၇ နယ်အဖြစ်ခန္တီးလုံ၌ ရှိနေသေး၏။

ရှေးအခါက ကြမ်းတမ်းခက်ထန်၍ စစ်မှုတွင်ဝါသနာပါခဲ့ကြသော်လည်း ယခုခေတ်ခန္တီးတို့မှာ နူးညံ့သိမ်မွေ့ ယဉ်ကျေးသူများဖြစ်နေကြ၏။ ငြိမ်းချမ်းစွာနေလိုကြ၏။

အာဟုံရှမ်းတို့နှင့်မတူဘဲ ခန္တီးရှမ်းမှာ ဗုဒ္ဓအယူဝါဒကို လွန်စွာသက်ဝင်ယုံကြည်သူများ ဖြစ်ကြသည်။ ခန္တီးလုံမြေပြန့်တွင် နေကြသူများဖြစ်သည့်အတိုင်း လယ်ယာစိုက်ပျိုးလုပ်ကိုင်၍ အသက်မွေးဝမ်းကျောင်းကြ၏။ အချို့က ဆန်စပါးအပြင်ဘိန်းပင်များကိုလည်းစိုက်ပျိုးကြ၏။ **ဦးဘရှင်။**

**ခန္တီးလုံနယ်။** ။ခန္တီးလုံနယ်သည် မြန်မာနိုင်ငံမြောက်ဖက်အစွန်ဆုံးတွင်ရှိသည်။ မြန်မာနိုင်ငံရှိ တောင်တန်းတောင်ထွတ်များတွင် ခန္တီးလုံနယ်ရှိ တောင်တန်းတောင်ထွတ်များမှာ အမြင့်ဆုံးဖြစ်သည်။ ထို့ကြောင့် ဆောင်းရာသီ၌ ထိုဒေသသည် အအေးဆုံးဖြစ်၏။ ခန္တီးလုံနယ်မှာ အုပ်ချုပ်မှုဆိုင်ရာဒေသ အပိုင်းအခြားအရဆိုလျှင် မြစ်ကြီးနားခရိုင်၏နယ်ပိုင်တဦးအုပ်ချုပ်ရသော ပူတာအိုခရိုင်ကို ခန္တီးလုံဟုလည်းခေါ်ကြသည်။ သို့ရာတွင် ခန္တီးရှမ်းတို့ နေရင်းဒေသမှာ ဧရာဝတီမြစ်ဖျား၏ အနောက်ဖက်လက်တက်ဖြစ်သော မလိခမြစ်နှင့် ထိုမြစ်၏လက်တက်များဖြတ်စီးရာ မြေပြန့်ဒေသသာဖြစ်လေသည်။ (ခန္တီးလုံရှမ်း — ရှု။)

ခန္တီးလုံ၏နယ် ၄ ရပ်တွင် တောင်မြင့်ကြီးများရံလျက်ရှိသည်။ အထူးသဖြင့် တိဗက်နိုင်ငံ၊ အာသံပြည်နယ်တို့နှင့် အစပ်ဖြစ်သော နယ်ခြားဒေသရှိ တောင်ထွတ်တို့မှာ ပေ ၁၀,၀၀၀ ကျော်မှ ပေ ၁၉,၀၀၀ ကျော်အထိမြင့်လေသည်။ ထိုတောင်ထွတ် တောင်တန်းတို့တွင် ဆီးနှင်းများကျသည်သာမက အချို့ဒေသတို့၌ ရေခဲပြင်များပင်ရှိကြသည်။ မေခမြစ်ဖျား၏ လက်တက်တခုဖြစ်သော တဇုံဝန်၏မြစ်ဖျားခံရာဒေသမှာ ရေခဲပြင်ကြီးများဖြစ်၍ ထိုရေခဲပြင်တို့ရှိရာ တောင်ထွတ်များအနက် အမြင့်ဆုံးတောင်ထွတ်များမှာ ခါကာဘိုရာဇီနှင့် ဂမ်လန်ရာဇီဖြစ်၍ ပေ ၁၉,၀၀၀ ကျော်မြင့်သည်။ မလိခမြစ်ဖျား၏ လက်တက်တခုဖြစ်သော မဒွဲဝန်မြစ်ဖျားခံရာ နိုင်မဒွဲမှာ ၁၅,၁၅၇ ပေမြင့်၏။

မလိခမြစ်ကို ခန္တီးဘာသာဖြင့် နမ်ကီဟုခေါ်၏။ အဓိပ္ပါယ်မှာ မြစ် ၄ သွယ်ဖြစ်လေသည်။ မလိခမြစ်၏ လက်တက်ကြီး ၄ သွယ်ကို အကြောင်းပြု၍ ခေါ်ခြင်းဖြစ်ပေသည်။ ခန္တီးရှမ်းမြေပြန့်၏ တောင်ဖက်အစပ်တွင်ဖြတ်စီးသော လက်တက်မှာပင်လယ်ပြင်ထက် ပေ ၁၅၀၀ မှ ၁၇၀၀ ထိမြင့်သည်။ တောင်မှမြောက်သို့ ကုန်းပြင်မြင့် ၃ ခုကိုဆက်ထားဘိသကဲ့သို့ တဖြည်းဖြည်းမြင့်သွားပေသည်။

ထိုဒေသ၏ရာသီဥတုမှာ ဆောင်းရာသီအအေးလွန်လှ၏။ ဇန္နဝါရီလလောက်မှ ဧပြီလလောက်အထိ မိုးတစိမ့်စိမ့်ရွာကာ အေးချမ်းစွတ်စိုလှပေသည်။ မိုးရာသီ၌ မိုးသည်းထန်လှ၏။ အောက်တိုဘာလမှ ဒီဇင်ဘာလကုန်လောက်ထိ ရာသီဥတုမှာ မိုးကင်း၍သာယာပေသည်။

၁၉၂၁ ခုနှစ် သန်ကောင်စာရင်းအရ ထိုမြေပြန့်မှာ စတုရန်းမိုင်ပေါင်း ၂၀၀ (ဧက ၁၃၀,၀၀၀ နီးပါး) မျှကျယ်ပြန့်၍ လူဦးရေ ၇၆၂၃ ယောက်သာရှိကြောင်းသိရသည်။ မြေပြန့်တွင် နေထိုင်သူတို့မှာ ခန္တီးရှမ်းများဖြစ်ကြသည်။ အနောက်နှင့်မြောက်ဖက် တောင်တန်းများပေါ်တွင် မစ်ရှမီလူမျိုးများရှိ၍ ကျန်ကုန်းမြင့်များပေါ်၌ ကချင်လူမျိုးများနေကြသည်။

ခန္တီးရှမ်းတို့အပြင် ခန္တီးလုံ၌နေထိုင်သော အခြားလူမျိုးများမှာ ကန်၊ လန်ခိုင်၊ နွတ်ကျို၊ ယိုးယားနှင့်တောဟောင်းတို့ဖြစ်၏။ ထိုလူမျိုးများမှာ ခန္တီးစကားကိုသာမက ခန္တီးဝတ်စားဆင်ယင်မှုကိုလည်း လုံးဝလက်ခံလာကြပြီဖြစ်၍ ခန္တီးတို့နှင့်ခွဲခြားသိသာရန် ခဲယဉ်းလေသည်။ အနည်းငယ်ခွဲခြားသိနိုင်သော အတူနေအခြားလူမျိုးများမှာ နုတ်မွန်၊ အင်တစ်၊ နှင့်ပန်စုတို့ဖြစ်၏။ ယင်းအမည်များမှာ ခန္တီးတို့ကခေါ်ဝေါ်သောအမည်များဖြစ်သည်။ ထိုလူမျိုးအားလုံးကိုမူ ခန္တီးတို့က လုတ်ခ ဟုခြုံ၍ခေါ်ကြသည်။ ခန္တီးတို့၏ဒေသအစပ် အရှေ့နှင့်မြောက်ဖက်တို့တွင် နုန်များ၊ ယောယင်ခေါ်လီစုများရှိကြသေး၏။

ရှေးမြန်မာဘုရင်တို့ တန်ခိုးကြီးစဉ်အခါက ခန္တီးလုံမှာ မြန်မာမင်းတို့၏ အုပ်ချုပ်မှုသြဇာခံဖြစ်ကြ၏။ ခန္တီးလုံဒေသဖြစ်သော ပူတာအိုခရိုင်သည် သီးသန့်ခရိုင်အဖြစ်တည်ရှိခဲ့စဉ်က ခရိုင်ဝန်ဖြစ်သော မစ္စတာ ဂျေ၊ တီ၊ အို၊ ဗားနတ်ရေးသားသည့် ခန္တီးလုံဆောင်းပါးတွင် ခန္တီးလုံသည် မြန်မာဘုရင်တို့၏သြဇာခံဖြစ်ခဲ့ကြောင်း၊ ကုန်းဘောင်ခေတ် ဘိုးတော်ဘုရားလက်ထက်တွင် မကျိုးမန္တရှိသောကြောင့် မြန်မာစစ်တပ်များ စေလွှတ်ခဲ့ရကြောင်း၊ ပုဂံမင်းလက်ထက်တွင် အခွန်ပဏ္ဏာများမဆက်သဘဲ ပျက်ကွက်သောကြောင့် စော်ဘွား ၇ ဦးပါဝင်သောတပ်များကို စေလွှတ်ခဲ့ကြောင်း၊ ထိုစော်ဘွား ၇ ဦး၏အမည်ဖြင့် စော်ဘွားနယ် ၇ နယ်ရှိကြောင်းရေးသားထားလေသည်။ ခန္တီးလုံရှိ စော်ဘွားနယ် ၇ နယ်မှာ လုပ်ခွန်၊ လုန်ကြိမ်၊ မန်နု၊ မောစေ၊ မောစေကွန်၊ လန်ဒါအို၊ လန်နုတို့ဖြစ်ကြသည်။

ခန္တီးလုံနယ်သည် ပြည်မနှင့်သော်၎င်း၊ ပြည်ပနိုင်ငံများနှင့်သော်၎င်း အဆက်အသွယ်အလွန်နည်းခဲ့လေသည်။ နိုင်ငံခြားသားများအနက် ထိုဒေသသို့ရောက်ခဲ့သူများမှာ ၁၈၈၄ ခုနှစ်က ဗိုလ်ချုပ်ဝုဒသော့နှင့်ဗိုလ်မှူးကြီး မက္ကရီကာ တို့ဖြစ်ကြသည်။ ၁၈၈၅ ခုနှစ်တွင် မစ္စတာ အယ်ရော် ဂရေး၊ ၁၈၉၅ ခုနှစ်တွင် အော်လီယန်းမင်းသား ဟင်နရီတို့ဖြစ်ကြသည်။ အထက်မြန်မာနိုင်ငံကို ဗြိတိသျှတို့သိမ်းပိုက်ပြီးသည့်နောက် နှစ်အတန်ကြာမှ ဗြိတိသျှအစိုးရသည် ခန္တီးလုံနယ် အုပ်ချုပ်ရေးကိစ္စကို အရေးယူဆောင်ရွက်လာကြသည်။ ဧရာဝတီမြစ်နှင့် သံလွင်မြစ်စပ်ကြား တောင်ရိုးမှ မေခမြစ်အတွင်းသို့ စီးဆင်းသည့်လက်တက်များ ဖြတ်သန်း

စီးဆင်းရာဒေသကို ဗြိတိသျှပိုင်နယ်ဟု ကျေညာခဲ့လေသည်။ ၁၉၁၂ ခုနှစ်တွင် မစ္စတာ ဂျေ၊ တီ၊ အို၊ ဗားနတ် ခေါင်းဆောင်သော လက်နက်ကိုင်တပ်များ ပါဝင်သည့်အဖွဲ့ ၂ ဖွဲ့သည် ခန္တီးလုံဒေသသို့ ချီတက်သွားရောက်ခဲ့၏။ တဖွဲ့မှာ မလိခမြစ်တလျှောက်နှင့် အခြားတဖွဲ့မှာ မေခမြစ်ဝှမ်းတလျှောက် အကျန်ဒေသသို့သွားခဲ့၏။ အကျန်ဒေသတွင် တရုပ်မြေတိုင်း အဖွဲ့တဖွဲ့ကိုတွေ့ရှိရသဖြင့် တိုက်ခိုက်နှင်ထုတ်ခဲ့ရလေသည်။

ဗြိတိသျှအစိုးရသည် ၁၉၁၄ ခုနှစ်တွင် ထိုဒေသ၌အခြေစိုက်ကာ ခိုင်မြဲသောအုပ်ချုပ်မှုကို စတင်ခဲ့လေသည်။ ရှေးဦးစွာ ခရိုင်ဝန်အဖြစ် ခန့်အပ်ခြင်းခံရသူမှာ ခန္တီးလုံဒေသအတွက် စွန့်စားစွာဆောင်ရွက်ခဲ့သော မစ္စတာ ဟက်ဇ ဖြစ်လေသည်။ ခရိုင်ဝန်ရုံး စိုက်ခဲ့ရာမြို့မှာ ပူတာအိုမြို့ဖြစ်၍ မြစ်ကြီးနားနှင့် ၂၁၉ မိုင်ကွာဝေးသည်။ ခရိုင်ဝန်အမည်ကို အစွဲပြု၍ ပူတာအိုမြို့ကို ၁၉၁၇ ခုနှစ်တွင် ဖို့ဟက်ဇဟုအမည်ပြောင်းခဲ့သည်။ ဤကဲ့သို့ အခြေတစိုက်အုပ်ချုပ်မိသည့်နောက် ပြင်ပနှောင့်ယှက်မှုများလည်း အေးငြိမ်းသွားသည်။ နယ်အတွင်း၌လည်း စာသင်ကျောင်း၊ လူနေအဆောက်အအုံများ၊ တန်တားများ၊ လမ်းများ၊ ကာကွယ်ရေးတပ်များ၊ရုံးအဆောက်အအုံများ ပေါ်ပေါက်လာကာ နယ်မှာ ဖွံ့ဖြိုးတိုးတက်လာသည်။ နယ်အေးချမ်းသာယာသည်ဖြစ်သည်တကြောင်း၊ အုပ်ချုပ်ရသည့်စရိတ်စက အကုန်အကျများသောကြောင့်တကြောင်း မြန်မာပြည် ဗြိတိသျှအစိုးရတို့သည် ၁၉၂၇ ခုနှစ်တွင် ပူတာအိုနယ်ကို ခရိုင်အဖြစ်မှ ရုပ်သိမ်းကာ မြစ်ကြီးနားခရိုင်တွင်းသို့သိမ်းသွင်း၍ နယ်ပိုင်တဦးကို အုပ်ချုပ်စေခဲ့လေသည်။

ခန္တီးလုံနယ်၏ပတ်ဝန်းကျင်တွင် တောတောင်ထူထပ်လှ၍ နယ်ရှိလူတို့မှာ စားနပ်ရိက္ခာအတွက် ခန္တီးလုံမြေပြန့်ကို အားထားနေကြရ၏။ ထို့မှတပါး တရုပ်နိုင်ငံမှ တိဗက်သို့သွားရာလမ်းခရီးတွင် ခန္တီးလုံသည် စားနပ်ရိက္ခာနှင့်ပြည့်စုံသည့် ခရီးတထောက်နားရာ အရိပ်အာဝါသ သဖွယ်လည်းဖြစ်ပေသည်။ ခန္တီးလုံမှ မြစ်ကြီးနားသို့သွားရာ ကုန်းလမ်းနှင့် အာသံပြည်နယ်၊ ဗြဟ္မပုတ္တရမြစ်ဝှမ်း၊ တိဗက်နိုင်ငံနှင့်တရုပ်ပြည်တို့သို့သွားရာ တောင်ကြားလမ်းများရှိသည်။ နယ်အတွင်း လမ်းပန်းဆက်သွယ်ရေးမှာ မလွယ်ကူလှချေ။ ပူတာအိုမှ မြစ်ကြီးနားသို့သွားသော လမ်းတခုသာလျှင်မယ်မယ်ရရရှိသည်။ ယခုအခါ၌ ပြည်တွင်းလေကြောင်း သယ်ယူပို့ဆောင်ရေးဌာန၏အစီအစဉ်ဖြင့် ပူတာအိုတွင် လေဆိပ်တခုထားရှိကာ လေယာဉ်ဆက်သွယ်မှုများ ရှိနေပေပြီ။ ယခုအခါ ပူတာအိုမြို့၌ ခန္တီးရှမ်းများအပြင် မြန်မာ၊ ကချင်၊ တရုပ်နှင့် အိန္ဒိယနိုင်ငံသားများလည်း နေထိုင်ကြသည်ကိုတွေ့ရပေသည်။

ခန္တီးလုံနယ်သားတို့မှာ မြေပြန့်၌လယ်ယာစိုက်ပျိုးခြင်းဖြင့် အသက်မွေးကြ၏။ ထိုနယ်မှထွက်ရှိသော စားနပ်ရိက္ခာတို့မှာ နယ်၏လူဦးရေ၏ ၁၀ ဆမျှအတွက်ပင်လုံလောက်သည်ဟုသိရ၏။ ထို့မှတပါး ခန္တီးလုံဒေသတွင် ခဲကိုလည်းတွေ့ရှိလေသည်။ ခန္တီးရှမ်းတို့မှာ ယခင်က ကြမ်းတမ်းခက်ထန်၍ စစ်မှုရေးရာကိုဝါသနာပါခဲ့ကြသော်လည်း ယခုအခါတွင် အေးချမ်းစွာ နေထိုင်သူများဖြစ်ကြသည်။

ဗုဒ္ဓသာသနာတွင် အထူးလေးနက်စွာ သက်ဝင်ယုံကြည်သူများဖြစ်သည့်အတိုင်း ခန္တီးလုံတွင် ဘုန်းကြီးကျောင်း၊ စေတီပုထိုးများကို အနှံ့အပြားတွေ့ရှိရသည်။ ပူတာအိုမြောက်ဖက် တောနက်အတွင်း၌ပင် ရှေးကတည်ထားခဲ့သော ဘုရားပျက်၊ ကျောင်းအိုများကိုတွေ့ရှိနိုင်သေးသည်။ ထူးခြားချက်တရပ်မှာ ဘုရားစေတီ၏မုခ် ၄ ဖက်အနက် ၃ ဖက်တွင်ခြင်္သေ့ရုပ် ၁ ရုပ်နှင့် လူရုပ် ၁ ရုပ်စီရှိ၏။ အခြားတဖက်၌သော်ကား မင်းသားရုပ် ၂ ရုပ်ကို ထားရှိသည်၊ ထိုမင်းသားရုပ် ၂ ရုပ်ထားသောမုခ်မှာ တောင်ဖက်မုခ်ဖြစ်၏။ ထိုတောင်ဖက်မုခ်၌ မင်းသားရုပ်ထားရှိခြင်းမှာ ခန္တီးရှမ်းတို့သည် မြန်မာနိုင်ငံတော်၏ ကျေးဇူးသစ္စာတော်စောင့်သိခြင်းရှိသည်ကိုဖေါ်ပြလို၍ဖြစ်သည်။

ခန္တီးရှမ်းတို့ အိမ်ဆောက်ရာတွင်လည်း အားလုံးတောင်ဖက်မျက်နှာမူ၍ ဆောက်လုပ်ကြသည်။ ဤသို့ဆောက်လုပ်ခြင်းအကြောင်းရင်းမှာလည်း မြန်မာဘုရင်တို့၏ သြဇာခံဖြစ်ခဲ့ကြောင်းနှင့် မြန်မာဘုရင်တို့၏ ကျေးဇူးသစ္စာကိုစောင့်သိခြင်း အထိမ်းအမှတ်ကိုပြခြင်းဖြစ်ပေသည်။

၁၉၂၇ ခုနှစ်တွင် ပူတာအိုမြို့၌ တိုင်းမင်းကြီး၏ဒါဗာပွဲကို တက်ရောက်ကြကုန်သော ခန္တီးလုံစော်ဘွားများအနက် အသက်အရွယ်ကြီးရင့်လှသော စော်ဘွားကြီးအချို့မှာ မြန်မာဘုရင်က စော်ဘွားအဖြစ် ခန့်အပ်ကြောင်း အထိမ်းအမှတ်ဖြစ်သည့် ရွှေနဖူးစည်းကြိုးများကို နဖူးတွင်စည်းလျက် အဆောင်အယောင်ဖြင့် တက်ရောက်ကြောင်း ကိုယ်တွေ့မျက်မြင်ဖြစ်သူ မစ္စတာကင်ဒန်ဝတ်က ဖေါ်ပြထားသည်ကိုတွေ့ရပေသည်။ ဦးဘရှင်။

ခန္တာရကဏ်စွဲဗေဒ။ ။ဖိုင်းဩလိုဂျီ — ရှု။

**ခန်းပတ်မင်းကြီး** (မြန်မာ ၁၁၇၂–၁၂၅၇)။ ။ ‘ပုခန်းမှာလေ၊ လောင်းရှည်မှာဓါး၊ ခန်းပတ်မှာနား၊ ရေနံတတိုင်ချင်းရယ်နှင့် လင်းပါ့မလား’ ။ ဆိုသော ဗန်းမော်ဆရာတော်ချီးသောစာတိုကလေးကို မြန်မာ့သမိုင်းလိုက်စားသူတိုင်း ကြားဘူးကြပေလိမ့်မည်။ ဤစာပိုဒ်ကလေးမှာ မင်းတုန်းမင်းတရားကြီးလက်ထက်တွင် ထင်ပေါ်ကျော်စောကြသော လွှတ်တော်ဝန်ကြီး လေးပါးတို့၏အကြောင်းကို ပြက်ရယ်



သီပေါမင်းလက်ထက်ခန်းပတ်မင်းကြီးဝတ်ဆင်ခွင့်ရသောမင်းခမ်းမင်းနားဝတ်ရုံတော်များ

ပြုကာ ချီးထားသောစာပင်ဖြစ်သည်။ ပုခန်းဝန်ကြီးမှာ လေနာရောဂါရှိကြောင်း၊ လောင်းရှည်ဝန်ကြီးမှာ ၁၂၂၈ ခုနှစ် မြင်ကွန်း နှင့်မြင်း ခုံတိုင်မင်း သားတို့ ပုန်ကန်စဉ်က ဓါးထိဘူးကြောင်း၊ ခန်းပတ်မင်းကြီးမှာ နားလေးကြောင်း၊ ထိုကြောင့် ရေနံချောင်းမင်းကြီး တပါးတည်းနှင့် အမှုတော်ကုန်စင်အောင် ထမ်းဆောင်နိုင်ပါ့မည်လားဟု စာချီးထားခြင်းဖြစ်ပေသည်။

ထိုဝန်ကြီး ၄ ပါးအနက် ခန်းပတ်ဝန်ကြီးမှာ သာယာဝတီမင်း၊ ပုဂံမင်း၊ မင်းတုန်းမင်းနှင့် သီပေါမင်းလက်ထက်အထိ မင်း ၄ ဆက်တိုင်တိုင် အမှုတော်ထမ်းခဲ့သော ပုဂ္ဂိုလ်ကြီးဖြစ်သည်။ ဝန်ကြီးမှာ မြန်မာစာပေအစီအကုံး အနှုန်းအဖွဲ့တို့တွင် ကောင်းမွန်သည်သာမက အင်္ဂလိပ်စာ ပြင်သစ်စာတို့ကိုလည်း တတ်မြောက်ကျွမ်းကျင်သည်။ အထူးသဖြင့် ထိုခေတ်အခါက အင်္ဂလိပ်စကား အပြောကောင်းသူများအထဲတွင် တဦးအပါအဝင်ဖြစ်ပေသည်။ ထို့အပြင် ထိုခေတ်အခါကကျွမ်းကျင်မှုမရှိသေးသောငွေရေးကြေးရေး စာရင်းအင်းများကိုလည်း နိုင်နင်းသောပုဂ္ဂိုလ်ဟု ထင်ရှားခဲ့သည်။

ဖခင်မှာ ဘကြီးတော်ဘုရားလက်ထက် စစ်သူကြီးမဟာဗန္ဓုလနှင့်အတူ အင်္ဂလိပ်မြန်မာပဌမစစ်ပွဲကို ယှဉ်နွဲတိုက်



ပုရပိုက်တဆူတွင်တွေ့ရသည့် ခန်းပတ်မင်းကြီးသုံးစွဲခွင့်ရသောအဆောင်အယောင်များ

ခိုက်ခဲ့သူ အတွင်းဝန်မင်း ဦးရန်ငူးဖြစ်သည်။ ဦးရန်ငူးမှာ သံလျင်တိုက်ပွဲတွင်ကျဆုံးခဲ့သည်။

ခန်းပတ်မင်းကြီးကို သက္ကရာဇ် ၁၁၈၂ ခုနှစ်တွင် အင်းဝမြို့၌ဖွားမြင်သည်။ ငယ်မည်မှာ ဦးရွှေမောင်ဖြစ်ပေသည်။ သင်ရိုးသင်တန်း ကျမ်း ဂန်များကို သင်ကြားတတ်မြောက်ခဲ့ပြီးနောက် သာယာဝတီမင်းထံတွင် အမှုတော်ထမ်းရွက်သည်။ ၁၂၀၃ ခုနှစ်တွင် သာယာဝတီမင်းသည် ရန်ကုန်မြို့သို့ စုန်တော်မူလာပြီးနောက် ရွှေတိဂုံစေတီတော်တွင် ရွှေသင်္ကန်းကပ်လှူ၍ ခေါင်းလောင်းတော်ကြီး သွန်းလုပ်လှူဒါန်းတော်မူစဉ်၊ ဦးရွှေမောင်မှာ လွှတ်တော်စာရေးကြီးအဖြစ်ဖြင့် လိုက်ပါအမှုထမ်းရသည်။ သားတော်ပုဂံမင်းလက်ထက်တွင် စာရေးကြီးရာထူးမှ လျှောကျလျက်ရှိသည်။ ညီတော်မင်းတုန်းမင်းတရားကြီး လက်ထက်တွင် ရတနာသိင်္ဃမြို့တွင် ဝန်ထောက်စိုးလေးဆယ်၊ ဒိုင်းဝန်ရာထူးဖြင့် ခြီးမြှင့်ခန့်ထားခြင်းခံရသည်။ ထိုနောက် ခန်းပတ်မြို့စားအတွင်းဝန်၊ ဝင်းဒိုင်းခုနစ်စုဆိုင်ရာ ဝန်ကြီးခန့်ထားပြန်သည်။ မင်းတုန်းမင်းတရားကြီး မကျန်းမမာရှိသည့်အခိုက် ဆင်ဖြူမရှင် မိဖုရားခေါင်ကြီးနှင့် တိုင်ပင်၍ သီပေါမင်းသားအား အိမ်ရှေ့မင်းအရာ တင်မြှောက်ကြသော မှူးတော်မတ်တော်ကြီးများအထဲတွင် ခန်းပတ်မင်းကြီးလည်း တဦးအပါအဝင်ဖြစ်သည်။

သီပေါမင်းလက်ထက်တော်တွင် သတိုးမင်းကြီး သီရိမဟာမင်းခေါင် ဥဇနာဘွဲ့ဖြင့် အမှုတော်ကိုဆက်လက်ထမ်းရွက်ခဲ့သည်။ သို့ရာတွင် မင်းကြီးမှာ ကြာရှည်စွာအမှုတော်မထမ်းဆောင်ရသေးမီ၊ ရာထူးမှနုတ်ပယ်ခြင်းခံရသည်။ ရာထူးမှနုတ်ပယ်ခြင်းခံရသည့် အကြောင်းရင်းကား သီပေါမင်းနှင့် ဒိုင်းခင်ခင်တို့ ချစ်ကြိုက်ရည်ငံရှိနေကြောင်းကို မိဖုရားကြီးသိသောအခါ ဒိုင်းခင်ခင်နှင့်တကွ မိဖုရားဆွေမျိုးအားလုံးတို့မှာ သုတ်သင်ပစ်ခြင်းခံရသည်။ ခန်းပတ်မင်းကြီးမှာ ဒိုင်းဝန်မင်း၏ ဖခင်ဖြစ်၍ ဒိုင်းခင်ခင်၏အဖိုးဖြစ်သောကြောင့် ကံကောင်းထောက်မသဖြင့် ကွပ်မျက်ခြင်းမခံရဘဲ၊ ရာထူးမှ နုတ်ပယ်ခြင်းသာခံရလေသည်။ မြန်မာနိုင်ငံကို ဗြိတိသျှအစိုးရတို့ သိမ်းပိုက်ပြီးသည့်နောက် မင်းကြီးမှာ ရိက္ခာငွေတလလျှင် ၁၀၀ိ (တရာကျပ်) မျှထောက်ပံ့ခြင်းရရှိခဲ့ပေသည်။ ၁၂၅၈ ခုနှစ်၊ အသက် ၇၆ နှစ်တွင် အနိစ္စရောက်လေသည်။

**ခန်းဝင်ပစ္စည်း**။ ။မြန်မာဗုဒ္ဓအယူဝါဒီတို့တွင် သတို့သားနှင့်သတို့သမီးတို့ လက်ထပ်ထိမ်းမြားပေးသည့်အခါ သူတို့အဖို့ အိမ်ထောင်သစ်တခု တည်ဆောက်နိုင်ရန်အတွက် နှစ်ဦးနှစ်ဖက်သောမိဖများက ပစ္စည်းဥစ္စာ၊ လယ်ယာမိုးမြေ၊ ရွှေငွေရတနာစသော လက်ဖွဲ့ပစ္စည်းများကို ဝိုင်းဝန်းပေးကမ်းလေ့ရှိကြသည်။ ထိုသို့ပေးကမ်းရရှိသော လက်ဆောင်ပဏ္ဏာများကို ဗုဒ္ဓဘာသာဓမ္မသတ်ကျမ်းဂန်များတွင် ခန်းဝင်ပစ္စည်းဟုခေါ်ဆိုသည်။ သို့ရာတွင် ယခုအခါ ခန်းဝင်ပစ္စည်း၏အဓိပ္ပါယ်မှာ ပိုမိုကျယ်ပြန့်လာကာ မိဖကပေးသော လက်ဖွဲ့ပစ္စည်းများသာမဟုတ်ဘဲ ဆွေမျိုးညာတိ၊ မိတ်သင်္ဂဟများက ပေးကမ်းချီးမြှင့်ကြသော လက်ဖွဲ့ပစ္စည်းများကိုပါ ခန်းဝင်ပစ္စည်းစာရင်းထဲတွင် ထည့်သွင်းသတ်မှတ်ထားလျက်ရှိသည်။

ခန်းဝင်ပစ္စည်းပေးခြင်းနှင့်စပ်လျဉ်း၍ မနုကျယ်ဓမ္မသတ်တွင် 'အကြင်သမီးကို ပေးစားသည့်ကာလ၊ အသွင်းဥစ္စာပဏ္ဏာ ပေးကောင်းသည်မတောင်း၊ သမီးနှင့်ယောကျ်ားငယ် သင့်နေပြီးမှ အသွင်းလက်ဆောင် ရကောင်းသေးသည်။ ယောကျ်ားငယ်မိဖ၊ ယောကျ်ားငယ်ကိုတောင်း

သော်မရရာချေ။ အဘယ်ကြောင့်နည်းဟူမူကား ရှေးမဆို ချေသောကြောင့်တည်း’ ဟူ၍ရင်း၊
‘အကြင်မိဖတို့သည် အသွင်းအများခံ၍ရရှိပြီးမှ အသွင်းရှင်နှင့်မပေးစားဘဲ၊ ကြွယ်ဝကုံထံရတတ်သောသူကို သမီးပေးချေမူ၊ ထိုယောကျ်ားငယ်က သွင်းသမျှကို သမီးငယ်မိဖက ထမ်းပိုးပေးစေ၊ အဘယ်ကြောင့်နည်းဟူမူကား စကားရွေ့ချေသောကြောင့်တည်း’ ဟူ၍ရင်း၊
ရေးသားပါရှိသည်။ အဥ္စသံခိပ် ဓမ္မသတ်လင်္ကာ၌လည်း ‘သမီးကျေးဇူး၊ ရွယ်လူးလုလင်၊ အတင်တင်က၊ ကြည်လင်ပေးကမ်း၊ လက်ဖက်ကွမ်းကို၊ လှမ်းစားပိုင်၏။ ဖြိုးခိုင်သွင်းနှံ၊ ခံပြီးမူကား၊ လွဲထိမ်းမြားက၊ သွင်းနှစ်ဆပြန်၊ သွင်းတိုင်းပြန်လစ်၊ ကာမပြစ်သာ၊ သုံးချက်မှာ၏’ ဟု ဖေါ်ပြထားလေသည်။

အမှန်စင်စစ် ဗုဒ္ဓအယူဝါဒီမြန်မာလူမျိုးတို့ လက်ထပ်ရေးတွင် အကြင်လင်မယားဖြစ်မြောက်ရန်တွက် အခမ်းအနားများကျင်းပခြင်း၊ ခန်းဝင်ပစ္စည်းများ ပေးခြင်းကို မပြုမနေရဟု သတ်မှတ်ထားခြင်းမရှိပေ။ ဗုဒ္ဓအယူဝါဒီမြန်မာလူမျိုးတို့အဖို့ လက်ထပ်ထိမ်းမြားခြင်းမှာ လူမှုရေးရာ သက်သက်မျှသာဖြစ်သဖြင့် ယောကျ်ားကလေးတဦးနှင့် မိန်းကလေးတဦး တို့သည် အကြင်လင်မယားအဖြစ် အတူတကွသဘောတူ ပေါင်းသင်းနေထိုင်ခြင်းသာ အဓိကဖြစ်သည်။ ထို့ကြောင့် လက်ထပ်ထိမ်းမြားရာ၌ ခန်းဝင်ပစ္စည်းပေးခြင်းသည် အဓိကအချက်မဟုတ်ချေ။ မိဖဆွေမျိုးများ၏ အခြေအနေအဆင့်အတန်းအလိုက် မိမိတို့သဘောအလျောက် ခြိမ့်မြင့်ထောက်ပံ့ခြင်းသာဖြစ်၏။ ယခုခေတ်တွင် ခန်းဝင်ပစ္စည်းအဖြစ်ဖြင့် မရွှေ့ မပြောင်းနိုင်သော ပစ္စည်းတစုံတရာကို ပေးကမ်းလိုလျှင် မှတ်ပုံတင်စာချုပ်များပြုလုပ်၍ ပေးကမ်းမှသာ တရားဝင်သော ခန်းဝင်ပစ္စည်းဖြစ်မြောက်နိုင်သည်။

အိမ်ထောင်ဦးတွင် ရရှိသောလက်ဖွဲ့ပစ္စည်းများအပြင် သတို့သား၌ဖြစ်စေ၊ သတို့သမီး၌ဖြစ်စေ၊ မိမိနှင့်အတူပါလာသော အမွေအနှစ်၊သို့မဟုတ် ကိုယ်ပိုင်ပစ္စည်းများကို ခန်းဝင်ပစ္စည်းအဖြစ် သို့ ပြောင်းလဲထည့်သွင်းလိုက ထည့်သွင်းနိုင်ပေသည်။ ဗုဒ္ဓဘာသာဓမ္မသတ်ကျမ်းအရ ခန်းဝင်ပစ္စည်းမှန်သမျှကို ဇနီးမောင်နှံနှစ်ဦးတို့ အခွင့်အရေးတူညီစွာ ပိုင်ဆိုင်ကြလေသည်။

အိမ်ထောင်ဦးတွင် ပစ္စည်းပေးကမ်းခြင်း ထုံးတမ်းစဉ်လာမှာ ကမ္ဘာအရပ်ရပ်တွင် ရှေးအခါကပင် ထွန်းကားပေါ်ပေါက်ခဲ့ကြောင်း အထောက်အထားများ တွေ့ရှိရသည်။ တရုပ်လူမျိုးနှင့် ဟိန္ဒူလူမျိုးတို့မှာ မိန်းကလေးဖက်မှ ခန်းဝင်ပစ္စည်းပေး၍ လက်ထပ်လေ့ရှိကြသည်။ မွတ်စလင်တို့၏ လက်ထပ်ရေးတွင်မူ ‘မဟာ’ ခေါ် ခန်းဝင်ပစ္စည်းပေးမှုမှာ အဓိကအချက်ဖြစ်သည်။ ခန်းဝင်ပစ္စည်းကို လက်မထပ်မီဖြစ်စေ၊ လက်ထပ်သည့်အချိန်တွင်ဖြစ်စေ၊ လက်ထပ်ပြီးနောက်မှဖြစ်စေ၊ သတို့သားက သတို့သမီးသို့ပေးရသည်။ ထိုမဟာပစ္စည်းမှာ ဇနီးဖြစ်သူ၏ တဦးတည်းပိုင်ပစ္စည်းဖြစ်တော့သည်။ ခရစ်ယန်တို့တွင် သတို့သားက မိမိလက်ထပ်မည့်မိန်းကလေးသို့ လက်ဆောင်ပဏ္ဏာများ ပေးကမ်းလေ့ရှိသော်လည်း ခန်းဝင်ပစ္စည်းကိုမူ မိန်းကလေးဖက်က ပေးလေ့ရှိသည်။ သတို့သားနှင့် သတို့သမီးတို့သည် လင်ခန်းမယားခန်းအဖြစ် အတူနေသည့် အချိန်အတွင်းများတွင် မိန်းကလေးဖက်မှပါလာသော ခန်းဝင်ပစ္စည်းများကို လင်ယောကျ်ားကသာ ထိန်းသိမ်းစောင့်ရှောက်ရလေသည်။


ခုန်ညင်းဒိုးထိုးကစားနေသောမြန်မာသူငယ်ကလေးတဦး

မြန်မာနိုင်ငံအတွင်းရှိ တိုင်းရင်းသားများဖြစ်ကြသော ရှမ်း၊ ကရင်၊ ဂျင်းဖေါ၊ ချင်း၊ လူမျိုးများတွင်မူ ယောကျ်ားကလေးဖက်မှ ခန်းဝင်ပစ္စည်းပေးကမ်းရသောစံနစ်များရှိလေသည်။

ရှေးကမြန်မာနိုင်ငံတွင် သတို့သားမိဖက သတို့သမီးမိဖအားရင်း၊ ရခိုင်တိုင်းတွင် သမီးရှင်ကသားရှင်အားရင်း၊ ခန်းဝင်ပစ္စည်းတင်၍ တောင်းရမ်းထိမ်းမြားပေးခြင်း စံနစ်များ ထွန်းကားခဲ့သော်လည်း ယခုအခါ ထိုစံနစ်များမရှိသလောက် ပပျောက်လာချေပြီ။

**ခုန်ညင်းပင်။** ။ခုန်ညင်းပင်ကို ရုက္ခဗေဒအလိုအားဖြင့် အင်တာဒါစကင်ဒမ်ဟုခေါ်၏။ ထိုအပင်သည် အပူပိုင်းဇုန်တွင်ပေါက်သော နွယ်ပင်တမျိုးဖြစ်ပြီး မြင့်မားသောအပင်ကြီးများကို နွယ်၍ပေါက်တတ်သည်။ အရှည် ၂ ပေမှ ၃ ပေ



အချဉ်တည်၍စားရသောခံတက်ရွက်နှင့်အပွင့်များ

အထိရှိသော ပဲသီးကဲ့သို့ သီးတောင့်ကြီးများကိုသီး၏။ သီးတောင့်များအတွင်း၌ အစေ့ကြီးများရှိသည်။ အစေ့ပေါင်း ၁၀ စေ့မှ ၁၂ စေ့အထိရှိ၏။ ထိုအတောင့်ကြီးများသည် တဖြည်းဖြည်းရင့်၍ ခြောက်လာသောအခါ မြေသို့ ကြွေကျ၏။ ထိုအတောင့်ကြီးများကိုထုခွဲ၍ အထဲမှ အစေ့များကိုထုတ် ယူကြသည်။ အစေ့၏အချင်းသည် ၁ မှ ၂½ လက်မခန့် ရှိ၍ လက်မဝက်ခန့်ထူသည်။ ခုန်ညင်းစေ့ကို ဒိုးထိုးကစားလေ့ရှိကြသဖြင့် ခုန်ညင်းဒိုးဟု ခေါ်လေ့ရှိသည်။ ခုန်ညင်းစေ့တွင် အညိုပုပ်ရောင်ရှိသော အခွံမာရှိ၍ အတွင်း၌ ဆင်စွယ်ရောင်ရှိသောအဆန်ရှိသည်။

အများအားဖြင့် ခုန်ညင်းဒိုးများကို ဘယဆေးဆိုင်များတွင် ရောင်းလေ့ရှိသည်။ မြန်မာတို့သည် ခုန်ညင်းကို လိမ်းဆေးအဖြစ်ဖြင့်၎င်း၊ သောက်ဆေးအဖြစ်ဖြင့်၎င်း၊ အသုံးပြုကြ၏။ အနာများပြည်ပေါက်စေလိုလျှင် ခုန် ညင်း ကို ကျောက် ပျဉ် တွင် သွေး၍ လိမ်းပေးလေ့ရှိ၏။ တခါတရံ အဖျားဖြတ်ဆေးအဖြစ်လည်း အသုံးပြုကြသည်။ ခုန်ညင်းဆန်ကိုပါးပါးလှီး၍ ထန်းလျက်နှင့်လည်း ယိုထိုးစားလေ့ရှိကြ၏။ ထိုခုန်ညင်းယိုကို ဒိုးယိုဟုလည်းခေါ်သည်။ အရသာမှာ ခါးသက်သက် နေ၏။ မြန်မာ ဆေး ကျမ်း အရ ဒိုး ယိုသည် မီးယပ်ရောဂါအတွက်ကောင်း သည်ဟုဆိုသည်။

**ခံတက်ပင်။** ။ခံတက်ပင်ကို ကုန်းခံတက်ပင်ဟူ၍ လည်း ခေါ်ကြသည်။ မြန်မာနိုင်ငံတွင် ခံတက်ပင်များကို မြေပြင်အမြင့် ပေပေါင်း ၃၅၀၀ မြင့်သည့်နေရာအထိ တွေ့ရှိနိုင်သည်။ ခံတက်ပင်သည် အမြင့်မှာပေ ၃၀ ခန့်အထိရှိတတ်၍ ပင်စည်လုံးပတ်မှာ ၃ ပေမှ ၅ ပေအထိရှိတတ်သောပင်လတ်မျိုးဖြစ်သည်။ ယင်းကို များသောအားဖြင့် စိုက်ပျိုးယူတတ်ကြသည်။ ခံတက်ပင်သည် နွေရာသီတွင်အရွက်ကြွေ၍ ဆင်စွယ်ရောင် အပွင့်များ ပွင့်သည်။ အသီး မှာ ဝမ်း ဘဲဥအကြီးစားခန့်ရှိ၍ အခွံတွင်အပြောက်အပိမ့်များရှိသည်။

ခံတက်သား၏အရောင်မှာ ဝါကြန့်ကြန့်ဖြစ်၍ အသင့်အတင့်မာကာ အသားညီသည်။ ထိုအသားကို အိမ်အသုံးအဆောင်များ၊ ဖုံများနှင့် ခေါင်းဖြီးရန်ဘီးများပြုလုပ်ကြသည်။ သေတ္တာများလည်းပြုလုပ်နိုင်သည်။

ခံတက်ရွက်နုများကို အချဉ်တည်ကာ တို့စရာအဖြစ်၊လက်သုတ်အဖြစ် စားလေ့ရှိကြသည်။ ခံတက်ပင်၏ ဆေးဖက်ဝင်ပုံကား၊ အခေါက်ကို အနာရောဂါ သက်သာစေသောဆေးအဖြစ်ဖြင့်၎င်း၊ အရွက်နှင့်အမြစ်၏အခေါက်တို့ကိုအရေပေါ်၌ နဂိုရောင်ဖြစ်လာအောင် အုံပေးလိမ်းပေးသောဆေးအဖြစ်ဖြင့်၎င်း၊ အသုံးပြုနိုင်ပေသည်။

ရေခံတက် ပင်သည်လည်း ခံတက် မျိုးဝင် အပင် ပင်ဖြစ်သည်။ သို့သော်ရေခံတက်ပင်သည် ချုံယောင်၊ ပင်ယောင်အပင်ငယ်ဖြစ်၍၊ ယင်းတို့ကို မြန်မာနိုင်ငံအောက်ပိုင်းတွင် တွေ့ရလေသည်။



ခုန်ညင်းတောင့်နှင့်ခုန်ညင်းဆန်များ

**ခံပင်။** ။ပန်းစပယ်၊ နန်းလယ်မပေါ် ခိုက်ဟာမို့၊ အလိုက်တော်တန်သင့်ရုံပ၊ ခံပွင့်ကိုကုံး။ ။နန်းရဝေ၊ မန်းမြေစပယ်လှိုင်တော့၊ ခံပန်းခိုင်ယာယီရွှေတယ်၊ တောလေ့ရှာသုံး။

ခံပင်သည် စီးပွားရေးသဘောအရ တန်ဖိုးများစွာမရှိချေ။ သို့သော်မြန်မာစာပေ၌ ခံပွင့်ကိုစပယ်ပွင့်မရှိခိုက် အစားသုံး

ခဲ့ကြောင်း အထက်တွင်စပ်ဆိုသည့် ကဗျာတပုဒ်ကြောင့် ခံပွင့်သည် ထင်ရှားခဲ့သည်။ လတ်လတ်ဖြစ်စေ ဆားစိမ်၍ ဖြစ်စေ ငါးပိနှင့်စားရသော ခံသီးအစိမ်းများကိုလည်း လူသိများကြပေသည်။

ခံပင်သည် ချုံပင်ကြီးမျိုး သို့မဟုတ် အဖုအထစ်များသော သစ်ပင်ငယ်တမျိုးဖြစ်သည်။ အဆင့်ဆင့်နှစ်ခွစီ ဖြာထွက်တတ်သော အကိုင်းအခက်များရှိသည်။ ခွဆုံများ၌ဖြစ်စေ အဖုအထစ်များ၌ဖြစ်စေ ၁ လက်မ ၂ လက်မ ရှည်သည့် ဆူးများပေါက်နေသည်။ ဘဲဥပုံအရွက်ရှိ၍၊ အပွင့်မှာအဖြူ သို့မဟုတ် ပန်းရောင်ဖျော့ဖျော့ဖြစ်သည်။ အသီးမှာ ၁ လက်မခန့်ရှိ၍ အနီရောင်ဖြစ်လေသည်။

အထူးသဖြင့် မြန်မာနိုင်ငံအထက်ပိုင်းရှိ ဥယျာဉ်များတွင်ခံပင်ကို အတွေ့ရများလေသည်။ သို့သော်၊ မြန်မာနိုင်ငံအောက်ပိုင်း၌လည်း စိုက်ပျိုးနိုင်သည်။ မျိုးပွားလိုသော်အစေ့မှမျိုးပွားရသည်။

ပိုးမွေးမြူသော ပိုးစာပင်အစား အသုံးပြုနိုင်သည့် အခြားအပင်များတွင် ဤခံပင်လည်း ပါဝင်ကြောင်း သိရသည်။

ခံပင်မျိုးတွင် ခံပင် သို့မဟုတ် ခံစပ်ပင် ဟူသောအမည်နှင့်မျိုးကွဲတမျိုးရှိသေးသည်။ သို့သော် ခံစပ်ပင်သည် အသီးမည်းသီးခြင်း၊ အရွက်သေး၍ပါးခြင်း၊ ဆူးများသေးငယ်ခြင်းတို့မှလွဲ၍၊ မူလခံပင်နှင့် ဘာမျှမခြားချေ။ ခံစပ်ပင်၏အရွက်နှင့်အခေါက်များကိုမူ၊ သားရေနယ်ရာတွင် အခြားပစ္စည်းများနှင့်ဖက်စပ်၍ အသုံးပြုနိုင်ကြောင်းသိရသေည်။

**ခံဝန်ချုပ်**။ ။ခံဝန်ချုပ်ဆိုသည်မှာ ငွေကြေးကိစ္စနှင့်စပ်လျဉ်းသော ကတိတခုခုကို ဝန်ခံသက်သေပြုသော စာချုပ်စာတမ်းဖြစ်၍ အင်္ဂလိပ်ဘာသာအားဖြင့် ဗွန်း ဟုခေါ်သည်။ ဗွန်း၏အဓိပ္ပါယ်မှာ ချည်ရန်၊ တုပ်ရန်ဖြစ်သည်။ အစိုးရ သို့မဟုတ် ကော်ပိုရေးရှင်းအဖွဲ့တခုခုက ငွေလိုသဖြင့် လူထုထံမှငွေချေးသောအခါ ငွေကိုသတ်မှတ်ထားသောနေ့ရက်တွင် အတိုးနှင့်တကွ ပြန်လည်ပေးဆပ်ပါမည်ဟူ၍ ကတိပြုစာရွက်စာတမ်းကို ထုတ်ပေးသည်။ ထိုစာရွက်စာတမ်းသည် ငွေချေးယူသူကို တုပ်နှောင်ထားသည့် စာချုပ်သဖွယ်ဖြစ်ပေသည်။

ငွေကိုင်စာရေးကဲ့သို့ ငွေကြေးလက်ခံထိန်းသိမ်းရသောသူများသည် ငွေရေးကြေးရေးကိစ္စများ၌ ရိုးသားဖြောင့်မတ်စွာလုပ်ကိုင်ပါမည်ဟူ၍ အလုပ်ရှင်နှင့်ချုပ်ဆိုသော ကတိစာချုပ်များ၊ အဆောက်အအုံတခုခုကိုဆောက်လုပ်ရာ၌ သတ်မှတ်ထားသောရက်အတွင်း ပြီးစီးစေပါမည်ဟူ၍ အာမခံငွေတင်ကာ ပစ္စည်းရှင်နှင့်ကန်ထရိုက်တာတို့ ချုပ်ဆိုသော ကတိစာချုပ်များသည်လည်း ဗွန်းခေါ် ခံဝန်ချုပ်များပင်ဖြစ်ကြသည်။ နိုင်ငံခြားမှလာသောအရက်၊ စီးကရက်စသည့်သွင်းကုန်များကို အကောက်ဖက်ဆိုင်ရာ ကုန်လှောင်ရုံတွင်ထားရှိကာ ထိုကုန်များအပေါ်တွင် ကျသင့်သော အကောက်တော်ခွန်ကို မှာယူသူကပေးဆောင်ပါမည်ဟု ကတိစာချုပ်ချုပ်ဆိုသည်ကိုလည်း ခံဝန်ချုပ်ဟူ၍ပင်ခေါ်သည်။

ထို့ပြင် သွင်းကုန်တခုခုကို နိုင်ငံအစိုးရက သတ်မှတ်ထားသော စည်းကမ်းအတိုင်းသာ ရွေးယူပါမည်ဟူသောကတိဖြင့် အကောက်ဖက်ကုန်လှောင်ရုံတွင် ဥပဒေအတိုင်းအပ်နှံထားခြင်းကိုလည်း ခံဝန်ချုပ်အရ အပ်နှံခြင်းဟုခေါ်ဆိုသည်။ အစိုးရပညာတော်သင်များသည် အစိုးရ၏စည်းကမ်းများကို လိုက်နာပါမည်ဟု ခံဝန်ချုပ်များကိုလက်မှတ်ထိုးကြရသည်။ ရာဇဝတ်မှုများတွင် တရားခံအားအချုပ်မှ အာမခံဖြင့်ထုတ်ယူရာ၌လည်း ခံဝန်ချုပ် ချုပ်ဆိုရသည်။ သို့သော် ငွေချေးငွေယူနှင့် သက်ဆိုင်သောစာချုပ်များကိုသာ အများအားဖြင့် ခံဝန်ချုပ်ဟူ၍ နားလည်ကြသည်။ ကုမ္ပဏီများသည် ငွေချေးခံဝန်ချုပ်များကို လူအများကဝယ်ယူမှသာ မိမိတို့လိုသလောက်ငွေကို ရမည်ဖြစ်၍ ခံဝန်ချုပ်များကို ၁၀ဝိ တန်၊ ၅၀ဝိ တန်၊ ၁၀၀ဝိ တန်ဟူ၍



ခံပင်၏အရွက်နှင့်အပွင့်များ

တန်ဖိုးအမျိုးမျိုးထားကာ ရောင်းချကြသည်။ ငွေချေးခံဝန်ချုပ်များသည် ပြန်လည်ရောင်းချရန် လွယ်ကူသည့်ပြင် အရင်းမဆုံးနိုင်ရုံသာမက ကုမ္ပဏီငွေစာရင်းရှင်းတမ်းများတွင် ယင်းကိုဦးစားပေး၍ စာရင်းရှင်းရသောကြောင့် ငွေချေးခံဝန်ချုပ်များကို လူကြိုက်များသည်။ ငွေချေးခံဝန်ချုပ်များတွင် အပေါင်ခံခံဝန်ချုပ်နှင့် ဒီဗင်ချာခေါ် နှုန်းသေခံဝန်ချုပ်များပါဝင်သည်။

အပေါင်ခံ ခံဝန်ချုပ်ဆိုသည်မှာ ငွေလိုသည့်အစိုးရ သို့မဟုတ် ကုမ္ပဏီက ငွေထုတ်ချေးမည့်သူသို့ မိမိပစ္စည်းများကို အပေါင်ပေး၍ ငွေချေးယူခြင်းဖြစ်သည်။ ချေးငွေကို သတ်မှတ်ထားသောအချိန် အတွင်း၌ ပေးဆပ်ရန်ပျက်ကွက်ခဲ့သော် ဆိုင်ရာအစိုးရ သို့မဟုတ် ကုမ္ပဏီအား ခံဝန်ချုပ်ပိုင်ရှင်က တရားစွဲဆိုကာ အပေါင်ပစ္စည်းများကို ထုခွဲရောင်းချပိုင်ခွင့်ရှိသည်။ ခံဝန်ချုပ်၏ သက်တမ်းမှာ အနှစ် ၂၀ မှ ၉၉ နှစ်အထိကြာမြင့်တတ်သည်။ အပေါင်ပေးထားရသဖြင့်လည်း အတိုးနှုန်းအရနည်းလေသည်။

ဒီဗင်ချာ ခေါ် နှုန်းသေခံဝန်ချုပ်မှာ ချေးယူထားသောငွေကို နှုန်းသေအတိုးနှင့်တကွ သတ်မှတ်ထားသောနေ့၌ ပြန်ဆပ်ပါမည်ဟူ၍ သက်ဆိုင်ရာတံဆိပ်ခပ်နှိပ်ကာ ထုတ်ပေးသောကတိစာချုပ်ဖြစ်သည်။ ကတိကို ဖေါက်ဖျက်ခဲ့သော် သက်ဆိုင်ရာကုမ္ပဏီ၏ ပစ္စည်းအရပ်ရပ်ကို ခံဝန်ချုပ်ပိုင်ရှင်များက အညီအမျှ ခွဲဝေယူနိုင်သည်။ ဒီဗင်ချာ ခံဝန်ချုပ်၏သက်တမ်းမှာ တိုတောင်းသည်။ ထို့ပြင် ကတိဝန်ခံစာသာ ဖြစ်သဖြင့် တရားစွဲပိုင်ခွင့် နည်းသောကြောင့် အတိုးနှုန်းထားကြီးလေသည်။

ခံဝန်ချုပ် ချုပ်ဆိုရာ၌ မှတ်ပုံတင်ခံဝန်ချုပ်နှင့် ကူပွန်ခံဝန်ချုပ်ဟူ၍ ချုပ်ဆိုနည်း ၂ မျိုးရှိသည်။ မှတ်ပုံတင်ခံဝန်ချုပ်၌ ပိုင်ရှင်၏အမည်နှင့် ထုတ်ချေးငွေများကို ဆိုင်ရာကုမ္ပဏီ၌မှတ်ပုံတင်ခွင့်ရရှိသဖြင့် ထိုခံဝန်ချုပ်ပိုင်ရှင်သာလျှင် တရားဝင်မြီရှင်အဖြစ် အသိအမှတ်ပြုခြင်းခံရသည်။ ကူပွန်ခံဝန်ချုပ်၌မူ အခါအားလျော်စွာ ရရှိမည့်အတိုးနှင့် အတိုးငွေထုတ်ပေးမည့် နေ့ရက်များကို လက်မှတ်ငယ်များတွင် ပေါ်ပြထားရသည်။ ထိုလက်မှတ်ငယ်များကို ခံဝန်ချုပ်နှင့် အတူပူးတွဲပေးလေ့ရှိရကား သတ်မှတ်ထားသောနေ့ရက်၌ ဆိုင်ရာငွေတိုးလက်မှတ်ကိုပြ၍ ငွေထုတ်ယူနိုင်လေသည်။

နိုင်ငံတနိုင်ငံ၏အစိုးရသည် ကိစ္စတခုခုအတွက် သတ်မှတ်၍ ခံဝန်ချုပ်များကို ပြည်သူများအား ရောင်းချတတ်၏။ စစ်စရိတ်ခံဝန်ချုပ်များ၊ ငွေစုခံဝန်ချုပ်များမှာ အစိုးရက တနည်းအားဖြင့် ပြည်သူထံမှ ငွေချေးခြင်းဖြစ်၏။ ဗဟိုငွေတိုက် ခံဝန်ချုပ်များမှာ ၃ လအတွင်း ငွေပြန်ရနိုင်ခွင့်ရှိသော အစိုးရခံဝန်ချုပ်များဖြစ်သည်။

ငွေချေးခံဝန်ချုပ်များကို ကုမ္ပဏီအသီးအသီးမှ ထုတ်ဝေလေ့ရှိသော်လည်း အစိုးရထုတ် ငွေချေးခံဝန်ချုပ်များလောက် လူကြိုက်မများချေ။ ငွေချေးခံဝန်ချုပ်များဝယ်ယူရာတွင် အပေါင်ပါခဲ့သော် အပေါင်ပစ္စည်း၏တန်ဖိုးသည် ငွေချေးခံဝန်ချုပ် တန်ဖိုးထက်မြင့်ရမည်။ ငွေတိုးသည်လည်း ကာလပေါက်ဈေးနှင့် ညီမျှရမည်။ ငွေချေးခံဝန်ချုပ်ထုတ်သော ကုမ္ပဏီသည်လည်း လူကြိုက်များ၍ ဝင်ငွေကောင်းရပေမည်။ ထိုအချက်များကို ငွေချေးခံဝန်ချုပ်ဝယ်ယူရာ၌ သတိထားသင့်ပေသည်။

**ခုံတင်ဆုံးဖြတ်ခြင်း။** ။တရားစီရင်ဆုံးဖြတ်ခြင်းသည် တရားရုံးများ၏တာဝန်ဟု လူတိုင်းကသာမန်အားဖြင့် နားလည်ကြ၏။ အမှုအခင်းများကို တရားရုံးသို့တင်သွင်း၍ တရားရုံးများကသာ စစ်ဆေးပြီးလျှင် စီရင်ဆုံးဖြတ်ရသည်ဟု မှတ်ယူနေကြသည်။ သို့ရာတွင် အချို့အချို့သော အမှုအခင်းများမှာ တရားရုံးသို့မရောက်ဘဲ၊ ကြားလူကဖြေရှင်းပေးခြင်းကြောင့် ပြေလည်သွားသည်လည်းရှိ၏။ ထို့မှတပါးလည်း အခြင်းဖြစ်ပွားသူတို့သည် မိမိတို့၏အမှုကို တရားရုံးတွင်စစ်ဆေးနေစဉ်၊ ကြားလူ၏အဆုံးအဖြတ်ကို ခံယူရန်သဘောတူညီပါသည်ဟု တရားရုံးသို့ လျှောက်ထားပြီးနောက် တရားရုံး၏ သဘောတူညီချက်ဖြင့် တရားရုံးပြင်ပတွင် အဆုံးအဖြတ်ခံကြသည်။ ယင်းသို့ ကြားလူများကို ခုံသမာဓိ တင်မြှောက်၍ ပဋိပက္ခတို့ကို နှစ်ဦးနှစ်ဖက်သဘောတူ ဖြေရှင်းစေသောနည်းသည် အနုညာတစီရင်ခြင်း သို့မဟုတ် ခုံတင်ဆုံးဖြတ်ခြင်းမည်၏။

ဤသို့ခုံတင်ဆုံးဖြတ်ခြင်းသည် တရားရုံးများဖွဲ့စည်း၍ ဥပဒေပြဋ္ဌာန်းချက်အရ တရားစီရင်ခြင်းထက်ပင် ရှေးကျသေးသည်ဟု အဆိုရှိသည်။ အနောက်နိုင်ငံများတွင် ခုံတင်ဆုံးဖြတ်ခြင်းအစဉ်အလာသည် ကြာမြင့်ပေပြီ။ ရှေးဂရိထုံးဟောင်းပုံပြင်များတွင် ဟီးရ၊ အက်သီးနားနှင့် အက်ဖရိုဒိုက်တီခေါ် နတ်မိမယ်သုံးဦးသည် မည်သူအလှဆုံးဖြစ်သည်ကို အငြင်းအခုံဖြစ်ရာ၊ ထရွိုင်းမင်းသား ပဲရစ်အား ခုံတင်၍ ဆုံးဖြတ်စေခဲ့သည်ဟု အဆိုရှိ၏။ ကမ္ဘာ့အနောက်တလွှားတွင် ခုံတင်ဆုံးဖြတ်ခြင်းသည် ဤမှစတင်ပေါ်ပေါက်လာသည်ဟု ဆိုနိုင်ပေသည်။

ခုံတင်ဆုံးဖြတ်ခြင်းကို စီးပွားကုန်သွယ်မှု ကိစ္စများတွင်၎င်း၊ နိုင်ငံချင်းချင်း ဆက်သွယ်မှုတွင်၎င်း၊ အငြင်းအခုံအခြင်းပွားရာ၌၎င်း၊ အသုံးပြုလေ့ရှိ၏။ ရှေးဥရောပခေတ်တွင် ဖိနိရှန်ကုန်သည်များနှင့် ဂရိကုန်သည်များသည် ခုံတင်ဆုံးဖြတ်ခြင်း အလေ့အထကို လိုက်နာခဲ့၏။ ခရစ်မပေါ်မီ နှစ်ပေါင်း ၆၀၀ ခန့်လောက်က ဂရိပြည်ကလေးများဖြစ်သောအက်သင်းနှင့် မက်ဂရာတို့သည် ဆလမစ်ကျွန်းကလေးကိုပိုင်ဆိုင်မှုနှင့်စပ်လျဉ်း၍ အခြင်းဖြစ်ရာ၊ စပါးတန်း



ဟိတ်မြို့ရှိအနည်းတစီရင်ရေးတရားခုံရုံး၏တရားသူကြီးများ

ပြည်သား ၅ ဦးကိုခုံတင်၍ အနည်းတစီရင်ဆုံးဖြတ်ခြင်းကို ခံယူခဲ့သည်။

ကမ္ဘာ့အရှေ့တလွှားတွင်လည်း ခုံတင်ဆုံးဖြတ်ခြင်း အလေ့အထမှာ ကာလကြာမြင့်စွာကပင် တည်ရှိခဲ့ပြီးဖြစ်၏။ အိန္ဒိယပြည်တွင် ရှေးဟောင်းဗေဒခေတ်ကစ၍ ခုံတင်ဆုံးဖြတ်ခြင်းရှိခဲ့၏။ မြန်မာနိုင်ငံ၌လည်း ရှေးမြန်မာမင်းများလက်ထက်ကပင် ခုံတင်ဆုံးဖြတ်ခြင်းရှိခဲ့၏။ မြန်မာတိုင်းဖတ်ရှုသိရှိသော ဇာတ်တော်ကြီးဆယ်ဖွဲ့အပါအဝင် မဟောသဓာဇာတ်တော်တွင်၊ အလောင်းတော် မဟောသဓာသည် ခုံသမာဓိအဖြစ်ဖြင့် အဆုံးအဖြတ်ပေးခဲ့ကြောင်းပါရှိ၏။ မြန်မာသမိုင်းတလျှောက်တွင် အထင်အရှားဆုံး ခုံတော်မှာ ရေစကြိုခုံတော်ဖြစ်သည်။

အိန္ဒိယပြည်ကြီးသည် အင်္ဂလိပ်လက်အောက် ရောက်လာသောအခါ ခုံတင်ဆုံးဖြတ်ခြင်းအလေ့အထ လျော့ပါးသွားသော်လည်း လုံးဝကွယ်ပျောက်မသွားပေ။ အင်္ဂလိပ်တို့၏ အရှေ့အိန္ဒိယကုမ္ပဏီ အစိုးရခေတ်တွင်ပင်၊ ခုံတင်ဆုံးဖြတ်ခြင်းကို ခွင့်ပြုသတ်မှတ်ခဲ့ကြောင်း၊ ခရစ် ၁၇၇၂ ခုနှစ် အုပ်ချုပ်ရေးစည်းမျဉ်းဥပဒေအရရင်း၊ ၁၇၈၁ ခုနှစ် အုပ်ချုပ်ရေး စည်းမျဉ်းဥပဒေအရရင်း ၁၇၉၃ ခုနှစ် ဗင်္ဂလားပြည် အုပ်ချုပ်ရေး စည်းမျဉ်းဥပဒေအရရင်းသိရှိရသည်။ ခုံတင်ဆုံးဖြတ်ခြင်းနှင့်သက်ဆိုင်သော အိန္ဒိယအနည်းတစီရင်ဆုံးဖြတ်ရေး အက်ဥပဒေကို ၁၈၈၉ ခုနှစ်တွင် ပြဋ္ဌာန်းခဲ့၍ ၁၉၀၈ ခုနှစ်တွင်ပြဋ္ဌာန်းသော တရားမကျင့်ထုံး ကိုဥပဒေ၏ ဒုတိယဇယားတွင်လည်း ခုံတင်ဆုံးဖြတ်ခြင်းနှင့် စပ်လျဉ်းသော အချက်အလက်များကို ဖြည့်စွက်ထား၏။ တဖန် ၁၉၄၀ ပြည့်နှစ်တွင် ခုံတင်ဆုံးဖြတ်ခြင်းနှင့် သက်ဆိုင်သော ဥပဒေအသစ်တရပ်ကို အိန္ဒိယပြည်တွင် ထုတ်ပြန်ပြဋ္ဌာန်းလိုက်ပြန်သည်။ ထိုဥပဒေသစ်မှာ ၁၉၃၄ ခုနှစ်တွင် အင်္ဂလန်နိုင်ငံ၌ ပြဋ္ဌာန်းခဲ့သော အင်္ဂလိပ်အနည်းတစီရင်ရေး အက်ဥပဒေကိုအခြေခံပြုသည်။

မြန်မာပြည်သည် ၁၉၃၇ ခုနှစ်တွင် အိန္ဒိယပြည်မှခွဲထွက်လာသည့်အခါ၊ တည်ရင်းစွဲဥပဒေများ ဆက်လက်တည်မြဲစေရမည် ဟူသော မူအတိုင်း ခုံတင်ဆုံးဖြတ်ခြင်းနှင့်သက်ဆိုင်သော အထက်အဆိုပါဥပဒေ ၂ ရပ်သည် မြန်မာပြည်တွင် ဆက်လက်တည်ရှိခဲ့သည်။ သို့သော် ခရစ် ၁၉၄၄ ခုတွင် အဆိုပါဥပဒေများကိုဖျက်သိမ်း၍ အနည်းတ တရားစီရင်ဆုံးဖြတ်ရေး အက်ဥပဒေ (၁၉၄၄ ခု) ကိုအသစ်ပြဋ္ဌာန်းခဲ့၏။

အနည်းတစီရင်ခြင်းကို ဆောင်ရွက်ရသော ခုံသမာဓိများ ရွေးချယ်ရေးတွင် စည်းမျဉ်းကန့်သတ်ထားချက်များ မရှိချေ။ သို့ရာတွင် ခုံသမာဓိများသည် ဥပဒေကိုတတ်ကျွမ်းနားလည်၍ မိမိဆုံးဖြတ်ရမည့် အမှုနှင့်ဆိုင်သော အချက်အလက်များကိုလည်း စုံလင်စွာသိရှိနားလည်ထားရပေမည်။ အနည်းတ စီရင်ဆုံးဖြတ်ချက်များကို တဖက်ဖက်မှ တောင်းဆိုချက်အရသော်၎င်း၊ သက်ဆိုင်ရာရုံးတော်၏ အမိန့်အရသော်၎င်း၊ ရုံးတော်သို့တင်ပြကြရသည်။ ထိုဆုံးဖြတ်ချက်များတွင် လုံလောက်သောအကြောင်း



အနုညာတစီရင်ရေးတရားခုံရုံးတွင် တရားသူကြီးများရှေ့၌အမှုလျှောက်လဲနေစဉ်

အချက်များ ကျန်ရှိနေသေးက ပြန်လည်စဉ်းစားရန် ရုံးတော်ကခိုင်းစေနိုင်သည်။ ပြင်လိုကလည်း ပြင်ဆင်နိုင်သည်။ သို့မဟုတ်လျှင် ဆုံးဖြတ်ချက်များ အတိုင်းဖြစ်စေ၊ ပြင်ဆင်ချက်များနှင့်ဖြစ်စေ စီရင်ချက်ချမှတ်လျက် အတည်ပြုပေးရလေသည်။

အနုညာတစီရင်ခြင်းကို ခံယူနိုင်သော အမှုအခင်းများတွင် ပဋိညာဉ်စာချုပ် ဖေါက်ဖျက်မှုများ၊ အာမခံမှုများနှင့် ပစ္စည်းဥစ္စာနှင့်စပ်လျဉ်းသော အမှုအခင်းများ ပါဝင်သည်။

လူအချင်းချင်းဖြစ်ပွားသော အမှုအခင်းများ၌သာမက၊ တနိုင်ငံနှင့် တနိုင်ငံငြင်းခုံ၍ အခြင်းများကြသော အမှုအခင်း ကိစ္စရပ်များ၌လည်း လက်နက်အားကိုး စစ်မက်ထိုး၍ မပြီးပြတ်စေဘဲ၊ အနုညာတစီရင်ဆုံးဖြတ်ရေး တရားခုံရုံးသို့တင်၍ ဆုံးဖြတ်စေလေ့ရှိသည်။ ဤနည်းဖြင့် ပစ္စည်းကုန်လူကုန် သက်သာပေသည်။ အများအားဖြင့် ထိုအမှုအခင်းများကို အရေးပေါ်ခုံအဖွဲ့များက စီရင်ဆုံးဖြတ်စေ၍ တရံတခါတွင် မဟာမိတ်နိုင်ငံ၏ အကြီးအကဲ တဦးဦးကဖြစ်စေ၊ တရံတခါတွင် တပြည်ပြည်မှ ကိုယ်စားလှယ်များကဖြစ်စေ၊ ခုံသမာဓိများအဖြစ်ဖြင့် ဆောင်ရွက်ကြလေသည်။ အနုညာတစီရင်ခြင်းအတွက် အမြဲတမ်းတရားခုံတခု ဖွဲ့စည်းတည်ထောင်ရန် ၁၈ ရာစုနှစ်အတွင်းက ဂျာမဗင်တင် အစရှိသော ပုဂ္ဂိုလ်အချို့က တိုက်တွန်းနှိုးဆော်ခဲ့သော်လည်း ၁၉ ရာစုအတွင်း ကျမှသာလျှင် နိုင်ငံအချင်းချင်း ငြင်းဆိုမှုများကို အနုညာတစီရင်ဆုံးဖြတ်ရေး တရားခုံသို့တင်ပြ၍ ထိုခုံရုံး၏အဆုံးအဖြတ်ကို နာယူသည့်အလေ့အထသည် အတော်အတန်ခေတ်စားခဲ့လေသည်။

၁၉ ရာစုအတွင်းက အနုညာတစီရင်ရေးတရားခုံသို့ တင်ပြဆုံးဖြတ်စေသည့် အမှုအခင်းများအနက် စိတ်ဝင်စားဖွယ်ကောင်းသော အမှုအခင်း နှစ်ရပ်မှာ ဗင်နီဇွီးလားနိုင်ငံနှင့် ဗြိတိသျှဂီယားနား နယ်တို့၏ နယ်ခြားအမှုနှင့် အယ်လဗားမား သင်္ဘောအမှုတို့ဖြစ်ကြ၏။ ၁၈၉၉ ခုနှစ်တွင် ဗြိတိန်နိုင်ငံနှင့် ဗင်နီဇွီးလားနိုင်ငံတို့သည် ဗင်နီဇွီးလားနှင့် ဗြိတိသျှဂီယားနား နယ်ခြားကိစ္စနှင့် စပ်လျဉ်း၍ ငြင်းဆိုခဲ့ကြရာတွင် မည်သည့်ဖက်ကမျှ အလျှော့မပေးသဖြင့်၊ စစ်ဖြစ်တော့မည်အနေသို့ပင် ရောက်ခဲ့လေသည်။ ထိုအခါ အမေရိကန်ပြည်ထောင်စုနိုင်ငံက နိုင်ငံခြားမှကိုယ်စားလှယ်များပါဝင်သော အဖွဲ့တခု၏အဆုံးအဖြတ်ကို ခံယူကြရန် အကြံပေးခဲ့၏။ ထိုအကြံကို နှစ်ဦးသဘောတူလက်ခံကြသဖြင့် စစ်မဖြစ်ရတော့ဘဲ နယ်ခြားပြဿနာမှာ အေးချမ်းစွာပြေလည်သွားလေသည်။ အယ်လဗားမားသင်္ဘောအမှုမှာ ဤသို့ဖြစ်သည်။ အမေရိကန်ပြည်ထောင်စုနိုင်ငံတွင် ပြည်တွင်းစစ် ဖြစ်ပွားနေခိုက်၊ အယ်လဗားမားသင်္ဘောကို ဗြိတိသျှသင်္ဘောကျင်းတခုတွင် တည်ဆောက်ပြီးသော် ၁၈၇၂ ခုနှစ်၌ ရေသို့ချခဲ့၏။ ထိုအခါက ဗြိတိန်နိုင်ငံရှိ အမေရိကန်သံအမတ်က တရားဝင်အစိုးရကို တော်လှန်ပုန်ကန်နေသော တောင်ပိုင်းသားတို့သည် ထိုသင်္ဘောကို စစ်သင်္ဘောအဖြစ် အသုံးပြုလိမ့်မည်ဟု အကြောင်း

ပြကာကန့်ကွက်ခဲ့သော်လည်း မရခဲ့ချေ။ အကြောင်းပြခဲ့သည့်အတိုင်းပင် အယ်လဗားမားသင်္ဘောသည် ၂ နှစ်တိုင်တိုင် မြောက်ပိုင်းသားတို့၏ ကုန်သင်္ဘောများကို တိုက်ခိုက်ဖျက်ဆီးခဲ့၏။ ၁၈၆၄ ခုနှစ်တွင် အမေရိကန်တိုက်သင်္ဘောတစင်းက တိုက်ခိုက်နှစ်မြှုပ်ပစ်လိုက်မှသာ အယ်လဗားမားသင်္ဘော၏ရန်မှ စိတ်ချရလေသည်။ အမေရိကန်အစိုးရက အယ်လဗားမားသင်္ဘောကြောင့် ပျက်စီးဆုံးရှုံးရသော ပစ္စည်းများအရပ်ရပ်၏တန်ဖိုးကို လျော်ကြေးပေးရန် ဗြိတိသျှအစိုးရသို့တောင်းဆိုသည်။ သို့သော်ဗြိတိသျှအစိုးရကလျော်ကြေးပေးရန် ငြင်းဆိုသဖြင့် ၂ နိုင်ငံဆက်သွယ်ရေးပျက်တော့မလောက် ဖြစ်သွားသည်။ နောက်ဆုံးတွင် လျော်ကြေးကိစ္စကို အနုညာတစီရင်ရေး တရားခုံသို့တင်ပြဖြေရှင်းရန် ဗြိတိသျှအစိုးရက သဘောတူသဖြင့်၊ ၁၈၇၁ ခုနှစ်၌ အနုညာတစီရင်ဆုံးဖြတ်ရေး တရားခုံသို့တင်ကာ ဆုံးဖြတ်စေသည်တွင် လျော်ကြေးငွေပေါင်း ၃,၁၀၀,၀၀၀ အမေရိကန်သို့ ပေးရမည်ဟုဆုံးဖြတ်ခဲ့လေသည်။

၁၉၀၀ ပြည့်နှစ်တွင် ကျင်းပခဲ့သော ဟိတ်ငြိမ်းချမ်းရေးညီလာခံမှ ဆုံးဖြတ်ချက်အရ၊ အနုညာတစီရင်ရေးတရားခုံရုံးကို ဟိတ်မြို့တွင် အမြဲတမ်းဖွင့်လှစ်ထားခဲ့၏။ ပဌမကမ္ဘာစစ်ကြီးအပြီးတွင်လည်း ထိုခုံရုံးကိုဆက်လက်ဖွင့်လှစ်ခဲ့ရာ ငြိမ်းချမ်းရေးစာချုပ်ကြောင့် ပေါ်ပေါက်လာသော နယ်ခြားပြဿနာအရပ်ရပ်ကို ၁၉၂၀ ပြည့်နှစ်မှ ၁၉၂၅ ခုနှစ်အတွင်း ပြေလည်အောင်ဖြေရှင်းနိုင်ခဲ့လေသည်။

၁၉၄၅ ခုနှစ်ဇွန်လတွင် ဆန်ဖရန်စစ္စကိုမြို့၌ ရေးဆွဲခဲ့သော ကုလသမဂ္ဂ စာချုပ်ကြီးအရ၊ ကုလသမဂ္ဂအဖွဲ့ဝင်နိုင်ငံများသည် မိမိတို့အချင်းချင်း သဘောကွဲလွဲမှုများကို စေ့စပ်ဖြန်ဖြေခြင်း အနုညာတစီရင်ခြင်းနှင့် အခြားအေးချမ်းသောနည်းလမ်းများဖြင့် ဖြေရှင်းရန် သဘောတူကတိပြုခဲ့ကြသည်။ ထိုသို့ဖြေရှင်း၍မရလျှင်ကား လုံခြုံရေးကောင်စီသို့လွှဲရမည်သာဖြစ်ပေသည်။

စက်မှုလက်မှုလုပ်ငန်းနှင့်စပ်လျဉ်းသော ပဋိပက္ခမှုများနှင့်အလုပ်သမားနှင့်အလုပ်ရှင်တို့ ဖြစ်ပွားသောပဋိပက္ခမှုများတွင်လည်း အနုညာတစီရင်ခြင်းဖြင့် ဖြေရှင်းခဲ့ကြသည်။ အနုညာတစီရင်ခြင်းအတွက် ဝါဏိဇ္ဇပဋိပက္ခ ဖြန်ဖြေရေးခုံရုံးများကို နိုင်ငံအသီးသီးတွင် ဖွဲ့စည်းတည်ထောင်ထားကြသည်။ မြန်မာနိုင်ငံတွင်လည်း ဝါဏိဇ္ဇပဋိပက္ခဖြန်ဖြေရေးခုံရုံးကို ဖွဲ့စည်းထားလေသည်။ ထိုရုံးမှ ဝါဏိဇ္ဇပဋိပက္ခမှုများကို အဆုံးအဖြတ်ပေးလျက်ရှိသည်။ ဝါဏိဇ္ဇပဋိပက္ခဖြန်ဖြေရေးခုံရုံးတွင် အလုပ်ရှင်၏ကိုယ်စားလှယ်များနှင့် အလုပ်သမားများ၏ ကိုယ်စားလှယ်များ ပါဝင်သည့်ခုံရုံးများကတရားမျှတစွာ စီရင်ဆုံးဖြတ်ပေးသောကြောင့် အလုပ်ရပ်စဲမှုများ၊ သပိတ်မှောက်မှုများကို တားဆီးနိုင်ခဲ့ကြပေသည်။

**ချယားသီး**။ ။စေတီပုထိုးများတွင် ထီးစိုက်ရန်အောက်ခံဖြစ်သောအစိတ်အပိုင်းမှာ အလယ်ပူ၍ အထက်အောက်ရှူးသော ပုံသဏ္ဌာန်ရှိသောကြောင့် ချယားသီးဟုခေါ်၏။ ချယားသီးကို ခယားသီးဟုလည်းရေးသားကြသည်။

ချယားသီးမှာ ကြာလန်နှင့်ထီး စပ်ကြားတွင်ရှိသော စေတီ၏အစိတ်အပိုင်းဖြစ်သည်။ ယင်းကို ငှက်ပျောဖူးဟူ၍၎င်း၊ ဆပ်သွားဖူးဟူ၍၎င်း၊ ခေါ်ဝေါ်ကြသေးသည်။ ချယားသီးကို ပျိုလင်္ကာများတွင် ဆပ်သွားဟုရေးကြသည်။

ချယားသီး၊ ငှက်ပျောဖူး၊ ဆပ်သွားဖူးဟုခေါ်ဝေါ်ကြခြင်းမှာ ပုံပန်းသဏ္ဌာန်ကိုလိုက်၍ အမျိုးမျိုးမှည့်ခေါ်ကြခြင်းဖြစ်လေသည်။ အမြောင်းထောင့်ချိုးမပါသော ချယားသီးမျိုးကို ငှက်ပျောဖူးဟု ခေါ်ကြ၍ အမြောင်းထောင့်ချိုးပါသော ချယားသီးမျိုးကို ဆပ်သွားဖူးဟုခေါ်ကြသည်။

ချယားသီး၏ လုံးပတ်ပမာဏမှာ စေတီတော်ဖိနပ်၏ ၁၅ ချိုးတချိုးဖြစ်သည်ဟု လက်သမားကျမ်းများ၌ ပါရှိသည်။ စေတီတဆူအား ကိုယ်လုံးပြည့်ရွှေချသည် သို့မဟုတ် ရွှေသင်္ကန်းကပ်လှူသည် ဟုဆိုလျှင် စေတီဖိနပ်တော်မှ ချယားသီးအထိ ရွှေပိန်းချသည်ဟု နားလည်ကြသည်။

မြန်မာနိုင်ငံအတွင်းရှိ စေတီပုထိုးများတွင် ချယားသီးသဏ္ဌာန်ကိုထည့်သွင်း၍ ဆောက်လုပ်မွမ်းမံထားခြင်းမှာ မြန်မာပိသုကာအနုပညာ၏ ရိုးရာမပျက်သော လက်ရာတခုပင်ဖြစ်ပေသည်။

ချယားသီးဆပ်သွားဖူး များနှင့်စပ်လျဉ်း၍ ဖွဲ့ဆိုထားသောအဖွဲ့အခြီး အများပင်ရှိသည်။ ပြည်စုန်မော်ကွန်းတွင် 'မောင်းမောင်းညီးညီး၊ ချယားသီးထက်၊ ရွှေထီးလှတင့်၊ ကိုးထပ်ဆင့်သား၊' စသည်ဖြင့် စပ်ဆိုထားလေသည်။ (စေတီပုထိုး — လည်းရှု။)

**ချယားပင်**။ ။ခရေပင် — ရှု။

**ချာချီ၊ ဆာဝင်စတန်၊ လင်းနတ်၊ စပင်ဆာ** (ခရစ် ၁၈၇၄ ဖွား)။ ။ဗြိတိန်နိုင်ငံ နိုင်ငံပြုသုခမိန်နှင့်ကျမ်းပြုဆရာ ဝင်စတန်ချာချီသည် အဖလော့ရန်းဒေါ့ချာချီနှင့် အမိ အမေရိကန်သူ ဂျင်နီ ဂျရုံးတို့မှ ခရစ် ၁၈၇၄ ခုနှစ် နိုဝင်ဘာလ ၃၀ ရက်နေ့တွင် ဖွားမြင်ခဲ့သည်။ ဟယ်ရိုကျောင်းနှင့် ဆင်းဟတ် စစ်တက္ကသိုလ်တွင် ပညာသင်ကြားခဲ့သည်။ ၁၈၉၅ ခုနှစ်တွင် စစ်ဖက်သို့ဝင်ရောက် အမှုထမ်းသည်။ ထိုနှစ်တွင်ပင် စစ်တပ်မှခွင့်ခံ၍ ရရှိသည့်အားလပ်ချိန်တွင် ကျူးဗားကျွန်းသို့သွားရောက်၍ စပိန်တို့အားတော်လှန်တိုက်ခိုက်နေသော ကျူးဗားစစ်ပွဲများတွင် စစ်သတင်းထောက်အဖြစ်ဖြင့် သတင်းယူယင်းလည်ပတ်ခဲ့သည်။ ၁၈၉၆ ခုနှစ်တွင် အိန္ဒိယပြည်သို့ သွားရောက်စစ်မှုထမ်းရသည်။

ထိုစဉ်အတွင်း အိန္ဒိယအနောက်မြောက်နယ်စပ်တွင် ဆူပူထကြွမှုများဖြစ်သောကြောင့် မလကန်စစ်ဆင်ရေးမြေပြင်တပ်ဖွဲ့ကို ဗြိတိသျှတို့ကဖွဲ့စည်း၍ နှိမ်နင်းရန်လွှတ်သည်တွင် ချာချီသည် သူ၏တပ်မှခွင့်ယူ၍ တဖန် အင်္ဂလိပ်သတင်းစာများအတွက် စစ်သတင်းထောက်အဖြစ်ဖြင့် လိုက်ပါသွားလေသည်။ ဤအခါတွင်မူ ကိုယ်ထိလက်ရောက်တိုက်ခိုက်ရသည်ကိုကြုံခဲ့လေသည်။ ချာချီသည် သူ၏တပ်သို့ပြန်လည်အမှုထမ်းရသောအခါ မလကန်စစ်ဆင်ရေးမြေပြင်တပ်ဖွဲ့အကြောင်း မှတ်တမ်းတင်စာအုပ်ကို ရေးသားထုတ်ဝေရာ လူကြိုက်များလေသည်။ ၁၈၉၈ ခုတွင်လည်း အင်္ဂလန်ပြည်၌ ခွင့်နှင့်နေစဉ်၊ ဆူဒန်ပြည်၌ ဒါးဗစ်များထကြွနေသည်ကိုနှိမ်နင်းရန် ဗိုလ်ချုပ်မှူးကစ်ချနာသည် နိုင်းမြစ်ကိုဆန်တက်၍ စစ်တပ်ချီရာ စစ်သတင်းထောက်အဖြစ်နှင့်ပင်လိုက်ပါသွားသည်။ ထိုစဉ်က ကြုံတွေ့ခဲ့ရသမျှကို မြစ်ကြောင်းစစ်ပွဲ (သီရီးဗားဝေါ) အမည်ဖြင့် မှတ်တမ်းတင်စာအုပ်တအုပ် ရေးလိုက်ပြန်သည်။ အိဂျစ်မှပြန်လာပြီးနောက် ၁၈၉၉ ခုနှစ်တွင် စစ်ဖက်မှနုတ်ထွက်ခဲ့လေသည်။ ၁၈၉၉ ခုနှစ်မှ ၁၉၀၀ ပြည့်နှစ်အထိ တောင်အာဖရိကတိုက်ဗိုးဝါးစစ်ပွဲတွင် မောနင်းပို့သတင်းစာအတွက် စစ်သတင်းထောက်အဖြစ် ဆောင်ရွက်ခဲ့သည်။ ဗိုးဝါးတို့၏လက်ရဖမ်းဆီးခြင်းကို တခါခံလိုက်ရသော်လည်း ထွက်ပြေးလွတ်မြောက်ခဲ့လေသည်။

၁၉၀၀ ပြည့်နှစ်တွင် အင်္ဂလန်ပြည်သို့ ပြန်လာခဲ့ပြီးလျှင် အိုဒမ်နယ်မှ ကွန်ဆားဗတစ်ပါတီဝင်လွှတ်တော်အမတ်အဖြစ်ရွေးကောက်ခြင်းခံရသည်မှစ၍ ချာချီသည် နိုင်ငံရေးသမားဖြစ်လာခဲ့သည်။ ၁၉၀၃ ခုနှစ်တွင်၊ ဂျိုးဇက်ချိန်ဗာလိန်၏ ဆိပ်ကမ်းခွန်တိုးတက်ကောက်ခံရေး အဆိုများကို ချာချီသည်အပြင်းအထန်ကန့်ကွက်၍ ကွန်ဆားဗတစ်ပါတီမှထွက်လိုက်သည်။ ၁၉၀၆ ခုနှစ်တွင် အနောက်မြောက်မန်ချက်စတာနယ်မှ လစ်ဗရယ်အဖွဲ့ဝင် လွှတ်တော်အမတ်အဖြစ် ပြန်လည်ရွေးကောက်ခြင်း ခံခဲ့ရပြန်သည်။ ၁၉၀၆ ခုနှစ်တွင် ချာချီသည် လစ်ဗရယ်ဝန်ကြီးချုပ် ကင်းဗဲ ဗန်းနားမန်း၏ အစိုးရအဖွဲ့တွင် ကိုလိုနီနယ်များဆိုင်ရာ ပါလီမန်ဝန်ကလေးအဖြစ်ဖြင့် ဆောင်ရွက်ခဲ့ပြီး၊ ၁၉၀၈ ခုနှစ်တွင် ဝန်ကြီးချုပ်သစ် အက်စကွစ်လက်အောက်တွင် ကုန်သွယ်ရေး ဝန်ကြီး ဖြစ်လာခဲ့လေသည်။ ချာချီသည် အသက် ၃၄ နှစ်တွင် ဝန်ကြီးရာထူးကို ပဌမစတင်ရရှိသည်။ ထိုနှစ်တွင်ပင် ချာချီသည် ကလီမင်းတိုင်း ဟိုဇီယာဆိုသူနှင့် အိမ်ထောင်ပြုသည်။ သားသမီး ၅ ဦးထွန်းကား၏။ ၁၉၁၀ ခုနှစ်တွင် ချာချီသည် ပြည်ထဲရေးဝန်ကြီးရာထူးကို ပြောင်းလွှဲလက်ခံသည်။ ၁၉၁၁ ခုနှစ်တွင် ဂျာမနီပြည်နှင့် စစ်ဖြစ်မည့်အရိပ်အရောင်များပေါ်လာရာ၊ ရေတပ်ဝန်ကြီးအဖြစ်ဖြင့်ပြောင်းလွှဲအမှုထမ်းရပြန်သည်။ ရေတပ်ဝန်ကြီးအဖြစ်ဖြင့် ချာချီသည်ရေတပ်ကိုတိုးချဲ့၍ လက်နက်ကရိယာများ ပြည့်စုံအောင်တပ်ဆင်စေသည်။ ရေတပ်ဌာနချုပ် စစ်ဦးစီးအဖွဲ့ကိုလည်းဖွဲ့စည်းသည်။ ရေတပ်သင်္ဘောများတွင် ကျောက်မီးသွေးအစား ရေနံသုံးစေလိုသောကြောင့် ရေနံအလုံအလောက်ရရှိရန် ပေါင် ၂၀၀၀,၀၀၀ (၂သန်း) ဖိုးမျှ အင်္ဂလိပါးရှင်းရေနံကုမ္ပဏီတွင် အစိုးရအရင်းအနှီး မြှုပ်ခဲ့စေ၏။ ဤကား ချာချီ၏ အမြော်အမြင်ကြီးမှု တရပ်ပင်တည်း။ ၁၉၁၄ ခုနှစ် နွေရာသီတွင် ရိုးရိုးရေတပ်လေ့ကျင့်ခန်းများအစား ရေတပ်ကိုတိုက်ပွဲအတွက် အဆင်သင့်ပြုလုပ်ခြင်းကို စမ်းသပ်ခဲ့ရာ၊ ပဌမကမ္ဘာစစ်ကြီးဖြစ်ပွားချိန်တွင် ဗြိတိသျှရေတပ်သည် ချက်ခြင်းတိုက်ပွဲ ဝင်နိုင်ခဲ့၏။ ထိုကြောင့် ထိုစစ်ကြီးတွင် ဂျာမနီရှုံး၍ ဗြိတိန်နှင့်မဟာမိတ်တို့ အနိုင်ရခြင်းမှာ ချာချီ၏ အမြော်အမြင်ရှိမှု၊ ထကြွနိုးကြားမှု၏ ကျေးဇူးတရပ်ဟုဆိုနိုင်ပေသည်။

သို့ရာတွင် ၁၉၁၅ ခုနှစ်တွင်၊ ရန်သူတူရကီနယ်ဖြစ်သော ဒါးဒနဲရေလက်ကြားကမ်းပေါ်သို့ ဗြိတိသျှနှင့် အင်ပိုင်ယာတပ်များ တက်ရောက်တိုက်ခိုက်ရန် ချာချီက ရေတပ်ဝန်ကြီးအဖြစ်ဖြင့် စီစဉ်ခဲ့ရာ၊ ဗြိတိသျှတပ်များ မရှုမလှရှုံး၍ တပ်လန်ခဲ့သည်။ ထိုအခါ ဝိုင်းဝန်းအပြစ်တင်ခြင်းကို ခံရပြီးလျှင်၊ ချာချီ၏တန်ခိုး မှိန်သွားသည်။ ထိုအခိုက်တွင် လစ်ဗရယ်ပါတီအစိုးရသည် ကွန်ဆားဗတစ်ပါတီနှင့်ပူးပေါင်း၍ ညွန့်ပေါင်းအစိုးရ ဖွဲ့စည်းလိုရာ၊ ကွန်ဆားဗတစ်ပါတီခေါင်းဆောင် ဗိုနာလောက ချာချီကို ရေတပ်ဝန်ကြီးရာထူးမှပယ်ရှားပေးရမည်ဟု တောင်းဆိုလိုက်လေသည်။ ထိုတောင်းဆိုချက်အတိုင်း ဝန်ကြီးချုပ်အက်စကွစ်က ချာချီအား ဝန်ကလေးရာထူး တခုဖြစ်သော လန်ကက်စတာနယ်မှူးအဖြစ်သို့ ပြောင်းလွှဲလိုက်၏။

ထိုသို့ ဝန်ကြီးမှဝန်ကလေးအဖြစ်သို့ ရာထူးအပြောင်းခံရသောချာချီသည် ၁၉၁၅ ခုနှိုဝင်ဘာလတွင် ရာထူးမှနုတ်ထွက်ပြီးလျှင် ဗဲလဂျီယမ်စစ်မျက်နှာသို့ သွားရောက်၍ ဒုတိယဗိုလ်မှူးကြီးအဖြစ်ဖြင့် စစ်မှုထမ်းပြန်သည်။

၁၉၁၆ ခုနှစ်ကုန်ခါနီးတွင် ပါလီမန်သို့ တဖန်ပြန်လာပြီးလျှင် ၁၉၁၇ ခုနှစ်တွင် ဝန်ကြီးချုပ်သစ် လွိုက်ဂျော့က ချာချီအား လက်နက်တိုက်ဝန်ကြီး အဖြစ်ခန့်လိုက်၏။ ၁၉၁၉ ခု၊ စစ်ကြီးပြီးဆုံးသောအခါ ချာချီသည် စစ်ဝန်ကြီးဖြစ်လာ၍ ၁၉၂၁ ခုနှစ်တွင် ကိုလိုနီနယ်များဆိုင်ရာ ဝန်ကြီးဖြစ်လာသည်။ ၁၉၂၂ ခုနှစ်ရွေးကောက်ပွဲတွင် ချာချီသည် မဲရှုံး၍ အရွေးမခံရပေ။ နောက် ၁၉၂၄ ခုနှစ်တွင် လစ်ဗရယ်ပါတီမှနုတ်ထွက်၍ ကွန်ဆားဗတစ်များနှင့် ပြန်လည်ပူးပေါင်းပြီးလျှင် ပါလီမန်ရွေးကောက်ပွဲတွင် ဝင်ရောက်ယှဉ်ပြိုင်ရာ အရွေးခံရသည်။ ၁၉၂၄ ခုနှစ်မှ ၁၉၂၉ ခုနှစ်အထိ (ရွေ

တိုက်စိုးဝန်ကြီး) ဘဏ္ဍာရေးဝန်ကြီးအဖြစ် ထမ်းရွက်သည်။ ၁၉၃၁ ခုနှစ်တွင်ဖွဲ့စည်းသော အမျိုးသားအစိုးရအဖွဲ့တွင်မူ အိန္ဒိယပြည်အရေး၊ လက်နက်တပ်ဆင်ရေး၊ ချိန်ဗာလိန်၏ ဟစ်တလာကိုလိုက်လျောရေး ဝါဒတို့နှင့်စပ်လျဉ်း၍ ချာချီသည်ကွန်ဆားဗတစ်တို့နှင့် သဘောကွဲလွဲမှုကြောင့် ပါဝင်ခွင့်မရခဲ့ချေ။

၁၉၃၉ ခုနှစ်တွင် ဒုတိယကမ္ဘာစစ်ကြီး ဖြစ်ပွားလာသောအခါ ချာချီသည် ရေတပ်ဝန်ကြီးအဖြစ် ခန့်အပ်ခြင်းခံရပြန်သည်။ ၁၉၄၀ ခုနှစ်မှ ၁၉၄၅ ခုနှစ်အထိ ဝန်ကြီးချုပ်အဖြစ်ဖြင့်ထမ်းရွက်သည်။ ထိုစဉ်က ညွန့်ပေါင်းအစိုးရကို ဦးစီးရွက်ဆောင်ခဲ့သော ချာချီအား စစ်ဆင်မှုရေးရာ၌ ကျွမ်းကျင်သူ နိုင်ငံရေးသုခမိန်အဖြစ် ကမ္ဘာက အသိအမှတ်ပြုခဲ့ရလေသည်။

၁၉၄၁ ခုနှစ် ဩဂုတ်လတွင် ချာချီသည် သမတရူးဇဗဲ့နှင့် ဗြိတိန်၏စစ်ရည်ရွယ်ချက်များကို ထုတ်ဖော်သော အတ္တလန္တိတ်စာတမ်းကို လက်မှတ်ထိုးကျေညာခဲ့၏။ ထိုနှစ် ဒီဇင်ဘာလတွင် ဂျပန်ကစစ်ကျေညာပြီးနောက် အမေရိကန်ပြည်ထောင်စုသည် ကမ္ဘာစစ်ထဲသို့ပါဝင်လာရာ အမေရိကန်ကွန်ဂရက်လွှတ်တော်အား ချာချီသည် မိန့်ခွန်းပြောကြားခဲ့လေသည်။ ချာချီသည် ဝါရှင်တန်၊ ကာဆာဗလန်ကာ၊ ကိုင်ရို၊ မော်စကို၊ နှင့်တဟီရန်း မြို့များသို့သွားရောက်၍ မဟာမိတ်စစ်ဆင်ရေးအတွက် မဟာမိတ်ရှေ့တန်းခေါင်းဆောင်ကြီးများနှင့် တွေ့ဆုံဆွေးနွေးခဲ့လေသည်။ မဟာမိတ်တို့စစ်အောင်နိုင်ရေးတွင် ချာချီသည်အရေးပါဆုံးဆောင်ရွက်ခဲ့သည်ဟုပင် အဆိုရှိလေသည်။ ၁၉၄၅ ခုနှစ်ဖေဖွာရီလတွင် သမတရူးဇဗဲ့၊ စတာလင်တို့နှင့် တွေ့ဆုံဆွေးနွေးခဲ့သည်။ ထိုနှစ် မေလ ဂရက်နေ့တွင် ဂျာမနီသည် ခြွင်းချက်မရှိ လက်နက်ချကြောင်း ကျေညာခဲ့၏။ ထိုလထဲတွင် ညွန့်ပေါင်းအစိုးရကို ဖျက်သိမ်းကာ ကွန်ဆားဗတစ်များ၏ အိမ်စောင့်အစိုးရအဖွဲ့ ဖွဲ့စည်းခဲ့ပြီး ဇူလိုင်လရွေးကောက်ပွဲကြီးတွင် ကွန်ဆားဗတစ်များ အရေးနိမ့်သောကြောင့် ချာချီသည် ရာထူးမှနုတ်ထွက်လိုက်ရသည်။

ထိုနောက် အတိုက်အခံခေါင်းဆောင်အဖြစ် ဆောင်ရွက်ခဲ့၏။ ၁၉၄၆ ခုနှစ်တွင် အောဒါးအော့မဲရစ်ခေါ် ဘွဲ့ဖြင့်ချီးမြှင့်ခြင်းခံခဲ့ရသည်။

၁၉၅၀ ပြည့်နှစ်ရွေးကောက်ပွဲကြီးတွင် ချာချီခေါင်းဆောင်သော ကွန်ဆားဗတစ်ပါတီသည် သိုးကာသီကာဖြင့် တဖန်ရှုံးနိမ့်ခဲ့ရသော်လည်း ၁၉၅၁ ခုနှစ်တွင်ကား အနိုင်ရခဲ့သဖြင့် ချာချီသည် ဝန်ကြီးချုပ်ဖြစ်ပြန်လေသည်။ ၁၉၅၃ ခုဧပြီလ ၂၄ ရက်နေ့တွင် ချာချီသည် ဆာဘွဲ့ဖြင့် သူကောင်းပြုခြင်းကိုခံရသည်။ ချာချီသည် ၁၉၅၃ ခုနှစ် နိုဗဲဆုကိုလက်ခံရရှိသည်။ အသက် ၈၁ နှစ်ရှိပြီဖြစ်သော ချာချီသည် ၁၉၅၅ ခုဧပြီလ ၅ ရက်နေ့တွင် ဝန်ကြီးချုပ်ရာထူးမှနုတ်ထွက်အနားယူလိုက်လေသည်။

ချာချီသည် နိုင်ငံပြုသုခမိန်အဖြစ်၎င်း၊ အပြောအဟောကောင်းသူအဖြစ်၎င်း၊ ထင်ရှားရုံမျှမက စာရေးဆရာအဖြစ်နှင့်လည်း ရှေ့တန်းမှလိုက်ခဲ့သူ ဖြစ်လေသည်။ သူ ပဌမဆုံးရေးခဲ့သောစာအုပ်များမှာ သူပါဝင်ဆင်နွှဲခဲ့ရသော စစ်ပွဲများအကြောင်း စာအုပ်များဖြစ်၏။ ၁၉၀၆ ခုနှစ်တွင်ထုတ်ဝေခဲ့သော သူ့ဖခင်၏အတ္ထုပ္ပတ္တိမှာ ကျော်ကြားလှ၏။



ဗြိတိသျှဝန်ကြီးချုပ်ဆာဝင်စတန်ချာချီ

သူ၏ကမ္ဘာ့အရေးတကြီး အခြေအနေ (သိဝါးခရိုက်ဆစ်) ခေါ် စာအုပ် ( ၄ အုပ်တွဲ) မှာ ပဌမကမ္ဘာစစ် သမိုင်းပင် ဖြစ်၏။ မာလဗာရာခေါ် စာအုပ်မှာ အထင်ရှားဆုံးလက်ရာဖြစ်သည်။ သူ၏မိန့်ခွန်းများကို စုပေါင်းထုတ်ဝေသော စာအုပ်များလည်းရှိသည့်ပြင် ဒုတိယကမ္ဘာစစ်ကြီးမှတ်တမ်း (ဝေါမင်မွာ) ကို ၁၉၄၈ ခုနှစ်က ထုတ်ဝေခဲ့လေသည်။ ချာချီ ပြုစုရေးသားသော အောင်မြင်မှုနှင့်ဆုံး ရှုံးမှုများ (ထရိုင်းအန့် အင်ထရက်ဂျက်ဒီ) စာအုပ်မှာ ၁၉၅၃–၅၄ အတွက် အရောင်းရဆုံးစာအုပ်တအုပ်ဖြစ်ခဲ့သည်။

ချာချီသည်ပန်းချီပညာတွင်လည်း လက်မြောက်သူတဦး ဖြစ်ရကား ၁၉၄၇ ခုနှစ်တွင် သူရေးဆွဲသော ပန်းချီကား ၂ ချပ်၊ ၁၉၄၈ ခုနှစ်တွင် ၃ ချပ် တော်ဝင်အနုပညာတံခွန်အသင်းတွင် ချိတ်ဆွဲခံရ၍ ချာချီအားလည်း ၁၉၄၈ ခုနှစ်တွင်ပင် ယင်းအသင်းသို့ ဂုဏ်ထူးဆောင်တော်ဝင်အနုပညာကျော် အဖြစ်ရွေးချယ်တင်မြှောက်၍ ချီးကျူးခြင်းခံခဲ့ရလေသည်။

**ချာလီချက်ပလင်။** ။ချက်ပလင်,စီ — ရှု။

# ဥရောပသမိုင်းတွင်ထင်ရှားသောချားဘုရင်များ

**ဥရောပတိုက်ရှိတိုင်းပြည်တို့တွင် ချားအမည်ခံမင်းဆက်များ အများအပြားရှိခဲ့၏။ ထိုချားမင်းဆက် အသီးသီးတို့အနက်၊ ဆွီဒင်နိုင်ငံမှ ၁၂ ဆက်မြောက်ချားဘုရင်၊ ပြင်သစ်နိုင်ငံမှ ချားအမည်ခံဘုရင် ၁၀ ပါး၊ အင်္ဂလန်ပြည်မှ ချားအမည်ခံဘုရင် ၂ ပါးနှင့်၊ ရောမသာသနာစောင့်နိုင်ငံတော်၏ ပဌမမြောက်ချားကေရာင်တို့ အကြောင်းးကိုသာ ဖေါ်ပြလိုက်သည်။**

**ချားဘုရင်၊ ၁၂ ဆက်မြောက် (ဆွီဒင်)** (ခရစ် ၁၆၈၂–၁၇၁၈)။ ။၁၆၉၇ ခုနှစ်တွင် ဆွီဒင်နိုင်ငံထီးနန်းကို ၁၂ ဆက်မြောက် ချားဘုရင်သည် ၁၅ နှစ်သားအရွယ်၌ ဆက်ခံစိုးစံသည်။

ထီးနန်းဆက်ခံသည့် အချိန်မှစ၍ အခက်အခဲအမျိုးမျိုးနှင့် တွေ့ကြုံခဲ့ရသည်။ ဆွီဒင်နိုင်ငံတွင်းရှိ မှူးမတ်တို့သည် ခမည်းတော် ၁၁ ဆက်မြောက် ချားဘုရင်လက်ထက်က ဆုံးရှုံးခဲ့ရသော သူတို့၏တန်ခိုးအာဏာများကို သားတော်ဖြစ်သော ၁၂ ဆက်မြောက်ချားဘုရင်ကလေးထံမှ ပြန်၍ယူလိုကြသည်။ သို့သော် ဘုရင်ကလေးက လျှော့မပေးချေ။ ဘိသိက်သွန်းလောင်းသည့်အခါ ကျိန်ဆိုရမည့် ကတိကဝတ်ကိုပင် ရှောင်လွှဲလို၍ ဘိသိက်သွန်းလောင်းခြင်း မခံယူဘဲ၊ ဘုရားသခင်၏ အလိုတော်အရ ငါမင်းပြုသည်ဟုကျေညာခဲ့၏။ နိုင်ငံနီးချင်းဖြစ်သော ရုရှ၊ ပိုလန်နှင့် ဒိန်းမတ်တို့က ဗောလတစ်ပင်လယ် အရှေ့ဖက်ကမ်းခြေတလျှောက်ရှိ ဆွီဒင်ပိုင်နယ်မြေများကို သိမ်းယူရန်ကြံစည်ကြသည်။

၁၆၉၉ ခုနှစ်၌ ဒိန်းမတ်၊ ရုရှနှင့် ပိုလန်နိုင်ငံတို့ပူးပေါင်းလျက် ဆွီဒင်နိုင်ငံကို စစ်ကျေညာကြသောကြောင့် ဥရောပမြောက်ပိုင်းစစ်ပွဲကြီး ဖြစ်ပွားလေတော့သည်။ ထိုအခါတွင် ချားဘုရင်ကလေးသည် အရွယ်နှင့်မလိုက်အောင် ထူးချွန်ထက်မြက်သော သူ၏လက်ရုံးရည်တို့ကို ပြရန်အခါအခွင့်ရခဲ့သည်။ သို့ရသည့်အတိုင်း သူ၏စစ်တပ်များကို ကိုယ်

၁၂ ဆက်မြောက်ချားဘုရင် နားဗားမြို့၌အောင်ပွဲခံယူနေစဉ်



တိုင်စီမံခန့်ခွဲလျက် ကိုယ်တိုင်ဝင်ရောက် တိုက်ခိုက်ခဲ့သည်။ ရှေးဦးစွာ အနိုးဆုံးရန်သူဖြစ်သော ဒိန်းလူမျိုးတို့အား ရှုပ်ရှုပ်ချချ တိုက်ခိုက်နှိမ်နင်း လိုက်ပြီးလျှင်၊ နားဗာမြို့စစ်မျက်နှာ၌ ရုရှဇာဘုရင် ပီတာ–သ–ဂရိတ်၏ အင်အားအဆမတန်ကြီးမားလှသော ရုရှစစ်တပ်ကို နှိမ်နင်းအောင်မြင်ခဲ့ပြန်လေသည်။ ထိုတိုက်ပွဲ၌ ဖမ်းမိခဲ့သော ရုရှသုံ့ပန်းများမှာ စစ်နိုင်သူတို့ထက်ပင် အရေအတွက်အားဖြင့် များနေသေးသည်ဟုဆို၏။ ထိုနောက်တွင် ပိုလန်နိုင်ငံကို တိုက်ခိုက်သိမ်းယူလျက် ပိုလန်ဘုရင်ကို ထီးနန်းမှချပြီးလျှင် သူ့စိတ်ကြိုက်ဘုရင်တပါးကို နန်းတင်ခဲ့လေသည်။

ဤမြောက်ပိုင်းစစ်ပွဲကြီးတွင် ချားဘုရင်ကလေး၏ လက်ရုံးရည်နှလုံးရည်တို့ကို ဥရောပတိုက် တတိုက်လုံးက အံ့သြကြလေရာ၊ ဘုရင်ကလေးမှာ ဥရောပတိုက်သမိုင်းတွင် နာမည်ထွန်းပြောင်လှသော စစ်ဘုရင်တပါးအဖြစ် ကျော်ကြားလာသည်။ သို့ရာတွင် ချားဘုရင်ကလေး ပိုလန်နိုင်ငံသို့ ချီတက်တိုက်ခိုက် သိမ်းပိုက်နေသောအချိန်တွင် ရုရှဇာဘုရင်ပီတာ–သ–ဂရိတ်သည် စစ်သည်အင်အားသစ် ဖြည့်လောင်းပြီးသော် ဖင်းလန်ပင်လယ်ကွေ့အတွင်းရှိ ဆွီဒင်ပိုင်နယ်များကို တိုက်ခိုက်သိမ်းပိုက်လိုက်နိုင်သည်။

ထိုအခါတွင်မှ ချားဘုရင်သည် ရုရှစစ်တပ်များကို နှိမ်နင်း၍ ရုရှနိုင်ငံကိုပါသိမ်းယူရန် ရုရှနိုင်ငံဖက်သို့ စစ်ဦးလှည့်ခဲ့ရပြန်သည်။ သို့ရာတွင် ရုရှတို့သည် အလုံးအရင်းနှင့် ရင်ဆိုင်မတိုက်ဘဲ တဖြည်းဖြည်းဆုတ်ခံခံလျက် နောက်ပိုင်းမှစစ်အင်အားကို ဖြည့်တင်းခဲ့ကြသည်။ ရုရှတို့၏စစ်ပရိယာယ်ကို နားမလည်သော ချားဘုရင်သည် ရုရှနိုင်ငံတွင်းသို့ နယ်ကျွံသည်ထက်ကျွံအောင် ချီတက်ခဲ့၏။ ဤကား သူ၏အမှားပင်ဖြစ်တော့သည်။ မောစကိုမြို့ကို တိုက်ခိုက်၍မရသည်နှင့် ရုရှတောင်ပိုင်းရှိ ဗောလတစ်ပင်လယ်မှ မိုင် ၁၀၀ ဝေးသော ပိုလတာဗာမြို့ကို ဝန်းရံတိုက်ခိုက်၏။

ဤသို့ဝန်းရံတိုက်ခိုက်လျက်ရှိစဉ်၊ ၁၇၀၉ ခုနှစ်ဦးတွင်၊ အအေးဓာတ်ပြင်းထန်သော ဆောင်းရာသီတိုင်ရောက်လာသဖြင့် ဆွီဒင်စစ်သားများမှာ အခက်အခဲတွေ့ကြလေတော့သည်။ စစ်တပ်ရုပ်သိမ်းဆုတ်ခွာရန် အကြံပေးချက်များကိုငြင်းပယ်လျက် ချားဘုရင်သည် ရုရှတို့ကိုမနိုင်သမျှ ငါမပြန်ဟုတင်းမာစွာဆုံးဖြတ်ခဲ့၏။ ထိုအချိန်တွင် အင်အား ၂ ဆမျှသာလွန်သောရုရှတို့သည် ဆွီဒင်စစ်တပ်များအား တိုက်စစ်ဆင်ကြလေတော့ရာ၊ ဆွီဒင်စစ်တပ်များ ကစဉ့်ကလျားပျက်ကာ ၂ ရက်အတွင်း လက်နက်ချကြရလေတော့သည်။ ချားဘုရင်ကိုယ်တိုင်မှာလည်း မြင်းသည်တော် ၁၅၀၀ ခန့်နှင့်လက်လွတ်ထွက်ပြေး၍ တူရကီနိုင်ငံထဲသို့ခိုဝင်ရလေ၏။

ချားဘုရင်သည် တူရကီနိုင်ငံတွင် ၅ နှစ်ခန့်နေထိုင်ခဲ့ရစဉ် ရုရှကိုစစ်ကျေညာရန် တူရကီဘုရင်အား တိုက်တွန်းသော်လည်း မအောင်မြင်ခဲ့ချေ။ ထိုမျှမကသေး တူရကီလူမျိုးတို့၏ဖမ်းဆီးခြင်းခံရ၍ တနှစ်ခန့် အကျယ်ချုပ်နှင့်နေခဲ့ရပြီးသော် ၁၇၁၄ ခုနှစ်တွင် တူရကီနိုင်ငံတွင်းမှ ထွက်ခွာသွားရန်အမိန့်ပေးခြင်းခံရသည်။ ထို့ကြောင့် ချားဘုရင်သည် အဖေါ် ၂ ဦးနှင့်အတူ ရန်သူနယ်များကိုဖြတ်ကျော်ကာ ၁၄ နှစ်ခန့် စွန့်ခွာထားခဲ့ရသော ဆွီဒင်နိုင်ငံသို့ ပြန်ခဲ့ရ၏။

ထိုအချိန်တွင် ထိပ်တန်းနိုင်ငံတခုဖြစ်ခဲ့သော ဆွီဒင်မှာ တန်ခိုးမှေးမှိန် သွားပေပြီ။ ဆွီဒင်ပိုင် အစွန်အဖျားနယ်



ဆွီဒင်နိုင်ငံ ၁၂ ဆက်မြောက်ချားဘုရင်

များကိုလည်း အခြားနိုင်ငံများက သိမ်းပိုက်ခဲ့ပေပြီ။ ယင်းသို့တစေ အခဲမကြေနိုင်သေးသော ချားဘုရင်သည် သူပြန်ရောက်ပြီးနောက် ၃ နှစ်ခန့်အတွင်း အင်အားစုကာ ၁၇၁၇ ခုနှစ်တွင် နော်ဝေးနိုင်ငံသို့ ချီတက်တိုက်ခိုက်ပြန်လေသည်။ သို့ရာတွင် ဆွီဒင်သည် အရှုံးဖက်ကသာ များခဲ့ပေသည်။ ၁၇၁၈ ခုနှစ်၌ နောက်တကြိမ်တိုက်စစ်ဆင်ပြန်ရာတွင် 'ဖရက်ဒရစ်စတင်' ခံတပ်ကို ဝန်းရံ၍တိုက်စဉ် ချားဘုရင်ကျည်သင့်၍ကျဆုံးသွားလေသည်။

## ချားဘုရင်များ (ပြင်သစ်)

ပြင်သစ်နိုင်ငံသမိုင်းတွင် ချားဘွဲ့ခံဘုရင်ပေါင်း ၁၀ ပါးရှိခဲ့သည်။ ပဌမချားဘုရင် (ခရစ် ၇၂၃–၇၇၇) သည် ရှား

လမိန်းဘုရင်၏ မြေးတော်ဖြစ်သည်။ (ရှားလမိန်း — ရှု။) ဖိုးတော်ရှားလမိန်းကေရာဇ်ဘုရင်နှင့် ခမည်းတော်လူဝီ–သ–ပိုင်းယပ်ဘုရင်တို့၏ ကျယ်ပြန့်သောအင်ပိုင်ယာကြီးကို ၈၄၃ ခုနှစ်တွင် ချားလိုသဲနှင့် လူဝီ–သ–ဂျာမန်တို့သည် သုံးပိုင်းပိုင်းကာ၊ တသီးတခြားစီ ဘုရင်လုပ်ကြသည်။ အနောက်ဖက်ဆုံးအပိုင်းကို ချားထိပ်ပြောင်ဟူ၍လည်း ခေါ်ဝေါ်ကြသော ချားဘုရင်က ၈၇၇ ခုနှစ်အထိ ဆက်ခံစိုးမိုးသည်။ ထိုအနောက်ဖက်ဆုံးအပိုင်းမှ ယခုကာလပြင်သစ်နိုင်ငံ ပေါ်ထွန်းလာလေသည်။ ထို့ကြောင့် ချားထိပ်ပြောင်ကို ပြင်သစ်နိုင်ငံ၏ပဌမချားဘုရင်ဟု ခေါ်စမှတ်ပြုကြသည်။ ရောမသာသနာစောင့်နိုင်ငံတော်၏ ဒုတိယချားကေရာဇ်ဟူ၍လည်းဘွဲ့ခံယူသည်။ (ရောမသာသနာစောင့်နိုင်ငံတော် — ရှု။) ဤဘုရင်သည် နိုင်ငံတွင်းသို့ ချင်းနင်းဝင်ရောက်လာစ ပြုသောနော်မန်လူမျိုးများအား တွန်းလှန်တိုက်ခိုက်ရ၏။

ဒုတိယချားဘုရင် (ခရစ် ၈၇၂–၈၈၈) သည် ပဌမချားဘုရင်၏ တူတော်ဖြစ်သည်။ ၈၈၁ ခုနှစ်တွင် ရောမသာသနာစောင့်နိုင်ငံတော်၏ တတိယမြောက် ချားကေရာဇ်အဖြစ် ဘွဲ့ခံယူသည်။ ၈၈၅ခုတွင် အနောက်ဖက်ဆုံးပိုင်းပြင်သစ်တို့၏ ဘုရင်ဖြစ်လာသည်။ ပြင်သစ်ပြည်ကို ချင်းနင်းတိုက်ခိုက်နေသော နော်မန်နှင့် ဆာရဆင်လူမျိုးများ၏ရန်ကို ကောင်းစွာတွန်းလှန်ခြင်း မပြုနိုင်သဖြင့် ၈၈၇ ခုနှစ်တွင်နန်းချခံရသည်။ ဤဘုရင်ကို ဝလွန်း၍၊ ချားဘုရင်ဝ ဟူ၍လည်းခေါ်စမှတ်ပြုကြသည်။

တတိယချားဘုရင် (ခရစ် ၈၇၉–၉၂၉) သည် ၈၉၃ ခုနှစ်တွင်နန်းတက်သည်။ ရိုးလွန်းသောကြောင့် သူ့ကိုချားဘုရင်ရိုးကြီး ဟူ၍လည်းခေါ်စမှတ်ပြုကြသည်။ ထိုဘုရင်၏ လက်ထက်တွင် နော်မန်ဒီဟု နောင်ခေါ်တွင်မည့်နယ်မြေကို နော့သမန် လူမျိုးတို့လက်သို့ လွှဲပြောင်းပေးလိုက်ရသည်။ ထိုအချိန်မှစ၍ ပြင်သစ်နိုင်ငံသည် ရောမသာသနာစောင့်နိုင်ငံတော်တွင် အပါအဝင်မဟုတ်ဘဲ၊ သီးခြားလွတ်လပ်သော နိုင်ငံအဖြစ်ဖြင့် ထင်ရှားတည်ရှိလာလေသည်။ မှူးမတ်ရိုးရာများက ၉၂၂ ခုနှစ်တွင် ပုန်ကန်ထကြွပြီးလျှင် ချားဘုရင်ကို အကျဉ်းချထားရာ၊ ထိုအကျဉ်းထောင်ထဲ၌ပင် ဘုရင်သည်နတ်ရွာစံလေသည်။

စတုတ္ထချားဘုရင် (ခရစ် ၁၂၉၄–၁၃၂၈) အား ချားဆံပြပ္ဖဟူ၍လည်းခေါ်သည်။ ၁၃၂၂ ခုနှစ်မှ ၁၃၂၈ ခုနှစ်အထိ ပြင်သစ်နိုင်ငံကို အုပ်ချုပ်သည်။ ပြင်သစ်ပြည်ကို ခရစ် ၉၈၇ ခုနှစ်ကစ၍ စိုးမိုးခဲ့သော ကပက်မင်းဆက်တွင် ထိုမင်းသည် နောက်ဆုံးမင်းဖြစ်သည်။ ထိုမင်းလက်ထက်တွင် ကပက်မင်းများမရှိခဲ့သော ဘုရင့်အာဏာများရ၍ တိုးတက်ခိုင်မြဲလာသည်။

ပဉ္စမချားဘုရင် (ခရစ် ၁၃၃၇–၁၃၈၀) အား ချားပညာရှိဟူ၍လည်းခေါ်သည်။ ၁၃၆၄ ခုနှစ်တွင် နန်းတက်သည်။ ၁၃၅၆ ခုနှစ်တွင် ခမည်းတော်ဂျွန်ဘုရင်သည် ပွားတျားတိုက်ပွဲ၌ အင်္ဂလိပ်တို့လက်တွင် အဖမ်းခံရသဖြင့် ချားဘုရင်က ခမည်းတော်ကိုယ်စား နိုင်ငံကို အုပ်ချုပ်ရသည်။ ချားဘုရင်သည် ခမည်းတော်လက်ထက်၌ ဆုံးရှုံးခဲ့သော နယ်မြေအားလုံးလိုလိုကို အင်္ဂလိပ်တို့လက်မှ ပြန်လည်သိမ်းပိုက်လေသည်။ အနုပညာနှင့်စာပေကို အားပေးခြီးမြှောက်သည့်ဘုရင် ဖြစ်သည့်အပြင်၊ ပြင်သစ်နိုင်ငံရှိ အမျိုးသားစာကြည့်တိုက်ကိုလည်း အခြေတည်ပျိုးထောင်ခဲ့သူ ဖြစ်ပေသည်။ ထိုဘုရင်၏ လက်ထက်တွင် ဗက်စ်တီးအကျဉ်းထောင်ကို တည်ထောင်ခဲ့သည်။ ပဉ္စမချားဘုရင်နန်းတက်သောနှစ်သည် ဥရောပနှစ်တရာစစ်ပွဲ ဒုတိယပိုင်းကိုစသောနှစ်ဖြစ်သည်။

ဆဋ္ဌမချားဘုရင် (ခရစ် ၁၃၆၈–၁၄၂၂) သည် ပဉ္စမချားဘုရင်၏သားတော်ဖြစ်သည်။ မွေးလျှင်မွေးခြင်းပင် ဒိုဖန်နယ်စားအဖြစ် ခြီးမြှောက်ခံရသဖြင့်၊ ထိုအခါမှစ၍ ပြင်သစ်ဘုရင်၏သားအကြီးဆုံးကို ဒိုဖန်မင်းသားဟုခေါ်စမှတ်ပြု၏။ ခမည်းတော်နတ်ရွာစံသောအခါ ချားသည် အသက် ၁၂ နှစ်အရွယ်မျှသာ ရှိသေးသဖြင့် ဦးရီးတော် ၄ ဦးတို့သည် ဘုရင့်အာဏာကိုခွဲယူကာ နိုင်ငံကိုအုပ်ချုပ်ကြသည်။ ဦးရီးတော်တို့အချင်းချင်း အာဏာလုမှုများ ပေါ်ပေါက်လာရာ တိုင်းပြည်မငြိမ်မသက်ဖြစ်နေလေသည်။ ၁၃၈၈ ခုနှစ်သို့ရောက်သည့်အခါ ချားဘုရင်သည် ထီးနန်းကိုသိမ်းပိုက်၍ ၁၃၉၂ ခုနှစ်အထိ ပြင်သစ်နိုင်ငံကိုအုပ်စိုးသည်။ သို့ရာတွင် ဘုရင်၌ရူးသွပ်သောရောဂါ စွဲကပ်လာသဖြင့် အာဏာလုမှုများ ထပ်မံပေါ်ပေါက်လာလေသည်။

ချားဘုရင်၏ဦးရီးတော် ဒျူဘွဲ့ရ ဗာဂန်ဒီစားနှင့် ချားဘုရင်၏ညီတော်ဒျူဘွဲ့ရ အော်လီယန်းစားတို့ အပြိုင်အဆိုင် အာဏာလုမှုကြောင့် နိုင်ငံတွင်း၌ပြည်တွင်းစစ်ဖြစ်ပွားလေသည်။ ယင်းသို့ပြည်တွင်းရေး မငြိမ်မသက်ရှိနေခိုက် အင်္ဂလန်ပြည်မှ ပဉ္စမဟင်နရီဘုရင်သည် ဗာဂန်ဒီဘက်တော်သားများအား ကူညီသည့်အနေဖြင့် ပြင်သစ်နိုင်ငံကို ဝင်ရောက်တိုက်ခိုက်၏။ ၁၄၁၅ ခုနှစ်တွင် အင်္ဂလိပ်တို့သည် အက်ဂျင်ကုတ်တိုက်ပွဲ၌ စစ်နိုင်သဖြင့် ပြင်သစ်နိုင်ငံမြောက်ပိုင်းကို သိမ်းပိုက်လေသည်။ ဆဋ္ဌမချားဘုရင်၏သမီးတော် ကက်သရင်းကို အင်္ဂလိပ်ဘုရင် ပဉ္စမဟင်နရီနှင့် လက်ထပ်ထိမ်းမြားလိုက်ရ၍ ဟင်နရီဘုရင်အား ပြင်သစ်နန်းမွေဆက်ခံမည့်သူဟု အသိအမှတ်ပြုလိုက်ရသည်။ ၁၄၂၂ ခုနှစ်တွင် အင်္ဂလိပ်ဟင်နရီဘုရင်နှင့် ပြင်သစ်ချားဘုရင်တို့ နတ်ရွာစံကြသည်။ ထိုစဉ်က သတ္တမချားဘုရင်အဖြစ် နန်းတက်မည့်ဒိုဖန်မင်းသားသည် ပြင်သစ်နိုင်ငံ တောင်ပိုင်းကိုသာ အုပ်စိုးနိုင်သည်။

သတ္တမချားဘုရင် (ခရစ် ၁၄၀၃–၁၄၆၁) သည်ခမည်းတော်၏အရိုက်အရာကို ၁၄၂၂ ခုနှစ်တွင် ဆက်ခံရသော်လည်း အင်္ဂလိပ်တို့က ပြင်သစ်ပြည်မြောက်ပိုင်းနှင့် အလယ်ပိုင်းကိုသိမ်းပိုက်ထားခြင်းကြောင့် ၇ နှစ်ကြာမှ ပြင်သစ်ဘုရင်အဖြစ်ဘိသိက်ခံရသည်။ ၁၄၂၉ ခုနှစ်တွင် တောရွာသူကလေး ဂျုန်းအေဒ့အတ်သည် ပြင်သစ်စစ်တပ်ကိုခေါင်းဆောင်၍ အင်္ဂလိပ်များဝိုင်းရံလျက်ရှိသော အော်လီယန်းမြို့ကို ရန်သူ၏လက်တွင်းမှ ကယ်တင်ခဲ့သည်။ (ဂျုန်းအေဒ့အတ် — ရှု။) ထိုသို့အောင်မြင်ပြီး နောက် ရှေးပြင်သစ်ဘုရင်အဆက်ဆက်တို့၏ ထုံးတမ်းစဉ်လာအရ သတ္တမချားဘုရင်အား ရိမ်းမြို့၌ ရာဇဘိသိက်ကိုခံယူစေသည်။ ပြင်သစ်တို့လည်း ကဲလေးမြို့မှတပါး ပြင်သစ်ပိုင်နယ်အားလုံးကို ၁၄၄၄ ခုမှ ၁၄၅၃ ခုအတွင်းတွင် အင်္ဂလိပ်တို့လက်မှ ပြန်လည်သိမ်းပိုက်နိုင်ကြလေသည်။ ထိုမင်းလက်ထက်တွင် နှစ်တရာစစ်ပွဲလည်းပြီးဆုံး၍ တိုင်းပြည်စည်ပင်ဝပြောလာသည်။ သတ္တမချားဘုရင်သည် အင်အားတောင့်တင်းသော အမြဲတမ်းစစ်တပ်ကို စတင်ဖွဲ့စည်းတည်ထောင်သည့် ပဌမဆုံးပြင်သစ်ဘုရင်ဖြစ်သည်။

အဌမချားဘုရင် (ခရစ် ၁၄၇၀–၁၄၉၈) သည် အသက် ၁၃ နှစ်ရွယ်တွင် ခမည်းတော်ဖြစ်သော ၁၁ ဆက်မြောက်လူဝီ၏ အရိုက်အရာကို ဆက်ခံလေသည်။ သို့ရာတွင် ဘုရင်ကလေး ၂၁ နှစ်အရွယ် ရောက်သည့်တိုင်အောင် အစ်မတော်အန်က နိုင်ငံကိုအုပ်ချုပ်သည်။ ၁၄၉၁ ခုနှစ်တွင် ဘုရင်သည် ဗရစ်တနီစား အန်နှင့် လက်ထပ်လိုက်သဖြင့် ပြင်သစ်နိုင်ငံတွင်းသို့ ဗရစ်တနီနယ်တနယ်တိုးလာသည်။ ၁၄၉၄ ခုနှစ်တွင် ချားဘုရင်သည် ဣတလီကျွန်းဆွယ်ရှိ မြို့တို့ကိုဝင်ရောက်တိုက်ခိုက်ရာ၊ ဖလော်ရင့်မြို့၊ ရောမမြို့နှင့် နေပယ်မြို့တို့မှာ ပြင်သစ်တို့လက်တွင်းသို့ ကျရောက်လေသည်။ သို့ရာတွင် ချားဘုရင်၏ရန်သူများက စုပေါင်း၍အင်အားကြီးမားလာရာ ပြင်သစ်နိုင်ငံသို့ဆုတ်ခွာခဲ့ရသည်။ ဣတလီပြည်ကိုဝင်ရောက်တိုက်ခိုက်ခြင်းကြောင့် နယ်သစ်မရရှိသော်လည်း၊ ပြင်သစ်နိုင်ငံသို့ ဣတလီအနုပညာနှင့် စာပေလေ့လာမှုများရောက်ရှိလာသဖြင့်၊ ပြင်သစ်တို့၏ ဥဂဏ်သစ်အရေးပုံ စတင်ဖြစ်ပေါ်လာသည်။

နဝမချားဘုရင် (ခရစ် ၁၅၅၀–၁၅၇၄) သည် ဒုတိယဟင်နရီနှင့် ကက်သရင်း ဒါ မဲဒီချီ၏သားတော်ဖြစ်သည်။ အသက် ၁၀ နှစ်အရွယ်၌ နောင်တော်ဒုတိယဖရန်စစ်၏ အရိုက်အရာကို ဆက်ခံသည်။ သို့ရာတွင် သားတော်အရွယ်ရောက်ပြီးသည့်တိုင်အောင် မယ်တော်က နိုင်ငံကို ရင်ခွင်ပိုက်အုပ်ချုပ်သည်။ ထိုမင်းလက်ထက်တွင် ပြည်တွင်းစစ်များ၊ လုပ်ကြံသတ်ဖြတ်မှုများနှင့် ရိုမင်ကက်သလစ် (ဗရင်ဂျီ) နှင့်ပရိုတက်စတန့် ဟျူးဂျနိုးဂိုဏ်း တို့ အယူဝါဒပဋိပက္ခဖြစ်မှုများဖြင့် ရှုပ်ထွေးနေသဖြင့် ပြင်သစ်နိုင်ငံသမိုင်းတွင် မငြိမ်မသက်ဆုံးအချိန်တချိန်ဖြစ်သည်။ မယ်တော်၏ ပယောဂကြောင့် ၁၅၇၂ ခုနှစ် စိန့်ဗာသောလမျူးနေ့တွင် (ဩဂုတ်လ ၂၄ ရက်) ထောင်ပေါင်းများစွာသော ပရိုတက်စတန့်ဟျူးဂျနိုးဂိုဏ်းဝင်များ အသတ်ခံရလေသည်။ ချားဘုရင်လည်း ထိုကဲ့သို့သတ်ဖြတ်မိသဖြင့် စိတ်၌အလွန်ထိခိုက်၍ မမာမကျန်းဖြစ်လာပြီးနောက် ၂ နှစ်အကြာတွင် ကံကုန်သည်။

ဒသမချားဘုရင် (ခရစ် ၁၇၅၇–၁၈၃၆) သည် ၁၆ ဆက်မြောက်နှင့် ၁၈ ဆက်မြောက်လူဝီဘုရင်တို့၏ ညီတော်ဖြစ်သည်။ ၁၈၂၃ ခုနှစ်တွင် နောင်တော် ၁၈ ဆက်မြောက်လူဝီဘုရင်၏ အရိုက်အရာကိုဆက်ခံလေသည်။ ထိုမင်း သည် ၁၇၈၉ ခုနှစ်တွင်ဖြစ်ပွားသော ပြင်သစ်တော်လှန်ရေးကြီးပြီးစီးသည့်နောက်မှ မင်းလုပ်ရ သည့်တိုင်အောင် ဘုရင်တို့၏



အင်္ဂလန်ပြည်စတူးဝပ်မင်းဆက်ပဌမချားဘုရင်

ဘုန်းကံအခွင့်အရေးကို စွဲမြဲယုံကြည်သူဖြစ်သည်။ သို့ဖြစ်၍၊ တိုင်းသူပြည်သားတို့အား သက်ဦးဆံပိုင်စနစ်ဖြင့်ပြန်လည်အုပ်ချုပ်လေရာ၊ ၁၇၃၀ ခုနှစ်တွင် ပါရစ်မြို့၌ ဘုရင်အားတော်လှန်မှုကြီး ဖြစ်ပွားလာလေသည်။ ချားဘုရင်လည်း နန်းစွန့်၍ အင်္ဂလန်ပြည်သို့ တိမ်းရှောင်ရလေသည်။ လူဝီဖိလစ်က ပြင်သစ်ထီးနန်းကို ဆက်ခံသည်။ ဒသမချားဘုရင်သည် ဗူးဗွန်မင်းဆက်တွင် နောက်ဆုံးဘုရင်ဖြစ်သည်။ (ဗူးဗွန်မင်းဆက်၊ ပြင်သစ်တော်လှန်ရေး — လည်းရှု။)

## ချားဘုရင်များ (အင်္ဂလိပ်)

ချားဘုရင်ပဌမ (ခရစ် ၁၆၀၀–၁၆၄၉)။ ။ပဌမချားဘုရင်မှာ အင်္ဂလန်ပြည်၏ထီးနန်းကို အုပ်စိုးခဲ့သော စကော့မင်းဆက် စတူးဝပ်အနွယ်ဝင်ဘုရင်တပါးဖြစ်သည်။ အင်္ဂလန်နှင့် စကော့တလန် နှစ်ပြည်ထောင်၏ ပဌမဘုရင်အဖြစ် အုပ်စိုးခဲ့သော ပဌမဂျိမ်းဘုရင်၏ သားတော်ဖြစ်ပေသည်။ ဘုရင်၏တန်ခိုးအာဏာမှာ ဘုရားသခင်မှ ဆင်းသက်လာသည်ဖြစ်၍ တိုင်းပြည်လူထု၏အလိုကို ဂရုပြုစရာမလို၊ ဘုန်းကံအခွင့်အရေးရှိ၍ ဘုရင့်အလိုကျ ပြုမူနိုင်ခွင့်ရှိသည် ဟူသောဝါဒကို ခမည်းတော်ကဲ့သို့ စွဲမြဲယုံကြည်သူဖြစ်လေသည်။ ထိုကြောင့် ပါလီမန်နှင့် တဖက်တလမ်းဖြစ်ကြရာမှ အာဏာလုသည့် ပြည်တွင်းစစ်ပွဲကြီး ဖြစ်ပွားခဲ့ရ၍၊ ပါလီမန်ကအရေးသာသောအခါ မိမိ၏ဝါဒကို မစွန့်လွှတ်နိုင်သည့် ချားဘုရင်မှာ မိမိ၏အသက်ကိုစွန့်လွှတ်လိုက်ရလေသည်။

ချားသည် ၁၆၀၀ ပြည့်နှစ်တွင် ဖွားမြင်၍၊ ၁၆၁၂ ခုနှစ်တွင် သူ၏နောင်တော် ဟင်နရီမင်းသား ကွယ်လွန်သွားသည့်အခါ အိမ်ရှေ့နန်းလျာဖြစ်လာသည်။ ၁၆၂၅ ခုနှစ်တွင် ဖခင်၏အရိုက်အရာကို ဆက်ခံခဲ့ရ၏။ စာပေပညာရပ်များကို ကောင်းစွာ လေ့လာဆည်းပူးခဲ့၍၊ ဘာသာတရားကို ကြည်ညိုလေးစားသူဖြစ်လေသည်။ မိမိ၏ယုံကြည်စွဲမြဲချက်အတိုင်းဖြစ်မြောက်အောင် မည်သည့်အရာကိုမဆို စွန့်လွှတ်နိုင်သောသဘောရှိသည်။ သို့သော် ချားကား ထိုခေတ်အခါကလူများ၌ အကြံဉာဏ်အတွေးအခေါ် သစ်များ ပေါ်ပေါက်နေကြောင်းကို ဂရုမပြုခဲ့ချေ။ နန်းတက်ပြီး ၃ နှစ်အတွင်း၌ ပါလီမန်အစည်းအဝေး ၃ ကြိမ်တိုင် ဆင့်ခေါ်ခဲ့သော်လည်း ပါလီမန်သည် ဘုရင်၏တချက်လွှတ်တောင်းဆိုချက်များကို မလိုက်လျောသဖြင့် ၃ ကြိမ်လုံးဖျက်သိမ်းပစ်လိုက်ရလေသည်။ အချုပ်ဆိုရသော် ဘုရင်နှင့်ပါလီမန်သဘောမညီညွတ်သည်မှာ ဘုရင်ကလည်း သက်ဦးဆံပိုင်ဘုရင်အဖြစ်အုပ်စိုးလို၍၊ ပါလီမန်ကလည်း ဘုရင်၏အခွန်ကောက်ခံရေးအာဏာနှင့် ဥပဒေပြုရေး အာဏာများကို ကန့်သတ်လိုသောကြောင့်ဖြစ်လေသည်။

ယင်းသို့ချားဘုရင်အား သက်ဦးဆံပိုင်ဘုရင်အဖြစ် စိုးမိုးစေရန် ဝိုင်းဝန်းသွေးထိုးပေးနေကြသူများမှာ ဝန်ကြီးချုပ်အား ဘွဲ့ရ စထရက်ဖို့စား၊ ဂိုဏ်းချုပ်ကြီးလော့နှင့် ဘုရင်၏မိဖုယား ပြင်သစ်မင်းသမီး၊ ဟင်နရီအက်စတာမာရီယာတို့ဖြစ်လေသည်။

ပဌမချားဘုရင်သည် တတိယအကြိမ် ပါလီမန်အစည်းအဝေးတွင် ရေးဆွဲတင်ပြခဲ့သော အခွင့်အရေးတောင်းဆိုလွှာအတိုင်း လိုက်နာရန်သဘောတူခဲ့လေသည်။ သို့သော် ဖေါ်ပြခဲ့သောလူတစု၏ ဩဇာလွှမ်းမိုးမှု၊ သွေးထိုးပေးမှုတို့ကြောင့် ထိုတောင်းဆိုလွှာပါ အရေးကြီးသောအချက်များကို ဖေါက်ဖျက်ကာ၊ ဥပဒေနှင့်လည်းမညီ အကျိုးအကြောင်းလည်း မဆီလျော်သော အခွန်စည်းကြပ်ခြင်း ငွေချေးယူခြင်းများပြုလေသည်။

ပါလီမန်ကို ၃ ကြိမ်မျှဖျက်သိမ်းပြီးနောက်တွင် ၁၆၂၉ ခုနှစ်မှ ၁၆၄၀ ပြည့်နှစ်အထိ ၁၁ နှစ်တိုင်တိုင် ချားဘုရင်သည် ပါလီမန်မခေါ်ဘဲ တိုင်းပြည်ကို အုပ်ချုပ်လေသည်။ ထိုအတောအတွင်း တိုင်းပြည်အတွက် သုံးရန်လိုသောငွေများကို ရနိုင်သောနည်းဖြင့် ကောက်ခံခဲ့ရာ တနိုင်ငံလုံး မကျေမနပ် ဖြစ်ခဲ့လေသည်။ ဆန့်ကျင်ဖက်ပြုလိုသူများကိုလည်း စတားချိမ်းဗားရုံးတော်၏အကူအညီဖြင့် ပြင်းပြင်းထန်ထန် နှိပ်ကွပ်ခဲ့၏။ ၁၆၃၇ ခုနှစ်၌ စကော့တလန်ပြည်တွင် ဘုရားဝတ်တက်ခြင်းကို အင်္ဂလန်ပြည်၌ ဆောင်ရွက်ပုံအတိုင်း လိုက်နာစေသဖြင့်၊ စကော့လူမျိုးတို့ မခံမရပ်နိုင်ဖြစ်ပြီးလျှင်၊ တော်လှန်ပုန်ကန်ကြလေသည်။ အင်္ဂလန်ပြည်၌လည်း ဗရင်ဂျီဂိုဏ်းဝင် မိဖုယား၏ ဆွဲဆောင်ချက်ကြောင့် ဗရင်ဂျီဂိုဏ်း အဆောင်အယောင်ထုံးစံများကို ရွေးကောက် အရေးတယူပြုလာသဖြင့် သာသနာရေးအယူသည်းသည့် ပျူရီတန်များမှာ မခံမရပ်နိုင်အောင်ဖြစ်ခဲ့ကြရပေသည်။

ထိုအခါ စကော့တလန်ပြည်၏ပုန်ကန်ထကြွမှုကိုနှိမ်နင်းရန်ငွေလိုသောကြောင့်၊ ချားဘုရင်သည် မလွှဲမရှောင်သာသဖြင့် ပါလီမန်ကိုဆင့်ခေါ်ရသည်။ ထိုပါလီမန်ကို ၁၆၄၀ ပြည့်နှစ်တွင် ဆင့်ခေါ်လေရာ ၁၂ နှစ်မျှ ပါလီမန်သက်ရှည်ခဲ့သောကြောင့် သက်တမ်းရှည်ပါလီမန်ဟု ခေါ်ဝေါ်ကြသည်။ ယင်းပါလီမန် အစည်းအဝေးတွင်လည်း ဘုရင်နှင့် ပါလီမန်မှာ သဘောချင်းမညီမညွတ် ရှိနေခဲ့ပြန်လေသည်။ ထိုပါလီမန်က ယင်းသဘောတူညီချက်မရဘဲ အခွန်ကောက်ခံခြင်းမှာ မတရားဟူ၍၎င်း၊ စတားချိမ်းဗားနှင့် အခြားအထူးအခွင့်ရ ရုံးတော်များကိုဖယ်ဖျက်ရန်၎င်း၊ ပါလီမန်၏သဘောတူညီချက်မရဘဲ ပါလီမန်ကို မဖျက်သိမ်းရဟူ၍၎င်း၊ ပြဋ္ဌာန်းခဲ့လေသည်။ ဂိုဏ်းချုပ်ကြီး လော့ နှင့် အခြားဝန်ကြီးများကို အကျဉ်းချထားပြီးနောက် စထရက်ဖို့စားကိုလည်း အဆုံးစီရင်လိုက်လေသည်။ ၁၆၄၂ ခု ဇန္နဝါရီလ ၄



ချပ်ဝတ်တန်ဆာဆင်မြန်းထားသောအင်္ဂလန်ပြည် ဒုတိယမြောက်ချားဘုရင်

ရက်နေ့တွင် ပါလီမန်အမတ် ၅ ဦးကို ဖမ်းဆီးရန်အကြံ မအောင်မြင်သော ချားသည် လန်ဒန်မြို့မှ ထွက်ပြီးသော် နော့တင်ဂမ်မှနေ၍ ပါလီမန်ကိုစစ်ကျေညာလေသည်။ ယင်းသို့လျှင် ဘုရင်နှင့်ပါလီမန်တို့၏ ပြည်တွင်းစစ်သည် ဖြစ်ပွားရလေသည်။

ဘုရင်၏ဖက်တွင် မင်းဆွေစိုးမျိုး၊ သဌေးသူကြွယ်များနှင့် သာသနာ့ဝန်ထမ်းများပါဝင်ကြ၏။ ပါလီမန်ဖက်မှ ပျူရီတန်ဂိုဏ်းသားများက ရှေ့ဆောင်၍ ကုန်သည်လယ်လုပ်လူတန်းစားများ ပါဝင်လေသည်။ ပဌမ ၂ နှစ်ခန့်တွင် ဘုရင့်ဖက်မှ အရေးသာခဲ့လေသည်။ သို့သော် ပါလီမန်ဖက်တွင် အော်လီဗာကရွမ်းဝဲစသည့် ခေါင်းဆောင်ကောင်းကြီးများ ပါဝင်တိုက်ခိုက်ခဲ့ရာ ဘုရင့်ဖက်မှာ တဖြည်းဖြည်းအရေးနိမ့်လာလေတော့သည်။ ကရွမ်းဝဲကား တဖြည်းဖြည်းထင်ရှားလာလေသည်။ (ကရွမ်းဝဲ, အို — ရှု။)

၁၆၄၄ ခုနှစ် မာစတန်မူးဝါးတိုက်ပွဲ၌၎င်း၊ ၁၆၄၅ ခုနှစ် နေ့ဇဗီတိုက်ပွဲ၌၎င်း၊ ကရွမ်းဝဲတို့ဖက်မှ အပြတ်အသတ်အရေးသာခဲ့သဖြင့် ဘုရင့်ဂိုဏ်းသားများမှာ နလံမထူနိုင်အောင်ရှိခဲ့လေသည်။ ၁၆၄၆ ခုနှစ်တွင် ချားသည် စကော့တလန်သို့ ထွက်ပြေးခဲ့ပြီးနောက် နျူးအတ်၌ စကော့တို့ထံတွင် လက်နက်ချအဖမ်းခံခဲ့ရာ၊ စကော့စစ်တပ်က သူ့ကို ၁၆၄၇ ခုနှစ်တွင် အင်္ဂလိပ်ပါလီမန်လက်သို့ အပ်လိုက်လေသည်။ ထိုနှစ်ဇွန်လတွင် စစ်တပ်ကဖမ်းဆီးပြီးနောက် ဟမ့်တန်ကုတ်သို့ခေါ်ဆောင်သွားလေသည်။ စစ်တပ်သည် ပါလီမန်နှင့်စေ့စပ်ရန် ကြိုးပမ်းနေခိုက် ချားသည် နိုဝင်ဘာလတွင် ဝိုက်ကျွန်းသို့ထွက်ပြေးခဲ့ပြီးနောက် ဘက်တော်သားစကော့လူမျိုးတို့နှင့် အင်္ဂလန်ကို ချီတက်တိုက်ခိုက်ရန်အတွက်ကြံစည်ခဲ့၏။ စကော့တို့သည် ၁၆၄၈ ခုနှစ်တွင် အင်္ဂလန်သို့လာရောက်တိုက်ခိုက်ခဲ့သော်လည်း ပရက်စတန်တွင် ကရွမ်းဝဲကတိုက်ခိုက်နှိမ်နင်းလိုက်လေသည်။

၁၆၄၉ ခုနှစ်တွင် တိုင်းပြည်ငြိမ်ဝပ်ပိပြားရေးကို မထိခိုက်စေရန်ဟု အကြောင်းပြကာ၊ တိုင်းပြည်ကိုသစ္စာဖောက်မှု၊ အနိုင့်အထက်ပြုကျင့်မှုနှင့် တိုင်းပြည်ရန်သူအဖြစ်၊ ချားကို စစ်ဆေးရန်အတွက် သီးသန့်ဖွဲ့စည်းသော ဟိုက်ကုတ်တရားလွှတ်တော်တွင် သူ့အားစစ်ဆေးပြီးနောက် ခေါင်းဖြတ်သတ်လိုက်လေသည်။ ချားကား ဘုရင်အဖြစ်ဖြင့် အာဏာရှင်ဆန်စွာ ပြုမူခဲ့သော်လည်း၊ သေဒဏ်ခံရအံ့ ဆဲဆဲတွင်ကား အလွန်တရာနူးညံ့သိမ်မွေ့၍ သူ၏ရန်သူအပေါင်းတို့ပင်နှစ်မြောကြေကွဲခြင်းဖြစ်ရလောက်အောင် ပြုမူနေထိုင်ခဲ့ပြီး၊ရဲရင့်တည်ကြည်စွာအသတ်ခံသွားသည်။

ဒုတိယချားဘုရင် (ခရစ် ၁၆၃၀–၁၆၈၅) သည် ပဌမချားဘုရင်၏ ဒုတိယသားတော်ဖြစ်သည်။ ခမည်းတော် ပဌမချားဘုရင် အဆုံးစီရင်ခြင်း ခံရချိန်တွင် ချားမှာ ပြင်သစ်နိုင်ငံတွင်ရှိနေ၍ အသက် ၁၉ နှစ်အရွယ် ရှိနေပေပြီ။ စကော့တလန်ပြည်မှ ဘုရင့်ဂိုဏ်းသားများသည် ၁၆၅၁ ခုနှစ်တွင် ချားမင်းသားအား အင်္ဂလန်ပြည်၏ဘုရင်အဖြစ် ကျေညာ၍ ကရွမ်းဝဲ၏တပ်များကိုတိုက်ခိုက်ကြသည်။ သို့သော် ဝုစတာအရပ်တွင် အရေးနိမ့်သဖြင့် ချားမင်းမှာ ပြင်သစ်နိုင်ငံသို့ပြန်ပြေးခဲ့ရလေသည်။ ထိုနောက်တွင်ကား ချားမင်းမှာ ရွှေဒင်္ဂါး ၁၀၀၀ ဆုငွေထုတ်ထားခြင်းခံရသော ဝရမ်းပြေးတဦးအဖြစ် ၁၀ နှစ်ခန့်မျှ တိမ်းရှောင်နေခဲ့ရ၏။ ချားအားကူညီသူတို့၏ သစ္စာရှိမှုကြောင့်သာ အဖမ်းမခံရဘဲရှိသည်။

ကရွမ်းဝဲကွယ်လွန်ခဲ့ပြီးနောက်တွင် သားဖြစ်သူရစ်ချတ်မှာ ကရွမ်းဝဲ၏ ရာထူးကို ဆက်ခံခဲ့သော်လည်း နိုင်နင်းအောင် မအုပ်ချုပ်နိုင်ခဲ့ပေ။ ထိုကြောင့် အင်္ဂလန်ပြည်လူထုသည် ကရွမ်းဝဲ၏ အုပ်ချုပ်ရေးစံနစ်မျိုးကို ငြီးငွေ့လာကာ ဘုရင့်

အုပ်ချုပ်ရေးကို ပြန်၍တမ်းတလာကြ၏။ ထို့ကြောင့် ၁၆၆၀ ပြည့်နှစ်တွင် ချားအား အင်္ဂလန်ပြည်ထီးနန်းကို ပြန်လည်အပ်နှင်း၍ ဒုတိယချားအဖြစ် စိုးစံစေခဲ့သည်။

ဒုတိယချားဘုရင်လက်ထက်တွင် ပါလီမန်သည် ပဌမချားလက်ထက်ကထက် ဘုရင်အားအခွင့်အရေးများ ပိုမိုပေးအပ်ခဲ့သော်လည်း ချားသည် သက်ဦးဆံပိုင် ဘုရင်အဖြစ် အုပ်စိုးနိုင်ရန် ကြိုးစားခဲ့လေသည်။ သူ၏တသက်တာတွင် တခုတည်းသော ရည်ရွယ်ချက်မှာ သက်ဦးဆံပိုင်ဘုရင်ဖြစ်ရေးပင် ဖြစ်သည်ဟုဆိုလေသည်။ ထို့ကြောင့် သူသည် အမြဲတမ်းစစ်တပ်တခု ထားရှိရန်ကိုင်း၊ ဗရင်ဂျီကိုဏ်းကို နိုင်ငံတော်အယူဝါဒအဖြစ် ပြန်လည်ပြုလုပ်ရန်ကိုရင်း ကြိုးစားခဲ့လေသည်။ ထိုသို့ကြိုးစားခဲ့ရာတွင် ပြင်သစ်ဘုရင် ၁၄ ဆက်မြောက်လူဝီထံမှ ငွေအားလူအား အကူအညီများကိုရယူခဲ့၏။ ချားသည် မိမိအာဏာရရှိမှုအတွက် တခါတရံ ပါလီမန်ကိုလာဘ်ထိုးသည်။ သို့သော် အတိုက်အခံ ပြင်းထန်မည့် အခါများတွင်ကား အလျှော့ပေးကာ ပါလီမန်၏သဘောအတိုင်း ခေါင်းညိတ်တတ်၏။ ထိုစဉ်က ချား၏နန်းတွင်း သူနန်းတွင်းသားများနှင့် မျှုးမတ်စသည့်အထက်တန်းစားများသည် အပျော်အပါးကြူးကာ၊ ဟီရိယြတ္တပ္ပတရားကို မစောင့်စည်းသည့် အနေအထိုင်အကျင့်စရိုက်များရှိကြ၏။

ထိုဘုရင်၏လက်ထက်တွင် တိုင်းပြည်လူထု၏ အခြေအနေမှာလည်း တမျိုးတဖုံပြောင်းလဲလာသည်ကို တွေ့ရပေသည်။ ထိုခေတ်တွင် တိုင်းပြည်လူထုသည် သတင်းစာများဖတ်၍ နိုင်ငံရေးရာများဆွေးနွေးကာ လောကဓာတ်ပညာရပ်များကိုလိုက်စားလာကြသည်။ ဘုရင့်ကိုယ်တိုင်ပင်လောကဓာတ်ပညာ စူးစမ်းလေ့လာမှုများကို အားပေးခဲ့သည်။ ဗိသုကာအတတ်၊ ပန်းချီပညာနှင့် ပြဇာတ်ပညာတို့ကိုလည်း အားပေးခဲ့၏။

နိုင်ငံရေးပါတီကြီးများလည်း ချားဘုရင်၏ လက်ထက်တွင် စတင်ပေါ်ပေါက်ခဲ့၏။ နောင်အခါတွင် ကွန်ဆားဗတစ်နှင့် လစ်ဗရယ်ပါတီတို့ ဖြစ်လာသည့် တိုရီနှင့်ဝှစ်ပါတီတို့သည် ချားလက်ထက်တွင် စတင်ပေါ်ပေါက်ခဲ့လေသည်။ ၁၆၇၉ ခုနှစ်တွင် ပါလီမန်က ဟေဗီယက်ကောပပ်ဥပဒေခေါ်၊ ပြည်သူပြည်သားတို့အား အကြောင်းမဲ့ ဖမ်းဆီးချုပ်နှောင်ထားခြင်းမှ ကာကွယ်သောဥပဒေကို ပြဋ္ဌာန်းသည်။ ချားဘုရင်၏လက်ထက်တွင် ဖြစ်ပွားသော ထင်ရှားသည့်အဖြစ်အပျက်များမှာ ၁၆၆၅ ခုနှစ်၌ လန်ဒန်မြို့တွင် ပုလိပ်ရောဂါအကြီးအကျယ်ဖြစ်ပွားခြင်းနှင့် နောက်တနှစ်တွင် မီးအကြီးအကျယ်လောင်ခြင်းများဖြစ်သည်။ ထိုပြင် ပရိုတက်စတန့်နိုင်ငံဖြစ်သော ဒပ်ချနှင့် ၂ ကြိမ် စစ်ဖြစ်ပွားခဲ့ရာ ပါလီမန်ကမလိုလားသဖြင့် ချားမှာ စစ်ပြေငြိမ်းခဲ့ရလေသည်။ သို့သော် ဒပ်ချတို့လက်မှ ယခု နယူးယော့ဟု ခေါ်တွင်သောမြောက်အမေရိကတိုက်ရှိ ဒပ်ချပိုင် နယူးအမ်စတာဒမ်မြို့ကိုထိုသို့စစ်ဖြစ်ပွားရခြင်းအကြောင်းကြောင့် ရရှိလိုက်လေသည်။

ချားသည် သူမကွယ်လွန်မီ ၅ နှစ်အတွင်း သူ၏ကြိုးပမ်းချက်များ အတော်ပင်အောင်မြင်ခဲ့သည်ဟု ဆိုရပေမည်။ သူသည် ဗရင်ဂျီကိုဏ်းဝင်များကို အခွင့်အရေးများပေးနိုင်ခဲ့၍ သူ၏ညီတော် ဗရင်ဂျီကိုဏ်းဝင် ဂျိမ်းကိုထီးနန်းဆက်ခံခွင့်ရအောင် ဆောင်ရွက်နိုင်ခဲ့သည်။ ၁၄ ဆက်မြောက်လူဝီ ထံမှရရှိခဲ့သော ငွေကြေးအထောက်အပံ့များကြောင့်လည်း ၁၆၈၅ ခုနှစ်အထိ ၄ နှစ်ခန့်အတွင်းပါလီမန်ကို တကြိမ်မျှ မဆင့်ခေါ်ဘဲ နေနိုင်ခဲ့လေသည်။ သူသည် ၁၆၈၅ ခုနှစ် ဖေဖော်ဝါရီလ ၆ ရက်နေ့တွင် ကွယ်လွန်၍။ ကွယ်လွန်အံ့ဆဲဆဲတွင် ဗရင်ဂျီကိုဏ်းသို့ကူးပြောင်းခဲ့သည်။



ရောမသာသနာစောင့် နိုင်ငံတော်ကို အုပ်စိုးခဲ့သည့် ပဥ္စမမြောက်ချားကေရာစ်



ပြင်သစ်နဝမချားဘုရင်သည် စိန်ဗာသောလမျူးကို ကွပ်မျက်ရန်အမိန့်ချမှတ်နေစဉ်

ချားသည် သူ တကိုယ်တည်း ကောင်းစားရေးအတွက်ကို သာ အရေးထားသော်လည်း၊ မူလစိတ်ရင်းကောင်း၍ သူတပါးအား ဖေါ် ရွေစွာဆက်ဆံတတ်သည်။ ထို့ပြင် သူတပါးကို ဆွဲငင်နိုင်သော ဟန်အမူအရာရှိ၍၊ စကားပြောလည်း ကောင်းသည်။ စာပေများကို ကောင်းစွာဖတ်ရှုလေ့လာသည်။ ယင်းအရည်အချင်းများကြောင့်လည်း နန်းမရခင် တိမ်းရှောင်နေရစဉ်က သူ၏တိုင်းသူပြည်သားတို့က သူ့အား သစ္စာမဖေါက်ခဲ့ကြပေ။

## ချားဘုရင်ပဉ္စမမြောက်ကေရာဇ်

ပဉ္စမချားဘုရင် (၁၅၀၀ — ၁၅၅၈) သည် ဥရောပအလယ်ခေတ်က ရောမသာသနာစောင့်နိုင်ငံတော်ကို အုပ်စိုးခဲ့သော ကေရာဇ်ဘုရင်ကြီးဖြစ်သည်။ ဗာဂန်ဒီမင်းသား ဖိလစ်နှင့် စပိန်မင်းသမီး ဂျိအင်းနားတို့၏ သားတော်ဖြစ်၍ အသက် ၁၆ နှစ်အရွယ်၌ စပိန်၊ နယ်သာလန်၊စစ္စလီ၊ ဣတလီတောင်ပိုင်းရှိ နေးပလိ (နေပယ်) နှင့် အမေရိကတိုက်ရှိ ကျယ်ဝန်းများပြားလှသော စပိန်ပိုင်နယ်ပယ်များကို အုပ်စိုးရလေသည်။ အသက် ၂၀ မပြည့်မီ သူ့ဘိုးတော် ပဌမ မက္ကဆိမိလျံဘုရင်ကြီး၏ ဩစတြီးယားထီးနန်းရိုက်ရာကို ဆက်ခံရပြီးလျှင် ရောမသာသနာစောင့် နိုင်ငံတော်ကြီး၏ ကေရာဇ်ဘုရင်အဖြစ်ဖြင့် ဘိသိက်သွန်းလောင်းခြင်းခံရလေသည်။

ဗာဂန်ဒီနှင့် ဣတလီပြည်ရှိနယ်များနှင့်စပ်လျဉ်း၍ ပြင်သစ်ဘုရင် ပဌမဖရန်စစ်နှင့် စစ်ပွဲ ၄ ကြိမ် ယှဉ်ပြိုင်တိုက်ခိုက်ခဲ့ရလေရာ၊ ဣတလီပြည်၌ ၃ ကြိမ်တိုင်တိုင်တိုက်ခဲ့ရသည်။ ထိုစစ်ပွဲများတွင် ထူးခြားသောအဖြစ်အပျက်များမှာ ၁၅၂၅ ခုနှစ် ပေးဗီးယားတိုက်ပွဲတွင် ပြင်သစ်ဘုရင် အရေးနိမ့်၍ အဖမ်းခံရခြင်း၊ ၁၅၂၇ ခုနှစ်တွင် ရောမမြို့တော် တိုက်ခိုက်သိမ်းပိုက်လုယက်ဖျက်ဆီးခြင်း၊ ဖရန်စစ်၏ မဟာမိတ်ဖြစ်သွားသော ပုပ်ရဟန်းမင်းကိုလည်း ဖမ်းဆီးခြင်းစသည်တို့ဖြစ်သည်။ ထိုစစ်ပွဲများကား ၁၅၄၄ ခုနှစ်တွင်မှ ပြီးဆုံးသွားလေသည်။ ချားဘုရင်သည် ဗာဂန်ဒီနယ်ကြီးကို လက်လွှတ်လိုက်သော်လည်း ဗာဂန်ဒီပိုင်နယ်များနှင့် မီလန်နယ်ကိုကား သိမ်းယူထားခဲ့၏။ ပြင်သစ်တို့ကို တိုက်ခိုက်နေစဉ် တူရကီတို့က ဩစတြီးယားနှင့် ဟန်ဂေရီပြည်တွင်းသို့ ချင်းနင်းဝင်ရောက်လာသဖြင့် ချားဘုရင်မှာ တူရကီတို့ကို သွားရောက်တိုက်ခိုက်ခဲ့ရလေသည်။ ဖရန်စစ်ဘုရင်သည် ချားကို အခဲမကြေနိုင်သဖြင့် တူရကီတို့နှင့်ပင် ပူးပေါင်းခဲ့သည်ဟု ဆိုလေသည်။ တူရကီတို့သည် ဗီယင်းနားမြို့ကို ၁၅၂၉ ခုနှစ်တွင် ၁ ကြိမ်၊ ၁၅၃၂ ခုနှစ်တွင် ၁ ကြိမ်၊ ၂ ကြိမ်တိုင်တိုင်ဝန်းရံခဲ့သည်။ အာဖရိကမြောက်ပိုင်းမှ ပင်လယ်ဓားပြများသည် စပိန်နှင့်ဣတလီ ကမ်းခြေပေါ် ရှိမြို့များကို ထိပါးလာသဖြင့် သူတို့ကိုလည်း နှိမ်နင်းခဲ့ရလေသည်။

ဤသို့လျှင် ချားဘုရင်မှာ ရန်သူများကို အမြဲလိုက်လံတိုက်ခိုက် နေရသဖြင့် မအားလပ် အောင် ရှိနေစဉ် ဂျာမနီပြည်၌ သူ့ကို များစွာအနှောင့်အယှက် ပေးမည့်သူများ နောက်ထပ်ပေါ် ပေါက်လာသည်။ ထိုသူများမှာ မာတင်လူသာနှင့်



ချားမာတဲတို့ကနိုင်လိုက်သော တူး တိုက်ပွဲ

သူ့တပည့်များဖြစ်လေသည်။ မာတင်လူသာက ပုပ်ရဟန်းမင်းကို အတိအလင်း ပုန်ကန်တော်လှန်ခဲ့သဖြင့် ဂျာမနီပြည်တပြည်လုံးသည် သာသနာရေးအားဖြင့် ၂ စုကွဲကာ လှုပ်လှုပ်ရှရှဖြစ်နေလေသည်။ ထိုအခိုက် တောင်သူလယ်သမားများမှာလည်း အယူသစ်များကြောင့် တမျိုးစိတ်အားတက်ကြွလာ၍ မြို့စားနယ်စားမြေပိုင်ရှင်များကို လက်နက်စွဲကိုင်ကာ ပုန်ကန်လျက်ရှိကြလေသည်။

ချားဘုရင်ကား ဘုရား တရားကြည်ညိုသော ဗရင်ဂျီဂိုဏ်းဝင်တဦးဖြစ်၍၊ သာသနာ့သူပုန်များကို ချေမှုန်းပစ်လို၏။ သို့ရာတွင် ဂျာမနီမင်းညီမင်းသားများက မာတင်လူသာကို အားပေးကူညီနေသည့်အပြင် သူကိုယ်တိုင်မှာလည်း တိုင်းရေးပြည်မှု ကိစ္စအဝဝနှင့် ဗျာများနေသဖြင့် ပဌမတွင် ထိထိရောက်ရောက် မနှိမ်နင်းနိုင်ခဲ့ချေ။ ပြင်သစ်တို့နှင့် တိုက်ရသော စစ်ပွဲများပြီးဆုံးသွား၍ ပရိုတက်စတန့် ဂိုဏ်းဝင်တို့ကို တိုက်ခိုက်အောင်နိုင်သောအခါတွင် စစ်ပွဲ၌ အနိုင်ရသော်လည်း ပရိုတက်စတန့်အယူဝါဒမှာ ဂျာမနီပြည်၌အမြစ်တွယ်လျက် ရှိပြီးဖြစ်နေလေပြီ။ သို့ဖြစ်၍နောက်ဆုံး ၁၅၅၂ ခုနှစ်၌ သူသည် ဂျာမန်မင်းသားများနှင့် စစ်ပြေငြိမ်း၍ ပြည်နယ်အသီးသီးမှ မင်းသားများက သူတို့လက်အောက်ခံ တိုင်းသူပြည်သားများအဖို့ သူတို့နှစ်သက်သော အယူဝါဒကို ကိုးကွယ်ခွင့်ပြုနိုင်သော အာဏာရရှိသွားကြလေသည်။

နောက်မကြာမီ ချားဘုရင်သည် မိစ္ဆာဝါဒဟု သူမှတ်ယူထားသော ပရိုတက်စတန့်အယူဝါဒကို မနှိပ်ကွပ်နိုင်သဖြင့်၊ စိတ်မချမ်းမသာ ဖြစ်ခဲ့ရသည့်အပြင် အမြဲစစ်တိုက်နေရသဖြင့် စိတ်ပန်းလူနွမ်းဖြစ်ကာ ကေရာဇ်မင်းဘဝကို ငြီးငွေ့လာလေသည်။ သို့ဖြစ်၍ မကြာမီသူပိုင်ဆိုင်သော နိုင်ငံတော်ကို ညီတော်ဖါဒီနန်နှင့် သားတော်တတိယပိလစ်တို့အား ခွဲဝေပေးပြီးလျှင် စပိန်နိုင်ငံရှိ ဘုန်းကြီးကျောင်းတကျောင်းသို့ သွားရောက်နေထိုင်လေတော့သည်။

ဤသို့လူ့ဘောင်ကို ရှောင်ခွာသွားသော်လည်း ချားဘုရင်သည် ရဟန်းတို့ကဲ့သို့ ခြိုးခြံစွာနေ၍ အမြဲတစေ တရားအားထုတ်နေသည်ကား မဟုတ်ပေ။ အစားကောင်းကောင်းစား၍ သူဝါသနာပါသော ဥယျာဉ်စိုက်ပျိုးခြင်း၊ တောထဲ၌ ကြက်ငှက်ပစ်ခတ်ခြင်းများဖြင့် အချိန်ကုန်ခဲ့သည် သာများလေသည်။ သူ့ဆွေမျိုးသားချင်းနှင့် မိတ်ဆွေများကိုလည်း လက်ခံစကားပြော၍ တိုင်းရေးပြည်မှုကိစ္စများကို ပင်တခါတရံဆောင်ရွက်ခဲ့ပေသည်။

**ချားမာတဲ** (ခရစ် ၆၈၈–၇၄၁)။ ။ချားမာတဲသည် ဥရောပတိုက်နှင့်ဆိုင်သော အလယ်ခေတ်က မူးဝါးလူမျိုးတို့ကို ဥရောပတိုက်ထဲသို့ မဝင်ရောက်နိုင်အောင် တွန်းလှန်တိုက်ထုတ်ပစ်လိုက်သော ဖရန့်လူမျိုး ခေါင်းဆောင်တဦးဖြစ်သည်။ ထိုခေတ်တွင် ဂျာမန်လူရိုင်းမျိုးတို့သည် ဖရန့်နယ်ပယ်များကို ဝင်ရောက်တိုက်ခိုက် နေသည့်အတောအတွင်းတွင်၊ ထိုမူးဝါးများ၏ရန်က တမျိုးဝင်လာပြန်သည်။ စပိန်နိုင်ငံမှတဆင့် အစ္စလမ်အယူဝါဒီများဖြစ်ကြသော မူးဝါးလူမျိုးတို့သည် ဥရောပတိုက်၌ သူတို့အယူဝါဒပြန့်ပွားစေခြင်းငှါ၊ ပီးရနီးတောင်တန်းကို ပဌမဖြတ်ကျော်၍၊ ဖရန့်ပြည်ဖက်သို့ ၇၁၈ ခုနှစ်လောက်တွင် ဝင်ရောက်လာလေသည်။ ဖရန့်တို့မှာ အဖက်ဖက်မှ အန္တရာယ်ဝိုင်းလျက်ရှိသော်လည်း မူးဝါးတို့၏အန္တရာယ်မှာ ပို၍စိုးရိမ်ဖွယ်ကောင်းလှ၏။ ထိုစဉ်က ထိုရန်ကို မတွန်းလှန်လိုက်နိုင်ခဲ့သော် ဥရောပတိုက်အလုံးကို မူးဝါးတို့လွှမ်းမိုးသွားမည်ဖြစ်ပေသည်။ ဖရန့်ပြည်၏တောင်ဖက်ရှိ ဂေါလပြည်နယ်တွင်၊ မူးဝါးတို့ကအရေးသာနေသဖြင့် ဂေါလတို့ကစစ်ကူတောင်းလျက်ရှိ၏။ ထိုအခြေအနေမှ ကယ်တင်သူကား ချားမာတဲပင်ဖြစ်သတည်း။

ချားမာတဲမှာ ဖရန့်ပြည်နယ်ကိုအုပ်စိုးနေသော မာရိုဗင်းဂျီယန် မင်းဆက်ဘုရင်၏ အိမ်တော်ဝန်ဖြစ်၏။ ချားသည် ဓါးကောက်ကြီးများ ဝင့်ကာ၊ လှိုင်းလုံးကြီးများ သဖွယ် တအိအိလိမ့်တက်လာသော မူးဝါးတို့အား ရဲတင်းပုဆိန်ဆောင်သည့် မိမိ၏တပ်သားများနှင့်အတူ ရင်ဆိုင်တိုက်ခိုက်လေသည်။ ၇၃၂ ခု တူးတိုက်ပွဲတွင် ဓါးကောက်ကိုင်မူးဝါးတို့မှာ ဖရန့်တို့၏ပုဆိန်ဒဏ်ကိုမခံနိုင်ဘဲ ဆုတ်ခွာထွက်ပြေး

ကြရလေသည်။ ယင်းသို့ဖြင့် မူးဝါးတို့ဥရောပတိုက်ကို လွှမ်းမိုးမှုမှာ လွတ်မြောက်သွားလေသည်။ မူးဝါးတို့၏ ရန်ကို ဖြိုဖျက်ကာကွယ်ခဲ့သဖြင့် ချားမာတဲအားလည်း ဥရောပကို ကယ်တင်သူဟုခေါ်ကြ၏။ သူ၏အမည်ရင်း ချားနောက်မှ မာတဲ (တင်းပုတ်)ဟူသော ဂုဏ်ထူးဆောင်အမည်တလုံးကို တိုးပေးခဲ့ကြလေသည်။

ထိုခေတ်က ဖရန့်ဘုရင်များမှာ ရုပ်သေးရုပ်သာဖြစ်၍ အိမ်တော်ဝန်များက ဘုရင်ထက်ပင်ပိုမို၍ ဩဇာအာဏာရှိလေသည်။ ချားသည် မူးဝါးတို့အား တွန်းလှန်လိုက်ပြီးနောက် တန်ခိုးအာဏာ ပိုမိုကြီးမားလာသော်လည်း ဘုရင်အဖြစ်ကိုလက်မခံဘဲ သရဖူမဆောင်းသည့် ဘုရင်တပါးအနေဖြင့်သာနေခဲ့၏။ သို့သော် ချားနှင့် သားတော်ပက်ပင်တို့သည် သူတို့၏ သားမြေးဖြစ်သော ရှားလမိန်းအား ဥရောပအလယ်ခေတ်တွင် ဘုန်းလက်ရုံး အကြီးဆုံးသော ကေရာဇ်မင်းတပါးဖြစ်လာရန် အခြေစိုက်ပေးခဲ့ကြသည်ဟု ဆိုနိုင်ပေသည်။ (ရှားလမိန်း — ရှု။)

# တောင်အမေရိကတိုက်၏အနောက်ကမ်းရိုးတန်းနိုင်ငံ

**ရာသီဥတုအားဖြင့်ရင်း၊ မြေမျက်နှာပြင်အားဖြင့်ရင်း၊ ထွက်ကုန်ပစ္စည်းအားဖြင့်ရင်း၊ နိုင်ငံအတွင်း တနေရာနှင့်တနေရာ ခြားနားလှသည်မှာ ချီလီနိုင်ငံပင်ဖြစ်သည်။ အချို့မြို့ကြီးများမှာ နယူးယော့မြို့တမျှ ခေတ်မီလှသော်လည်း၊ အချို့ဒေသများကိုမူ ယခုတိုင်လူသူပရောက်ရသေးပေ။**

**ချီလီနိုင်ငံ။** ။ချီလီနိုင်ငံသည် တောင်အမေရိကတိုက် ပစိဖိတ်ကမ်းခြေဖက်တွင် တည်ရှိသည်။ ချီလီနိုင်ငံ၏ အနေအထားမှာ ထိုတောင်အမေရိကတိုက် အနောက်ကမ်းခြေကို အနားကွပ်ထားသကဲ့သို့ဖြစ်၍ မိုင်ပေါင်း ၂၆၆၁ မိုင်မျှရှည်လျားသည်။ အကျယ်မှာ ၄၆ မိုင်မှ မိုင် ၂၅၀ အထိဖြစ်၏။ ချီလီနိုင်ငံအကြောင်းကို မည်သူမျှသေချာစွာ လေ့လာခဲ့ဘူးခြင်းမရှိသေးချေ။ သို့ရာတွင် ခန့်မှန်းခြေအရ ထိုနိုင်ငံ၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၂၈၆,၃၉၇ မိုင်ရှိသည်ဟုဆို၏။ မြောက်ဖက်၌ ပီးရူးနိုင်ငံ၊ အရှေ့ဖက်၌ ဗိုလစ်ဗီးယားနိုင်ငံနှင့် အာဂျင်တီးနားနိုင်ငံ၊ တောင်ဖက်နှင့် အနောက်ဖက်တို့၌မူ ပစိဖိတ်သမုဒ္ဒရာတို့ တည်ရှိသည်။

နိုင်ငံ၏ မြေမျက်နှာသွင်ပြင်အရ ချီလီနိုင်ငံကို ၃ ပိုင်းပိုင်းခြားနိုင်၏။ ယင်းတို့ကား အရှေ့ဖက်တွင် အန်းဒီးတောင်တန်း ဒေသ၊ အနောက်ဖက်တွင် ကမ်းမြောင်ဒေသနှင့် အလည်တွင် ရှည်လျားသော တောင်ကြားဒေသများဖြစ်သည်။ ရာသီဥတု အခြေအနေအလိုက်လည်း သုံးပိုင်းပိုင်းခြားနိုင်၏။ လတ္တီတွဒ် ၃၀ မျဉ်းကြောင်းအထက်ကို ကန္တာရပိုင်း၊ ၃၀ နှင့် ၄၀ စပ်ကြားကို အလယ်ပိုင်း၊ ၄၀ အောက်ကိုတောင်ပိုင်းဟူ၍ သတ်မှတ်နိုင်သည်။ အထက်ပိုင်းတွင်မိုးအသင့်အတင့် မျှသာ ရွာသွန်း၍ တောင်ပိုင်းတွင် မိုးများစွာရွာသွန်းသည်။

မြောက်ပိုင်းတွင် သတ္တုတူးဖေါ်ခြင်း လုပ်ငန်းကိုင်ရင်း၊ အလယ်ပိုင်းတွင် လယ်ယာစိုက်ပျိုးရေး လုပ်ငန်းကိုင်ရင်း၊ သစ်တောထူထပ်သော တောင်ပိုင်းတွင် သစ်လုပ်ငန်းကိုင်ရင်း အဓိကထားကြလေသည်။

တောင်တန်းနိမ့်နိမ့်တခုသည် ချီလီနိုင်ငံ၏ ပင်လယ်ကမ်းရိုးတန်းနှင့်ကပ်လျက် မြောက်မှတောင်သို့ အလျားလိုက်




ချီလီနိုင်ငံသင်္ဘောဆိပ်ကမ်းမြို့ကြီးဖြစ်သောဗယ်လပရိုက်ဇိုမြို့၏ရှုခင်း

တည်ရှိ၏။ ထိုတောင်တန်းငယ်နှင့် အန်းဒီးတောင်တန်း စပ်ကြားတွင် အချင်းမိုင် ၅၀ ထက်မပိုသော ရှည်လျားသည့် လွင်ပြင်ရှိလေသည်။ အန်းဒီးတောင်တန်းသည် ချီလီနိုင်ငံနှင့် အာဂျင်တီးနားနိုင်ငံ ၂ ခုတို့၏ နယ်ခြားအဖြစ်တည်ရှိသည်။ တောင်အမေရိကတိုက်တွင် အမြင့်ဆုံးတောင်ထိပ်ဖြစ်သော အားကွန်ကားဂွားတောင်ထိပ် (၂၃၀၈၁ ပေ) သည် ချီလီနိုင်ငံအတွင်း၌တည်ရှိ၏။

ချီလီနိုင်ငံ၏ အကျယ်ဆုံးအပိုင်းမှာ မြောက်ပိုင်းဖြစ်၍ အာတားကားမား သဲကန္တာရကြီး၏ တစိတ်တဒေသဖြစ်သည်။ ဤဒေသ၌ နိုက်ထရိတ် ခေါ် မြေသြဇာကျွေးရန် အသုံးကျသော တွင်းထွက်ဓာတ်အမြောက်အမြား တူးဖေါ်ရရှိသည်။ အလယ်ပိုင်း၌ လယ်ယာစိုက်ပျိုးလုပ်ကိုင်ကြ၏။ မြေထဲပင်လယ်ရာသီဥတုမျိုး ရှိသောကြောင့် သစ်သီးဝလံများကိုစိုက်ပျိုးနိုင်သည်။ တောင်ပိုင်းတွင် သစ်တောများ အပြင် သိုးနှင့်နွားမွေးမြူရန်ကောင်းသော မြက်တောများကို တွေ့နိုင်၏။

ချီလီနိုင်ငံကဲ့သို့ ရာသီဥတုထွေပြားသောနိုင်ငံကားရှား၏။ မြောက်ဖက်အစွန်းမှာ ပူအိုက်သောသဲကန္တာရဖြစ်၍ တောင်ဖက်အစွန်းမှာ ချမ်းအေး၍မိုးအကောင်းဆုံးသောဒေသဖြစ်သည်။ ယေဘုယျအားဖြင့်ဆိုသော် ချီလီနိုင်ငံသည် လတ္တီတွဒ် ၂၀ံ နှင့် ၅၀ံ အတွင်း ကျရောက်သော်လည်း အခြားသော အလားတူနိုင်ငံများထက် ပို၍အေးသည်ဟုဆိုရပေမည်။

ချီလီနိုင်ငံ၏လူဦးရေမှာ ၁၉၅၂ ခုနှစ်သန်းကောင်စာရင်း အရ ၅,၉၃၂,၂၉၅ ဖြစ်သည်။ လူဖြူမျိုးမှာအများဆုံးဖြစ်၍၊ ၁၅ ရာခိုင်နှုန်းမှာ လူဖြူနှင့်တိုင်းရင်းသားလူမျိုးတို့မှ ပေါက်ပွားသော ကပြားများဖြစ်သည်။ လူအများဆုံးနေထိုင်သည့်အပိုင်းမှာ အလယ်ပိုင်း တောင်ကြားဒေသဖြစ်၏။ ဆန်တီယာဂိုနယ် တခုတည်းမှာပင် လူဦးရေ ၁,၅၄၀,၀၀၀ ကျော် နေထိုင်လေသည်။

ချီလီမြောက်ပိုင်းရှိ အန်းတိုဖါဂါးစတားနှင့် တားရာပါးကားနယ် ၂ နယ်မှ ထွက်သော နိုက်ထရိတ် တန်ချိန်မှာ ကမ္ဘာတခုလုံးမှထွက်သော တန်ချိန်၏ ၉၅ ရာခိုင်နှုန်းရှိသည်။ ချီလီဆော့ ပီတာ (အိုဒီယမ်နိုက်ထရိတ်) မှ နိုက်ထရိတ် ထုတ်ယူရာတွင် အိုင်အိုဒင်းကို ဘေးထွက်ပစ္စည်း အဖြစ်ဖြင့် ရသည်။ ကမ္ဘာ၌ထွက်သော အိုင်အိုဒင်း ၇၀ ရာခိုင်နှုန်းခန့်ကို ချီလီနိုင်ငံမှရသည်။ ထိုမှတပါးလည်း ချီလီနိုင်ငံသည် ကမ္ဘာပေါ်တွင် ကြေးနီထွက်ရာ၌ ဒုတိယလိုက်လေသည်။ ဗယ်လပရိုက်ဇို မြို့၏တောင်ဖက်၌ အပိုးတန်သော ကျောက်မီးသွေးတွင်းများမှတနှစ်လျှင်တန်ချိန် ၂,၀၀၀,၀၀၀ ကျော် ကျောက်မီးသွေးများကို တူးဖေါ်နိုင်သည်ဟုခန့်မှန်းကြ၏။ အခြားတွင်းထွက်ပစ္စည်းများမှာ ရွှေ၊ ငွေ၊ သံပ်၊ သံ၊ တန်စတင်၊ မန်ဂနိ၊ ကိုဗော့၊ ဗိုရိတ်စသည်တို့ဖြစ်ကြ၍ တိုင်းပြည်အတွက်တန်ဖိုးများစွာရှိလေသည်။ လယ်ယာစိုက်ပျိုးခြင်းသည် ချီလီနိုင်ငံ၌အရေးကြီးသော လုပ်ငန်းတရပ်ဖြစ်၏။ ဂျုံ၊ မုယော၊ မြင်းစားဂျုံ၊ ပဲအမျိုးမျိုး၊ သစ်သော့သီး၊ ဖရဲသီး၊စပျစ်သီး၊ မက်မုံသီး၊ ဆီးသီးနှင့် အာလူးတို့ကို အမြောက်အမြား စိုက်ပျိုးလုပ်ကိုင်ကြ၏။



ချီလီနိုင်ငံတည်နေရာပြမြေပုံ



**ချီလီနိုင်ငံတောင်ပိုင်း အန်းဒီးတောင်တန်းရှိမီးတောင်များ**

နွားနို့လုပ်ငန်းကိုလည်း အကြီးအကျယ်လုပ်ကိုင်ကြသည်။ ထိုမှတပါးလည်း ချီလီနိုင်ငံသည် ကမ္ဘာပေါ်ရှိ အရက်အထွက်ဆုံးနိုင်ငံများတွင် တခုအပါအဝင်ဖြစ်သည်။ သို့ရာတွင်အခြားသော တောင်အမေရိကနိုင်ငံများကဲ့သို့ပင် ချီလီနိုင်ငံသည်လည်း စက်မှုလုပ်ငန်းတွင် များစွာတိုးတက်ခြင်း မရှိသေးပေ။

လူဦးရေ၏ ၁၉ ရာခိုင်နှုန်းသည် ကုန်ချောလုပ်ငန်းတွင် လုပ်ကိုင်လျက်ရှိကြ၏။ ချီလီနိုင်ငံမှ အခြားတိုင်းပြည်များသို့တင်ပို့ရောင်းချသော ထုတ်ကုန်များမှာ တွင်းထွက်ပစ္စည်းများ၊ သိုးမွေး၊ အသား၊ မုယော၊ မြင်းစားဂျုံ၊ ပဲအမျိုးမျိုးနှင့် လတ်ဆတ်သော သစ်သီးဝလံများဖြစ်၏။ သွင်းကုန်များမှာ စက်ကရိယာအမျိုးမျိုး၊ ရေနံ၊ သကြား၊ ပုံနှိပ်စက္ကူ၊ မော်တော်ယာဉ်များ၊ လက်ဖက်ခြောက်၊ ကော်ဖီနှင့် အထည်အလိပ်စသည်တို့ဖြစ်လေသည်။

ချီလီနိုင်ငံအတွင်း၌ ယနေ့အထိ ဖေါက်လုပ်ပြီးစီးသော မီးရထားလမ်းမှာ မိုင်ပေါင်း ၆၂၀၉ မိုင်ဖြစ်၏။ ပဌမဆုံး မီးရထားလမ်းကို ၁၈၅၀ ပြည့်နှစ်တွင် မြောက်ပိုင်း၌စတင်ဖေါက်လုပ်ခဲ့သည်။ ဗယ်လပရိုက်ဇိုနှင့် ဆန်တီယာဂိုမြို့စပ်ကြားရှိမီးရထားလမ်းတဝက်ကျော်ကျော်ကို အစိုးရကပိုင်၍ ကျန်အပိုင်းများကို ကုမ္ပဏီကပိုင်၏။ အကျော်ကြားဆုံး မီးရထားလမ်းမှာ ချီလီနိုင်ငံရှိ အန်းတိုဖါဂါးစတားမြို့နှင့် အာဂျင်တီးနားနိုင်ငံရှိ ဗေနာဇဲရစ်နှင့် အခြားမြို့များကို ဆက်သွယ်သောအန်းဒီးတောင်ကျော်မီးရထားလမ်းပင်ဖြစ်သည်။ ထိုလမ်းသည် ၅၄၃ မိုင်ရှည်လျား၍ တနေရာတွင် ပေပေါင်း ၁၄၂၈၂ ခန့်ထိမြင့်သောနေရာသို့ပင်ရောက်သည်။

ချီလီနိုင်ငံသည် စပိန်တို့လက်အောက်၌ နှစ်ပေါင်း ၃၀၀ ကျော်နေခဲ့ရပြီးနောက် ၁၈၁၈ ခုနှစ်တွင် ကျွန်ဘဝမှလွတ်မြောက်ခဲ့လေသည်။ ၁၉၂၅ ခုနှစ်တွင် ပြဋ္ဌာန်းအတည်ပြုသော အုပ်ချုပ်ရေးဥပဒေအရ နိုင်ငံတော်သမတကို ၆ နှစ်တကြိမ် ပြည်သူတို့က တိုက်ရိုက်ရွေးကောက်တင်မြှောက်ရ၏။ အထက်လွှတ်တော်တွင် အမတ် ၄၅ ဦး၊ အောက်လွှတ်တော်တွင် အမတ် ၁၄၇ ဦးပါဝင်သည်။

အထက်လွှတ်တော် အမတ်များ၏သက်တမ်းမှာ ၈ နှစ်ဖြစ်၍ အောက်လွှတ်တော်အမတ်များ၏သက်တမ်းမှာ ၄ နှစ်ဖြစ်သည်။ ၁၉၄၉ ခု၊ ဖေဖွာရီလအတွင်းက အတည်ပြုလိုက်သောဥပဒေအရ အသက် ၂၁ နှစ်ပြည့်၍ စာရေးဖတ်နိုင်သော နိုင်ငံသူနိုင်ငံသားတိုင်း မဲဆန္ဒပေးနိုင်ခွင့်ရှိလေသည်။ ထိုအလျှင်ကမူ မိန်းမများသည် မျူနီစီပယ်ရွေးကောက်ပွဲများတွင်သာ မဲပေးနိုင်ခွင့်ရှိကြသည်။

ချီလီနိုင်ငံတွင် ပညာရေးဌာနကို ပညာရေးဝန်ကြီးလက်အောက်တွင်ထား၍ တိုက်ရိုက်အုပ်ချုပ်သည်။ ၁၉၂၀ ပြည့်နှစ်ကအစပြု၍ ပညာရေးကို အခလွတ်မသင်မနေရ ပြုလုပ်ခဲ့၏။ ချီလီတက္ကသိုလ်၊ အမျိုးသားစာကြည့်တိုက်နှင့် ကက်သလစ် (ဗရင်ဂျီ) တက္ကသိုလ်တို့သည် ဆန်တီယာဂိုမြို့၌ တည်ရှိ၏။ အခြားတက္ကသိုလ် ၂ ခုမှာ ကွန်ဆက်ရှမြို့နှင့် ဗယ်လပရိုက်ဇိုမြို့တို့၌ တည်ရှိကြသည်။ အစိုးရ အသိအမှတ်ပြု မထားသော်လည်း လူများစုကကိုးကွယ်သော ဂိုဏ်းမှာ ဗရင်ဂျီဂိုဏ်းဖြစ်၏။ စပိန်စကားကို အများဆုံး



ချီလီနိုင်ငံဆန်တီယာဂိုမြို့၏စိမ်းလန်းသာယာသောရပ်ကွက်တခု

ပြောဆိုကြသည်။ ယခုအခါ ချီလီနိုင်ငံ၌ အရှယ်ရောက်သူတိုင်း စစ်ပညာမသင်မနေရစံနစ်ကို ပြုလုပ်ထားသဖြင့် လူငယ်တိုင်းစစ်ပညာတတ်မြောက်လေ့ကျင့်ပြီးဖြစ်သည်။

**ချူးအင်းဂမ်း။** ။အနောက်နိုင်ငံများ အထူးသဖြင့် အမေရိကန်ပြည်ထောင်စုတွင် ချော့ကလက်၊ သကြားလုံးတို့ကဲ့သို့ လူသုံးများသောစားစရာတမျိုးမှာ 'ချူးအင်းဂမ်း' ဟုခေါ်သော ကပ်စေးနဲသကြားခဲဖြစ်သည်။ ကပ်စေးနဲသကြားခဲဟုဆိုသည့်အတိုင်း ယင်းကိုပါးစပ်အတွင်း၌ ဝါးစားကြည့်လျှင် ချိုရရဲနှင့် စေးကပ်နေသည်။ ထိုစားစရာမျိုးကို မြန်မာလူမျိုးတို့ ဝယ်ယူစားသုံးလေ့ရှိကြသည်မှာ မကြာလှသေးချေ။ ကပ်စေးနဲသကြားခဲမှာ အမေရိကန်လူမျိုးတို့က ပဌမဆုံးစတင်တီထွင်လိုက်သော စားစရာဖြစ်၍၊ အမေရိကန်ပြည်ထောင်စုတွင်မူ တနှစ်အတွင်း ကျောင်းသုံးစာအုပ်များပေါ်၌ ကုန်ကျသောငွေထက် ကပ်စေးနဲသကြားခဲဖိုးပေါ်၌ ကုန်ကျသောငွေက ပိုမိုများပြားသည်ဟု သိရသည်။ ယခုအခါ အခြားနိုင်ငံများတွင်လည်း တနေ့တခြား ကပ်စေးနဲသကြားခဲကို အသုံးများလာကြလေပြီ။

ကပ်စေးနဲသကြားခဲကို ဝါးပေးနေခြင်းဖြင့် ပါးစပ်မှာအမြဲတမ်းလှုပ်ရှားနေရကား ကြံ့ခိုင်၍သန်မာသော မေးရိုးများရရှိစေနိုင်သည်ဟု ယူဆကြသည်။ ကပ်စေးနဲသကြားခဲကို သကြားလုံးများလုပ်သကဲ့သို့ သကြားဖြင့် မွှမ်းမံ၍ အနံ့ အရသာနှင့် ပြည့်စုံအောင်လုပ်ထားသည်။ သကြားခဲအတွင်း၌ ဝါး၍မကုန်နိုင်သော ပျော့ဖတ်ဖတ် အစေးခဲကလေးရှိသည်။ ထိုအစေးခဲကလေးမှာ 'ချီကလာ' သို့မဟုတ် 'ချစ်ကယ်' ခေါ် အစေးတမျိုးဖြစ်၍ မက္ကဆီကို၊ ဂွာတီမာလားနှင့် ဗြိတိသျှဟွန်ဒူးရပ် နိုင်ငံများ၌ ပေါက်သော ဆပိုဒီးလခေါ် အပင်များမှထုတ်ယူရရှိသည်။ ကော်ဖတ်စေးနှင့် ခပ်ဆင်ဆင်တူသည်။ ၁၀ နှစ်သားကျော်သောအပင်များ၏ပင်စည်တွင် ဓါးနှင့်ထစ်၍ ပေးလိုက်လျှင်ချစ်ကယ်အစေးများ စီးထွက်လာသည်။

ဆပိုဒီးလအပင်များမှာ အတော်မြင့်မားလေရာ အစေးအတွက် အထစ်ထစ်ပေးရာ၌ ပင်ရင်းမှအထက် ပေ ၃၀ ခန့်အမြင့်နေရာတွင် ငါးဆူးတောင်သဏ္ဌာယ် V သဏ္ဍာန်ထစ်ပေးရ၍ အစေးများကို စက္ကူခွက်များဖြင့် ခံယူရသည်။ တဖြည်းဖြည်းစီးထွက်သော အစေးများမှာ ၂ နာရီခန့်အတွင်း၌ ၂ ပိသာခန့် ဖြစ်လာသည်။ အစေးထုတ်ဖန်များလျှင် အပင် သေတတ်သောကြောင့် တခါအစေးထုတ်ပြီးသော အပင်ကို နောက်ထပ်နှစ်အနည်းငယ်အတွင်း အစေးထုတ်မယူရချေ။ အစေးတခါထုတ်လျှင်အပင် ၂၀၀၊ ၃၀၀ ခန့်ကထုတ်ယူသည်။

ချစ်ကယ်အစေးများကို ကပ်စေးနဲသကြားခဲ ပြုလုပ်သော စက်ရုံကြီးများသို့ မပို့မီ ကြီးမားသောစည်ကြီးများထဲသို့ ထည့်၍ ပျစ်ခဲလာအောင်ကျိုရသည်။ ထိုနောက် အစေးများကို အအေးခံပြီး ၂၅ ပေါင်ခန့်အချိန်စီးသော အတုံးကြီးများပြုလုပ်၍တင်ပို့သည်။

ကပ်စေးနဲသကြားခဲ စက်ရုံတွင် ထိုအတုံးကြီးများညက်ညက်ကြေအောင် ကြိတ်လိုက်ပြီးလျှင် အရည်ပျော်အောင် ကျို၍စစ်ယူသည်။ စစ်ပြီးသောအရည်များကို စည်ကြီးများထဲသို့လောင်းချကာ သကြား၊ အဖျော်ရည်နှင့် အမွှေးဆီများကိုရောထည့်၍ မွှေပေးသည်။ ထိုနောက် ခပ်ပျော့ပျော့ရှိနေခိုက်တွင် စက်ဖြင့် အချောင်းကလေးများဖြစ်အောင်လှိမ့်ပေးသည်။ ထိုအချောင်းများကို ဖြတ်တောက်ပြီးလျှင် သေသပ်လှပစွာထုပ်၍ ရောင်းချရန်တင်ပို့သည်။

ချစ်ကယ်အစေးမှာ အလွန်စျေးကြီးရှားပါးသဖြင့် ယင်းတမျိုးတည်းနှင့်သာ ကပ်စေးနဲသကြားခဲ မလုပ်နိုင်တော့ဘဲ အခြားအစေးတမျိုးကို ရှာဖွေကြသည်။ ယနေ့သော်ကား စက်ာပူမြို့မှထွက်သော ဂျီလူတန်ခေါ် အစေးနှင့် ချစ်ကယ်အစေး ၂ မျိုးကိုရောနှော၍ ကပ်စေးနဲသကြားခဲလုပ်ကြ၏။

ယခုအခါ ကပ်စေးနဲသကြားခဲကို ကမ္ဘာတဝှန်းသုံးစွဲလာကြသဖြင့်၊ ကြီးကျယ်သောလုပ်ငန်းကြီးတခုဖြစ်လာလေပြီ။

**ချေဖါပိုး။** ။ချေဖါပိုးခေါ် ပိုးတောင်မာအမျိုးမျိုးကို ကမ္ဘာအနှံ့ အပြားမှာပင် တွေ့ရှိနိုင်သည်။ ပိတုန်းအမျိုးမျိုးနှင့် ချေးထိုးပိုးအမျိုးမျိုးသည် ပိုးတောင်မာစာရင်းဝင် ပိုးများဖြစ်ကြ၏။ ချေဖါတို့သည် 'လမယ်လီတောနီးယား' ခေါ် မျိုးပေါင်းတွင်ပါဝင်၍၊ ပြားချပ်သောအာရုံမှင်များ ပါရှိခြင်းကြောင့် ယင်းတို့ကိုခွဲခြားသိသာနိုင်သည်။

ချေဖါပိုး တို့သည် သစ်ပင်ပန်းပင်တို့၏ အရွက်များကို အကုန်လိုလို ဖျက်ဆီးလေ့ရှိသည်။ ချေဖါပိုးလောင်းကလေးများကအပင်၏အမြစ်များကိုစား၍ ဖျက်ဆီးတတ်ကြသည်။

ချေဖါ ပိုးလောင်းသည် အခြားပိုးလောင်းတို့ထက် ကြီးမားလေးလံသော ကိုယ်ရှိသည်။ ဖြူဖွေးနူးညံ့သောကိုယ်တွင်အညိုရင့်ရောင် ဦးခေါင်းပါရှိသည်။ ခြေထောက်သုံးစုံရှိ၍ ဝမ်းပိုက်ပူသည်။ ကြီးပြင်းနေဆဲအချိန်တွင် ပိုးလောင်းတို့၏အဓိကအစာမှာ သစ်မြစ်များ သာဖြစ်သည်။ ပိုးလောင်းဘဝနှင့် နှစ်ပေါင်းများစွာနေတတ်သဖြင့် ယင်းတို့စားသောက်ဖျက်ဆီးမှုကြောင့်အပျက်အစီးများတတ်၏။

မြန်မာနိုင်ငံ၌ ပြောင်းပင်နှမ်းပင် စသည်တို့၏ အမြစ်များကို ကိုက်ဖဲ့ဖျက်ဆီးလေ့ရှိသော ပိုးတီကောင်သည် ပိုးစာပင်အစရှိသော အပင်တို့၏အရွက်များကို ကိုက်ဖြတ်ဖျက်ဆီးသော ပိုးကျိုင်းကောင်တို့၏ ပိုးလောင်းကလေးများပင်ဖြစ်လေသည်။ ထိုပိုးကျိုင်းကောင်ကို ချေးထိုးပိုးဟုလည်းခေါ်သည်။ ယင်းတို့သည် မိုးဦးကျရာသီတွင် အိမ်ထဲသို့ ညဥ့်အခါ တဝီဝီမြည်ပြီးပျံဝင်လာတတ်ကြသည်ကို တခါတရံကြုံရတတ်လေသည်။



**သစ်ပင်ပန်းပင်တို့ကိုဖျက်ဆီးလေ့ရှိသည့်ချေဖါပိုး**

**ချေးချွတ်စရာ။** ။ချေးချွတ်စရာပစ္စည်းများတွင် ကျွန်ုပ်တို့နေ့စဉ်အသုံးပြုနေသော ဆပ်ပြာသည် အတွေ့အများဆုံးပင်ဖြစ်သည်။ ဆပ်ပြာက အညစ်အကြေးများကို စင်ကြယ်အောင်ချွတ်ပစ်ပုံမှာ ဆန်းကြယ်၏။ အညစ်အကြေးတို့သည် အများအားဖြင့် ဆီကဲ့သို့စေးကပ်သဖြင့် ရေမစိုနိုင်ချေ။ သို့သော် ဆပ်ပြာသည် အညစ်အကြေးကို ရေစိုအောင်ပြုနိုင်၏။ ဆေးကြောဖွပ်လျှော်သောအခါ အညစ်အကြေးတို့သည်ရေစို၍ ဆပ်ပြာမြှုပ်တွင် လိုက်ပါသွားလေသည်။

ချေးချွတ်စရာပစ္စည်းတွင် ရေ၏မျက်နှာပြင်တင်းအားကို နှိမ့်ချပေးနိုင်သော သတ္တိရှိသည်။ ရေ၏မျက်နှာပြင်တင်းအား နိမ့်ကျသွားသောအခါ ဆပ်ပြာရည်မှ အမြှုပ်ထလာသည်။ ဆပ်ပြာတွင် ဖက်တီးအက်ဆစ်နှင့် ဆိုဒီယမ်တို့ပေါင်းစပ်နေသော ဓါတ်ဆားများပါဝင်သည်။ အဆိုပါ ဓါတ်ဆားမော်လီကျူးတွင် ပါဝင်သောဆိုဒီယမ်အက်တမ်တို့သည် ရေနှင့်ပူးပေါင်းလိုသောသဘောရှိ၍ ဖက်တီးအက်ဆစ်အစိတ်အပိုင်းများက ဆီကဲ့သို့စေးကပ်သော ပစ္စည်းများဖြင့် ပူးပေါင်းလိုသောသဘောရှိသည်။ ထို့ကြောင့် ဆပ်ပြာမော်လီကျူးတို့သည် ရေကိုအညစ်အကြေးတို့နှင့် ပူးပေါင်းအောင်ပြုသည်။ ထိုအခါ အညစ်အကြေးတို့သည် ရေနှင့်အတူဆေးကြောပစ်ရာသို့ လိုက်ပါသွားလေသည်။

ဆပ်ပြာအပြင် အခြားချေးချွတ်စရာများ ရှိသေးသည်။ ဆာလဖျူရစ် အက်ဆစ် အပြင်း ရည်နှင့် ကြက်ဆူဆီကို ပေါင်းစပ်ပေးသောအခါ ဆပ်ပြာကဲ့သို့ပင် အသုံးပြုနိုင်သော ချေးချွတ်စရာ ဆီအနီတမျိုးကိုရသည်။ ဓါတ်ဆီချက်ရာမှ ရသည့် 'တီပေါ' ခေါ် ဆိုဒီယမ်ဓါတ်ဆားသည်လည်း ယခုအခါအသုံးများသော ချေးချွတ် စရာပစ္စည်း တမျိုး ပင်ဖြစ်သည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်းကလည်း ဂျာမန်လူမျိုးတို့သည် ကုတ်မီးသွေးနှင့် ရေနွေးငွေ့တို့မှ ဖက်တီးအက်ဆစ် ဆပ်ပြာနှင့် ချေးချွတ်စရာပစ္စည်းများကို တနည်းတလမ်း ပြုလုပ်၍သုံးစွဲခဲ့ကြလေသည်။

**ချေးထိုးပိုး။** ချေးထိုးပိုးသည်ပိုးတောင်မာမျိုးဖြစ်သည်။ ပိုးတောင်မာတို့သည် မျိုးရင်းအားဖြင့် ၂၁ မျိုးရှိ၍ မျိုးစိတ်အားဖြင့် ၂၅၀,၀၀၀ ရှိ၏။ ဇီဝဗေဒအလိုအရ ချေးထိုးပိုးသည် 'စကာရာဗီအစ်ဒီး' မျိုးရင်းတွင်ပါဝင်၍ 'ကိုလီအော့ပတဲရား' မျိုးစဉ်တွင် အပါအဝင်ဖြစ်၏။

ချေးထိုးပိုး၏ကိုယ်လုံးသဏ္ဌာန်မှာ ကြက်ဥပုံသဏ္ဌာန်ဖြစ်သည်။ ကျောက်ကုန်းသည် မည်းနက်သောအရောင်ဖြင့် ပြောင်လျက်ရှိ၏။ အနက်ရောင်အောက်တွင် အပြာရောင်ခံထားသည်။ ချေးထိုးပိုးသည်အလျားအားဖြင့် ၁ လက်မခန့်ရှိ၍ ကိုယ်လုံးသည် မာကျောကျစ်လစ်၏။ ခြေ ၆ ချောင်းရှိ၍ အတောင် ၄ ခု ရှိသည်။ မပျံသန်းဘဲ မြေပေါ်တွင်နား

နေသောအခါ ချေးထိုးပိုး၌ အတောင်ပါရှိသည်ဟုပင်မထင်ရချေ။ တောင်ပံ ၄ ခုရှိရာ အတွင်းဖက်တောင်ပံ ၂ ခုကို အပြင်ဖက်တောင်ပံ ၂ ခုက ဖုံးအုပ်ထားသည်။ ပျံသန်းရာတွင် အတွင်းဖက် တောင်ပံများကိုသာသုံးသည်။ ချေးထိုးပိုးသည် ကိုယ်လုံးမဆံ့သာအောင် ကျဉ်းမြောင်းသောအကြိုအကြားထဲသို့ တိုးဝင်သောအခါ အပြင်တောင် ပံ ၂ ခု၏ ကာကွယ်မှုကြောင့် အတွင်းတောင်ပံမှာ ပျက်စီးမသွားချေ။

ချေးထိုးပိုးသည် လေထဲတွင်ကျင်လျင်စွာ မပျံသန်းနိုင်ချေ။ ထို့ကြောင့် ပျံသန်းနေခိုက် ချေးထိုးပိုးသည် တိုင်နံရံစသည်နှင့် တိုက်မိလျှင် အောက်သို့ တရှိန်တည်းထိုးကျလာတတ်သည်။ ဤသို့အကျဆိုးဖြင့် ကျသော်လည်း ချေးထိုးပိုး၌မှားသောအားဖြင့် အထိအခိုက်မရှိချေ။

ချေးထိုးပိုး၏ကိုယ်ခန္ဓာကို ၃ ပိုင်းခြားထား၏။ ထို ၃ ပိုင်းမှာ ဦးခေါင်းပိုင်း၊ ရင်ပိုင်း၊ နှင့်ဝမ်းပိုက်ပိုင်းဖြစ်၏။ ထိုအပိုင်း ၃ ပိုင်းသည် တပိုင်းနှင့်တပိုင်း ဆက်စပ်လျက်ရှိ၏။ ဦးခေါင်းတွင်ဦးမှင်ရှိ၏။ ပါးစပ်တွင်ခိုင်မာသော မေးရိုးကြီးများကို တွေ့ရ၏။ ပိုးလောင်း၌ပင်လျှင် ခိုင်မာသော်မေးရိုးကြီးများကိုတွေ့ရ၏။ ချေးထိုးပိုးသည် အမိဝမ်းမှ ပေါက်လာကတည်းက ချေးထိုးပိုးဘဝနှင့် ပေါက်လာသည်မဟုတ်။ သူ၏ဘဝဖြစ်စဉ်၌ အဆင့် ၄ ဆင့်ပြောင်းပြီးမှ ချေးထိုးပိုးဖြစ်လာသည်။ ပဌမအဆင့်သည် ဥပင်ဖြစ်၏။ ဒုတိယအဆင့်သည် ဥမှ ပေါက်ဖွါးလာသော ပိုးလောင်းဖြစ်၏။ တတိယအဆင့်သည် ပိုးတုံးလုံးဖြစ်၍ နောက်ဆုံးအဆင့်မှာမူ ချေးထိုးပိုးဖြစ်လာလေသည်။

ချေးထိုးပိုးသည် မိမိ၏ဥကို မြေဩဇာပုံ သို့မဟုတ် နောက်ချေးပုံထဲတွင်အုတတ်၏။ ချေးထိုးပိုးသည် မြေဩဇာပုံမှ နောက်ချေးကိုယူ၍ အလုံးသဏ္ဌာန်ပြုလုပ်လေ့ရှိသည်။ လုံးထားသောနောက်ချေးသည် ချေးထိုးပိုးထက်ပင် အရွယ်အားဖြင့်ကြီး၏။ ချေးထိုးပိုးသည် ရှေ့ခြေကိုမြေကြီးပေါ်သို့ထောက်လျက် နောက်ခြေဖြင့်နောက်ချေးလုံးကို တွန်းကန်ကာ မိမိအလိုရှိရာသို့ယူဆောင်၏။ နောက်ချေးလုံးကို ကုန်းမြင့်ပေါ် သို့ ယူဆောင်ရာ၌၎င်း၊ ကျောက်တုံးကျောက်ခဲကြီးများပေါ် သို့ ဆွဲတင်ရာ၌၎င်း၊ ချိုင့်ကွက်များထဲမှ ဆွဲထုတ်ယူရာ၌၎င်း၊ ချေးထိုးပိုးသည် အလွန်ကျင်လျင်သည်။ ဤသို့ယူဆောင်၍ သင့်တော်သော နေရာသို့ ရောက်သောအခါ ချေးထိုးပိုးသည် နောက်ချေးလုံးကို ထားပြီးလျှင် နောက်ချေးလုံးထဲသို့ အပေါက်ဖေါက်ထွင်း၏။ ထိုအပေါက်ထဲသို့ ချေးထိုးပိုးသည်ဝင်၍ အပေါက်ကျယ်လာအောင် နောက်ချေးကိုစားပစ်၏။ ထိုအပေါက်ထဲတွင် ချေးထိုးပိုးမသည် ဥအု၏။ ဥအုပြီးသည့်နောက် နောက်ချေးလုံးကို မြေကြီးဖြင့်ဖုံးအုပ်ထားခဲ့၏။

ချေးထိုးပိုးသည် အသွားအလာနှေးကွေး၏။ ပက်လက်လန်သွားသောအခါ နဂိုအနေသို့ပြန်ရောက်အောင် မိမိပါသာမစွမ်းနိုင်ချေ။ ပက်လက်လန်နေသော အနေအထားသည် ချေးထိုးပိုးအတွက် အလွန်အနေရကြပ်၏။ စိုးရိမ်စရာလည်းဖြစ်၏။ အကြောင်းမူကား ထိုအချိန်တွင် အခြားသားစားပိုးကောင်များ သို့မဟုတ် ပရွက်ဆိတ်များသည် ချေးထိုးပိုးကို အပိုင်းပိုင်းကိုက်ဖြတ်၍ စားသောက်နိုင်ကြသောကြောင့်တည်း။

ချေးထိုးပိုးသည် ပက်လက်မလန်ဘဲ နဂိုအနေအထားတွင်ရှိစဉ် ဘေးရန်မှလွတ်ကင်းအောင် မိမိကိုယ်ကိုမိမိကာကွယ်နိုင်၏။ မည်းနက်သောကျောက်ကုန်းသည် ချေးထိုးပိုးကို ဒိုင်းသဖွယ်ကာကွယ်ပေး၏။ ချေးထိုးပိုး၏ တုတ်ခိုင်သောနောက်ပိုင်းသည် မာကျောသည့်ပြင် မကျိုးမပြတ်နိုင်သောကြောင့် အစာအလို့ငှါ ကိုက်ဖြတ်လိုသောရန်သူတို့သည် ချေးထိုးပိုးကို အလွယ်တကူ ရန်မမူနိုင်ကြချေ။ ချေးထိုးပိုးသည် မိမိရန်သူကို နိုင်နင်းမည်ပုံမပေါ် လျှင် အတောင်ကိုဖြန့်၍ လေထဲသို့ပျံထွက်ပြေးတတ်၏။

ချေးထိုးပိုးသည် ပျံသန်းနိုင်သော်လည်း အများအားဖြင့် ခြေကိုသာအသုံးပြု၍ လျှောက်သွားတတ်၏။ ညနေချိန် သို့မဟုတ် ညနေစောင်းချိန်တွင် ချေးထိုးပိုးများ ပျံဝဲနေသည်ကိုအများအားဖြင့် တွေ့မြင်ကြရ၏။ ချေးထိုးပိုးသည် အလင်းကိုရှောင်၍ ကျောက်တုံးကျောက်ခဲကြီးများအောက်တွင်နေတတ်၏။ ထို့ပြင် ကြွေကျလျက် ရှိသော သစ်ရွက်များ အောက်တွင်၎င်း၊ အမှိုက်သရိုက်ပုံအောက်တွင်၎င်း၊ သစ်ပင်အမြစ်နှင့် နံရံအကြိုအကြားများထဲ၌၎င်း၊ နေတတ်၏။ အလင်းရောင်အားနည်းသော ညနေအေးအချိန်မျိုးတွင် သာလျှင် မိမိခိုအောင်းလျက်ရှိသော နေရာမှ ပြင်ပသို့ထွက်လာတတ်လေသည်။



ပိုးတောင်မာမျိုးဝင်ချေးထိုးပိုး



**သမပိုင်းဇုန်ဒေသများတွင် နွေဦးကာလများ၌ ပွင့်ဖူးတွေဝေနေသည့်ချယ်ရီပင်များ**

**ချေးပင်။** ။ချေးပင်သည် ပေ ၅၀ ခန့်အထိမြင့်၍ ယင်းတို့ကိုမြန်မာနိုင်ငံ၌ တနင်္သာရီတိုင်း ကမ်းခြေတလျှောက်ရှိ သစ်တောများတွင်တွေ့မြင်နိုင်သည်။

ချေးပင်မှသစ်စေးအမည်းတမျိုးကိုရရှိ၍ အသီးမှ အနံ့စူးသော အနက်ရောင်ဆီတမျိုးကိုရသည်။

ထိုဆီအနက်ကို ထုံးရည်ကြည်ဖြင့်ရောလိုက်လျှင် အဝတ်အထည်များ၌ ခဝါသည်တို့မှတ်သားလေ့ရှိသော ဒိုဘီမင်ခေါ် ဖွပ်လျှော်၍မပျက်နိုင်သည့် မင်ကိုရသည်။ သစ်စေးဖိုမင်မှာ ချေးပင်အနွယ်ဝင်ဖြစ်၍ ထိုအပင်၏အသီးမှလည်း အလားတူမင်မျိုး ဖေါ်စပ်နိုင်သည်။ ချေးသီးကို ဘယဆေးများဖေါ်စပ်ရာတွင် အသုံးပြုကြသည်။ ချေးပင်၏အစေးမှာ သစ်စေးကဲ့သို့စက်၍ အနာဖြစ်တတ်လေသည်။ ဤသို့အနာစက်ဖြစ်ပေါ်လျှင် ကင်ပွန်းချဉ်ရွက်အကြမ်းကို အရည်ကျို၍ဖန်ရေဆေးပေးက ရုတ်ခြည်းသက်သာနိုင်သည်။

ချေးပင်၏အသားမှာ အနီရောင်ရှိ၍ချောမွတ်လာအောင်ပွတ်ပြင်ပေးနိုင်သော လှပသည့်သစ်မျိုးဖြစ်သဖြင့်၊ ဗီရိုကဲ့သို့သော အိမ်သုံးပစ္စည်း အကောင်းစားများပြုလုပ်ရန်၊ ပန်းပုထုရန်နှင့် ကြမ်းပြင်အလှခင်းရန်တို့အတွက် အသုံးဝင်သည်။ သို့သော် ထိုသစ်သားကို မြန်မာနိုင်ငံမှ တနှစ်လျှင်တန်ချိန်အနည်းငယ်သာရသည်။ သစ်အရောင်းအဝယ် လုပ်ရာတွင်လည်း ချေးသားနှင့်သစ်စေးဖိုသား နှစ်မျိုးစလုံးကို သရက်သစ် စေး သား ဟု အမည်တမျိုး တည်း ဖြင့် ခေါ်ကြသဖြင့် ခွဲခြားသိရှိရန်မလွယ်ကူချေ။

**ချယ်ရီပင်။** ။ချယ်ရီပင်သည်၊ နှင်းဆီမျိုးရင်းဝင်အပင်ဖြစ်၍ ယင်း၏မျိုးစုအမည်မှာ ပရူနပ် ဖြစ်သည်။ ချယ်ရီအချိုမျိုး၊ အချဉ်မျိုးဟူ၍ ၂ မျိုးရှိရာ အချိုမျိုးကို ပရူနပ်အဗီယမ်ဟူ၍ငင်း၊ အချဉ်မျိုးကို ပရူနပ် စီရာဆပ် ဟူ၍ငင်း ခေါ်သည်။ မြန်မာနိုင်ငံအထက်ပိုင်းရှိ တောင်ကုန်းများ၌ အချိုမျိုးဖြစ်သော ပရူနပ်အဗီယမ် ချယ်ရီပင်များကိုတွေ့ရတတ်သည်။

ဂျပန်နိုင်ငံ၌ ချယ်ရီပန်းများပွင့်သော နွေဦးပေါက်ချိန်တွင် ပျော်ပွဲရွှင်ပွဲများ ကျင်းပကြသည်။ ကိုရီးယားနိုင်ငံ၌ ချယ်ရီပင်ကို အမြတ်တနိုး စိုက်ပျိုးကြသည်။ အင်္ဂလန်ပြည်၊ အမေရိကန်ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံတောင်ပိုင်းတို့၌လည်း ချယ်ရီပင်များပေါက်သည်။

ချယ်ရီသီး မှာ ဆီးသီး နှင့် မက်မုံသီးတို့ကဲ့သို့ မာသောအစေ့ရှိသည့် အသီးမျိုးဖြစ်လေသည်။ ချယ်ရီအချိုသီးမှည့်များကို အသီးမှည့်အတိုင်း စားသုံးကြသည်။ ချယ်ရီအချဉ်သီးကိုမူ သနပ်၊ ချဉ်ရည်စသည်တို့ပြုလုပ်ရန် အသုံးချကြ



စားစချင်ဖွယ်ချယ်ရီသီးများ

သည်။ ချယ်ရီသီးအရည်ကို အရက်ချက်ကြသည်။ ချယ်ရီသားဖြင့် အကောင်းစားအိမ်ထောင်ပစ္စည်းများကို ပြုလုပ်ကြသည်။ ချယ်ရီပင်၏အခေါက်မှာ ဆေးဖက်ဝင်သည်။

မြန်မာနိုင်ငံအထက်ပိုင်း၌ ရက္ခဗေဒအမည် ပရုနပ်ပဒ္ဒမ်ခေါ် ဟင်မားလယန် ချယ်ရီမျိုးလည်း ပေါက်သည်။ ထိုချယ်ရီပင်ကို ကချင်တို့က ပန္နု၊ ပန္နီ ဗျင်ဗျိုင်းဟူ၍၎င်း၊ ရှမ်းတို့က မိုင်စိန် ဟူ၍၎င်းခေါ်ကြသည်။

**ချော့ကလက်။** ။ချော့ကလက်မှာ ကကေးအိုခေါ် အပင်၏ အသီးတောင့်များအတွင်းမှ အစေ့ဆန်များကို အမှုန့်ကြိတ်၍ သကြား၊ နို့တို့ဖြင့် ရောစပ်ကာပြုလုပ်ထားသော ရသာခဲဖြစ်သည်။

အနောက်တိုင်း နိုင်ငံများနှင့် ဩစတြေးလီးယား၊ နယူးဇီလန်ကျွန်းများတွင် ချော့ကလက်များကို အကြီးအကျယ်လုပ်၍ ကမ္ဘာ့အရပ်ရပ်သို့ တင်ပို့ရောင်းချသည်။ ချော့ကလက်၏ ပင်ကိုယ်ခါးသက်သော အရသာကို သကြား၊ နို့၊ ကော်မှုန့်များဖြင့် ရောနှောဖုံးအုပ်၍ ဖက်စပ်ပြုပြင်ထားလေရာ ချော့ကလက်သည် ချိုဆိမ့်သည်။ အနံ့လည်းကောင်းမွန်သဖြင့် လူတိုင်းနှစ်ခြိုက်ကြသည်။ အထူးသဖြင့် ကလေးများ အလွန်တောင့်တသော အစာဖြစ်သည်။ သို့ရာတွင် ချော့ကလက်များသည် စားကောင်းသလောက် အဖိုးကြီးမြင့်လေရာ လူတိုင်းစားသုံးခြင်း မပြုနိုင်ချေ။

၁၄၉၂ ခုနှစ်နောက်တွင် မက္ကဆီကိုနိုင်ငံသို့ စပိန်လူမျိုးများ ရောက်ရှိသွားသောအခါ ထိုဒေသမှတိုင်းရင်းသားများသည် ကကေးအိုခေါ်အပင်မှ အစေ့ဆန်တို့ကို ကြိတ်၍ ဖျော်သောက်ကြသည်ကို တွေ့ရသည်။ စပိန်လူမျိုးများလည်း ထိုအရည်ကို မြိစမ်းကြည့်ရာ ခါးသက်သက်နှင့် အီသည်ကိုတွေ့ရသည်။ သို့ရာတွင် ဥရောပတိုက်မှ ယူဆောင်လာခဲ့သည့် သကြားနှင့် ရော၍သုံးဆောင် ကြည့်ကြသောအခါ အရသာကောင်းသည်ကိုတွေ့ရသည်။ သူတို့မှတဆင့် ဥရောပတိုက်သို့ရောက်သွားလေရာ ၁၇ ရာစုလောက်တွင် ဥရောပတိုက်၌ ကိုကိုးအဖျော်ကို အနှံ့အပြားသုံးစွဲစပြုကြသည်။

ချော့ကလက်မှာ ကိုကိုးပြုလုပ်သကဲ့သို့ပင် ကကေးအိုအစေ့ဆန်များကို အခြောက်လှန်း၍ ကြိတ်ထားသောအမှုန့်များမှ ပြုလုပ်ခြင်းဖြစ်သည်။ ကကေးအိုပင်များမှာ ပူအိုက်၍စိုစွတ်သော အမေရိကတိုက်၊ အာဖရိကတိုက်များတွင် အလေ့ကျပေါက်၍ ကကေးအိုစေ့များကို ကိုကိုး ချော့ကလက်များပြုလုပ်သည့် နိုင်ငံများသို့ တင်ပို့ရောင်းချကြ၏။



ချော့ကလက်များကိုလေလုံစက္ကူဖြင့်၍သို့ထုပ်ကြရသည်။



စက်မှကျလာသောချော့ကလက်များကိုအအေးခံထားစဉ်

ချော့ကလက်စက်ရုံကြီးများသို့ရောက်သောအခါ ကကေးအိုအစေ့များကို ပို၍အရသာကောင်းလာစေရန် စက်ဖြင့်လှော်ပေးရသည်။ ထို့နောက် စက်ဖြင့်ကြိတ်လိုက်သောအခါ အခွံများထွက်ကုန်ပြီးလျှင် အဆန်များသာ ကျန်ခဲ့၏။ အစေ့ခွံများမှာ မြေသြဇာအတွက်အသုံးချရသည်။

ကကေးအိုအစေ့မှရသော အဆန်များမှာ ကိုကိုး၊ ချော့ကလက်ပြုလုပ်ရသော အဓိကပစ္စည်းများဖြစ်သည်။ ချော့ကလက်ပြုလုပ်ရာ၌ အဆန်များကို ချော့ကလက်အရည်ဖြစ်အောင် စက်ဖြင့်အထပ်ထပ်ကြိတ်ပေး၍ ပုံစံခွက်များထဲတွင် အအေးခံပေးရသည်။ ထို့နောက် သကြား၊ နို့၊ ကော်မှုန့်များ ရောစွက်လိုက်သောအခါ ချိုဆိမ့်သောချော့ကလက်များဖြစ်လာသည်။

ချော့ကလက်သည် အလွန်အဆီများ၏။ ကကေးအိုအဆန်များတွင် ကိုကိုးဆီ ဟုခေါ်သော အဆီအနှစ်တဝက်ကျော်မျှ ပါရှိသည်။ ယင်းကိုကိုးဆီမှာ အညိုရင့်ရောင်ရှိသည်။ အဆီဓာတ်လွန်ကဲ၍ အီဆိမ့်လှသည်။ ရှေးအခါက ချော့ကလက်များပြုလုပ်ရာတွင် မူလကိုကိုးဆီများပါရှိသမျှ နှင့်သာ ပြုလုပ်ကြသော်လည်း ယခုအခါတွင် ကိုကိုးဆီများကို ပိုမိုထည့်သွင်း၍ ပြုလုပ်ကြသည်။ ချော့ကလက်တွင် ပို၍ထည့်ရမည့်ဆီကို ကကေးအိုအဆန်များမှ ကိုကိုးမှုန့်မပြုလုပ်ခင် ထုတ်ယူသည်။ ယင်းသို့အားဖြင့် ဖျော်သောက်ရမည့် ကိုကိုးမှုန့်မှာလည်း အဆီထုတ်ပြီး ဖြစ်၍ အီဆိမ့်လွန်းခြင်း၊ အဆီများခြင်းမဖြစ်တော့ဘဲ ချော့ကကလက်မှာလည်း ပို၍အရသာကောင်းလာသည်။ ယင်းသို့အရသာ ပိုကောင်းသည်နှင့်အမျှ ချော့ကလက်သည် အစာကြေလွယ်ခြင်းမရှိချေ။ သို့ရာတွင် နည်းနည်းနှင့် ဝစေသောအစာဖြစ်သည်။

ချော့ကလက်တွင် ပရိုတင်း၊ အဆီဓာတ်ဆားနှင့် အခြားခွန်အားဖြစ်စေသောဓာတ်များ ပြည့်စုံလုံလောက်စွာပါရှိသဖြင့် နည်းနည်းနှင့်အရာရောက်သော အစာအာဟာရဖြစ်သည်။ ထို့ကြောင့် ပင်လယ်ရပ်ခြားသို့ သွားရောက်နေရသောစစ်သည်တော်များ စွန့်စားရှာဖွေသူများအဖို့ ချော့ကလက်သည် အလွန်အဖိုးတန်သော စားနပ်ရိက္ခာတမျိုးဖြစ်ပေသည်။

# အင်္ဂလိပ်ကဗျာစာဆိုတို့၏ဖခင်

**ကင်တာဗာရီပုံပြင်များကို မွေးထုတ်ခဲ့သူကဗျာဆရာကြီး ချော်စာ၏ဘဝကို ဤတွင်စိတ်ဝင်စားဖွယ်ဖော်ပြထားသည်။ ပြင်သစ်နှင့်လက်တင်ဘာသာမှသာလျှင် ယဉ်ကျေးမှုနှင့်စာပေဆိုင်ရာတွင် ထိရောက်စွာသုံးစွဲနိုင်သည်ဟူသော ထိုခေတ်၏ယူဆချက်အားတော်လှန်၍မစ်ဒလန်နယ်သုံးအင်္ဂလိပ်စကားကို ထီးနန်းသုံးစာပေအဖြစ် ပို့ဆောင်နိုင်ခဲ့သည်မှာအံ့မခန်းပါပေ။**

**ချော်စာ, ဂျက်ဖရီ** (ခရစ် ၁၃၄၀–၁၄၀၀)။ ။ဂျက်ဖရီချော်စာသည် အင်္ဂလိပ်စာပေ၌ ကဗျာအရာတွင် လက်ဦးဆရာမည်တွင်လောက်အောင် ပဌမဦးဆုံး ထင်ရှားကျော်စောခဲ့သော စာဆိုကြီးဖြစ်ပေသည်။ သူ၏ကဗျာများတွင် ပါရှိသောပုံပြင်ဝတ္ထုတို့ဖြင့်၊ ထိုခေတ်က လူတန်းစားအမျိုးမျိုးတို့၏ နေမှုထိုင်မှုသဘာဝကို ထူးကဲစွာသရုပ်ဖော် ပေးခဲ့သည်။ သူစီရင်ရေးသားသော ကန်တာဗာရီပုံပြင်ကဗျာများမှာ အလွန်ထင်ရှား၍ ယခုထက်တိုင် နှစ်ပေါင်း ၅၀၀ ကျော်အတွင်းတွင် အစဉ်မပြတ် စာပေလေ့လာသူများ၏ နှစ်ခြိုက်ခြီးကျူးခြင်းအမြတ်တနိုးတန်ဖိုးထားခြင်းခံရသည်။

ချော်စာကို လန်ဒန်မြို့၌ ခရစ်နှစ် ၁၃၄၀ လောက်တွင် မွေးဖွားသည်။ သူ၏ဖခင်မှာ ကြွယ်ဝသော အရက်ချိုကုန်သည်တဦးဖြစ်၏။ အသက် ၁၇ နှစ်အရွယ်တွင် တတိယအက်ဒွပ်ဘုရင်၏သားဖြစ်သူ ဒျူ့ဘ်ရှ ကလာရင့်မြို့စား၏ ကြင်ယာတော်ထံပါးတွင် မင်းလုလင်အဖြစ်ဖြင့် အမှုတော်ကိုထမ်းရွက်ရသည်။ အသက် ၁၉ နှစ်အရွယ်ခန့်တွင် အင်္ဂလိပ်ပြင်သစ်နှစ်တရာစစ်ကြီး၏ တစိတ်တဒေသဖြစ်သော ပြင်သစ်နိုင်ငံစစ်ပွဲများတွင် ပါဝင်တိုက်ခိုက်ခဲ့ရာ ရန်သူလက်တွင်း

သို့ကျရောက်ခဲ့သဖြင့်၊ အင်္ဂလိပ်ဘုရင် တတိယအက်ဒွပ်၏ အကူအညီအထောက်အပံ့ဖြင့် သုံ့ပန်းလျော်ကြေးပေးကာ ရွေးနုတ်ခဲ့ရသည်။ အင်္ဂလန်သို့ပြန်ရောက်သောအခါ၊ တတိယအက်ဒွပ်ဘုရင်၏ သားတော်တဦးဖြစ်သော ဒျူ့ဘ်ရွှဲလနက်ကက်စတာမြို့စားထံတွင် 'စက္ကွိုင်ယာ' ခေါ် သူကောင်းအငယ်တန်းစား အဖြစ်ဖြင့် ခစားရပြန်သည်။ နန်းတွင်း၌ယင်းသို့ အမှုထမ်းနေစဉ်၊ မင်းကိစ္စရေးရာများကို ဆောင်ရွက်ရန် ဥရောပနိုင်ငံအသီးသီးသို့ သွားရောက်ခဲ့ရသည်။ ၁၃၇၃ ခုနှစ်၌ အင်္ဂလိပ်ဘုရင်၏ သံတမန်အဖြစ်ဖြင့် ဣတလီပြည်မြောက်ပိုင်းသို့သွားခဲ့ရသည်။ ထိုစဉ်က ဣတလီပြည်၌ စာပေခေတ်ဆန်းချိန် အခါကြုံ၍ ယဉ်ကျေးမှုဆိုင်ရာပညာရပ်များ ထွန်းကားနေသည့် ဒေသဖြစ်သည်။ ထို့ကြောင့် ချော်စာသည် ဣတလီစာဆိုကျော်များဖြစ်သော ပီးထရတ်နှင့် ဗိုကာချီတို့၏ စာပေအရိပ်အာဝါသနှင့် မကင်းဟုယူဆဘွယ်ရှိသည်။ ဤသို့ ဥရောပတိုက်၌ ခရီးလှည့်လည်ယင်း၊ လက်တင်၊ ပြင်သစ်နှင့်ဣတာလျံစာပေတို့၌ ကျွမ်းကျင်ခဲ့၍၊ သူ၏ အရေးအသားများ၌ ထိုစာပေတို့က အထောက်အပံ့ပြုခဲ့ပေလိမ့်မည်။

၁၃၇၄ ခုနှစ်တွင် ချော်စာသည် လန်ဒန်မြို့တော်ဆိပ်ကမ်း၌ အကောက်တော်အရာရှိအဖြစ်အမှုထမ်းရပြန်သည်။ တတိယအက်ဒွပ်နတ်ရွာစံပြီးနောက် ဒုတိယရစ်ချတ်ဘုရင် လက်ထက်တွင်လည်း မင်း၏ခြီးမြှင့်ခြင်းခံရသည်။ ၁၃၈၅ ခုနှစ်၌ကား ကင့်မြို့နယ်မှနေ၍ ပါလီမန်အမတ်အဖြစ်နှင့် ရွေးကောက်တင်မြှောက်ခြင်းကိုခံခဲ့ရသည်။ သို့ရာတွင် အသက်ကြီးပြင်းလာသောအခါ ရှိရင်းစွဲရာထူးကို လက်လွှတ်ဖြစ်ရ၍၊ ပင်ပန်းဆင်းရဲရရှာသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကဗျာတပုဒ်ကိုပင် စပ်ဆိုခဲ့သေးသည်။ ထိုကဗျာကို အကြောင်းပြု၍၊ ချော်စာသည် ဒုတိယရစ်ချတ်ဘုရင်ကိုနန်းချပြီး နန်းတက်သောစတုတ္ထဟင်နရီဘုရင့်ထံမှ ရိက္ခာတော်ရခဲ့သည်။ သို့သော် ရိက္ခာရပြီးနောက် အနှစ် ၁၄၀၀ ပြည့်နှစ် အောက်တိုဘာလ ၂၅ ရက်တွင် ကွယ်လွန်ခဲ့ရာ၊ ဝက်စမင်စတာဘုရားရှိခိုးကျောင်းတွင် သူ့အားမြှုပ်နှံသင်္ဂြိုဟ်ခဲ့သည်။ သူ့အားမြှုပ်နှံရာ ဘုရားရှိခိုးကျောင်းထောင့်တွင်၊ သူ့နောက် နှစ်ပေါင်း ၂၀၀ ခန့်တွင် ထင်ရှားကျော်စောသော ကဗျာစာဆိုကြီး စပင်ဆာကို မြှုပ်နှံပြန်ရာ၊ ထိုအခါမှစ၍ ဝက်စမင်စတာဘုရားရှိခိုးကျောင်းဤနေရာကွက်ကလေးကို 'စာဆိုသိုက်မြုံ (ဝါ) 'ကဗျာစာဆိုတို့၏ ထောင့်ကွက်' ဟုတွင်လာလေတော့သည်။ နောက်နောင် ထင်ရှားသော ကဗျာစာဆိုများကိုလည်း ဤအကွက်တွင် မြှုပ်နှံကြ၏။


အင်္ဂလိပ်စာဆိုကျော်ဂျက်ဖရီချော်စာ

ချော်စာ၏ခေတ်က အင်္ဂလိပ်ဘာသာစကားမှာ ဒေသန္တရအားဖြင့် ကွဲပြားခြားနားသည်။ ဥပမာ၊ မြန်မာစကားပင်ဖြစ်သော်လည်း ရခိုင်စကားနှင့် ထားဝယ်စကားမတူသကဲ့သို့ဖြစ်သည်။ သို့ရာတွင် ထိုဒေသအလိုက် ကွဲပြားခြားနားနေသော ဒေသန္တရစကားများအနက် ချော်စာသည် မစ်ဒလန်အင်္ဂလန်ပြည် အလယ်ပိုင်း နယ်သုံးအင်္ဂလိပ်စကားဖြင့်သူ၏ကဗျာများကို ရေးသားစီကုံးခဲ့ရာ၊ သူသုံးသော ဘာသာစကားကို အများကဦးစားပေး၍ စာပေအရာ၌ လက်ခံသုံးနှုန်းကြသောကြောင့် ထိုမစ်ဒလန်နယ်သုံးအင်္ဂလိပ်စကားမှာ စာပေရေးသားဖွဲ့နွဲ့ရာတွင် သုံးသောစကား၊ ထီးသုံးနန်းသုံးစကား အဆင့်အတန်းသို့ ရောက်ရှိလာပြီး လျှင်တတိုင်းပြည်လုံးက သုံးစွဲလာသည့် အခြေသို့ ရောက်သွားသည်။ ချော်စာသည် အင်္ဂလိပ်ဘာသာစကားကို ယဉ်ကျေးမှုတရပ်ဖြစ်သော စာပေကိစ္စတွင် နိုင်နိုင်နင်းနင်း သုံးစွဲပြလိုက်ခြင်းဖြင့်၊ ယခင်က ပြင်သစ်ဘာသာနှင့် လက်တင်ဘာသာများမှသာ ယဉ်ကျေးမှုဆိုင်ရာ စာပေဆိုင်ရာတွင် ထိရောက်စွာနက်နဲစွာသုံးနိုင်သည်။ အင်္ဂလိပ်ဘာသာစကားမှာ ဤသို့ယဉ်ကျေးသိမ်မွေ့သော ကိစ္စများတွင် သုံးနိုင်လောက်သည့်အဆင့်အတန်းမရှိသေး ဟူသောအထက်တန်းစားများ၊ ပညာတတ်များ၏အယူစွဲကို ပပျောက်စေသည်။ ချော်စာ၏လက်ထက်မှစ၍ သူ၏ကျေးဇူးကြောင့်၊ စာပေကျမ်းဂန်တွင် ထင်ရှားကျော်ကြားလိုသူ အင်္ဂလိပ်များသည် လက်တင်နှင့်ပြင်သစ်စာတို့ဖြင့် စာပေရေးရန်မလိုတော့ပေ။

ချော်စာသည် ဟာသဥာဏ် ရွှင်မြူးသူဖြစ်သည်။ သို့သော် သူ၏ဟာသမှာသိမ်မွေ့သည်။ သူသည် ကန်တာဗာရီကဗျာ ပုံပြင်များ ၁၂၀ ခုမျှရေးသားရန်ကြံရွယ်ခဲ့သော်လည်း ၂၄ ခု မျှသာရေးသားနိုင်ခဲ့၏။ ထိုရေးသားခဲ့သမျှသော ကဗျာပုံ ပြင်များမှာလည်း ဖတ်ရှုရသူအပေါင်းအား စိတ်ကြည်လင် ရွှင်လန်းအောင် ဆွဲဆောင်နိုင်သောပုံပြင်များဖြစ်ပေသည်။

ချော်စာ၏ ရှေးဦးလက်ရာများထဲတွင် ပြင်သစ်မှတိုက် ရိုက်ဘာသာပြန်ဆိုထားသော စာပေများလည်း ပါရှိလေ သည်။ ထိုနောက်တွင်ကား ချော်စာသည် ဣတာလျံစာပေ များကို အတုယူကာ ရေးသားခဲ့ပြန်လေသည်။ သူ၏ထင် ရှားလှသော ကန်တာဗာရီကဗျာပုံပြင်များကို ဣတာလျံ စာရေးဆရာကြီး ဗိုကာချီ၏ အရေးအသားနည်းစံနစ်သို့ လိုက်၍ ရေးသားထားခဲ့လေသည်။ ထိုကန်တာဗာရီကဗျာ ပုံပြင်များမှာ ဘုရားဖူးများသည် ခရီးသွားယင်းပုံများပြော ပြကြပုံကိုလက်ာသွားဖြင့် ရေးသားထားခြင်းဖြစ်လေသည်။

## ချော်စာရေး ကန်တာဗာရီပုံပြင်များ

ချော်စာတို့၏ ခေတ်အခါက ကန်တာဗာရီအရပ်တွင် စိန်သောမတ်ဗက်ကက်၏ ဂူသင်းချိုင်းရှိသော ဘုရားရှိခိုး ကျောင်းကြီး ရှိလေသည်။ ထိုဘုရားရှိခိုးကျောင်းကြီးသို့ အင်္ဂလန်ပြည်အရပ်ရပ်မှ လူအများသည် သောမတ်ဗက်ကက် ၏ဂူသင်းချိုင်းကို ဖူးမြော်ကန်တော့ရန် ခရီးထွက်လေ့ ရှိကြ၏။ ယင်းသို့ ဘုရားဖူးခရီးထွက်ခြင်းသည် သာသနာ ရေးကို ကြည်ညိုလေးစားရာရောက်သည့်ပြင် နေ့စဉ်လုပ် ငန်းမှ အပြောင်းအလဲလည်းဖြစ်စေသဖြင့် ဘုရားဖူးထွက် ခြင်းမှာ ထိုခေတ်များက အတန်ပင်ခေတ်စားခဲ့၏။ ယင်း သို့ခရီးထွက်ကြရာ၌ ခရီးလမ်းကြုံရာ လူစုလူဝေးနှင့် သွား ရောက်လေ့ရှိကြသည်။ အများအားဖြင့် သာသနာရေးကို ကြည်ညိုလေးစားသဖြင့် ခရီးထွက်ခြင်း ဖြစ်သော်လည်း၊ လူစုလူဝေးနှင့် တပျော်တပါးသွားရသဖြင့် ဘုရားဖူးလိုက် ကြသူများလည်းရှိပေသည်။

ချော်စာရေးသည့် ကန်တာဗာရီကဗျာပုံပြင်များမှာ ကန် တာဗာရီသွား ဘုရားဖူးအဖွဲ့ဝင်များက လမ်းခရီးတွင် အပျင်း ပြေစေရန်သဘောနှင့် အလှည့်ကျပြောပြခဲ့ဟန် ရေးသား ထားလေသည်။ ထိုဘုရားဖူးအဖွဲ့တွင် လူပေါင်း ၃၀ ခန့်ရှိ၍ ဘုန်းကြီး၊ နိုက်သူရဲကောင်း၊ လယ်သမား၊ ကုန်သည်၊ ဆေး ဆရာ၊ ရှေ့နေစသည်ဖြင့် အတန်းစားအမျိုးမျိုးပါဝင်သည်။ ထိုကဗျာပုံပြင်များထဲမှ ပုံပြင်တပုဒ်မှာ

## သီဗန်မင်းသား ၂ ပါး

ထိုပုံမှာ ဘုရားဖူးအဖွဲ့ဝင် ကရူးဆိတ်တိုက်ပွဲပြန် နိုက်သူရဲ ကောင်းက ပြောပြသောပုံဖြစ်သည်။



ချော်စာ၏ ကန်တာဗာရီပုံပြင်တွင်ပါရှိသည့် ထမင်းစားပွဲအခမ်းအနားတရပ်

ပဲလမွန်နှင့်အာဆိုက်တို့မှာ သီးဗီးနိုင်ငံမှ ညီအစ်ကိုဝမ်းကွဲတော်စပ်သူ မင်းသားနှစ်ပါးဖြစ်ကြသည်။ သူတို့နှစ်ဦးသည် တဦးကိုတဦး လွန်စွာချစ်ခင်ကြင်နာကြ၍၊ မည်သည့်အခါမျှ တဦးကိုတဦး သစ္စာမဖေါက်ကြစတမ်းဟု သစ္စာဆိုထားခဲ့ကြ၏။ သစ္စာဆိုချက်အတိုင်းလည်း တဦးကိုတဦး အလွန်ပင်ချစ်ခင်ကြင်နာကြလေသည်။ သို့သော် သူတို့၏ သစ္စာ တာရှည်စွာမတည်မြဲနိုင်ရန် အကြောင်းတရပ်ပေါ်ပေါက်ခဲ့လေသည်။

တနေ့သောအခါ အက်သင်ပြည်နှင့် သီးဗီးနိုင်ငံတို့ စစ်ဖြစ်ကြရာတွင် အက်သင်မြို့စား၊ သီးဆယုက အရေးသာသဖြင့် ပဲလမွန်နှင့်အာဆိုက်နှစ်ဦးစလုံး အဖမ်းခံကြရ၏။ သီးဆယုသည် မင်းသားနှစ်ပါးအတွက် သုံ့ပန်းလျော်ကြေးပေး၍ ရွေးနုတ်သည်ကိုလက်မခံဘဲ သူတို့ကို ခိုင်ခံ့လုံခြုံလှသော သူ၏ ရဲတိုက်ကြီးရှိ မျှော်စင်ထဲတွင် တသက်ပန်အကျဉ်းချထားခဲ့၏။ ကံတူအကျိုးပေး မင်းသားနှစ်ပါးမှာ တသက်ပန် အကျဉ်းသမား ဖြစ်ကြရသော်လည်း နှစ်ဦးစလုံးကို တနေရာတည်းတွင် အတူတူထားသဖြင့် တဦးကိုတဦး အားပေးနိုင်သည့်အတွက် စိတ်သက်သာနှစ်သိမ့်နိုင်ရာရကြ၏။

တနေ့သောနံနက်ခင်းတွင် ပဲလမွန်သည် မျှော်စင်တံခါးပေါက်မှ အပြင်ဖက်သို့ငေးကြည့်နေစဉ် သီးဆယုမြို့စား၏ ချောမောတင့်တယ် ရှုချင်စဖွယ်ရှိလှသောသမီးတော် အယ်မီလီသည် ပန်းဥယျာဉ်အတွင်း၌ လမ်းလျှောက်နေသည်ကို ရှုမငြီးဖွယ်ရာ တွေ့မြင်ရသောကြောင့် ထိုနေရာမှ မခွာနိုင်အောင်ဖြစ်ရလေသည်။ ပဲလမွန်မှာ အယ်မီလီမင်းသမီးအား တွေ့လျှင်တွေ့ခြင်း မေတ္တာသက်ဝင်ချစ်ခင်မိလေသဖြင့် မိမိ၏ တသက်ပန်အကျဉ်းသားဘဝတွင် အယ်မီလီကိုမရနိုင်ကြောင်းတွေးမိကာ များစွာပင် စိတ်မချမ်းသာဖြစ်ရရှာသည်။ ထိုကြောင့် မိမိ၏ဒုက္ခကို အာဆိုက်အားပြောပြသောအခါ၊ အာဆိုက်မှာလည်း အယ်မီလီမင်းသမီးကိုမြင်တွေ့လိုက်ရသဖြင့် မိမိကဲ့သို့ပင်ချစ်ဒုက္ခကို မချိမဆံ့ခံစားနေရကြောင်း တွေ့ရလေသည်။ ထိုအခါ သစ္စာဆိုထားကြသော မင်းသားနှစ်ပါးမှာ တဦးကိုတဦး အလျှော့မပေးနိုင်ဘဲ အကြံတူသဖြင့်ရန်သူဖြစ်သွားကြလေသည်။

ထိုအတောအတွင်း အာဆိုက်သည် သူ၏အကြည်တော်တဦး ဆောင်ရွက်ပေးချက်ကြောင့် လွတ်မြောက်ခွင့်ရခဲ့၏။ သို့သော် သီးဆယုက သူ၏နိုင်ငံအတွင်းသို့ပြန်လည်ဝင်ရောက်သည်ကိုတွေ့ရပါက သေဒဏ်အပြစ်ပေးမည်ဟု ကျပ်တည်းစွာအမိန့်ချမှတ်လိုက်လေသည်။ အာဆိုက်သည် ထိုအမိန့်ကို သိရသောအခါ အကျဉ်းသမားဘဝက လွတ်မြောက်သည်ကို ပင်ဝမ်းမသာနိုင်ဘဲ ပိုမို၍စိတ်ဆင်းရဲရရှာ၏။ အကြောင်းမူ သူသည် အယ်မီလီအား တနေ့မမြင်လျှင် မနေနိုင်လောက်အောင်ပင် ချစ်ခင်စွဲလမ်းနေပြီ ဖြစ်သောကြောင့်တည်း။ သို့သော် သီးဆယု၏အမိန့်ကို မလွန်ဆန်ဝံ့သဖြင့် အက်သင်ပြည်တွင်းမှ ထွက်သွားရလေသည်။

မကြာမီ အာဆိုက်သည် အက်သင်မြို့ကို ပြန်ရောက်လာခဲ့၏။ အယ်မီလီကို မမြင်ရမနေနိုင်သော အာဆိုက်သည် သေဘေးကိုပင် ပမာဏမထားနိုင်ဘဲ အယ်မီလီနှင့် နီးနီးကပ်ကပ်နေနိုင်ရန်အတွက် ရုပ်ဖျက်ပြီးသော် အယ်မီလီ၏လက်ပါးစေအဖြစ် အမှုထမ်းလေသည်။ ပဲလမွန်သည် အာဆိုက်၏အကြောင်းစုံကို မကြာမီကြားရလေလျှင် အာဆိုက်လက်သို့ မိမိချစ်သူ ပါသွားမည်ကိုစိုးရိမ်သဖြင့် အကျဉ်းထောင်ကို ဖေါက်ဖျက်ထွက်ပြေးပြီးသော် တောတခုတွင် ပုန်းအောင်းလျက်အကြံယူနေခဲ့လေသည်။

ထိုတောထဲတွင် အာဆိုက်နှင့်ပဲလမွန်တို့နှစ်ဦး ဆုံမိကြလေ၏။ သူတို့၏ပြဿနာမှာ တယောက်ယောက် လူ့ပြည်တွင်မရှိမှသာ ပြေလည်ပြီးပြတ်နိုင်မည်ဖြစ်၍၊ သူတို့နှစ်ဦးဓားရေးယှဉ်ပြိုင်ရန် ဆုံးဖြတ်လိုက်လေသည်။ ပဲလမွန်တွင် လက်နက်မရှိဖြစ်နေသဖြင့် အာဆိုက်ကပင် ရှာဖွေပေးပြီးနောက် ရက်ချိန်းကန့်သတ်လိုက်ကြသည်။ ချိန်းဆိုသည့်နေ့တွင် ဓားရေးယှဉ်ပြိုင်ကြလေရာ သစ္စာဆိုထားသောသွေးသောက်နှစ်ဦးလည်း တဦးကိုတဦးအသေသတ်နိုင်ရန် သဲသဲမဲမဲကြိုးကြိုးစားကြလေတော့သည်။

ကံတရားကား ဆန်းကြယ်လှပေစွ။ မင်းသားနှစ်ပါးတို့ အသဲအမဲဖြစ်နေစဉ် သီးဆယုသည် မိမိ၏ကြင်ယာတော်၊ သမီးတော်အယ်မီလီနှင့် နောက်လိုက်ဗိုလ်ပါ အခြွေအရံများနှင့်အတူ တောကစားထွက်လာသဖြင့် မင်းသား ၂ ပါးတို့ ယှဉ်ပြိုင်တိုက်ခိုက်နေသော နေရာသို့ ရောက်လာလေသည်။ ထိုအခါ မြို့စားကြီးက အကျိုးအကြောင်း မေးမြန်းသော် မိမိ၏အကျဉ်းသမား ပဲလမွန်နှင့် (လက်ပါးစေ အရေခြုံ) အာဆိုက်တို့ မိမိ၏ သမီးတော်အတွက် ဓားရေးပြိုင်နေကြကြောင်းသိရသဖြင့် အမျက်ပြင်းစွာ ထွက်ပြီးလျှင်၊ သူတို့နှစ်ဦးစလုံးကို သေဒဏ်ပေးလိုက်လေသည်။ သို့သော် ကြင်ယာတော်နှင့် သမီးတော်တို့ကပါ ငိုယိုတောင်းပန်ဖျောင်းဖျကြသဖြင့် မြို့စားကြီးက သေဒဏ်ကိုပယ်ဖျက်လျက်၊ လက်ရုံးရည်ပြိုင်ပွဲကြီးတခုကို သူကိုယ်တိုင်ကြီးမှူးကျင်းပရန် ချိန်းဆိုလိုက်၏။ ထိုပြိုင်ပွဲကြီးတွင် ပဲလမွန်နှင့်အာဆိုက်တို့သည် သူရဲကောင်းတရာစီ ဦးဆောင်လျက် ယှဉ်ပြိုင်တိုက်ခိုက်ရမည်ဖြစ်၍ တံခွန်စိုက်သူအား သမီးတော်နှင့်ထိမ်းမြားပေးမည်ဟုပင် အမိန့်ချမှတ်လိုက်လေသည်။

ပဲလမွန်နှင့်အာဆိုက်တို့လည်း မြို့စားကြီး၏အမိန့်ကိုလိုက်နာရန် သဘောတူညီကြသည်။ မြို့စားကြီး ချိန်းဆိုသောနေ့တွင် ပြိုင်ပွဲကြီးကျင်းပလေရာ အရပ်ရပ်အနယ်နယ်မှ သူရဲကောင်းများသည် အာဆိုက်နှင့်ပဲလမွန်တို့လက်အောက်တွင် ၂ စုခွဲကာယှဉ်ပြိုင်ကြလေ၏။ အယ်မီလီမှာလည်း ထိုပြိုင်

ပွဲကြီးသို့ လာရောက်ကြည့်ရှုနေသဖြင့် မိမိနှင့်ဖူးစာဖက်ရမည့်သူ မည်သူဖြစ်လာလိမ့်မည်ကို အသည်းတထိတ်ထိတ်နှင့် စောင့်ကြည့်နေရှာလေသည်။ ပဲလမွန်နှင့်အာဆိုက်တို့သည် အကျိတ်အနယ်ယှဉ်ပြိုင်ကြရာ နောက်ဆုံးတွင် အာဆိုက်ကတံခွန်စိုက်အနိုင်ရသဖြင့် အယ်မီလီနှင့် ထိမ်းမြားနိုင်ခွင့်ရသွားကြောင်း မြို့စားကြီးကကျေညာသည်။

အာဆိုက်မှာ မိမိလိုလားလှသော ဆုလပ်ကြီးရပြီ ဖြစ်၍



မြန်မာနိုင်ငံရှိချစ်စဖွယ် ချိုးလည်ပြောက်ငှက်ငယ်

အားရပျော်ရွှင်စွာ အယ်မီလီထံသို့ မြင်းစီးလာခဲ့၏။ သို့သော် ကံတရား၏စီမံပုံကား ဆန်းကြယ်လှတော့၏။ အာဆိုက် စီးလာသောမြင်းသည် ရုတ်တရက်လန့်၍ခုန်ရာမှ ခြေချော်ပြီး လဲကျသွားသဖြင့် အာဆိုက်မှာလည်း မြင်းပေါ်မှအရှိန်ပြင်းစွာနှင့် လိမ့်ကျကာ ဒဏ်ရာပြင်းထန်စွာ ရသွားလေသည်။ သူ၏ဒဏ်ရာမှာ မြော်လင့်ချက်မရှိကြောင်း သိရှာသော အာဆိုက်သည် ပဲလမွန်နှင့်အယ်မီလီတို့ကို ခေါ်စေပြီးသော် ပဲလမွန်သည် ရှာမှရှားသော ယောကျ်ားကောင်းတဦးဖြစ်သည့်ပြင် အယ်မီလီအား အသက်နှင့်ထပ်တူချစ်ရှာသူဖြစ်၍၊ သူ့ကိုယ်စား လက်ထပ်ပါရန် အယ်မီလီအား ပြောဆိုလေသည်။ ညီနောင်လည်းတော်၊ ချစ်သူငယ်ချင်းလည်းဖြစ်ခဲ့သူ၊ သူတို့နှစ်ဦးမှာလည်း မိမိတို့၏အပြစ်များ အတွက် ယူကျုံးမရဖြစ်ရရှာလေသည်။ အာဆိုက်မှာ မကြာမီပင် ကွယ်လွန်သွားလေရာ ပဲလမွန်နှင့်အယ်မီလီတို့သာမက အက်သင်တမြို့လုံးပင် သူ့အတွက် များစွာကြေကွဲဝမ်းနည်းခြင်းဖြစ်ကြလေသည်။

ပဲလမွန်သည်လည်း အာဆိုက်မှာကြားချက်အတိုင်း အယ်မီလီကို လက်ထပ်ယူလေရာ မြို့စားကြီးကလည်း အနူးအညွတ်ခွင့်ပြုလေသည်။ အာဆိုက်မှာပြိုင်ပွဲကြီးတွင် တံခွန်စိုက်ခဲ့သော်လည်း အယ်မီလီအား လက်ထပ်သိမ်းပိုက်ရသူမှာ ပဲလမွန်ဖြစ်လေအောင် ကံတရား၏စီမံပုံကား မကြုံစဖူး ထူးခြားဆန်းကြယ်လှပေသတည်း။

**ချိုး။** ။မြန်မာနိုင်ငံတွင် ချိုးကို သာယာသောကူသံကြောင့် မသိသူရှိမည်မဟုတ်ချေ။ 'ချိုးနှစ်ကောင်၊ ထနောင်းပင်ညီနောင်က၊ လွမ်းအောင်ကူခဲ့' ဟူသောကဗျာကလေးကား ကျွန်ုပ်တို့အား ချိုးကူသံကို အမြဲသတိရစေသောကဗျာပင် ဖြစ်တော့၏။ ချိုးသည် ခိုနှင့် အတူ ကိုလမ်ဗီဒီမျိုးရင်းတွင်ပါဝင်၍ ခိုထက် အနည်းငယ်သာငယ်သည်။

မျိုးရင်းတခုတည်းတွင် ပါဝင်သည့်အတိုင်း ချိုးနှင့်ခိုသည် အလေ့အကျင့်နှင့် ပုံပန်းသဏ္ဌာန်တွင် ဆင်တူကြသည်။ (ခို—လည်းရှု။) သို့သော် ချိုးတွင်အမျိုးပေါင်းများစွာရှိသည့်အတွက် တမျိုးနှင့် တမျိုးကို ခွဲခြားသိရန်မှာ များစွာမလွယ်ကူလှချေ။

ရှေးခေတ်ဟီဗြူလူမျိုးတို့သည် သိုးငယ်များကိုယဇ်ပူဇော်လေ့ရှိကြရာ၊ မတတ်နိုင်သောဆင်းရဲသားဖြစ်ကသိုးအစား ချိုးကို အစားထိုး၍ ပူဇော်ပသနိုင်ခွင့်ရှိလေသည်။ သမ္မာကျမ်းစာတွင် ချိုးကိုအပြစ်ကင်းသောငှက်ဟု ဖော်ပြထားသည့်အတိုင်း၊ ထိုစဉ်က ဟီဗြူလူမျိုးတို့သည် ချိုးကိုအမြတ်တနိုးထားခဲ့ကြောင်း သိသာနိုင်သည်။ ယခုခေတ်တွင်လည်း ကမ္ဘာ့အရပ်ရပ်၌ ငြိမ်းချမ်းရေးအထိမ်းအမှတ်အဖြစ်ဖြင့် ချိုးငှက်ကိုပင် ပုံဆောင်ပြကြလေသည်။

မြန်မာနိုင်ငံတွင် ကျက်စားသော ချိုးအမျိုးမျိုးအနက် ထင်ရှားသောချိုးမျိုးများမှာ ချိုးစိမ်း၊ ချိုးပိန်တုး၊ ချိုးလင်းပြာ၊ ချိုးလည်ပြောက်နှင့် ချိုးနီပု သို့မဟုတ်ချိုးနီတိုးများဖြစ်ကြသည်။

**ချိုးသိမ်း။** ။ချိုးသိမ်းသည် သိမ်းအငယ်စားတမျိုးဖြစ်၍ မြန်မာနိုင်ငံတဝှန်းလုံး လိုလိုတွင်တွေ့ရသည်။ အလျား ၁၂ လက်မမှ ၁၄ လက်မအထိရှိ၍ ငှက်မသည်ငှက်ဖိုထက် ကိုယ်လုံးကိုယ်ထည်ကြီးသည်။ ငှက်ငယ်ကလေး၏ အထက်ပိုင်းအရောင်မှာ အညိုရင့်ရောင်ဖြစ်၍ ကိုယ်အောက်ပိုင်း၌ဖြူကာ အညိုစင်းများရှိသည်။ ချိုးသိမ်းသည် 'တီတူးတီတူး' ဟု စူးစူးရှရှနှင့် ဆင့်၍ဆင့်၍ အော်တတ်သည်။

ကျွန်းတောများ၊ သစ်ပင်ထူထပ်သော စိုက်ခင်းများတွင် ကျက်စားသည်။ အလွန်မြင့်သောနေရာတွင် ပျံဝဲနေတတ်၍ ဖွတ်၊ ပုတတ်၊ ဖါး၊ နံကောင်နှင့် ငှက်ငယ်ကလေးများစသည်

တို့ကို ဖမ်းယူစားသောက်တတ်သည်။ အလွန်ဆူညံစူးရှစွာ အော်တတ်၍၊ သားပေါက်ချိန်တွင် ယင်းတို့၏အသံကိုပို၍ ကြားရသည်။

ချိုးသိမ်းသည် မတ်လနှင့် ဧပြီလများတွင် သားပေါက်သည်။ အသိုက်ကို သစ်ကိုင်းခွတွင် တုတ်ချောင်း၊ မြက်ခြောက်တို့ဖြင့်ပြုလုပ်သည်။ တမြုံလျှင် ပြာလဲ့လဲ့ဥ ၃ လုံးမှ ၅ လုံးအထိ ရှိတတ်သည်။ ဥအရွယ်မှာ ပျမ်းမျှအလျား ၁.၅၅ လက်မနှင့် ပြက် ၁.၂၂ လက်မရှိသည်။

**ချက်ကပ်, အော** (ခရစ် ၁၈၆၀–၁၉၀၄)။ ။ရုရှလူမျိုး ဝတ္ထုနှင့်ပြဇာတ်ရေး ဆရာဖြစ်သော အန်တွန်ချက်ကပ်သည် ခရစ် ၁၈၆၀ ပြည့်နှစ် ဇန္နဝါရီလ ၁၇ ရက်နေ့တွင် ရုရှနိုင်ငံ တောင်ပိုင်း တဂန်ရော့မြို့၌ဖွားမြင်သည်။ သူ၏ဖခင်မှာ ကုန်သည်တဦးဖြစ်၏။ ချက်ကပ်သည် ငယ်စဉ်ကပင်လျှင် မိမိမွေးဖွားရာအရပ်ရှိ စာသင်ကျောင်းမှ ပညာများဆည်းပူးခဲ့ရသည်။ ၁၈၇၉ ခုနှစ်တွင် မော်စကိုတက္ကသိုလ်၌ ဆေးပညာကို ဆက်လက်ဆည်းပူး၍ ၁၈၈၄ ခုနှစ်တွင် ဆရာဝန်ဘွဲ့ရသည်။ ချက်ကပ်သည် ကျောင်းသားအရွယ်ကပင်လျှင် စာပေအရေးအသား၌ ဝါသနာထုံ၍ ဝတ္ထုတိုများ၊ တခန်းရပ်ပြဇာတ်များကို ရေးသားခဲ့လေသည်။ ထိုဝတ္ထုတိုများ ပြဇာတ်များတွင် ဟာသအကွက်ကလေးများ ပါဝင်၍ ထိုအခါကပင်လျှင် သူ၏လက်ရာကို လူကြိုက်များခဲ့သည်။ ၁၈၈၆ ခုနှစ်တွင် သူ၏ရှေးဦးရေးဝတ္ထုတိုများ စာအုပ်အဖြစ် ထွက်ခဲ့သည်။ ၁၈၉၂ ခုနှစ်တွင် 'အဆောင်အမှတ် ၆' ကိုင်း၊ ၁၈၉၄ ခုနှစ်တွင် 'စာပေဆရာ' ကိုင်း၊ ၁၈၉၈ ခုနှစ်တွင် 'ချေးပိုင်ရှင်အမျိုးသမီး' ကိုင်း၊ ၁၈၉၉ ခုနှစ်တွင် 'အိမ်သစ်ယာသစ်' ကိုင်း ထုတ်ဝေခဲ့လေသည်။ ထိုစာအုပ်များတွင် လေးနက်သောအတွေးအခေါ်များ ပါဝင်၍အရေးအသားဖက်တွင်လည်း ဖွဲ့နွဲ့တန်ဆာဆင်မှုများမှာ ကောင်းမွန်လှသည်။ သူ၏ အကောင်းဆုံးဝတ္ထုများမှာ ၁၈၉၅ ခုနှစ်တွင်ထုတ်သော 'ကျွန်ုပ်ဘဝ' နှင့် ၁၉၀၀ ပြည့်နှစ်တွင်ထုတ်သည့် 'လျှိုမြောင်ကြားဝယ်' တို့ဖြစ်သည်။

ချက်ကပ်၏ပြဇာတ်များသည် သူ၏ဝတ္ထုများကဲ့သို့ပင် ဇာတ်ကွက်ပေါ်လွင်သည်။ ဇာတ်ဆောင်တို့၏ အမူအရာများထက် ထိုအမူအရာကိုမှီ၍ ပြောင်းလဲဖြစ်ပေါ်လာရသော အခြေအနေတို့ကိုသာ ချက်ကပ်သည် အဓိကထား၍ ရေးသားခဲ့ပေသည်။ ၁၈၈၇ ခုနှစ်တွင် 'အိုက်ဗန်နပ်' ကိုင်း၊ ၁၈၉၆ ခုနှစ်တွင် 'ငှက်ဇင်ယော်' ကိုင်း ရေးသားကပြခဲ့သည်။ ငှက်ဇင်ယော်ပြဇာတ်သည် ရုံတင်စ၌လူကြိုက်နည်းလှသော်လည်း နောင် ၂ နှစ်အကြာတွင် ထပ်မံပြသသောအခါ လူကြိုက်များလာပြီးလျှင် ရုရှတနိုင်ငံလုံး၌ ချက်ကပ်၏အမည် ထင်ရှားလာလေသည်။ အင်္ဂလန်ပြည်နှင့်အမေရိကန်ပြည်ထောင်စုတို့တွင်ချက်ကပ်၏'ဦးလေးဗန်ယာ၊' 'ညီအစ်မသုံးဖော်' နှင့် 'ချယ်ရီသစ်သီးခြံ' ပြဇာတ်တို့မှာ လူကြိုက်များလှသည်။

ချက်ကပ်သည်ပြဇာတ်များအပြင် စုစုပေါင်း ၃၀၀ ကျော်မျှသော ဝတ္ထုရှည်၊ ဝတ္ထုတို၊ ဆောင်းပါးစသည်ကိုရေးခဲ့သည်။ ချက်ကပ်အား ပီတာဗတ်မြို့ရှိ ရုရှနိုင်ငံတော်သိပ္ပံပညာဒတ်ခွန်အသင်းကြီးက ၁၈၈၈ ခုနှစ်တွင် ပွတ်ရှကင်ဆုကို


ရုရှလူမျိုးစာရေးဆရာ အော ပီ ချက်ကပ်


ငှက်ငယ်များကိုဖမ်းစားတတ်သည့်ချိုးသိမ်း

အပ်နှင်းခဲ့လေသည်။ အာရှတိုက်ဒေသအချို့နှင့် ဥရောပတိုက် အနောက်ပိုင်း ဒေသ များ သို့ ၁၇၉၀ ပြည့် နှစ် နှင့် ၁၇၉၁ ခုနှစ်များတွင် လှည့်လည်ခရီးသွားခဲ့သည်။

၁၇၉၁ ခုနှစ်မှ ၉၇ ခုနှစ်အထိ အမိအဖများနှင့်အတူ မောစကိုမြို့၌နေထိုင်ခဲ့၏။ ထိုနောက်တွင် ကျန်းမာရေးချို့တဲ့မှုကြောင့် ကရိုင်းမီးယားနယ်သို့ သွားရောက်နေထိုင်လေသည်။ ၁၈၀၁ ခုနှစ်တွင် ကခြေသည် အော်လဂါးနစ်ပါးနှင့် ထိမ်းမြားခဲ့သည်။ ၁၈၀၄ ခုနှစ်ဇူလိုင်လ ၂ ရက်နေ့တွင် ဂျာမနီနိုင်ငံရှိ ဗေးဒင်ဝိုင်လာအရပ်၌ ချက်ကပ်သည် ဘဝတပါးပြောင်းသွားလေသည်။

# ခေါင်းဆောင်ကြီးမာဆာရစ်ပြုစုခဲ့သော သမတနိုင်ငံ

**ပဌမကမ္ဘာစစ်အပြီးတွင်၊ စုပေါင်းဖွဲ့စည်းတည်ထောင်ထားသော သမတနိုင်ငံဖြစ်သည့် ချက်ကိုဆလိုဗားကီးယားနိုင်ငံ၏ အကြောင်း ရာဇဝင်နှင့်တကွ သိမှတ်ဖွယ်ရာအချက်အလက်အစုံအလင်ကို ဤတွင်ဖေါ်ပြထားသည်။ အထူးသဖြင့် ကွန်မြူနစ်နိုင်ငံအဖြစ် ပြောင်းလဲလာပုံမှာ စိတ်ဝင်စားစရာပင်။**

**ချက်ကို ဆလို ဗား ကီး ယား နိုင်ငံ။** ။ချက်ကိုဆလိုဗားကီးယားနိုင်ငံသည် ဥရောပတိုက်အလယ်ပိုင်းတွင်တည်ရှိ၍၊ သမုဒ္ဒရာပင်လယ်တို့နှင့် လုံးဝဆက်စပ်ခြင်းမရှိသည့် ကုန်းတွင်းနိုင်ငံဖြစ်၏။ မြောက်ဖက်တွင် ဂျာမနီနှင့် ပိုလန်နိုင်ငံတို့နှင့်၎င်း၊ တောင်ဖက်တွင် ဩစတြီးယားဟန်ဂေရီနှင့် ရူမေးနီးယားနိုင်ငံတို့နှင့်၎င်း နယ်နိမိတ်ချင်း ဆက်စပ်တည်ရှိသည်။ နိုင်ငံမှာ ရှည်မျောမျော ပုံသဏ္ဍာန်ဖြစ်၏။ အရှေ့နှင့်အနောက် အလျားကျယ်၍ တောင်နှင့်မြောက် အနံကျဉ်းမြောင်းသည်။ အရှေ့ဖျားမှ အနောက်ဖျားသို့ မိုင်ပေါင်း ၆၀၀ ခန့်ရှည်လျား၍ တောင်နှင့်မြောက်မှာ မိုင် ၅၀ မှ ၁၀၀ ခန့်အထိသာ ကျယ်ဝန်းသည်။ ချက်ကိုဆလိုဗားကီးယားနိုင်ငံသည် ယခင်က ဩစတြီးယားဟန်ဂေရီနိုင်ငံတွင် ပါဝင်ခဲ့သောနယ်မြေများကို ပဌမကမ္ဘာစစ်ကြီးအပြီးတွင် စုပေါင်းကာဖွဲ့စည်းတည်ထောင်ခဲ့သော သမတနိုင်ငံ တခုဖြစ်ပေသည်။ ချက်လူမျိုးတို့နေထိုင်ရာ ချက်ချီ သို့မဟုတ် ဗိုဟီးမီးယားနယ်နှင့် မိုရေးဗီးယားနယ်တို့သည် နိုင်ငံ၏အနောက်ပိုင်းဖြစ်သည်။ ဆလိုဗက်တို့သည် ဆလိုဗားကီးယားနယ်၏ အရှေ့ပိုင်းတွင်နေထိုင်ကြသည်။

ချက်ကိုဆလိုဗားကီးယားနိုင်ငံသည် ဥရောပတိုက်ရှိ အလှပဆုံးသောနိုင်ငံများတွင် တခုအပါအဝင်ဖြစ်သည်။ မြေမျက်နှာအသွင်အပြင်ကိုလိုက်၍ ချက်ကိုဆလိုဗားကီးယားနိုင်ငံကို အနောက်ပိုင်းနှင့် အရှေ့ပိုင်းဟူ၍ ၂ ပိုင်းခြားထားနိုင်၏။ အနောက်ပိုင်းမှာ ကုန်းပြင်မြင့်ဖြစ်လျက် မြောက်မှတောင်သို့ တဖြည်းဖြည်းနိမ့်ဆင်းသွားသည်။ အရှေ့ပိုင်းမှာမူကား မြင့်မားသောတောင်တန်းများဖြင့် ထူထပ်နေသည်။ ယခင်ကအုပ်ချုပ်ရေးအတွက် (၁) ဗိုဟီးမီးယား (၂) မိုရေးဗီးယား (၃) ဆိုင်လီးရှား (၄) ဆလိုဗားကီးယားနှင့် (၅) ကာပေသီယန်ရူသီးနီးယားဟူ၍ ပြည်နယ် ၅ နယ်ခွဲခြားသတ်မှတ်ထားခဲ့သည်။ ယခုသော် ဗိုဟီးမီးယား၊ မိုရေးဗီးယားဆိုင်လီး ရှားနှင့် ဆလိုဗားကီး ယားဟူ၍ ပြည်နယ် ၃ ခုသာရှိတော့သည်။ ရူသီးနီးယားပြည်နယ်မှာ ဒုတိယကမ္ဘာစစ်ကြီးအပြီးတွင် ဆိုဗီယက်ယူနီယန်တွင် ပါဝင်သွားလေသည်။ ထိုပြည်နယ်ကြီးများသည် ချက်ကိုဆလိုဗားကီးယားနိုင်ငံ၏ သဘာဝဒေသကြီးများလည်း ဖြစ်ပေသည်။ ယင်းတို့အနက် အနောက်ပိုင်းရှိ ဗိုဟီးမီးယားပြည်နယ်သည် ကုန်းမြင့်ကြီးပေါ်တွင် တည်ရှိသော်လည်း မြေဩဇာအလွန်ကောင်းမွန်သဖြင့် လယ်ယာစိုက်ပျိုးလုပ်ကိုင်ဖြစ်ထွန်းလေသည်။ တွင်းထွက်သတ္တုပေါများ၍ ကောက်ပဲသီးနှံ ဖွံ့ဖြိုးခြင်းကြောင့် ချက်ကို ဆလိုဗားကီး ယား နိုင်ငံတွင် အရေးပါအရာရောက်ဆုံး သော ပြည် နယ်ဖြစ် ၏။ ထိုအပြင် ချက်ကိုဆလိုဗားကီးယားနိုင်ငံ၏မြို့တော် ပရာဟမြို့မှာ ဤပြည်နယ်တွင်တည်ရှိပေသည်။ ဗိုဟီးမီးယားပြည်နယ်၏ မြို့တော်လည်းဟူသည်။

ဗိုဟီးမီးယားပြည်နယ်၏ အရှေ့ဖက်တွင် ကပ်လျက်တည်ရှိနေသော မိုရေးဗီးယားပြည်နယ် (ယခု မိုရေးဗီးယား ဆိုင်လီးရှားပြည်နယ်) သည်လည်း ဗိုဟီးမီးယားကဲ့သို့ပင် ကုန်းပြင်မြင့်ပေါ်တွင်တည်ရှိပြီး၊ တွင်းထွက်ရတနာများကြွယ်ဝ၍ လယ်ယာကိုင်းကျွန်း လုပ်ကိုင်ဖြစ်ထွန်း သည့် ဒေသပင်ဖြစ်သည်။ ဤပြည်နယ် ၂ ခုလုံးတွင်ပင် သံထည်လုပ်ငန်းသည် အကြီးအကျယ်ဆုံးသော စက်မှုလုပ်ငန်းကြီးဖြစ်၍ သကြားမုန်လာအကြီးအကျယ်စိုက်ပျိုးသည်။ အရှေ့ဖက်ပိုင်းတွင်ရှိသော ပြည်နယ်များမှာ အနောက်ပိုင်းနှင့် သဘာဝအနေအထားမှအစ ကွာခြားသည်။ ဆလိုဗားကီးယားပြည်နယ်သည် ဗိုဟီး မီး ယား ပြည် နယ်လောက် မတိုးတက်လှပေ။ ယင်းပြည်နယ်တွင် စက်မှုလက်မှုလုပ်ငန်း အနည်းငယ်သာရှိသဖြင့် နေထိုင်မှုအဆင့်အတန်းနိမ့်သည်။ အထူးသဖြင့် အနောက်ပိုင်းသည် ဥရောပတိုက်မြောက်ပိုင်းနိုင်ငံများနှင့် စီးပွားရေး ပေါင်းသင်း ဆက်ဆံရေး နှင့် ယဉ်ကျေးမှုတို့တွင် ဆက်သွယ်နေ၏။ အရှေ့ပိုင်းကမူ ဥရောပတိုက်တောင်ပိုင်းဒေသများနှင့် ဆက်သွယ်နေသည်။ အရှေ့ပိုင်းသားတို့သည် ယဉ်ကျေးမှုနှင့် လယ်ယာစိုက်ပျိုးရေးတွင် အတော်ခေတ်နောက်ကျလျက်ရှိသည်။ ချက်ကိုဆလိုဗားကီးယားနိုင်ငံ



သည် အင်္ဂလန်ပြည်တောင်ပိုင်း၊ ပြင်သစ်နိုင်ငံမြောက်ပိုင်းတို့နှင့် လတ္တီတွဒ်တပြေးထည်းတွင် တည်ရှိသော်လည်း အအေးအပူပြင်းထန်သော ရာသီဥတုရှိသည်။ နွေအခါတွင်ပူပြင်း၍ ဆောင်းအခါတွင် လွန်ကဲစွာအေးလေသည်။ တောင်ထူထပ်သော ခရိုင်များမှာ ချိုင့်ဝှမ်းများထက် အေးသည့်ပြင် မိုးလည်းပို၍ရ၏။ အရွေ့ဖက်ကျလေလေ ကုန်းတွင်းဥတုဆန်လေလေ ဖြစ်သည်။ ကောက်ပဲသီးနှံ စိုက်ပျိုးနိုင်လောက်အောင် မိုးရေအလုံအလောက်ရရှိသည်။

ချက်ကိုဆလိုဗားကီး ယားနိုင်ငံသည် စီးပွားရေးတွင်အတော်ပင်တောင့်တင်းသည်ဟု ဆိုရပေမည်။ သဘာဝပစ္စည်းများဖြင့် ကြွယ်ဝ၍ စက်မှုလက်မှုလုပ်ငန်းများတွင် ဥရောပတိုက်၏အထွန်းကားဆုံး နိုင်ငံတခုဖြစ်သည်။ မှို၊ ချိမူတော့၊ တက်ပလစ်၊ အော့စတြားဗား၊ ဖေါ့လကနေ့ခရိုင်များတွင် အရေးပါသော ကျောက်မီးသွေးတွင်းများရှိ၏။ သံ၊ ဘော်၊ ကြေးနီ၊ ခဲတို့ကိုလည်း တူးဖေါ်ရရှိလေသည်။ သံမဏိစက်ရုံများ၊ သွန်းသံစက်ရုံများနှင့် သတ္တုစက်ရုံများ အများအပြားရှိလေသည်။ ချက်ကိုဆလိုဗားကီးယားနိုင်ငံရှိအရေးပါသောလယ်ယာစိုက်ပျိုးရေးဆိုင်ရာ စက်မှုလုပ်ငန်းကြီးများအတွက် ကုန်ရိုင်းများကို နိုင်ငံတွင်းရှိ လယ်ယာလုပ်ငန်းထွက် ပစ္စည်းများမှရရှိသည်။ ပမာဆိုသော် သကြားချက်ရုံများ၊ ဘီယာချက်ရုံများ၊ သစ်သီးဗူးများ၊ အမဲသားဗူးများထုတ်လုပ်သော စက်ရုံများစသည်တို့ဖြစ်၏။စက်မှုလက်မှုလုပ်ငန်းများအားလုံးလိုလိုမှာ မိုရေးဗီးယားနှင့် ဗိုဟီးမီးယားပြည်နယ်များတွင်တည်ရှိ၏။ စက်ကရိယာကြီးများ၊ လက်နက်ခဲယမ်းမီးကျောက်များ၊ ဖိနပ်များ၊ လက်အိတ်များနှင့် အထည်အလိပ်များမှာ အရေးပါသောထွက်ကုန်များဖြစ်သည်။ပီလဇင်မြို့ရှိဆကိုးဒါခဲယမ်းမီးကျောက်အလုပ်ရုံနှင့် ဇလင်မြို့ရှိ ဗာတာဖိနပ်စက်ရုံတို့မှာ ကမ္ဘာကျော်သည်။ ထိုပြင် အထည်အလိပ်အမျိုးမျိုးနှင့်တကွ စက္ကူ၊ ဖန်၊ မှန်၊ ကြွေထည်၊ အိုးခွက်၊ စက်ကရိယာများ ထုတ်လုပ်သည်။ လယ်ယာလုပ်ငန်းမှာ အကြီးအကျယ်တိုးတက်လျက်ရှိသည်။ အနိမ့်ပိုင်းများတွင် သကြားမုန်လာ၊ ပြောင်းနှင့်မုယောစပါးတို့ကို စိုက်ပျိုး၍၊ အမြင့်ပိုင်းများတွင်ကား၊ အာလူး၊ ဂျုံ၊ မြင်းစားဂျုံနှင့်ရိုင်းဂျုံတို့ကိုစိုက်ပျိုး၏။ ဘီယာချက်ရန်နှင့် နိုင်ငံခြားသို့ တင်ပို့ရောင်းချရန်အတွက် ဟော့ခေါ်ဘီယာခတ်ဆေးပင်များကို အကြီးအကျယ်စိုက်ပျိုးသည်။ တကမ္ဘာလုံးရှိ ဘီယာခတ်ဆေးပင်ခြံများအနက် ၄ ပုံ ၃ ပုံမှာ ချက်ကိုဆလိုဗားကီးယားနိုင်ငံတွင်ရှိ၏။ ထိုကြောင့်ပင် ဤနိုင်ငံသည် ဘီယာကောင်းထွက်သည်ဟု နာမည်ကျော်လှပေသည်။ သစ်သီးပင်များကို ခရိုင်အများအစားတွင်စိုက်ပျိုး၍ စပျစ်ခြံများကိုလည်း နေရာတိုင်းလိုလိုတွင်တွေ့ရလေသည်။

ချက်ကိုဆလိုဗားကီးယား တနိုင်ငံလုံး၏ ဧရိယာတဝက်ခန့်မှာ စိုက်ပျိုးလုပ်ကိုင်နိုင်အောင် မြေသြဇာကောင်းသည်။ တောင်ခြေများတွင် အဖိုးတန်သစ်တောများတည်ရှိသည်။ ဥရောပတိုက်ရှိ သစ်တောအထူထပ်ဆုံးဒေသများတွင် အပါအဝင်ဖြစ်၍၊ သစ်လုပ်ငန်းမှာ အရေးပါအရာရောက်လေသည်။ ထိုပြင် မြစ်များတလျှောက် ရေအားသုံးလျှပ်စစ်ဓါတ်အားပေးစက်ရုံကြီးများရှိလေသည်။ အခြားအရေးပါသော လယ်ယာလုပ်ငန်းနှင့်ဆိုင်သည့် စက်မှုလက်မှုလုပ်ငန်းများမှာ နို့ထွက်ပစ္စည်းလုပ်ငန်းနှင့် သိုးနွားတိရစ္ဆာန်မွေးမြူရေး လုပ်ငန်းများဖြစ်သည်။

၁၉၁၈ ခုနှစ် အောက်တိုဘာလ ၂၈ ရက်နေ့၌ ချက်ကိုဆလိုဗားကီးယားနိုင်ငံကို အချုပ်အချာအာဏာပိုင်နိုင်ငံဟု ကြေညာလိုက်သောအခါ၊ ယင်းနိုင်ငံ၏အကျယ်အဝန်းသည် စတုရန်းမိုင်ပေါင်း ၅၃,၇၀၀ ရှိသည်ဟုဆိုသည်။ သို့သော် ဆိုဗီယက်ယူနီယန်နှင့် စာချုပ်ချုပ်၍ ရုသီးနီးယားနယ်ကို ပေးအပ်လိုက်ရသောအခါ၊ လူဦးရေပေါင်း ၇၅၀,၀၀၀ နေထိုင်ရာဖြစ်သော ဧရိယာစတုရန်းမိုင်ပေါင်း ၄၀၀၀ ကို ဆိုဗီယက်ရုရှသို့ လွှဲအပ်လိုက်ရသည်။ ၁၉၅၀ ပြည့်နှစ် ဇန္နဝါရီလ ၁ ရက် သန်ကောင်စာရင်းအရဆိုလျှင်၊ ချက်ကိုဆလို



ချက်ကိုဆလိုဗားကီးယားနိုင်ငံ ပရာဟမြို့တော်ရှိကပွဲရုံကြီး

ဗားကီးယား၌ လူဦးရေ ၁၂,၅၃၆,၀၀၀ ရှိသည်။ ယင်းတို့အနက် ချက်လူမျိုးနှင့် ဆလိုဗက်လူမျိုးတို့သည် လူများစုဖြစ်ကြသည်။ ချက်နှင့်ဆလိုဗက်တို့မှာ ဘာသာစကားချင်းလည်းနီးစပ်သည့်ပြင် မျိုးနွယ်ချင်းလည်း နီးစပ်သည်။ သူတို့သည် ဆလဗအနွယ်များဖြစ်၏။ မြောက်ဖက်ဂျာမနီနိုင်ငံနှင့် ကပ်လျက်ရှိသောနယ်စပ်တွင်မူ ဂျာမန်သွေးရောစပ်သူများ နေထိုင်ကြလေသည်။ အခြားလူမျိုးများမှာ မဂ္ဂယာလူမျိုးနှင့် ရူသီးနီယန်လူမျိုးတို့ဖြစ်ကြ၏။ ယဟူဒီလူမျိုးအနည်းငယ်လည်း နေထိုင်ကြသည်။ ချက်ကိုဆလိုဗားကီးယားနိုင်ငံရှိ လူဦးရေ ၃ ပုံ ၁ပုံသည် လယ်ယာလုပ်ငန်းဖြင့်ဖြစ်စေ၊ သစ်လုပ်ငန်းဖြင့်ဖြစ်စေ၊ အသက်မွေးကြ၏။ ကျန်သူများမှာစက်ရုံများတွင်လုပ်ကိုင်သူများဖြစ်ကြသည်။

မြို့ကြီးများမှာ အားလုံးလိုလိုပင် နိုင်ငံအနောက်ပိုင်းတွင် တည်ရှိသည်။ ပရာဟမြို့မှာ နိုင်ငံ၏မြို့တော်ဖြစ်သည်။ ဗရနိုမြို့မှာ မိုရေးဗီးယားပြည်နယ်၏ မြို့တော်ဖြစ်၍ ဗရတစ်ဆလားဗားမြို့မှာ ဆလိုဗားကီးယားပြည်နယ်၏ မြို့တော်ဖြစ်လေသည်။ ပီလဇင်မြို့မှာ ဗီယာချက်လုပ်ရာဗဟိုဌာနဖြစ်လေသည်။

ထိုနိုင်ငံသားများဖြစ်သည့် ချက်နှင့်ဆလိုဗက်လူမျိုးတို့သည် ဆလဗလူမျိုးများမှ ဆင်းသက်ပေါက်ပွားလာကြသူများဖြစ်၏။ တဦးတွင် ဘာသာစာပေ တမျိုးစီရှိကြသော်လည်း တဦး၏ဘာသာစာပေကို အခြားတဦးက ကောင်းစွာနားလည်ကြသည်။ ၉ ရာစုနှစ်လောက်က ဆလဗလူမျိုးတို့သည် ယခုဆလိုဗားကီးယား တည်ရှိရာနေရာတွင် မိုရေးဗီးယန်းနိုင်ငံတော်ကြီးတခု တည်ထောင်ခဲ့ကြလေသည်။ ၉၀၅ ခုနှစ်တွင်အရှေ့ဖက်မှမဂ္ဂယာလူမျိုးတို့ကဝင်ရောက်တိုက်ခိုက်ဖျက်ဆီးကြသဖြင့် ထိုနိုင်ငံတော်ကြီးပျက်စီးခဲ့ရ၏။

မိုရေးဗီးယန်းနိုင်ငံတော်ကြီး ပျက်စီးသွားသည့်နောက်တွင် ဆလိုဗက်လူမျိုးတို့သည် နှစ်ပေါင်း ၁၀၀၀ မျှ မဂ္ဂယာတို့လက်အောက်တွင် နေထိုင်ခဲ့ကြရသည်။ ချက်လူမျိုးတို့ကမူ ဩစတြီးယားနိုင်ငံတော်အတွင်း၌ အခြေစိုက်ခဲ့ခဲ့ကြ၏။ ဤကဲ့သို့ သူတပါးလက်အောက်တွင် နေထိုင်လာခဲ့ကြ၍၊ ၁၆ နှင့် ၁၇ ရာစုနှစ်များသို့ ရောက်သောအခါ သာသနာရေး၌၎င်း၊ နိုင်ငံရေး၌၎င်း၊ ချုပ်ချယ်ခံရသဖြင့် ချက်လူမျိုးတို့သည် လက်နက်စွဲကိုင် ကာတော်လှန်ပုန်ကန်ခဲ့ကြ၏။ တော်လှန်မှုမှာ ထမြောက်အောင်မြင်ခြင်း မရှိသည့်သာမက သူတို့တွင်ရရှိနေသေးသော လွတ်လပ်မှုပင် လျှင် ၁၆၂၀ ပြည့်နှစ်၌ ဆုံးရှုံးခဲ့ကြရ၏။ ချက်တို့နေထိုင်ရာ ဗိုဟီးမီးယားနယ်သည်လည်း ဟက်စဗတ်နိုင်ငံတော်အောက်သို့ ပြည်နယ်တခုအဖြစ်ဖြင့် နှစ်ပေါင်း ၃၀၀ မျှ ကျရောက်ခဲ့လေသည်။

ဤသို့လွတ်လပ်မှုဆုံးရှုံး၍ လူမျိုးတကွဲတပြားစီ ဖြစ်လာခဲ့ကြသည်မှာ ၁၇ ရာစုနှစ်ကစ၍၊ ၂၀ ရာစုနှစ်ဆန်းစအထိပင်



ပရာဟမြို့တော်အနီးရှိထင်ရှားကျော်စောသော ကားလော့တင်းရဲတိုက်ကြီး

နှင့် မိုရေးဗီးယား၊ ဆိုင်လီးရှားနယ်သား ချက်လူမျိုးများနှင့် ဆလိုဗားကီးယားနယ်သား ဆလိုဗက်နယ်သား အများအစားပါဝင်သည်။ ချက်နှင့်ဆလိုဗက်လူမျိုးတို့ ပူးပေါင်း၍ နိုင်ငံသစ်တည်ထောင်ထားသည်ကိုအစွဲပြု၍ ချက်ကိုဆလိုဗားကီးယားနိုင်ငံဟု မှည့်ခေါ်ခဲ့ခြင်းဖြစ်လေသည်။

သမတနိုင်ငံသစ်၏ အုပ်ချုပ်ပုံအခြေခံဥပဒေကို ၁၉၂၀ ပြည့်နှစ် ဖေဖွာရီလ ၂၉ ရက်နေ့တွင် အမျိုးသားလွှတ်တော်ကြီးက ရေးဆွဲအတည်ပြုခဲ့လေသည်။ ထိုအခြေခံဥပဒေအရ အထက်နှင့်အောက်လွှတ်တော် ၂ရပ်ခွဲထားရာ အထက်လွှတ်တော်အမတ်များကို ၈နှစ်လျှင်တကြိမ်၊ အောက်လွှတ်တော်အမတ်များကို ၆ နှစ်လျှင်တကြိမ်၊ ရွေးကောက်တင်မြှောက်ကြရလေသည်။ သမတကြီးကိုမူကား ၇ နှစ်လျှင်တကြိမ်ကျ ရွေးကောက်တင်မြှောက်ရလေသည်။

ဖြစ်၏။ ပဌမကမ္ဘာစစ်ကြီးမဖြစ်မီက ချက်နှင့်ဆလိုဗက်လူမျိုးတို့အတွက် ဖခင်သဖွယ်အားကိုးအားထားပြုရသော အမျိုးသားခေါင်းဆောင်ကြီး တောမတ်ဂျီ၊ မာဆာရစ်ပေါ် ပေါက်လာခဲ့သည်။ သူသည် ပရာဟမြို့ရှိ ချားတက္ကသိုလ်မှ ပါမောက္ခတဦးဖြစ်လေသည်။ လွတ်လပ်ရေးဆုံးရှုံးခဲ့သည့်နေ့မှစ၍၊ ဩစတြီးယားလူမျိုးတို့အား မော်၍ပင်မကြည့်ရဲအောင်ဖြစ်ခဲ့ကြသော ချက်နှင့်ဆလိုဗက်လူမျိုးတို့သည်မာဆာရစ်၏ ခေါင်းဆောင်မှုဖြင့် သွေးစည်းကာနယ်ချဲ့အင်အားစုကို ဆူပူကန့်ကွက်လာခဲ့ကြပြီး လျှင်တော်လှန်ရန်အချိန်ကောင်းကို သာ စောင့်မြော်နေခဲ့ကြလေသည်။

၁၉၁၄ ခုနှစ်တွင်ဖြစ်ပွားသော ကမ္ဘာစစ်ကြီးအတွင်းတွင်ကား ခေါင်းဆောင်ကြီး မာဆာရစ်၏ စွမ်းဆောင်ချက်များကြောင့် စစ်ပြီးသည့်အခါ ဩစတြီးယား၏လက်အောက်မှလွတ်မြောက်ခဲ့ပြီးလျှင်၊ ၁၉၁၈ခုနှစ် အောက်တိုဘာလ ၂၈ ရက်နေ့တွင် ချက်ကိုဆလိုဗားကီးယားသမတနိုင်ငံကိုတည်ထောင်နိုင်ခဲ့သည်။ အမျိုးသားခေါင်းဆောင်ကြီး မာဆာရစ်အား သမတအဖြစ်ဖြင့် တင်မြှောက်ခဲ့ကြသည်။



လွတ်လပ်ရေးနေ့အဝတ်အစားပြိုင်ပွဲတွင် အနိုင်ရသောချက်အလှမယ် ၂ ဦး

ချက်ကိုဆလိုဗားကီးယားသမတနိုင်ငံတွင် ဗိုဟီးမီးယား

ခေါင်းဆောင်ကြီးမာဆာရစ်သည် ၄ ကြိမ်တိုင်တိုင်ပင် သမတအဖြစ် ရွေးကောက်တင်မြှောက်ခြင်းခံရလေသည်။ အသက်အားဖြင့် ၈၅ နှစ်ရှိလာပြီဖြစ်သော သမတမာဆာရစ်သည် ကြီးလေးစွာသောနိုင်ငံတော်၏တာဝန်ကို အချိန်ပြည့်မထမ်းဆောင်နိုင်မည်ကိုစိုးသဖြင့် ၁၉၃၅ ခုနှစ်တွင် ရာထူးမှနုတ်ထွက်၏။ မာဆာရစ် ရာထူးမှနုတ်ထွက်သည်နှင့်တပြိုင်နက်၊ နိုင်ငံခြားရေးဝန်ကြီး အက်ဒွပ်ဗင်းနက်ရှအား သမတအဖြစ်ရွေးကောက်တင်မြှောက်ခဲ့ကြလေသည်။

သမတကြီးမာဆာရစ်လက်ထက်မှစ၍ သမတဗင်းနက်ရှလက်ထက်တိုင်အောင် ချက်ကိုဆလိုဗားကီးယား သမတနိုင်ငံကို ထူထောင်ခဲ့ရာ အတော်ပင်ထိရောက်အောင်မြင်ခဲ့သည်။ ရှေးက လယ်ယာစိုက်ပျိုးရေးလုပ်ငန်းမှာ အဓိကလုပ်ငန်းတရပ်ဖြစ်ခဲ့သော်လည်း ယခုသမတနိုင်ငံတွင် စက်မှုလက်မှုလုပ်ငန်းများ ထွန်းကားလာ၏။ မီးရထားလမ်း၊ ကားလမ်း၊ တူးမြောင်းများကို လိုအပ်သည့်နေရာတိုင်းတွင် ဖေါက်လုပ်ထားသဖြင့် နိုင်ငံတွင်းကူးသန်းသွားလာရေးမှာ လွယ်ကူလာ၏။

ချက်ကိုဆလိုဗားကီးယားနိုင်ငံကို ထိုသို့ထူထောင်နေချိန်တွင် ပဌမကမ္ဘာစစ်ကြီးတွင် အရေးနိမ့်ခဲ့သော အိမ်နီးချင်းနိုင်ငံဖြစ်သည့် ဂျာမနီနိုင်ငံသည် လူအင်အားလက်နက်အင်အားကို နေ့မအားညမအား စုဆောင်းပြင်ဆင်လာခဲ့သည်။ ၁၉၃၈ ခုနှစ်စက်တင်ဘာလတွင် ဂျာမန်တို့က ချက်ကိုဆလိုဗားကီးယားနိုင်ငံအတွင်းရှိ ဆူဒေတင်နယ်ကိုတောင်းဆို၏။ ချက်ကိုဆလိုဗားကီးယားနိုင်ငံကလည်း ဂျာမန်တို့၏တောင်းဆိုချက်ကိုငြင်းဆိုခဲ့၏။သို့ရာတွင် ကမ္ဘာစစ်ကြီးဖြစ်မည်စိုး၍ အင်္ဂလိပ်နှင့်ပြင်သစ်နိုင်ငံတို့က ကြားဝင်စေ့စပ်ကာ မျူးနစ်စာချုပ်ချုပ်ဆို၍ ဂျာမန်တို့တောင်းဆိုချက်အတိုင်း ဆူဒေတင်နယ်ကို ဂျာမနီနိုင်ငံအတွင်းသို့ သွတ်သွင်းပေးခဲ့သည်။ ဆူဒေတင်နယ်အပါအဝင် နယ်စပ်ဒေသများမှာ စိုက်ပျိုးလုပ်ကိုင်ရန် အကောင်းဆုံးသောဒေသများ၊ စက်မှုလက်မှုလုပ်ငန်း အထွန်းကားဆုံးဒေသများဖြစ်သည်။ သို့ဖြစ်၍ ပိုလန်နိုင်ငံနှင့် ဟန်ဂေရီနိုင်ငံတို့က ဂျာမန်များနည်းတူ အခွင့်ကောင်းယူ၍ နယ်မြေများကိုတောင်းဆိုခဲ့ရာ ပိုလန်သည် ဆိုင်လီးရှားနယ်စပ်ရှိ စတုရန်းမိုင် ၄၀၀ ရှိနယ်မြေကိုငင်း၊ ဟန်ဂေရီသည် ဆလိုဗားကီးယားပြည်နယ်မှ ရေယာအတော်များများကိုငင်း ဖဲ့၍ယူလိုက်သည်။ ထိုသို့ ချက်ကိုဆလိုဗားကီးယားနိုင်ငံမှ နယ်မြေအတော်များများခွဲပေးလိုက်ရသဖြင့် သမတဗင်းနက်ရှလည်း ရာထူးမှနုတ်ထွက်ကာ အင်္ဂလန်ပြည်သို့သွားရောက်နေထိုင်သည်။

မျူးနစ်စာချုပ်တွင် ဆူဒေတင်နယ်ကိုရရှိပြီးသည့်နောက် ဂျာမန်တို့သည် ချက်ကိုဆလိုဗားကီးယားနိုင်ငံမှ နောက်ထပ်တစုံတရာ တောင်းဆိုခြင်းမပြုပါ ဟူသောအချက်ပါရှိခဲ့သော်လည်း၊ ၁၉၃၉ ခုနှစ် မတ်လ ၁၄ ရက်နေ့တွင် ဂျာမန်စစ်တပ်များက စစ်မကြေညာဘဲ ချက်ကိုဆလိုဗားကီးယားနိုင်ငံကို ဝင်ရောက်တိုက်ခိုက်သိမ်းပိုက်ခဲ့၏။ ဂျာမန်တို့သည် ဗိုဟီးမီးယားနှင့် မိုရေးဗီးယားဟူ၍ ပြည်နယ် ၂ ခုခွဲကာ၊ ဂျာမန်ရုပ်သေးအစိုးရများ ဖွဲ့စည်းတည်ထောင်၍၊ ဒုတိယကမ္ဘာစစ်ကြီးပြီးဆုံးသည်အထိ အုပ်စိုးခဲ့လေသည်။

၁၉၄၀ ပြည့်နှစ် ဇူလိုင်လ ၂၂ ရက်နေ့တွင် အင်္ဂလန်ပြည်လန်ဒန်မြို့တော်၌ ချက်ကိုဆလိုဗားကီးယား ယာယီအစိုးရအဖွဲ့ ဖွဲ့စည်းတည်ထောင်ခဲ့၏။ ထိုယာယီအစိုးရကို ၁၉၄၁ ခုနှစ်တွင် ဗြိတိန်၊ ပြင်သစ်၊ ရုရှနှင့်အမေရိကန်ပြည်ထောင်စုနိုင်ငံတို့က အသိအမှတ်ပြုခဲ့၏။ ချက်စစ်သားများနှင့် လေတပ်သားများသည် ဥရောပစစ်မျက်နှာတွင် မဟာမိတ်တို့ဖက်မှ ပါဝင်ကူညီတိုက်ခိုက်ခဲ့၏။ နိုင်ငံတွင်းကျန်ရစ်ခဲ့သော ချက်မျိုးချစ်တို့ကလည်း ဂျာမန်တို့ကို အင်အားရှိသမျှနှင့် ခုခံတော်လှန်ခဲ့ကြလေသည်။ ရုရှတပ်များက ဂျာမန်အားထိုးစစ်ဆင်ခဲ့၍၊ ၁၉၄၄ ခုနှစ်တွင် ဆလိုဗားကီးယားပြည်



ချက်ကိုဆလိုဗားကီးယားနိုင်ငံပြမြေပုံ



ချက်ယဉ်ကျေးမှုကိုသရုပ်ဆောင်နေသည့် ပရာဟမြို့တော်ရှိပြတိုက်ကြီး

နယ်အရှေ့ပိုင်းကို သိမ်းပိုက်မိကြသောအခါ သမတကြီးဗင်းနက်ရှနှင့်တကွအစိုးရအဖွဲ့ဝင်များသည်ရုရှနိုင်ငံမော်စကိုမြို့တော်သို့ သွားရောက်ပြီးလျှင် ချက်ကိုဆလိုဗားကီးယားနိုင်ငံအတွင်း ဗင်းနက်ရှအစိုးရအဖွဲ့ ပြန်လည်အခြေစိုက်နိုင်ရန်နှင့် ဂျာမန်တို့အား ဆက်လက်တော်လှန်ရန် ခွင့်တောင်းဆွေးနွေးကြသည်။ သမတကြီးဗင်းနက်ရှ၏ တောင်းဆိုချက်ကို ရုရှတို့ကခွင့်ပြုသဖြင့်၊ ၁၉၄၅ ခုနှစ် ဧပြီလ ၄ ရက်နေ့တွင် ဆလိုဗားကီးယားနယ် ကောရှိစ်မြို့၌ ဖီးယားလင်းဂါး ခေါင်းဆောင်သော ဖက်ဆစ်တော်လှန်ရေးအစိုးရအဖွဲ့ကို ဖွဲ့စည်းလိုက်လေသည်။ အဆိုပါ ဖက်ဆစ်တော်လှန်ရေးချက်အစိုးရအဖွဲ့သည် ရုရှတပ်နီတော်နှင့်ပူးပေါင်းတိုက်ခိုက်ရာ အတော်ပင် ထိရောက်အောင်မြင်ခဲ့၏။ နောက်ဆုံးတွင် ဂျာမန်တို့လက်နက်ချရလေသည်။

ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးသည့်နောက်၊ ၁၉၄၅ ခုနှစ်တွင်ပင် ချက်ကိုဆလိုဗားကီးယားနိုင်ငံ၏ မဟာမိတ်ကြီးကိုင်အဖွဲ့ အုပ်ချုပ်ရေးကောင်စီ၏ ဆုံးဖြတ်ချက်အရ၊ ဂျာမနီ၊ ဟန်ဂေရီ၊ ရူမေးနီးယားနှင့် ပိုလန်နိုင်ငံတို့က ချက်ကိုဆလိုဗားကီးယားနိုင်ငံမှဖဲ့၍ သိမ်းယူထားသော နယ်ပယ်မှန်သမျှကို ပြန်ပေးကြရလေသည်။ ၁၉၄၅ ခုနှစ် ဇွန်လတွင် ရူသီးနီးယားပြည်နယ်ကို ရုရှသို့ လွှဲပြောင်းပေးလိုက်လေသည်။

မကြာမီ ချက်ကိုဆလိုဗားကီးယားနိုင်ငံသည် ဆိုရှယ်လစ်နိုင်ငံဖြစ်လာသည်။ နိုင်ငံတွင်းရှိ ၆၀ ရာခိုင်နှုန်းမျှ စက်မှုလက်မှုလုပ်ငန်းများကို ပြည်သူပိုင်ပြုလုပ်ခဲ့၏။ နာဇီတို့နှင့်ပူးပေါင်းခဲ့သော နိုင်ငံရေးပါတီ မှန်သမျှကိုလည်း တရားမဝင်ဟုကြေညာလိုက်လေသည်။

၁၉၄၆ ခုနှစ် မေလ ၂၆ ရက်နေ့တွင် ချက်ကိုဆလိုဗားကီးယားသမတနိုင်ငံ၏ ရွေးကောက်ပွဲကြီးကျင်းပခဲ့ရာ ကွန်မြူနစ်ပါတီသည် ၁၁၄ နေရာရရှိ၍ နိုင်ငံတွင်းအင်အားအကောင်းဆုံး ပါတီဖြစ်လာသည်။ ထိုအခါ ကွန်မြူနစ်ခေါင်းဆောင် ဂေါ့တဝေါခေါင်းဆောင်သည့် ညွန့်ပေါင်း (ဆိုရှယ်လစ်နှင့်ကွန်မြူနစ်) အစိုးရအဖွဲ့သည် နိုင်ငံကိုအုပ်ချုပ်ခဲ့လေသည်။ ဂေါ့တဝေါ၏ အစိုးရအဖွဲ့သည် ၂ နှစ်အတွင်း စီးပွားရေး ပြန်လည်ထူထောင်ရန်နှင့် အခြေခံဥပဒေသစ်ရေးဆွဲရန်တို့ကို အားသွန်ကြိုးပမ်းခဲ့လေသည်။ အခြေခံဥပဒေသစ်ကို ချက်ပြည်သူ့လွှတ်တော်ကအတည်ပြုချက်ရလျှင်ရွေးကောက်ပွဲအသစ်တခု ကျင်းပရန်စီစဉ်သည်။

ဥရောပတိုက် အရှေ့ပိုင်းရှိ နိုင်ငံများမှ ကွန်မြူနစ်အဖွဲ့များက ကွန်မင်ပေါင်းအမည်ရှိ ကွန်မြူနစ်အဖွဲ့ချုပ်ကြီးဖွဲ့စည်းတည်ထောင်ရာတွင် ချက်ကိုဆလိုဗားကီးယားနိုင်ငံမှ ကွန်မြူနစ်အဖွဲ့သည်လည်း ၁၉၄၇ ခုနှစ်အောက်တိုဘာလ ၅ ရက်နေ့တွင် လက်မှတ်ရေးထိုးကာ ပါဝင်ခဲ့သည်။ ပြည်

တွင်းပြည်ပကုန်သွယ်ရေးကို အစိုးရကအုပ်ချုပ်သည်။ လုပ်သား ၅၀ ထက်မနည်း လုပ်ကိုင်သောစက်မှုလုပ်ငန်းများကို အစိုးရတို့ကသိမ်းယူကာ၊ ၅ နှစ်စီးပွားရေး စီမံကိန်းကို ရေးဆွဲပြီးလျှင်စတင်လုပ်ကိုင်သည်။

၁၉၄၇ ခု ဖေဖွာရီလထဲတွင် ကွန်မျူနစ်တို့ တော်လှန်၍ အုပ်ချုပ်ရေးအာဏာကို သိမ်းယူခဲ့လေသည်။ ထိုအခါ တိုင်းပြည်၏ဆိုးရွားလှသောကြမ္မာကို မရှုစိမ့်နိုင်သော နိုင်ငံခြားရေးဝန်ကြီး ယန်မာဆာရစ်သည် ကိုယ့်ကိုယ်ကို ကိုယ်သတ်သေလိုက်လေသည်။ ၁၉၄၇ ခုနှစ် မေလ ၉ ရက် နေ့တွင် ချက်ကိုဆလိုဗားကီးယား အောက်လွှတ်တော်က ကန့်ကွက်ခြင်းမရှိဘဲ လုံးဝထောက်ခံအတည်ပြုချက်ရရှိသော အခြေခံဥပဒေသစ်အရ၊ ၁၉၄၇ ခုနှစ် မေလ ၃၀ ရက်နေ့တွင် နိုင်ငံလုံးကျွတ် ရွေးကောက်ပွဲကြီးတခု ထပ်မံကျင်းပလေသည်။ ထိုရွေးကောက်ပွဲကြီးမှတင်မြှောက်လိုက်သောပြည်သူ့ကိုယ်စားလှယ်များ စုဝေးရာ ပြည်သူ့လွှတ်တော်ကြီးအား ရွေးကထက်ပိုမို၍ အာဏာများပေးထားလေသည်။ ထိုရွေးကောက်ပွဲကြီးတွင် ကွန်မျူနစ်အမျိုးသားတပ်ဦးမှ ကိုယ်စားလှယ်များ လွှတ်တော်အတွင်း သြဇာလွှမ်းမိုးနိုင်လောက်အောင် အရွေးခံခဲ့ရလေသည်။ ၁၉၄၆ ခုနှစ်တွင် ရာသက်ပန်သမတအဖြစ် တင်မြှောက်ခြင်းခံရသော အက်ဒွပ်ဗင်းနက်ရှက အခြေခံဥပဒေသစ်ကို သဘောမတူသဖြင့် လက်မှတ်ရေးထိုးခြင်း မပြုခဲ့သော်လည်း ပြည်သူ့လွှတ်တော်၏ အာဏာလွှဲအပ်ခြင်းခံရသော ကွန်မျူနစ်ဝန်ကြီးချုပ် ဂေါ့တဝေါက လက်မှတ်ရေးထိုးအတည်ပြုခဲ့လေသည်။

သမတကြီး ဗင်းနက်ရှသည် အခြေခံဥပဒေသစ်နှင့် စပ်လျဉ်း၍ ပြည်သူ့လွှတ်တော်နှင့် သဘောချင်းကွဲလွဲခြင်းကြောင့် ရာထူးမှနုတ်ထွက်သွားရာ၊ ၁၉၄၇ ခုနှစ် ဇွန်လ ၁၄ ရက်နေ့တွင် ပြည်သူ့လွှတ်တော်က ဂေါ့တဝေါအား သမတအဖြစ်ဖြင့် ရွေးချယ်တင်မြှောက်လိုက်ကြလေသည်။ ထိုအခါ အန်တိုနင်ဇာပိုတော့ကီသည် ဝန်ကြီးချုပ်ဖြစ်လာသည်။ အစိုးရအဖွဲ့နှင့်တကွ နိုင်ငံတော်တွင်းရှိ အုပ်ချုပ်ရေးဌာနများတွင်လည်း ကွန်မျူနစ်အဖွဲ့ဝင်များ ကြီးစိုးနိုင်သဖြင့် ယခုအခါတွင် ချက်ကိုဆလိုဗားကီးယားနိုင်ငံသည် ကွန်မျူနစ်နိုင်ငံကြီးတခုဖြစ်လေသည်။

၁၉၅၃ ခုနှစ် မတ်လ ၁ ရက်နေ့တွင် ချက်ကိုဆလိုဗားကီးယားနိုင်ငံ၏ သမတအဖြစ် အန်တိုနင်ဇာပိုတော့ကီကို ရွေးချယ်တင်မြှောက်ကြသည်။

ဥရောပတိုက် အလယ်ပိုင်းတွင် အရေးပါလှသော စက်မှုလုပ်ငန်းထွန်းကားရာ နိုင်ငံဖြစ်သည့်အလျောက် ချက်ကိုဆလိုဗားကီးယားနိုင်ငံသည် စက်မှုလုပ်ငန်းထွက်ကုန်ပစ္စည်းများကို နိုင်ငံခြားသို့တင်ပို့ရောင်းချသည်။ ပရာဟာမြို့တော်ကြီးသည် သံမဏိလုပ်ငန်းအတွက် အရေးပါဆုံးသောဌာန




ချက်လူမျိုးတို့သည် ကြွေထည် လုပ်ငန်းနှင့်ဆိုင်သောလက်မှုပညာဖက်တွင်ထူးချွန်ကြသည်။

ဖြစ်ပေသည်။ ဗရနိုမြို့မှာ သိုးမွေးထည်များရက်လုပ်သော ဌာနကြီးဖြစ်သည်။ ဖက်ဆစ်တော်လှန်ရေးအစိုးရ တည်ထောင်ခဲ့ရာ ကောရှိစီမြို့တွင် စက္ကူစက်ရုံကြီးများ၊ အရက်ချက်ရုံကြီးများနှင့် ကျောက်ပစ္စည်းများပြုလုပ်သည့် ဌာနကြီးများရှိသည်။ ဒုတိယကမ္ဘာစစ်ကြီး မဖြစ်ပွားမီက ဂျာမနီ၊ ဩစတြီးယားနှင့် အမေရိကန်နိုင်ငံများသို့ထွက်ကုန်များကို တင်ပို့ရောင်းချခဲ့ရလေသည်။

ယခုအခါတွင် နိုင်ငံခြားသို့တင်ပို့ရောင်းချရသော အရေးပါလှသော ကုန်ပစ္စည်းများမှာ အထည်အလိပ်များ၊ ဖန်ထည်များ၊ စက္ကူ၊ စက်ကရိယာများ၊ သံမဏိ၊ သကြား၊ ဓာတ်ပစ္စည်းများနှင့် တွင်းထွက်သတ္တုများဖြစ်လေသည်။

**ချက်စတာတန်, ဂျီ၊ ကေ (ခရစ် ၁၈၇၄–၁၉၃၆)။** ဂျီ၊ ကေ၊ ချက်စတာတန် ဟူ၍ လူသိများသော အင်္ဂလိပ်စာဆို၏အမည် အပြည့်အစုံမှာ ဂီးလဗတ် ကိသ ချက်စတာတန်ဖြစ်သည်။ ထိုပုဂ္ဂိုလ်မှာ သတင်းစာဆရာအဖြစ်နှင့်၎င်း၊ စာရေးဆရာအဖြစ်နှင့်၎င်း ထင်ရှားသည်။ စာရေးဆရာအနေနှင့်ကား၊ ကဗျာနှင့်ဝတ္ထုတို့အပြင်၊ အက်ဆေးခေါ် စာဖွဲ့ခြင်း၌လည်း စွမ်းရည်သတ္တိရှိသူတဦးဖြစ်သည်။

ချက်စတာတန်သည် ၁၈၇၄ ခုနှစ် မေလ ၂၉ ရက်နေ့တွင် လန်ဒန်မြို့၌ မွေးဖွား၍၊ ၁၉၃၆ ခုနှစ် ဇွန်လ ၁၄ ရက်နေ့တွင်ဗီးကွန်စဖီး၌ ကွယ်လွန်သည်။

ချက်စတာတန်သည် လန်ဒန်မြို့ စိန်ပေါကျောင်းတွင် ငယ်စဉ်က ပညာသင်စဉ်၊ အင်္ဂလိပ်ကဗျာအရေးအသားအတွက် အင်္ဂလိပ်ကဗျာဆရာကြီး မီလတန်ကို ရည်စူး၍ ချီးမြှင့်သော ဆုကိုရခဲ့သည်။ ၁၈၉၁ ခုနှစ်တွင် ဆလိတ် ပန်းချီကျောင်း၌ ပန်းချီအတတ်ကို သင်ခဲ့သည်။ ထိုနောက်အနုပညာနှင့်ဆိုင်ရာတို့ကို ဝေဖန်သူအဖြစ်နှင့် စာပေဖက်သို့ ရောက်လာသည်။ ချက်စတာတန်မှာ ကိုယ်ခန္ဓာဝဖြိုး ကြံ့ခိုင်သူတဦးဖြစ်ရာ၊ စာပေများစွာတို့ကို အဆက်မပြတ် ရေးသားနိုင်ပေသည်။ သူ၏နာမည်အတိုကောက်ဂျီကေစီကိုအစွဲပြု၍ ဂျီကေစီသတင်းစဉ်ကို ထုတ်ဝေနေစဉ်ပင် လန်ဒန်မြို့ရုပ်စုံသတင်းစဉ်ထဲ၌ အပတ်စဉ်ဆောင်းပါးများရေးသားခဲ့သည်။

သူ၏ အက်ဆေးခေါ် စာဖွဲ့ခြင်းတို့၌ စိတ်ကူးဉာဏ်နက်နဲခြင်းနှင့်အရေးအသား ထူးခြားခြင်းတို့သည်ပေါ်လွင်လျက်ရှိပေသည်။ သို့သော် သူ၏ဝတ္ထုတို့မှာ ပို၍ ထင်ရှားသည်။ အထူးသဖြင့် 'ဖါးသားဗရောင်း' အမည်ရှိသောစုံထောက်ဝတ္ထုများကို လူကြိုက်များကြသည်။ သူ၏စုံထောက်ဝတ္ထုတို့မှာ စုံထောက်ဝတ္ထုမည်ကာမတ္တ မဟုတ်ချေ။ လူ့သဘာဝနှင့်လူ့စိတ်တို့ကို ဝိပဿနာတင်၍ ကြည့်သောစိတ္တဗေဒနှင့်ယှဉ်သည့် ဝတ္ထုများဖြစ်သည်။

ဝတ္ထုအပြင်၊ စာပေဝေဖန်မှုနှင့် စာဆိုများအကြောင်းအထုပ္ပတ္တိများစွာတို့ကို ရေးသားခဲ့ရာ၊ သူရေးခဲ့သော 'ရောဗတ်ဗရောင်းနင်း'၊ 'ချားဒစ်ကင်း၊' 'ဗားနတ်ရှော၊' 'စတီဗင်ဆန်၊' 'ချော်စာ' တို့၏ အထုပ္ပတ္တိများမှာ လူသိများပေသည်။ သူ၏ကဗျာများကို ရံဖန်ရံခါ စုပေါင်း၍ ရိုက်နှိပ်လေ့ရှိသည်။ ၁၉၂၇ ခုနှစ်တွင် ရှေးကသူရေးခဲ့သော ကဗျာများကို နှောင်းတွင်ရေးသော ကဗျာများနှင့်စုပေါင်း၍ ကဗျာညွန့်ပေါင်းစာအုပ် ထုတ်ဝေခဲ့သည်။

၁၉၂၂ ခုနှစ်တွင် ချက်စတာတန်သည် ဗရင်ဂျီဂိုဏ်းသို့ဝင်ခဲ့ရာ ထိုဂိုဏ်းကို ကာကွယ်စောင့်ရှောက်သောအားဖြင့် ကျမ်းများစွာတို့ကို ပြုခဲ့သည်။

၁၉၁၇ ခုနှစ်တွင် အင်္ဂလန်ပြည်သမိုင်းအကျဉ်းချုပ်ကို ရေးသားထုတ်ဝေခဲ့ရာ၌ ချက်စတာတန်၏ အသစ်ထွင်ရေးသားသော အဖွဲ့အနွဲ့ကြောင့် လူကြိုက်များသည်။ စိတ်ကူးဉာဏ်ဆန်းကြယ်စွာ ကွန့်မြူးထားသော စာပေအမြောက်အမြားကိုလည်း ရေးသားခဲ့သည်။ ၁၉၃၆ ခုနှစ်၌သူကိုယ်တိုင်ရေးသူ့အကြောင်းအထုပ္ပတ္တိကို ရေးသားပုံနှိပ်ထုတ်ဝေခဲ့သည်။



အင်္ဂလိပ်စာရေးဆရာဂျီကေချက်စတာတန်



**ကဗျာစာဆိုကလေး တောမတ်ချက်တာတန် ၏ကြေကွဲဖွယ်ဇာတ်သိမ်း**

**ချက်တာတန်, တီ** (ခရစ် ၁၇၅၂–၁၇၇၀)။ ။တောမတ် ချက်တာတန်သည် ကဗျာအရေးအသားတွင် ထူးချွန်သူတယောက်ဖြစ်၍၊ သက်တမ်းစေ့သာ နေခဲ့ရပါမူ မည်မျှ ကျော်ကြားမည်ကို သူ့စာပေတို့မှ အကဲခတ်နိုင်ပေသည်။

ချက်တာတန်သည် အင်္ဂလန်ပြည် ဗရစ္စတိုမြို့၌၊ ၁၇၅၂ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်နေ့တွင် ဖွားမြင်သည်။ ငယ်စဉ်က အခမဲ့စာသင်ကျောင်း တကျောင်းတွင် ပညာသင်ကြားခဲ့လေသည်။ ချက်တာတန်တို့သည် မျိုးရိုးအစဉ်အဆက် နှစ်ပေါင်း ၂၀၀ ကျော်မျှ ဗရစ္စတိုမြို့ရှိ စိန်မေရီ ရက်ကလစ်ဘုရားရှိခိုးကျောင်း၏ အဆောင်မှူးများ ဖြစ်ကြသည်။ ဤသို့ဖြင့် တောမတ်ချက်တာတန်သည် ဘုရားရှိခိုးကျောင်း အတွင်း၌ တိမ်မြုပ်နေသော စာဟောင်း ပေဟောင်းများကို၎င်း၊ သင်းချိုင်းဂူများပေါ်တွင် ရေးသားထားသော ကျောက်ထက်အက္ခရာများကို၎င်း ဖတ်ရှုလေ့လာခဲ့၏။

ထိုအချိန်အခါတွင် အင်္ဂလန်ပြည်၌ အလယ်ခေတ်က ရေးသားခဲ့သော ကဗျာများကို စိတ်ဝင်စားနေကြ၏။ လူများမေ့နေသော ထိုခေတ်ကဗျာဟောင်းများကို စုဆောင်း၍ ပုံနှိပ်ထုတ်ဝေလျက် ရှိကြသည်။ ထိုအခါ ချက်တာတန်သည် ပင်ကိုယ်အားဖြင့် ကဗျာအရေးအသားတွင် ထူးချွန်သူဖြစ်သည့်အလျောက် သူကိုယ်တိုင်ရေးဆန်းသော ကဗျာများကို ရေးသားလေသည်။ သူရေးသားသော ကဗျာများကို ၁၅ ရာစုလောက်က တောမတ်ရိုလီ အမည်ရှိ ဘုန်းကြီးတပါး ရေးခဲ့သော ကဗျာများဖြစ်လေဟန် ‘ရိုလီ၏စာမူများ’ ဟူ၍ အမည်ပေးခဲ့လေသည်။

သူ့အဆိုအရ ရှေးနှစ်ပေါင်း ၃၀၀ ကျော်ခန့်က ကဗျာဆရာကြီးများ ရေးထားခဲ့သည့် ထိုစာမူများကို စိန်မေရီ ရက်ကလစ်ဘုရားရှိခိုးကျောင်းအတွင်း ရှာဖွေတွေ့ရှိခဲ့ရသည်ဟုဆို၏။ ဆိုသည့်အတိုင်းလည်း ရှေးဟန်အသွင်အပြင်မပျက် ရေးသားထားလေသည်။ အချို့ယုံလွယ်သူများက ထိုသို့ရေးသားသော ကဗျာများမှာ အကယ်ပင် ရှေးဟောင်းစာမူများဖြစ်သည်ဟု သူသေပြီးနောက် နှစ်ပေါင်း အတော်ကြာသည့်တိုင်အောင် ယုံကြည်လျက်ရှိကြသေးသည်။ သို့သော် အောက်စဖို့နယ်စားအမတ်ကြီး ဟောရေဝါလပို ကဲ့သို့သော ပုဂ္ဂိုလ်ကြီးများကမူ ချက်တာတန်၏ ပရိယာယ်ကို မကြာမီပင် ရိပ်မိလာကြ၏။

မည်သို့ပင်ဖြစ်စေ၊ သူရေးသော ကဗျာများမှာ သူ၏ လက်စွမ်း လက်စကို ပေါ်လွင်ထင်ရှားစေ၏။ ထိုပြင်လည်း ဆင်းရဲနွမ်းပါးပြီးလျှင်၊ အပေါင်းအသင်းမရှိသော သူငယ်တယောက်က ဤမျှလောက် အဆီအနှစ်ပါသည့် ကဗျာများ ရေးသားနိုင်သည်ကိုကား မချီးကျူးဘဲ မနေနိုင်ချေ။

ထိုနောက် အသက် ၁၇ နှစ်အရွယ်တွင် ချက်တာတန်သည် လန်ဒန်မြို့၌ စာရေးဆရာအဖြစ်ဖြင့် အသက်မွေးရန်၊ ဗရစ္စတိုမြို့မှ ထွက်ခွာခဲ့သည်။ သူရေးသားသော ကဗျာများနှင့်ဆောင်းပါးများကို လန်ဒန်မြို့၌ ပုံနှိပ်ထုတ်ဝေခဲ့ရသော်လည်း၊ ဆင်းဆင်းရဲရဲနှင့်ငတ်ပြတ်၍နေရသည်က များလေသည်။ သို့ရာတွင် ဗရစ္စတိုမြို့ရှိ သူ၏မိဖဆွေမျိုးများထံသို့ စာရေးသောအခါ၌မူ၊ လန်ဒန်မြို့တွင် ချောင်ချောင်လည်လည် ချမ်းချမ်းသာသာ နေထိုင်လျက်ရှိကြောင်းကို

သာ ထည့်ရေးလေ့ရှိသည်။ နောက်ဆုံး၌ ချက်တာတန်သည် သူ့ဝမ်းကို မထိန်းကျောင်းနိုင်သည့်အခြေသို့ ဆိုက်ရောက်လာသဖြင့် ၁၇၇၀ ပြည့်နှစ် ဩဂုတ်လ ၂၄ ရက်နေ့တွင် ဗရွတ်လမ်း အမှတ် ၃၉ နေအိမ်၌ အဆိပ်သောက်၍ သူ့ကိုယ်ကိုသူ အဆုံးစီရင်လိုက်လေသည်။

ကဗျာဖက်တွင် အကျော်အမော်များ ဖြစ်ကြသည့် ကိန္နင့်ကိုးလရစ် စသောပုဂ္ဂိုလ်များကဲ့သို့ အထွတ်အထိပ်သို့ တိုင်ရောက်ကာ နာမည်မထင်ရှားခဲ့သော်လည်း၊ ချက်တာတန်သည် ထိုသူများ၏ ရွှေဆောင်လမ်းပြ ကဗျာဆရာကလေးတယောက်ဖြစ်ခဲ့သည်ဟူ၍ အသိအမှတ်ပြုကြသည်။

# စားသောက်ဖွယ်ကိုရသာထူးစေသည့်စားဖိုဆောင်ပညာ

**သတ္တဝါဟူသမျှ အသက်ရှင် သွားလာနိုင်စေရန် အာဟာရလိုသည်။ အစားအစာနှင့်ကင်း၍မနေနိုင်။ နေ့စဉ်စားသောက်ရမည့်အစာကို မငြီးငွေ့ရအောင် နည်းအမျိုးမျိုးဖြင့်ချက်ပြုတ်ရသည့်အလုပ်မှာ တာဝန်မသေးလှပေ။ လူမှုရေးရာ တိုးတက်သည်နှင့်အမျှ ချက်ပြုတ်နည်းများစုံလင်လာပြီးလျှင် ယခုအခါတွင် ပညာရပ်တခုအနေဖြင့်တိုးတက်လျက်ရှိနေလေပြီ။**

**ချက်ပြုတ်မှုအတတ်**။ ။သတ္တဝါဟူသမျှ အစားအစာနှင့် ကင်း၍မနေနိုင်။ လူလည်းလူ့အလျောက် တိရစ္ဆာန်လည်းတိရစ္ဆာန်အလျောက် အာဟာရအတွက် နေ့စဉ်နှင့်အမျှ စားသောက်ကြရသည်။ စက်များခုတ်မောင်းနိုင်စေရန် ထင်းမီးလိုအပ်ဘိသကဲ့သို့ ခန္ဓာကိုယ်ကြီးအသက်ရှင်၍ သွားလာနိုင်စေရန် အာဟာရလိုလေသည်။

ယဉ်ကျေးမှုမထွန်းကားသေးသော ရှေးခေတ်ကလူတို့သည် အမဲသားငါးများကို အစိမ်းလိုက်စားသောက်ခဲ့ကြရသည်။ သို့ရာတွင် ယဉ်ကျေးမှုထွန်းကား၍ လူတို့၏အသိဉာဏ် တိုးတက်လာသောအခါ သားငါးစသောအစာတို့ကို အစိမ်းသက်သက်စားသည်ထက် ချက်ပြုတ်ပြီးမှစားခြင်းကပို၍ကောင်းသည်ဟု သိလာကြပေသည်။ အစပဌမတွင် အသားများကို နေဖြင့်သော်၎င်း၊ အအေးဓာတ်ဖြင့်သော်၎င်း၊ ကျက်စေပြီးမှ စားသောက်ကြသည်။ ထိုနောက် မီးဖြင့် ကျက်အောင်ချက်ပြုတ်၍ စားသောက်နည်းကို တွေ့လာလေသည်။

ထိုမှတပန် လူတို့၏ယဉ်ကျေးမှုအဆင့်အတန်း တဖြည်းဖြည်း တိုးတက်ပြောင်းလဲလာသောအခါ နေထိုင်စားသောက်မှုအဆင့်လည်း မြင့်တက်လာခဲ့၍၊ ချက်နည်းပြုတ်နည်းတို့လည်း အမျိုးမျိုးအဖုံဖုံ များပြားလာလေသည်။ သို့ရာတွင် ရှေးခေတ်က ချက်နည်းပြုတ်နည်းများသည် ရိုးလှသည်။ နှစ်ပေါင်းများစွာကြာမှ ချက်နည်းပြုတ်နည်းမျိုးစုံလာပြီးလျှင် ဆန်းသစ်သော ချက်နည်းပြုတ်နည်းများ ပေါ်လာသည်။ ယခုအခါတွင် လူမှုရေးရာပညာ တိုးတက်သည်နှင့်အမျှ ချက်နည်းပြုတ်နည်းများမှာ အမျိုးစုံလင်လာလေပြီ။

နေ့စဉ်စားသောက်ရမည့်အစာကို မငြီးငွေ့ရလေအောင် နည်းအမျိုးမျိုးဖြင့် ချက်ပြုတ်ပေးရသည့်အလုပ်မှာ မသေးလှချေ။ ထို့ကြောင့် ရှေးအခါက အချက်အပြုတ် ကျွမ်းကျင်သူများအား ဘုရင်များကိုယ်တိုင် ချီးမြှောက်ခဲ့ပေသည်။ အင်္ဂလန်နိုင်ငံသမိုင်းတွင် ဝီလျံ-သ-ကွန်ကာရာခေါ် ဘုရင်သည် မိမိဘိသိက်ခံယူသည့်နေ့တွင် အလွန်ထူးခြားသောဟင်းတမျိုးကို စီမံချက်ပြုတ်၍ ဆက်သသောစားတော်ကဲအား ကျေးဇူးပြုသောအားဖြင့် 'မယ်နာအော့အက်ဒင်တန်' ခေါ် ခမ်းနားကြီးကျယ်လှသည့် အိမ်ကြီးကိုပေးသနားတော်မူဘူးလေသည်။

ဤခေတ်တွင်နေအိမ်များ၊ ဟိုတယ်ကြီးများ၊ ပျော်ပွဲစားရုံများ၌ အချက်အပြုတ်ကောင်း၍ အမည်ရသူစားဖိုမှူးများသည် အလွန်အရေးပါသည့်အလျောက် ယင်းတို့ကို အခစားနားကြီးမြင့်စွာပေး၍ ငှားရသည်။

ကမ္ဘာပေါ်ရှိ လူမျိုးအသီးသီးတွင် မိမိတို့နှင့် ဆီလျော်သည့် အမျိုးမျိုးသော ချက်နည်းပြုတ်နည်းများရှိကြသည်။ ထိုပြင်လည်း လူမျိုးတမျိုးနှင့်တမျိုး စားပုံသောက်ပုံများတွင် အနည်းနှင့်အများဆိုသလို ကွဲပြားခြားနားတတ်လေရာ စားပုံသောက်ပုံကိုလိုက်၍ ချက်နည်းပြုတ်နည်းများမှာလည်း ကွဲပြားကြသည်။ အနောက်နိုင်ငံသားများသည် ဇွန်း၊ ခက်ရင်း၊ ဓားဖြင့် စားသောက်ကြ၍ ကမ္ဘာ့အရှေ့ဖျား နိုင်ငံသားများဖြစ်သော တရုပ်၊ ဂျပန်တို့သည် တူကို အသုံးပြုကြ၏။ အိန္ဒိယ၊ မြန်မာစသော လူမျိုးများကား လက်ဖြင့်သာစားသောက်လေ့ရှိကြသည်။ ထိုသို့သော စားပုံစားနည်းကိုလိုက်၍ ချက်နည်းပြုတ်နည်း အမျိုးမျိုးကွဲပြားသည်။ ကာလဒေသနှင့် ရာသီဥတုကိုလိုက်၍ တမျိုးတဖုံချက်ပြုတ်ရသည်လည်းရှိ၏။ သို့ရာတွင် အကြော်၊ အကင်၊ အပြုတ်၊ အပေါင်းစသည့် အခြေခံနည်းများမှာ အတူတူလိုပင်ဖြစ်၍ ကောင်းနိုးရာရာ မိမိတို့၏စရိုက်ဓလေ့အလိုက် စားချင်စဖွယ်ပြုပြင်မွမ်းမံကြရသည်။

ကျွန်ုပ်တို့သည် အစားအစာကို အဘယ့်ကြောင့်ချက်ပြုတ်၍ စားသောက်ကြပါသနည်းဟု စိစစ်ကြည့်သော် အကြမ်းအားဖြင့် ဤသို့တွေ့ရသည်။ ဦးစွာပထမ၌ ချက်ပြုတ်လိုက်ခြင်းဖြင့် အစားအစာသည် နူးနပ်သွားသည်။ ထို့ကြောင့် အစာကို စားရန်လွယ်ကူသည်။ အစာကြေစေရန် အထောက်အပံ့ဖြစ်သည်။ ထို့ပြင် အစာကို ချက်

ပြုတ်လိုက်သောကြောင့်၊ အရသာလည်းပို၍ ကောင်းမွန်လာသည်။ ကြာရှည်လည်းခံသည်။ ကျွန်ုပ်တို့အား ရောဂါဖြစ်စေတတ်သော ပိုးမွှားတို့ကိုလည်း ပျက်စီးသွားစေသည်။

အစားအစာများကို တမျိုးတည်းထပ်တလဲလဲ စားသောက်ခြင်းမှာ ငြီးငွေ့ဖွယ်ရာဖြစ်သည်သာမက အာဟာရဓာတ်တမျိုးတည်းကိုသာ ရရှိစေသဖြင့် ရောဂါများစွဲကပ်စေသည့်ပြင် ကျန်းမာခြင်းနှင့် မညီညွတ်နိုင်ပေ။ ထိုကြောင့် အစားအသောက်များကို စီမံချက်ပြုတ်ရာ၌ အမျိုးအမည်အဖုံဖုံ ပြောင်းလဲစီမံ စားသောက်ခြင်းသည် ကိုယ်ခန္ဓာကျန်းမာကြံ့ခိုင်ရေးအတွက် လိုအပ်သောအာဟာရဓာတ်အမျိုးမျိုးကို မျှတစွာရရှိစေသည်။ ထို့ပြင် စားသုံးသူများအဖို့တွင်လည်း ငြီးငွေ့စရာ အကြောင်းမရှိနိုင်တော့ချေ။ သို့ဖြစ်၍ အာဟာရဓာတ်တို့လည်း မျှတလုံလောက်စွာပါ၍ ဟင်းအမည်အမျိုးမျိုးအဖုံဖုံလည်း ဖြစ်စေပြီးလျှင် စားသုံးသူများအတွက်လည်း အရသာရှိစေရန် စီမံချက်ပြုတ်ရခြင်းမှာ စားဖိုမှူးအိမ်ရှင်မများအတွက် လွယ်ကူသောအလုပ်မဟုတ်ချေ။

ချက်ပြုတ်နည်းကို အမျိုးအစားခွဲခြားကြည့်လျှင် (၁) ပြုတ်ခြင်း (၂) ရေလုံပြုတ်ခြင်း (၃) ပေါင်းခြင်း (၄) ကြော်ခြင်း (၅) ပြုတ်ကြော်လုပ်ခြင်း (၆) ကင်ခြင်း (၇) ဖုတ်ခြင်းဟူ၍တွေ့ရသည်။

(၁) ပြုတ်ခြင်းမှာ၊ စားစရာကို ရေအေး သို့မဟုတ် ရေပူထဲသို့ထည့်ပြီးလျှင်၊ စားစရာကျက်စိမ့်သောငှာ ရေကျိုက်ကျိုက်ဆူသည့်တိုင်အောင် မီးပြင်းတိုက်သောနည်းဖြစ်၏။ မီးအပူမှာ မြန်မြန်ပူစေသော မီးဖြစ်ရသည်။ ပုံစံကိုဆိုရသော်၊ဆန်၊ အာလူး၊ ပဲစသည်တို့ကိုပြုတ်သောနည်းဖြစ်၏။

(၂) ရေလုံပြုတ်မှာ အထက်ပါရိုးရိုးပြုတ်နည်းတွင်ရေကိုကျိုက်ကျိုက်မဆူစေဘဲ၊ သိမ်မွေ့သော မီးငွေ့နှင့် ကျက်စေရန်၊ မီးကျီးခဲနှင့် မီးရှိန်လျော့၍ပြုတ်ခြင်းဖြစ်သည်။ ရေလုံပြုတ်ရေထဲသို့ အခြားဟင်းစပ်များ ထည့်၍ ပြုတ်ခြင်းသည် အင်္ဂလိပ်စားဖိုဆောင်နည်းအရ စတူးလုပ်သည်မည်လေသည်။

(၃) ပေါင်းခြင်းမှာ ရေငွေ့နှင့် ချက်သောနည်းဖြစ်သည်။ ပေါင်းချောင်နှင့်ပေါင်းရသည်။ ပေါင်းနည်းမှာ စားစရာထဲမှ အာဟာရဓာတ်ကို ပြည့်ပြည့်ဝဝရစေ၍၊ နူးနပ်ပျော့ပျောင်းစေသောနည်းဖြစ်၏။ ငါးထုပ်၊မုံ့စိမ်းပေါင်း၊ ကောက်ညှင်းပေါင်း၊စသည့်အစားအစာများမှာပေါင်းနည်းဖြင့်ချက်သော အစားအစာများဖြစ်၏။

(၄) ကြော်ခြင်းမှာရေကိုမသုံးဘဲ၊ ဆီနှင့်ချက်သောနည်းဖြစ်သည်။ ဤနည်းသည် အမြန်ဆုံးပင် ဟင်းချက်သောနည်းပေတည်း။ သို့သော် အကြော်သည် အစာကိုကြေခဲစေသည်။ စားစရာ၏ အပြင်ယံကို ဆီပူပူဖြင့်ဖုံးပေးလိုက်ခြင်းကြောင့် ကြော်ခြင်းသည် အရသာကိုအများဆုံးပေးနိုင်သော ချက်နည်းတမျိုးဖြစ်၏။ ဆီများထဲတွင် ကြော်ခြင်းနှင့် ဆီပူထိုး၍ကြော်ခြင်းဟူ၍လည်း နှစ်မျိုးခွဲခြားထားသည်။ ဗူးသီးကြော်ခြင်း၊ အာလူးကြော် ဘယာကြော်တို့မှာ ဆီများများထဲတွင် စားစရာကိုနှစ်၍ ကြော်ခြင်းဖြစ်သည်။ ဆီနည်းနည်းကို ဒယ်အိုးတွင်ထည့်၍ ကြက်ဥ၊ ဘဲဥ ဗဟ္မန်ဆိတ်စသည်တို့ကို လှိမ့်၍ကြော်ခြင်းမှာ ဆီပူထိုးခြင်းဖြစ်သည်။

(၅) ပြုတ်ကြော်ဟူသောစကားမှာ မြန်မာချက်ပြုတ်နည်းအရ ပြုတ်ပြီးမှ ကြော်ခြင်းပင်ဖြစ်သည်။ သို့သော် အင်္ဂလိပ်ချက်ပြုတ်နည်းအရမှာမူ စားစရာကို ဆီ သို့မဟုတ် အဆီ သို့မဟုတ် ထောပတ်စသည်တို့ဖြင့် မီးမျှဉ်းမျှဉ်း၌ ကြော်၍နှပ်ရသော နည်းဖြစ်သည်။ ရိုးရိုးကြော်ခြင်းနှင့် မတူသောအချက်မှာ သားငါးစသည့်စားစရာ အကောင်လိုက်ကိုဖြစ်စေ၊ အတုံးကြီးကြီးကိုဖြစ်စေ၊ အပူရှိန်အသားအတွင်းသို့ ဖေါက်ထွင်း၍ကျက်အောင် ပြုလုပ်စေခြင်းပင်ဖြစ်သည်။ မီးအပူကို စားစရာအစိုင်အခဲအတုံးကြီး၏ ပတ်



လျှပ်စစ်မီးဖို အအေးသေတ္တာစသည်တို့ဖြင့် ခေတ်မှီသောစားဖိုခန်း

ချက်ခြင်း



ကင်ခြင်း



ပြုတ်ခြင်း



ပေါင်းခြင်း



ကြော်ခြင်း



ဖုတ်ခြင်း



လည်ဘေးဘီအောက်ထက်အားလုံးတို့သို့ ရောက်ရှိတွေ့ထိအောင်လုပ်ပေးရသည်။ မီးရှိန်ကို လျှော့ပေးခြင်းဖြင့်၊ အပြင်ယံကိုမလောင်ကျွမ်းမတူးခြစ်စေဘဲ၊ အသားစိုင်ငါးစိုင်စသည်၏ အတွင်းသားများကျက်သွားရန်အချိန်ရစေသည်။ သာမန်အားဖြင့် သံသေတ္တာမှုံ့ဖုတ်ဖိုထဲ၌ ချက်ရသည်။ မီးပက်လက် ဒယ်အိုးပက်လက်တွင် ပြုတ်ကြော်ကြော်ပါမူ သားငါးအတုံးတို့ကို အဆက်မပြတ်လှန်မှောက်ပေးရသည်။

(၆) ကင်ခြင်းမှာ စားစရာကို ရေရောဆီပါမကူဘဲ မီးကျီးပေါ်ထား၍ ကျက်စေခြင်းပင်ဖြစ်သည်။ အင်္ဂလိပ်ချက်ပြုတ်နည်း၌ ဂရီး သို့မဟုတ် ဗရွိုင်းဟုခေါ်သည်။ ဤချက်နည်းတွင် မီးကျီး၌ မီးတောက်မရှိစေရန် သတိပြုရသည်။ ပေါင်မုံ့၊ ငါး၊ အမဲသားစသည်တို့ကို ဤနည်းအရ ကင်နိုင်သည်။ အင်္ဂလိပ်နည်း၌ ကင်ခြင်းတွင် မီးအုံးခြင်းလည်းပါဝင်သည်။ မီးအုံးခြင်းမှာ ပြာပူပူတွင် တစိမ့်စိမ့်ကျက်စေသော နည်းဖြစ်သည်။

(၇) ဖုတ်ခြင်းမှာ မြန်မာနည်းအရဆိုလျှင်၊ စားစရာကိုမီးကျီးခဲနှင့် တိုက်ရိုက်ထိတွေ့အောင် အပူပေး၍ကျက်စေသောနည်းဖြစ်သည်။ ငါးခြောက်ဖုတ်မှာ ယင်းနည်းအရဖြစ်လာရသည်။ သို့သော် အင်္ဂလိပ်နည်းအရဆိုလျှင် စားစရာကို အဖုံးရှိသောဖိုထဲ၌ ထည့်၍ချက်သောနည်းဖြစ်သည်။ ကိတ်မုံ့စသည့်တို့ကို ဤနည်းအတိုင်းဖုတ်ရသည်။

အထက်ပါနည်းတို့မှာ အနောက်နိုင်ငံများမှ ရသောနည်းတို့၏အခြေခံများဖြစ်လေသည်။ မြန်မာဆန်ဆန် ချက်ပြုတ်နည်း၏ အခြေခံတို့မှာ ချက်ပြုတ်ခြင်း၊ကြော်ခြင်း၊ လှော်ခြင်း၊ ကင်ခြင်း၊ ဖုတ်ခြင်း၊ အုံးခြင်း၊ ပေါင်းခြင်းနှင့်နှပ်ခြင်းဖြစ်သည်။ ထမင်းနှင့်ဟင်းကို ချက်သည်ဟုခေါ်ရသည်။ ဟင်းချက်ရာ၌ ရေနှင့်ဆီကိုရော၍ချက်ရသည်။ သို့ချက်ရာ၌ ရေခန်း၍အဆီပြန်အောင်ချက်လျှင် ဆီပြန်ချက်ဟုခေါ်သည်။ အကင်းသတ်ပြီးသားဆီထဲအို့ စားစရာထည့်၍ မီးပြင်းနှင့်ကျက်စေလျှင်၊ ကြော်သည်ဟုခေါ်သည်။ စားစရာကို ဆီမပါဘဲဒယ်အိုးတွင် အခြောက်တိုက်ထည့်၍ကျက်စေလျှင် လှော်သည် ဟုခေါ်သည်။ မြေပဲစသည်တို့ကို လှော်ရာ၌ သဲသန့်သန့်ကိုထည့်၍ လှော်ရသည်။ ကင်ခြင်းနှင့်ဖုတ်ခြင်း၏သဘောကို အထက်ကပြဆိုခဲ့ပြီ။ ဖုတ်ခြင်း၌ ရွှံ့မံ၍ဖုတ်သော နည်းလည်းရှိသေးသည်။ ကင်ခြင်းမှာ စားစရာကို မီးကျီးခဲနှင့်မထိစေဘဲ ကျက်စေသောနည်းဖြစ်၍၊ ဖုတ်ခြင်းမှာ မီးကျီးခဲထဲသို့ထည့်၍ ကျက်စေသောနည်းဖြစ်၏။ မီးကျီးခဲများအပေါ်တွင် ကျပ်စင်ထိုး၍ကင်သောနည်းမှာ ကျပ်တိုက်နည်းဖြစ်သည်။ အုံးသည့်သဘောမှာ စားစရာကို ပြာပူတွင်မံ၍ ကျက်စေသောနည်းဖြစ်သည်။ ပေါင်းခြင်းကို အထက်ကပြဆိုခဲ့ပြီ။ နှပ်ခြင်းမှာ စားစရာမှ ထွက်လာသော ရေခိုးရေငွေ့၏အပူရှိန်ကိုပင် ပြန်၍သုံးပြီးလျှင် ထိုအပူရှိန် မလစ်ဟင်းရအောင် စလောင်းကိုမံ၍ ချက်သောနည်းဖြစ်သည်။

မြန်မာချက်ပြုတ်နည်းသန့်သန့်မှာ မဒရပ်နယ်ချက်ပြုတ်နည်းကဲ့သို့ သစ်ကြပိုး၊ ဖါလာ၊ နံ့နံ့စော့စသော အမွှေးအကြိုင်တို့ကို များများမသုံး၊ ဗင်္ဂလားနယ်ချက်ပြုတ်နည်းကဲ့သို့ ထောပတ်နှင့်မဆလာ များများမသုံး၊ သီဟိုဠ်နည်းကဲ့သို့လည်းအုန်းဆီကိုနေရာတိုင်း၌မသုံး၊ သို့သော် အမွှေးအကြိုင်အစေ့များကို အပင်ဖေါက်၍ သုံးစွဲသည်ကများလေသည်။ ထိုကြောင့် အနံ့အသက်မပြင်းချေ။ ဆီကိုလည်းအကင်းသတ်ပြီးမှသာ အသုံးပြုသည်။ ငရုတ်၊ ကြက်သွန်ဖြူ နီ၊ နံ့နံ့စော့စသည်တို့ကို ဆုံတွင်ထည့်၍ထောင်းပြီးမှ သုံးစွဲကြသည်။ ယင်းသို့ဆုံတွင်ထောင်း၍သုံးစွဲခြင်းကြောင့်၊ မြန်မာဟင်း၏အနံ့အရသာမှာ တမျိုးတဖုံထူးခြားသည်ဟု နိုင်ငံခြားသားတို့ကဆိုကြသည်။ မြန်မာဟင်းလျာတွင် ငပိ၊ ငန်ပြာရည်တို့ ပါဝင်သည့်အတွက် ထူးခြားသောအရသာရှိသည်ဟုလည်းဆိုကြသည်။

မြန်မာတို့အသုံးများသော ဟင်းလျာများမှာ ဟင်းချိုသို့မဟုတ်ဟင်းခါး၊ ဆီပြန်၊ ကြော်ချက်၊ ချဉ်ရည်ဟင်းစသည်များဟူလေသည်။

ဟင်းချိုချက်နည်းကား အိုးထဲ၌ရေထည့်၍ ငါး၊ ဗုဇွန်စသည်အစာများနှင့် စိမ်းစားငပိ၊ ငန်ပြာရည်၊ ငပိရည်ကျိုစသည် တမျိုးမျိုးကိုခတ်ပြီးနောက် ရေဆူလာသည့်တိုင်အောင်တည်ထားရသည်။ ဆူလာသောအခါမှ အသင့်လှီးဖြတ်ထားသော အသီးအရွက်များကိုခတ်ရသည်။ အသီးအရွက်များနူးလျှင် ဟင်းချိုချက်ပြီးဖြစ်သည်။ ဟင်းခါးမှာ ဟင်းချိုချက်သကဲ့သို့ပင် ချက်ရသော်လည်း ကြက်သွန်ဖြူနှင့်ငရုတ်ကောင်းမှုန့် ထောင်းထည့်ရသည်။ အချို့ကဟင်းချိုနှင့်ဟင်းခါးတို့အတွက် ငါးဗုဇွန်စသည်တို့ကို ဆီနှင့်အနည်းငယ်လုံး၍ရင်း၊ ဆီသတ်ပြီးမှရင်း၊ ဟင်းခတ်ထည့်၍ချက်ကြသည်။

ဆီပြန်ချက်နည်းမှာ ပဌမဆီအိုးကို အလျှင်တည်ထားရသည်။ ဆီအကင်းသေသည့်အခါမှ ချက်မည့်သားငါးတို့ကိုထောင်းပြီးသားငရုတ်သီး၊ ကြက်သွန်၊ နနွင်းတို့ဖြင့်နယ်၍ အိုးထဲသို့ထည့်ရသည်။ အသားနူးစေရန် ရေကလေးအနည်းငယ်ကိုလည်း ထည့်ပေးရသည်။ အခြားဆီပြန်ဟင်းချက်နည်းတနည်းမှာ ဆီမသတ်ဘဲဟင်းလျာကို ထောင်းပြီးသားငရုတ်ကြက်သွန်ဆားနနွင်းတို့နှင့် ဆီပါရောနယ်ပြီးလျှင် ရေအနည်းငယ်ထည့်၍ဆီပြန်သည့်အထိချက်ရသည်။

ကြော်ချက်ချက်နည်းဖြင့် ဟင်းသီးဟင်းရွက်များကိုသာ ချက်ကြသည်။ ချက်မည့်အသီးအရွက်များကို လှီးစိတ်ပြီးလျှင် ဗုဇွန်၊ ဗုဇွန်ခြောက်၊ ငါး၊ ဆား၊ နနွင်း၊ငန်ပြာရည်တို့



လူရွှင်တော်ချာလီချက်ပလင်၏ပကတိအနေအထား

ထည့်၍နယ်ကာ ရေမထည့်သေးဘဲ ဆီကျက်သွားသည်အထိ (ဆီစိမ်းနံ့ ပျောက် သည် အထိ) လှီး ရ သည်။ ဆီစိမ်းနံ့ ပျောက်၍ဆီကျက်သည့်အခါမှ အရည်သောက်နိုင်ရန် တော်သင့်ရုံရေထည့်ပေးရသည်။ ရေဆူ၍ အသီးအရွက်များနူး လျှင် ဟင်းကျက်လေတော့သည်။

မြန်မာလူမျိုးတို့ အထူးနှစ်သက်သော ချဉ်ရေဟင်းကို ဗုဇွန်၊ ငါး၊ ဟင်းသီးဟင်းရွက်စသည်တို့ဖြင့်ချက်နိုင်သည်။ ချက်ပုံမှာ ဗုဇွန်၊ ငါး၊ ဟင်းသီးဟင်းရွက်များကို ခုတ်ထစ် ပြင်ဆင်ကာ ထောင်းထားသော ငရုတ်၊ ကြက်သွန်၊ဆီဆား နနွင်း၊ငံပြာရည်တို့ဖြင့် နံ့အောင်နယ်၍ ငရုတ်သီးခြောက် သည်အထိ ဆီနှင့်လှီး၍ချက်ရသည်။ ထိုနောက်မှ အသင့် ရေစိမ်ထားသော မန်ကျည်းရေကို လောင်းထည့်၍ ဆူ သည်အထိ တည်ထားရသည်။ ဟင်းရည်များများလိုလျှင် အချဉ်တော်မည့်မန်ကျည်းရေ ခပ်များများထည့်၍ နည်း နည်းလိုလျှင် နည်းနည်းသာထည့်ပေးရသည်။ မန်ကျည်း သီးအစား ဆီးသီး၊ ရှောက်သီး၊ သံပရာသီး၊ မရမ်းသီး၊ ကြက် ပေါင်သီးများကိုလည်း ချဉ်ရေချက်ရာတွင် သုံးကြသည်။

လူများသည် အစာ အာဟာရ များကို ချက်ပြုတ်စား သောက်ရာ၌ ကျက်လျှင်ပြီးစတမ်းဟု သဘောမထားသင့် ချေ။ ချက်ရမည့်အသားနှင့် အသီးအရွက်များ၏ အာဟာရ ဓါတ်၊ ဩဇာဓာတ်များ မပျက်စီးမယုတ်လျော့စေရန် စံနစ် တကျချက်ပြုတ်တတ်ကြဖို့ အရေးကြီးသည်။ ယခုအခါ တိုး တက်လျက်ရှိသောသိပ္ပံပညာကြောင့် အသိဉာဏ်ပွင့်လင်း လာကြ၍ လူများ၏ကျန်းမာရေးနှင့် ကိုယ်လက်ကြံ့ခိုင်ရေး

အတွက် စားသောက်သောအစားအစာများ၏ အာဟာရ ဓါတ်မပျက်အောင် ချက်ပြုတ်နည်းကို ဂရုပြုလာကြသည်။ ဥဒါဟရဏ်အားဖြင့် ဆန်ကဲ့သို့သော ကောက်ပဲသီးနှံမျိုးကို လွယ်ကူစွာအစာကြေနိုင်အောင် နူးညံ့ပျော့ပျောင်းသည့် အထိချက်ပြုတ်ရသည်။ ဟင်းသီးဟင်းရွက်များကို ချက်ပြုတ် သော အခါ မှု ကား ပင်ကိုယ် သဘာဝ အလျောက် ပါရှိ သောအာဟာရဓါတ် ဩဇာများ မပျက်စီး မယုတ်လျော့ သွားစေရန် ရေအနည်းငယ်ထည့်၍ ခေတ္တခဏမျှသာ မီးဖိုပေါ်၌တည်ထားရသည်။ အချို့သောသူများသည် ဟင်း ရွက်ဟင်းသီးများကိုရေနှင့်မပြုတ်ဘဲရေနွေးကျက်ကျက်တွင် စိမ်၍ သုံးဆောင်ကြလေသည်။ ဤရေနွေးဖျောနည်းမှာ အလွန်ကောင်းသောနည်းဖြစ်သည်။

အမဲသားကဲ့သို့သော အသားမျိုးများကို တခါတည်းမီး ရှိန်ပြင်းပြင်း ထည့်၍မချက်သင့်ချေ။ အမဲသား၌ပါသော ပရိုတင်းဓါတ်မှာ အပူရှိန်ပြင်းလွန်းလျှင် မာကျောသွား တတ်သဖြင့် အမဲသားကို မီးရှိန်ခပ်မျှဉ်းမျှဉ်းနှင့် ချက်မှသာ ကောင်းသည်။ ဆွတ်ပြုတ်လုပ်လိုလျှင်လည်း တဖြည်းဖြည်း ဆီကျက် လာသည် အထိ အဆူခံ ထား ရသည်။ သို့မှသာ အသားထဲမှအဆီများ တဖြည်းဖြည်းစိမ့်ထွက်၍ အသားများ လည်းနူးညံ့လေသည်။

ဥမျာနှင့်နွားနို့များမှာလည်း အမဲသားများကဲ့သို့ပင် မီး ရှိန်ပြင်းလျှင် သူတို့၌ပါသော ပရိုတင်းဓါတ်များ မာကျော ပျက်ပြယ်သွားတတ်သည်။

အနံ့အသက်ပြင်းသော ဟင်းသီးဟင်းရွက်မျိုးများကို ရေ များ များ ထည့် ၍ အဖုံး မဖုံး ဘဲ မြန်မြန် ဆူလွယ်အောင် ချက်ရသည်။

ပေါ်ပြူလာဖြစ်သော ဟင်းလျာ စီမံချက်ပြုတ်ခြင်း နည်းများ အပြင် မုန့်ပဲသရေစာ လုပ်ကိုင်နည်းများလည်းရှိသေးသည်။ မုန့်ပဲ သရေစာများကို မြန်မာနိုင်ငံကဲ့သို့သောတိုင်းပြည်များတွင် ထမင်း တနပ် နှင့်တနပ် စပ်ကြား၌ သုံးဆောင်ကြသည်။ မုန့်များကိုဖုတ်၍ တမျိုး၊ ပေါင်း၍ တမျိုး၊ ကြော်၍ တနည်း စသဖြင့် အမျိုးမျိုး အဖုံဖုံလုပ်၍ စားသောက်ကြသည်။ အနောက်နိုင်ငံများ၌ ပေါင်မုန့်၊ ကိတ်မုန့်၊ ဗီစကစ်၊ တော်ဖီ၊ ချော့ကလက်၊ သကြားလုံးစသည်တို့ကို အိမ်တွင်လုပ်ကိုင် စားသောက်ကြသကဲ့သို့ မြန်မာနိုင်ငံတွင် ရွှေကြည်နနွင်း မကင်း၊ မုန့်ဟင်းခါး၊ လက်သုတ်၊ ကောက်ညှင်းပေါင်းစသည် တို့ကို အိမ်မှာပင် အားလပ်ချိန်များ၌ လုပ်ကိုင်စားသောက် တတ်ကြသည်။ အနောက်နိုင်ငံများတွင် ထိုမုန့်ခဲဖွယ်များ လုပ်ကိုင်ရာ၌ ဂျုံမှုန့်၊ သကြား ထောပတ်တို့ဖြင့် ပြုလုပ်ကြ သည်သာများ၍ မြန်မာနိုင်ငံတွင်ကား ဆန်မှုန့်၊ ကောက် ညှင်း၊ နမ်းဆီ၊ ပဲဆီ၊ ထန်းလျက်၊ အုန်းသီးစသည်တို့ဖြင့် စားစရာဖွယ်ဖြစ်အောင်ပြုလုပ်ကြလေသည်။

**ချက်ပလင်, ချာလီ** (ခရစ် ၁၈၈၉ ဖွား)။ ။ချာလီ ချက်ပလင်ဟု ကမ္ဘာကျော်သော လူရွှင်တော် ရုပ်ရှင်ဇာတ်လိုက်မှာနာမည်ရင်းအားဖြင့် ချားစပင်ဆာ ချက်ပလင် ဖြစ်သည်။ သာမန်လူရွှင်တော်ဘဝမှ တဆင့်ထက်တဆင့် ဇာတ်ညွှန်းရေးဆရာ၊ ဒါရိုက်တာနှင့် ရုပ်ရှင်ကားထုတ်ဝေသူအထိ တိုးတက်လာပြီးလျှင် ကြွယ်ဝချမ်းသာသော ရုပ်ရှင်ကုမ္ပဏီပိုင်ရှင်တဦးဖြစ်လာအောင်ကြိုးစားခဲ့သူဖြစ်ပေသည်။

ချာလီ ချက်ပလင်ကို လန်ဒန်မြို့၌ ၁၈၈၉ ခု ဧပြီလ ၁၆ ရက်နေ့တွင် မွေးဖွားသည်။ အဖဖြစ်သူမှာ လူရွှင်တော် ချား ချက်ပလင်ဖြစ်၍၊ အမိမှာ အဆိုတော်လီလီဟာလီ ဟန္နာဖြစ်သည်။

ငယ်စဉ်ကပင် သူ၏ညီဖြစ်သူ ဆစ်ဒနီ ချက်ပလင်နှင့်အတူ သဘင်လောကသို့ဝင် ရောက်လာခဲ့သည်။ ချာလီချက်ပလင် ပဌမဆုံးပါဝင်အသုံးတော်ခံခဲ့သော ပြဇာတ်မှာ 'ရှားလော့ဟုမ်း' ပြဇာတ်ဖြစ်သည်။ ထိုပြဇာတ်တွင် မင်းလုလင်ဘစ်လီ အဖြစ်ဖြင့် ကပြခဲ့ရ၏။ ထိုနောက်ဥရောပနှင့်အမေရိကသို့လှည့်လည်က နယ်လှည့်ပြဇာတ်အဖွဲ့နှင့်လိုက်ပါ ကပြခဲ့ရသည်။ ဤသို့လျှင် ၁၉၁၀ ခုနှစ်တွင် အမေရိကန်နိုင်ငံသို့ ရောက်လာပြီးနောက်၊ ၁၉၁၃ ခုနှစ်တွင် ကာလီဖိုးနီးယားပြည်နယ်၊ လော့စိန်းဂျလီးမြို့ ရုပ်ရှင်ကုမ္ပဏီများတွင်ရုပ်ရှင်ဇာတ်လိုက်အဖြစ်နှင့် အငှားလိုက်ခဲ့သည်။ ၁၉၁၈ခုနှစ်၌မူ ညီဖြစ်သူ ဆစ်ဒနီနှင့်အတူ ကိုယ်ပိုင်စတူဒီယိုတည်ထောင်ကာ ရုပ်ရှင်လုပ်ငန်းသို့ ဝင်ရောက်လာခဲ့သည်။

နှုတ်ခမ်းမွေးတိုတို၊ ဗိုလာသက္ကလတ်မာဦးထုပ်၊ ဖောင်းဗီပွပွရှည်ရှည်၊ ဖိနပ်ဦးမော့နှင့်၊ တုတ်ကောက်တို့မှာ အူအသည်းလန်အောင် ရယ်စရာကောင်းသော ချာလီချက်ပလင်၏ မူပိုင်ပစ္စည်းများဖြစ်လေရာ၊ ချာလီချက်ပလင်ပေါ်စခေတ်က ယခုတိုင် ရုပ်ရှင်ပရိသတ်သည် မမေ့နိုင်ဖြစ်ချေသည်။

လူရွှင်တော်အဖြစ်ဖြင့် ဇာတ်ထုပ်တိုများတွင် ခေတ်စားခဲ့ပြီးနောက် ၁၉၂၀ တွင် 'သကစ်'၊ ၁၉၂၅ တွင် 'သဂိုးရပ်'၊ ၁၉၃၁ တွင် 'စီးတီးလိုက်' စသောဇာတ်ထုပ်ရှည်တို့မှာ ကမ္ဘာကျော်ဇာတ်ကားများဖြစ်သည်။


ချာလီချက်ပလင်၏လူရွှင်တော်အနေအထား

အသံထွက်ရုပ်ရှင်များ ခေတ်စားလာ၍၊ အသံထွက်ဇာတ်ထုပ်များ ရိုက်ကူးရသည့်ခေတ်ရောက်သည့်တိုင်အောင်၊ ချာလီချက်ပလင်သည် သူ၏ဇာတ်ကားတွင် စကားမပြောခဲ့ချေ၊ သို့သော် 'မော်ဒန်တိုင်း' (၁၉၃၆) အမည်ရှိသောဇာတ်ကား၌ ချာလီချက်ပလင်သည် ရယ်စရာသီချင်းတပုဒ်ကိုဆိုခဲ့သည်။ ထိုဇာတ်ကားတွင်လက်ကားကုန်စည်ထုတ်လုပ်ရေးစံနစ်ကို သရော်ကာ၊ အလုပ်လက်မဲ့ပြဿနာသည် အလုပ်သမားလူတန်းစားကို မည်သို့ထိခိုက်ကြောင်းဖော်ပြထားသည်။

၁၉၄၀ ပြည့်နှစ်တွင် ဟစ်တလာ၏ အာဏာရှင်စံနစ်ကို သရော်ထားသော 'အာဏာရှင်ကြီး' ဇာတ်ကားသည် ချာလီချက်ပလင်၏ပဌမဦးဆုံး အသံထွက်ရုပ်ရှင်ဇာတ်ကားဖြစ်သည်။ ၁၉၄၇ ခုနှစ်ထုတ် 'မက်ဆယာဗာဒိုး' ဇာတ်ကားတွင်မူ ချာလီချက်ပလင်သည် သူဝတ်နေကျ ကိုးယိုးကားယားအဝတ်အစားနှင့်မဟုတ်တော့ဘဲ အရပ်သူအရပ်သား အဝတ်အစားရိုးရိုးကို သပ်သပ်ယပ်ယပ်ဝတ်ဆင်ကာ ပါဝင်အသုံးတော်ခံခဲ့သည်။

ချာလီချက်ပလင်ပါဝင်အသုံးခံခဲ့သည့် ရယ်ရွှင်ဖွယ်ဇာတ်ကားများသည်၊ ပွဲကြည့်သူများအတွက် အူလှိုက်သဲလှိုက်



ရေနံလုပ်ငန်းဖွံ့ဖြိုးသည့်ချောက်မြို့၏သဘာဝအနေအထား

ရယ်မောစရာ၊ ပျော်ရွှင်စရာသက်သက် ဖြစ်စေသော်လည်း၊ အချို့ပွဲကြည့်သူများအတွက်မူ လေးနက်သောအဓိပ္ပါယ်ဆောင်ခဲ့လေသည်။ သူ၏ရုပ်ရှင်ကားများတွင် ရယ်ရသည့်ကြားထဲမှ မျက်ရည်လည်လောက်အောင် သနားစိတ်ပေါ်စေသည့် အကွက်ကလေးများပါရှိလေသည်။ သူ၏ဇာတ်ကားများကို လေးနက်စွာသုံးသပ်သူတို့ကမူ ချာလီချက်ပလင်သည် လောကကြီး၌ ကံမွဲသူများ၊ စီးပွားရေးစံနစ်၏ ဖိနှိပ်ခြင်းဒဏ်ကို မခံနိုင်သူများ၏ အဖြစ်သနစ်သရုပ်ကို ပေါ်ပြသည်ဟုယူဆကြပြီးလျှင်သူ၏ရယ်ရွှင်ဖွယ်ဇာတ်ကားထဲမှဘာဝအမှန်ကိုပေါ် ယူကြသည်။

ချာလီချက်ပလင်သည် ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပြီးနောက်လက်ဝဲဂိုဏ်းသားတို့အားအထောက်အပံ့ပြုသည်ဟူ၍ စွပ်စွဲခြင်းခံရပြီးလျှင် အမေရိကန်လွှတ်တော်က ဖွဲ့စည်းထားသည့် အမေရိကန်အကျိုး ဆန့်ကျင်မှုများ စုံစမ်းသော ကော်မီတီက ချာလီချက်ပလင်အား ဥရောပတိုက်သို့ အလည်အပတ်သွားနေစဉ် အမေရိကန်ပြည်သို့ ပြန်လာ၍ အစစ်အဆေးခံရန် ဆင့်ခေါ်ရာ၊ ချာလီချက်ပလင်သည် တရားနည်းလမ်းမကျဟု ငြင်းဆန်၍ အမေရိကန်သို့မပြန်ဘဲနေလိုက်လေသည်။

ယခုအခါ ချာလီချက်ပလင်သည် အမေရိကန်ပြည်ထောင်စုသားအဖြစ်မှ စွန့်လွှတ်၍၊ ဥရောပတိုက် ဆွစ်ဇာလန်ပြည်တွင် နေထိုင်လျက်ရှိလေသည်။

**ချောက်မြို့**။ ။ချောက်မြို့သည် မကွေးခရိုင်တွင်ပါဝင်၍ မြို့ပိုင်ရုံးစိုက်ရာမြို့ဖြစ်သည်။ ဧရာဝတီမြစ်၏ အရှေ့ဖက်ကမ်းတွင် တည်ရှိသည်။ တောင်ဖက် ၅ မိုင်ကွာတွင် စလေမြို့ရှိ၍ မြောက်ဖက် ၂၁ မိုင်ခန့်အကွာတွင် စေတီပုထိုးများပေါများသော နေပြည်တော်ဟောင်း ပုဂံမြို့တည်ရှိသည်။

ချောက်မြို့နေရာတွင် ရှေးကချောက်ကြီးမြောင်းကြီးများနှင့် ချုံနွယ်ပိတ်ပေါင်းများ ပြည့်နှက်ပိတ်ပုံးလျက်ရှိသည်။ ထိုစဉ်က ချောက်မြို့၏မြောက်ဖက် ၅ မိုင်ခန့်အကွာတွင်ရှိသော စဉ့်ကူမြို့ကိုသာ လူသိများခဲ့လေသည်။ ခရစ် ၁၈၉၇ ခုနှစ်ခန့်က စဉ့်ကူနယ်မြေတဝိုက်တွင် ရေနံတူးပေါ်ရရှိနိုင်ကြောင်းနှင့် ဘူမိဗေဒပညာရှင်တဦးဖြစ်သူ မစ္စတာဂျီ၊ အီ၊ ဂရိုင်းက ထုတ်ဖေါ်ပြောဆိုခဲ့သည်။

သို့ရာတွင် ၁၉၀၂ ခုနှစ်သို့ရောက်သောအခါမှ ရေနံကို စတင်တူးဖေါ်လုပ်ကိုင်နိုင်သည်။ ချောက်မြို့နေရာ၌လည်း ရေနံတွေ့ရှိလာသည်။ ပထမ၌ ထိုဒေသတွင် ရေနံမြေလုပ်သားများ စတင်နေထိုင်ခဲ့သည်။ ထိုနောက်မှ တဖြည်းဖြည်းဖွံ့ဖြိုးစည်ကားလာခဲ့ရာ ယခုအခါ ချောက်မြို့ဟုထင်ရှားနေလေပြီ။ ချောက်ကြီးလျှိုကြီးများ ရှိသည်ကိုအစွဲပြု၍ ချောက်မြို့ဟုခေါ်ကြောင်းနှင့် ပြောစမှတ်ပြုကြသည်။ ချောက်မြို့၏ စည်ပင်သာယာရေးကိုဆောင်ရွက်ရန် ချောက်မြို့ကော်မီတီအဖွဲ့ကို ၁၉၃၇ ခုနှစ်တွင် စတင်ဖွဲ့စည်းခဲ့သည်။ ၁၉၅၃ ခုနှစ်တွင် မျူနီစီပယ်အဖွဲ့ကို ဖွဲ့စည်းခဲ့သည်။

ချောက်မြို့အကျယ်အဝန်းမှာ တောင်နှင့်မြောက် အလျား ၃½ မိုင်ခန့်ရှိ၍ အရှေ့အနောက် ၂ မိုင်ခန့်ရှိသည်။ မြို့၏ မြောက်ဖက်များတွင် ရေနံတွင်းများ၊ အလုပ်သမားရပ်ကွက်များ၊ ရေနံထုတ်စက်ချက်ရုံအလုပ်ရုံနှင့်ဝင်းကြီးများရှိသည်။ မြို့၏ တောင် ဖက် အစွန် ဆုံး တွင် သာမန် အရပ် သား များ နေထိုင်ရာရပ်ကွက် တည်ရှိပြန်သည်။ ၁၉၅၃ ခုနှစ်သန်ကောင်စာရင်းအရ လူဦးရေ ၂၄,၃၄၄ ယောက်ခန့်ရှိသည်။ မြို့နေ လူများ စုမှာ ရေနံလုပ် ငန်း ပေါ် တွင် အမှီပြု၍ နေထိုင်ကြ သဖြင့် ချောက် မြို့မှာ အလုပ်သမား မြို့ တမြို့ ဖြစ်ပေသည်။ (၁၉၄၂ ခုနှစ် ကချောက်မြို့တွင်ခေတ်မှီစံနစ်ဖြင့် တူးဖေါ် သောရေနံတွင်းပေါင်း ၇၄၆ တွင်းမျှရှိရာတနေ့လျှင် ပျမ်းမျှခြင်း ရေနံဂါလန်ပေါင်း ၄၁၀၀၀ ကျော်မျှထွက်၏) ရေနံရိုင်း များ ကို ပို့ဆောင်ရန် အတွက် ချောက်မြို့မှရေနံချောင်း မြို့ ကိုဖြတ်၍ ရန် ကုန် မြို့ တဖက် ကမ်း ရှိ သံလျင် မြို့ထိပိုက်လိုင်းသွယ်တန်းထားသည်။

ဒုတိယ ကမ္ဘာ စစ် အတွင်း ထိုပိုက် လိုင်း ကို ဗြိတိသျှ၏ မြေလှန်စံနစ်အရ ဖျက်ဆီး ပစ်ခဲ့ကြသည်။ ထိုပိုက်လိုင်းသည် ၂၇၅ မိုင်ရှည်လျား၏။ ပိုက်၏အချင်းမှာ ၁၀ လက်မဖြစ်သည်။ ဒုတိယကမ္ဘာစစ်ကြီး ဖြစ်ပွားသည့်အခါမှစ၍ ယနေ့တိုင် ထိုပိုက် လိုင်းကို ပြန်၍ အသုံး မချရ သေး ချေ။ ချောက်မြို့တွင် ခေတ်မှီစံနစ် ဖြင့် တူးဖေါ် ထားသောရေနံတွင်းအများကို ရန်သူများ ဝင်ရောက် သိမ်းပိုက် သော အခါ မသုံးနိုင်အောင် ဖျက်ဆီးပစ်လိုက်လေသည်။

ချောက်မြို့၌ ရေနံချက်ရုံတခုဆောက်လုပ်ခဲ့ရာ ၁၉၅၃ ခုနှစ်ဦးတွင် ပြီးစီးခဲ့သည်။ ထိုကြောင့် ယခုအခါ ရေနံ ဓာတ်ဆီနှင့် ရေနံထွက်ပစ္စည်းများကို ချက်လုပ်လျက်ရှိသည်။

ချောက်မြို့အနီးအပါး တောလက်ကျေးရွာများတွင် ယာနှင့်ကိုင်းများကို လုပ်ကိုင်ကြသည်။ မြေပဲအမြောက်အမြားစိုက်ပျိုး၍ ပဲဆီမှာ ချောက်မြို့၏ထွက်ကုန်တရပ်ဖြစ်သည်။

မော်တော်ကားလမ်းဖြင့် ချောက်မြို့မှတောင်ဖက် ရေနံချောင်း မကွေးမြို့များသို့ရင်း မြောက်ဖက် ပုဂံ ညောင်ဦး မြင်းခြံ မြို့များသို့ရင်း ရောက်နိုင်သည်။ အရှေ့ဖက် ၂၅ မိုင်ကွာဝေးသော ကျောက်ပန်းတောင်းမြို့မှတဆင့် မိတ္ထီလာနှင့် တောင်ကြီးမြို့များသို့လည်းပေါက်ရောက်နိုင်သည်။ ဧရာဝတီမြစ်ကမ်းပေါ် တွင် တည်ရှိသဖြင့် ရေလမ်းခရီးဖြင့် ဧရာဝတီဆိပ်ကမ်းမြို့များသို့ သွားလာနိုင်သည်။ ချောက်မြို့၏ အနောက်မြောက်ဖက် ဧရာဝတီမြစ်တဖက်ကမ်းရှိ လမ်းရွာ၌ လေယာဉ်ပျံကွင်းရှိသည်။ ချောက်မြို့နှင့်ရန်ကုန်မြို့သို့ လေကြောင်းဖြင့်ဆက်သွယ်လျက်ရှိသည်။

ချောက် မြို့ ပေါ် တွင် ကြေးနန်းရုံး၊ စာတိုက်၊ ဆေးရုံနှင့် အစိုးရအထက်တန်းကျောင်းများရှိသည်။ ရွှေသဒ္ဓေးကုန်းအရပ်၌ရှိသော အလယ်တန်းကျောင်းတကျောင်းမှာ ဘီအိုစီကုမ္ပဏီက တည်ထောင်ပေးသောကျောင်းဖြစ်သဖြင့် ဘီအိုစီကျောင်းဟု ထင်ရှားသည်။ မြို့၏မြောက်ဖက်အစွန်တွင် ရွှေဘုံတောင်စေတီနှင့် ရွှေဘုံတောင် တောရကျောင်းရှိလေသည်။ မြို့တောင်ဖက် ၂ မိုင်ခန့်တွင် ခြင်တောင်မ စေတီရှိခဲ့ရာ ဒုတိယကမ္ဘာစစ်အတွင်းက ဗုံးထိမှန်၍ ပျက်စီးသွားခဲ့သည်။ မြို့ထိပ်အရှေ့ဖက်တွင် ဧစေတီဘုရားတည်ရှိသည်။ ဧစေတီဘုရားပွဲတော်ကို တန်ဆောင်မုန်းလပြည့်နေ့၌ ကျင်းပလေ့ရှိရာ အထူးစည်ကားလှသည်။

**ချင်ချီလာရှဉ့်။** ။ချင်ချီလာခေါ် လှပသော ရှဉ့်ကလေးတမျိုးသည် တောင်အမေရိကတိုက်ရှိ မြင့်မား သော အန်း ဒီး တောင် တန်း များ ပေါ် ၌ နေထိုင်သည်။ နူး ညံ့ သော သား မွေး ရှိခြင်းကြောင့် ချင်ချီလာရှဉ့်ကလေး များ သည် လူတို့၏ ရှာ ဖွေသတ်ဖြတ် ခြင်း ကို ခံကြရလေသည်။ ဤရှဉ့်ကလေးမျိုးသည် ပူးအနွယ်ဝင်ဖြစ်ပြီးလျှင် တနေရာမှတနေရာသို့ ခုန်၍ ခုန်၍ သွားတတ်သည်။ အရွယ်မှာ နှာဖျားမှ အမြီးဖျား အထိ ၁၅ လက် မခန့် ရှိ သည်။ သားမွေးမှာ နူးညံ့ပျော့ပျောင်း၍ ပုလဲရောင်ရှိ၏။ ချင်ချီလာရှဉ့်၏အဓိကအစာမှာ ဟင်းသီးဟင်းရွက်များသာဖြစ်၏။ မြေတွင်းတွင် နေ ထိုင် သော် လည်း လှပ သော ကိုယ်တွင် အ မှိုက် သရိုက် အ ညစ် အ ကြေး များ ကပ်ငြိနေခြင်းမရှိပေ။ အမြဲတ စေသန့် ရှင်း စင်ကြယ် နေ အောင် လျှပ် ခါ သုတ် သင် လေ့ရှိ သည်။



နူးညံ့သောသားမွေးအတွက်မွေးမြူကြသည့်ချင်ချီလာရှဉ့်

ချင် ချီ လာ ရှဉ့် တို့ သည် အနီး အနား ရှိ စိမ်း လန်း သော သစ် ပင် သစ် ရွက် များ ကို ကိုက် ဖြတ် ၍ မိမိတို့ နေထိုင် ရာတွင်းဝ၌ သိမ်းထားတတ်ကြသည်။ ထူးဆန်းသောအကျင့် တခုမှာ မိမိတို့အသုံးချနိုင် မချနိုင်သည်ကို ဂရုမထားဘဲ လူ့ အသုံး အဆောင် တိုလီမိုလီ ပစ္စည်း များ ကို စုဆောင်း တတ်ခြင်းပင်ဖြစ်သည်။ တောထဲ၌ လှည့်လည်သွားလာ သော ခရီးသည်များ ပျောက်ဆုံးခဲ့သည့် ဘွတ်ဖိနပ်၊ ကြာ ပွတ်၊ လက်ပတ်နာရီ စသည့်ပစ္စည်းများကို ချင်ချီလာရှဉ့် တို့၏တွင်းဝနား၌ မကြာခဏတွေ့ရတတ်သည်။

နေရင်းဒေသ၌ ချင်ချီလာရှဉ့်များ ရှားပါးသွားပြီဖြစ် သော်လည်း ထိုရှဉ့်များကို သားမွေးအတွက်သက်သက် မွေးမြူသူများသည် အင်္ဂလန်နှင့် ကမ္ဘာ့အရပ်ရပ်တို့တွင်ရှိ ကြသည်။ အချို့သူတို့သည် ချင်ချီလာရှဉ့်၏သားမွေးမျိုး ရှိသော တွင်းအောင်းယုန်များကိုလည်း ယခုအခါမွေးမြူ လျက်ရှိကြသည်။

တောင်အမေရိကတိုက်တွင် ရှေးကျသော အင်းကား လူမျိုးတို့၏လက်ထက်ကစ၍ ချင်ချီလာရှဉ့်များကို ဖမ်းဆီး လာခဲ့ကြသည်။ အဆိုပါ အင်းကားလူမျိုးတို့သည် ဂရိုင်ဆန် ခေါ် မြွေပါမြီးတို တမျိုးကို အသုံးပြု၍ ချင်ချီလာရှဉ့် များကို တွင်းထဲမှ လိုက်လံမောင်းထုတ်၍ဖမ်းဆီးကြသည်။



လူ၏အမူအရာကိုလွယ်ကူစွာအတုခိုးတတ်သည့်ချင်ပန်ဇီမျောက်ဝံ

သို့သော် ချင်ချီလာရှဉ့်တို့သည် အလွန်မျိုးပွားလွယ်သော ကြောင့် ယခုတိုင် မျိုးမပြုတ်ဘဲကျန်ရှိကြသေးသည်။ ချင် ချီလာရှဉ့် အမြောက်အမြားနေထိုင်သောဒေသတွင် မြင်းစီး သွားလာသူများသည် တွင်းကျ၍ဘေးတွေ့တတ်ကြသဖြင့် အထူးသတိထားကာ သွားလာကြရသည်။

**ချင်ပန်ဇီမျောက်ဝံ။** ။လူနှင့်ပုံပန်းအနီးစပ်ဆုံး သတ္တဝါ များဖြစ်သော မျောက်ဝံမျိုးအားလုံးထဲ၌ အာဖရိကတိုက်ရှိ ချင်ပန်ဇီခေါ် မျောက်တမျိုးမှာ လူသိအများဆုံးဖြစ်သည်။ ကမ္ဘာတဝှန်းလုံးရှိ တိရစ္ဆာန်ရုံအသီးသီး၌ ချင်ပန်ဇီမျောက် ဝံများကို မလွဲတမ်းတွေ့နိုင်သည်။ ကမ္ဘာအနှံ့ ကျော်ကြား ၍ လူသိများရခြင်းမှာ အခြားကြောင့်မဟုတ် ချင်ပန်ဇီ မျောက်ဝံတို့သည် မျောက်မျိုးတမျိုးလုံးထဲတွင် ဉာဏ် အကောင်းဆုံးနှင့် ယဉ်ပါးလွယ်ဆုံးဖြစ်သောကြောင့်တည်း။ ယင်းတို့သည် ဂေါ်ရီလား မျောက်ဝံကြီးများကဲ့သို့ ကြမ်း ကြုတ်ခက်ထန်ခြင်းမရှိဘဲ စိတ်သဘောကောင်း၍ တောထဲ မြေပြင်တွင်ဖြစ်စေ၊ သစ်ပင်ပေါ်တွင်ဖြစ်စေ အစုအအုပ် လိုက် လှည့်လည်သွားလာ စားသောက်လေ့ရှိကြသည်။ ယေဘုယျအားဖြင့် တအုပ်ထဲ၌ ပါဝင်သောအကောင်များ သည် တကောင်နှင့်တကောင် သင့်မြတ်ကြ၏။ သို့သော် အခြားအုပ်နှင့်တွေ့လျှင် အုပ်နှင့်ချီ၍ ရန်ပွဲကြီး များဖြစ်တတ်သည်။ တောထဲ၌ အစားအစာ ရှားပါးလာလျှင် လူနေရပ်ရွာများသို့ ရဲ တင်းစွာ ချဉ်းကပ်၍ လူတို့စိုက်ပျိုးထားသောလယ်ယာစိုက် ခင်းများကို အုပ်လိုက်စား သောက် ဖျက်ဆီး လေ့ရှိ ၏။ ထိုအချိန်မျိုးတွင် အနီးအပါး၌ မျောက်ဝံ ၁ ကောင် ၂ ကောင်ကို အစောင့်ချထားလေ့ရှိပြီး လျှင် ခြံရှင်ခြံစောင့်များထွက်လာခဲ့သော် အစောင့် ကျသော မျောက်ဝံများက သံကုန်အော်၍ အချက်ပေးတတ်ကြလေသည်။

ချင်ပန်ဇီ မျောက်ဝံမျိုးကို လူသာမန်တို့ကသာ ဂရုစိုက်စိတ်ဝင်စားကြသည်မဟုတ်။ သိပ္ပံပညာရှင် များကလည်း လူတို့၏ အိုဗေါ် လျူရှင်း ခေါ် ဆင့်ကဲ ဖြစ်လာခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိတ်ဝင်စားစွာ လေ့လာခဲ့ကြသည်။ ပါဏဗေဒဝေါဟာရအားဖြင့် ချင်ပန်ဇီကို အန်သရိုပိုပစ်သီကပ် ထရော့ဂလိုဒိုက်တီ ဟုခေါ်၍ ဂူနေလူဝံမျိုးဟု အဓိပ္ပါယ်ရသည်။ အခြားအခြားသော တိရစ္ဆာန်အမျိုးမျိုးနှင့် နှိုင်း စာလျှင် ချင်ပန်ဇီ မျောက်ဝံတွင် လူတို့၏ စိတ်နှင့် အနီး စပ် ဆုံး သော စိတ် ရှိ သည် ကို တွေ့ရ သည်။ ချင် ပ န် ဇီ မျော က် ဝံ တို့ ၏ ဇာ တိ နေ ရပ် မှာ အာ ဖရိကတိုက် အပူပိုင်း ဒေ သ၏ အ နော က် ဖက်

နှင့် အလယ်ပိုင်းရှိ တောနက်ကြီးများဖြစ်၏။ ချင်ပန်ဇီ မျောက်ဝံတို့သည် ညဖက်အိပ်ချိန်ရောက်လျှင် များသောအားဖြင့် ကြောက်ဖွယ်ကောင်းအောင် အုပ်လိုက်သံပြိုင်အော်မြည်ပြီးမှ အိပ်ရာဝင်လေ့ရှိသည်။ ဤကဲ့သို့ အော်မြည်ပြီး၍ အိပ်ကြသောအခါ ချင်ပန်ဇီ မျောက်ဝံအမများသည် သားငယ် သမီးငယ်များနှင့်အတူ သစ်ပင်ပေါ်သို့အသီးသီးတက်ပြီးနောက် သစ်ပင်ပေါ်၌ နှင်းကြမ်းတခုပြုလုပ်ပြီးလျှင် သားသမီးများနှင့်အတူတကွ အိပ်စက်ကြသည်။ ဖခင်ဖြစ်သော ချင်ပန်ဇီ မျောက်ဝံအထီးများကမူ ယင်းတို့အောက်နားရှိ သစ်ကိုင်းပေါ်တွင် သစ်ပင်ကိုမှီ၍ သတိနှင့်အိပ်ယင်း ကျန်မိသားစုတို့အား ကာကွယ်စောင့်ရှောက်သည်။

တောတွင်းတိရစ္ဆာန်ရိုင်းကြီးတို့သည် ချင်ပန်ဇီ မျောက်ဝံအုပ်ကြီးများကို ရုတ်တရက် ရန်စခဲကြသည်။ အဘယ်ကြောင့်ဆိုသော် ချင်ပန်ဇီ မျောက်ဝံတို့သည် အလွန်သန်စွမ်းပြီးလျှင် ခြေလက်၊ သွား၊ အစွယ်တို့ဖြင့်ကြမ်းတမ်းစွာ ခုခံတတ်သောကြောင့်ဖြစ်၏။ ချင်ပန်ဇီ မျောက်ဝံတို့အဖို့ အဓိကရန်သူမှာ ကျားသစ်ဖြစ်၏။ သို့သော် ကျားသစ်များ ပင်လျှင် ချင်ပန်ဇီ မျောက်ဝံတို့၏လက်ချက်ကြောင့် မကြာခဏသေကြေကြရသည်။

ချင်ပန်ဇီ မျောက်ဝံသည် ဂေါ်ရီလား မျောက်ဝံလောက် မကြီးချေ။ သို့သော် အရွယ်ရောက်ပြီးသော ချင်ပန်ဇီ မျောက်ဝံအချို့မှာ ၄ ပေကျော်ကျော်အထိ မြင့်နိုင်သည်။ ဂေါ်ရီလားမျောက်ဝံကဲ့သို့ချင်ပန်ဇီမျောက်ဝံ၌အမြီးမရှိချေ။

ချင်ပန်ဇီ မျောက်ဝံနှင့်စပ်လျဉ်း၍ မှတ်သားဖွယ်ကောင်းသောအချက်တချက်မှာ၊ ချင်ပန်ဇီ မျောက်ဝံသည် များသောအားဖြင့် အခြားမျောက်ဝံမျိုးတို့ကဲ့သို့ ကိုယ်ကိုမတ်မတ်ထား၍ လမ်းလျှောက်သွားလာလေ့ ရှိသော်လည်း သူ၏ခြေလက်အင်္ဂါတို့မှာ အခြားမျောက်ဝံမျိုးတို့လောက် လူနှင့်နီးစပ်ခြင်းမရှိချေ။ (မျောက်ဝံမျိုး — လည်းရှု။)

**ချင်ရွှေးပင်။** ။ချင်ရွှေးပင်ကို ရုက္ခဗေဒအရ အဗရပ်ပရိကေးတိုးရီးယပ် ဟုခေါ်သည်။ ချင်ရွှေးကို ချင့်ရွှေး၊ ချိန်ရွှေး၊ ဆင်ရွှေး၊ ရွှေးကလေး၊ ရွှေးငယ်ဟူ၍လည်း ခေါ်သည်။ ပါဠိလို ဂုဉ္စာဟူ၍ ခေါ်သည်။ အိန္ဒိယနိုင်ငံ၌ ဂုဉ္စရတီဟူ၍လည်း ခေါ်သည်။ ချင်ရွှေးပင်သည် နွယ်ပင်မျိုးဖြစ်သည်။ မြန်မာနိုင်ငံနှင့်အိန္ဒိယနိုင်ငံရှိ လွင်ပြင်များ၌ ဖြစ်ထွန်းသည်။ ဟိမဝန္တာတောင်နှင့်ပေ ၃၀၀၀ အထိမြင့်သော တောင်ကုန်းများ၌လည်း ဖြစ်ထွန်းသည်။ အပူပိုင်းဒေသတွင် များသောအားဖြင့်ပေါက်တတ်သော အပင်မျိုးဖြစ်သည်။

ချင်ရွှေးစေ့များသည် အချို့နီ၍ မျက်မဲရှိသည်။ အချို့



ချင်ရွှေးခေါ် ရွှေးကလေးပင်၏အခက်အရွက်များ

နက်၍ မျက်ဖြူရှိသည်။ အစေ့တစေ့၏ ပျမ်းမျှအလေးချိန်မှာ ၁.၇၅ ဂရိန်ဖြစ်သည်။ မြန်မာအလေးချိန်အရ ၁ ကျပ်သားသည် ချင်ရွှေးစေ့ ၁၂၀ နှင့်ညီသည်ဟု ဆိုသည်။ ချင်ရွှေးစေ့များကို ကျောက်ကုန်သည်၊ ရွှေကုန်သည်များက ကျောက်နှင့်ရွှေချိန်တွယ်ရာ၌ အသုံးပြုကြသည်။ ဘယဆေးချိန်ရာတွင်လည်း အသုံးပြုတတ်ကြသေးသည်။ ချင်ရွှေးမြစ်သည် ချောင်းဆိုးရောဂါကို နိုင်သည်ဟုဆိုသည်။

**ချင်းပင်။** ။အလွန်ရှေးကျသော ခေတ်အခါမှစ၍ အိန္ဒိယနိုင်ငံကဲ့သို့ပူအိုက်သောအာရှတိုက် တိုင်းနိုင်ငံတို့တွင် ချင်းကို စိုက်ပျိုးခဲ့ကြသည်။ ဂရိနှင့်ရောမလူမျိုးတို့သည် အာရှတိုက်ကုန်သည်များထံမှ ချင်းကို အဖိုးကြီးကြီးပေး၍ ဝယ်ယူကြသည်။ ဤသို့ဖြင့် ဥရောပတိုက်သားများသည် ချင်းကို အသုံးပြုတတ်လာသည်။ တဖန် အနောက်အိန္ဒိယကျွန်းစု၊ တောင်အမေရိကတိုက်၊ အာဖရိကတိုက် အနောက်ပိုင်းနှင့် ဩစတြေးလီးယားတိုက်များသို့ ချင်းပင်များ ပျံ့နှံ့၍သွားရာ၊ အိန္ဒိယနိုင်ငံ၊ တရုပ်နိုင်ငံ၊ အနောက်အိန္ဒိယကျွန်းစု၊ အာဖရိကတိုက် အနောက်ပိုင်းနှင့် အမေရိကတိုက် အလယ်ပိုင်းတို့တွင် ယခုအချိန်တွင် ချင်းပင်ကို စီးပွားဖြစ် အကြီးအကျယ် စိုက်ပျိုးလျက်ရှိနေပြီ။

ချင်းတက်များကို ဟင်းလျာများတွင် အမွှေးအကြိုင်အဖြစ် အသုံးချကြသည်။ ချင်းကို ၂ မျိုး ၂ စားပြုပြင်

စီမံ၍ ရောင်းချကြသည်။ ချင်းစိမ်းကို သကြားရည်၌ဖြစ်စေ၊ ပျားရည်၌ဖြစ်စေ၊ တာရှည်ခံအောင်စိမ်၍ရင်း၊ ချင်းကို အခြောက်လှန်း၍ရင်း၊ တင်ပို့ရောင်းချသည်။ ချင်းတက်များကို အခြောက်ခံရာ၌ ၂ နည်း ၂ စားရှိသည်။ ပဌမနည်းမှာ အပေါ်ယံအမြေးခွံကိုမခွာဘဲ၊ ချင်းတက်ကိုအခြောက်ခံခြင်းဖြစ်၍ ဒုတိယနည်းမှာ အပေါ်ယံအမြေးခွံကိုခွာပြီးမှ အခြောက်ခံထားခြင်းဖြစ်သည်။

သကြားရည် သို့မဟုတ် ပျားရည်၌ စိမ်ထားသော ချင်းကို အနောက်အိန္ဒိယကျွန်းစုနှင့် တရုပ်နိုင်ငံ တို့မှ အမြောက်အမြား တင်ပို့ရောင်းချကြလေသည်။ ချိုအောင်ပြုပြင်ထားသော ချင်းခြောက်ပြားကလေးများကိုလည်း တရုပ်နိုင်ငံမှ တင်ပို့ရောင်းချသည်။

မြန်မာနိုင်ငံတွင် ပြည်ပသို့ထုတ်ရောင်းနိုင်လောက်အောင် ချင်းကိုအကြီးအကျယ် စိုက်ပျိုးခြင်းမရှိသေးချေ။ ချင်းသုတ်ကို မြန်မာနိုင်ငံသားတို့ အထူးကြိုက်နှစ်သက်ကြသည့် အလျောက် အလှူအတန်း ပွဲနေပွဲထိုင်စသည့်အခမ်းအနားများတွင် ညှော်ဝတ်စောင်ဝတ်အဖြစ် တည်ခင်းကျွေးမွေးကြသည်။ ချင်းရည်ကို ဖျော်ရည်အဖြစ်နှင့်လည်း ရောင်းချတတ်ကြသည်။ အချို့အရပ်များတွင် ချင်းကို ယိုထိုး၍ စားကြသည်။



ဥအတက်များထွက်စရှိသောချင်းပင်

**ချင်းတွင်းခရိုင် (အထက်)**။ ။အထက်ချင်းတွင်းခရိုင်သည် ချင်းတွင်းမြစ်၏ အလယ်ပိုင်းဒေသဖြစ်၍ ခရိုင်၏ မြောက်ဖက်တွင် နာဂတောင်တန်းခရိုင်၊ အရှေ့ဖက်တွင် ကသာနှင့်ရွှေဘိုခရိုင်များ၊ တောင်ဖက်တွင် အောက်ချင်းတွင်းခရိုင်နှင့်ပခုက္ကူခရိုင်၊ အနောက်ဖက်တွင် ချင်းဝိသေသတိုင်းနှင့်မဏိပူရပြည်နယ်၊ အိန္ဒိယနိုင်ငံရှိသည်။ ချင်းတွင်းမြစ်သည် အထက်ချင်းတွင်းခရိုင်ကို မြောက်မှတောင်သို့ဖြတ်၍စီးဆင်းသည်။ ယခင်က ယင်းခရိုင်အတွင်း ဟုမ္မလင်းမြို့နယ်၊ ဇင်ဂလိန်ခန္တီးစော်ဘွားနယ်နှင့် သောင်သွပ်စော်ဘွားနယ်တို့ ပါရှိခဲ့သော်လည်း ယခုအခါ ထိုမြို့နယ်နှင့် စော်ဘွားနယ် ၂ နယ်ကို နာဂတောင်တန်းခရိုင်တွင်းသို့ ပေါင်းစပ်သွတ်သွင်းထားသည်။ ချင်းတွင်းမြစ်ဝှမ်းနှင့် မြစ်သာမြစ်ဝှမ်း၊ ကဘော်တောင်ကြားတို့မှအပ တောင်များ တောများ ထူထပ်သောခရိုင်ဖြစ်သည်။ ကသာခရိုင်နှင့် အထက်ချင်းတွင်းခရိုင်ကြားတွင် ဖြူတောင်တန်းရှိသည်။ ချင်းတွင်းမြစ်နှင့် ယင်း၏မြစ်လက်တက်ဖြစ်သော မြစ်သာမြစ်တို့၏အကြားတွင် ပုံညာတောင်သည် ရှည်လျားသော တောင်တန်းဖြစ်သည်။

ရာသီဥတုမှာ ခရိုင်တောင်ပိုင်းတွင် အနည်းငယ်ပူပြင်းသော်လည်း မြောက်ပိုင်းတွင် အပူအအေးမျှတ၏။ ဥတ္တရယဉ်စွန်းတန်းသည် အထက်ချင်းတွင်းခရိုင်ကို အလယ်လောက်ကဖြတ်၏။ ပျမ်းမျှမိုးရေချိန် ၆၇ လက်မခန့်ရွာသွန်းသည်။

ဤခရိုင်တွင် သစ်တောများထူထပ်၍ ပျဉ်းကတိုး၊ ပျဉ်းမ၊ အင်ကြင်း၊ သစ်ယာ၊ ယမနေ၊ အင်၊ ကညင်၊ သစ်စေးနှင့်ကျွန်းပင်များပေါက်ရောက်၏။ ဤခရိုင်ထွက်ကျွန်းများမှာအထူးကြီးမား၏။ အချို့ကျွန်းပင်၏ အချင်းမှာ ၆ ပေမျှရှိတတ်၏။

ဤခရိုင်တွင် တွေ့ရှိနိုင်သော တွင်းထွက်ပစ္စည်းများမှာရွှေ၊ ပတ္တမြား၊ နီလာ၊ ကျောက်စိမ်း၊ ပယင်း၊ နှင့်ကျောက်မီးသွေးများဖြစ်၏။ ဤခရိုင်မှရေနံလည်း ထွက်လေသည်။ ကျောက်မီးသွေးကို အကြီးအကျယ်တူးဖော်ခြင်း မရှိသေးချေ။ သို့သော် မကြာသေးမီက မြန်မာနိုင်ငံတော်အစိုးရသည် ကလေးဝမြို့နှင့် ၄ မိုင်ကွာ သစ်ခြောက်အရပ်၌ သက်ရင့်ကျောက်မီးသွေးတွင်းကို တွေ့ရှိရသဖြင့် စတင်တူးဖော်လုပ်ကိုင်နေပြီဖြစ်၏။

အထက်ချင်းတွင်းခရိုင်တွင် ထင်ရှားသော အိမ်တွင်းမှုလုပ်ငန်းတရပ်မှာ ယောပုဆိုးရက်သည့်လုပ်ငန်းပင်ဖြစ်သည်။

ဤခရိုင်မှ ဆန်စပါးအသင့်အတင့်ထွက်၍ နှမ်း၊ ဆေး၊ ပဲနှင့်ဝါအနည်းငယ်ထွက်၏။ လူနေအိမ်ခြေနည်းပါး၏။



သလ္လာဝတီချင်းတွင်းတွင် ထင်ရှားကျော်စောသောမိုးညှင်းသမ္ဗုဒ္ဓေစေတီတော်ကြီး

မြန်မာမင်းတို့လက်ထက်တွင် အထက်ချင်းတွင်းခရိုင်ကို ခန်းပတ်ဝန်ကအုပ်ချုပ်ခဲ့၏။ အင်္ဂလိပ်မြန်မာတတိယစစ်ပွဲဖြစ်သည်မှစ၍ အထက်ချင်းတွင်းခရိုင်သို့ ဗြိတိသျှများတစစဝင်ရောက်ခဲ့လေသည်။ ထိုသို့ ဝင်ရောက်အုပ်ချုပ်ခဲ့သည်တွင် ပုန်ကန်ထကြွမှုများဖြစ်ပွားခဲ့၏။ ခရစ် ၁၈၈၈ ခုနှစ်တွင် ရွှေဂျီးဖြူမင်းသား၏နောက်လိုက်ဖြစ်သော ဗိုလ်စကားသည် မင်းကင်းတွင်ထကြွလေသည်။ ထိုနှစ်မှာပင် ချင်းတွင်းနယ်ကိုအောက်ချင်းတွင်းခရိုင်၊ အထက်ချင်းတွင်းခရိုင်ဟူ၍ ၂ ပိုင်းခွဲပြီးလျှင် အောက်ချင်းတွင်းခရိုင်အဖို့ မုံရွာမြို့ကိုင်း၊ အထက်ချင်းတွင်းခရိုင်အဖို့ ကင်းတပ်မြို့ကိုရင်း ခရိုင်ရုံးစိုက်မြို့ကြီးများအဖြစ် သတ်မှတ်ခဲ့သည်။ ကလေးမြစ်ဝှမ်းတဝိုက်တွင်လည်း ထကြွမှုများဖြစ်ပွားခဲ့၏။ မြန်မာနိုင်ငံအထက်ပိုင်းကို ဗြိတိသျှတို့အုပ်ချုပ်စဉ် ကလေးနယ်စော်ဘွားသည် မိမိ၏တူတော်သူ ပါကြီးဆိုသူနှင့် မသင့်မမြတ်သောကြောင့် အချင်းချင်း တိုက်ခိုက်လျက်ရှိ၏။ ထိုအချက်ကိုအခွင့်ကောင်းယူ၍ စီယင်ချင်း၊ စုတ်တေးချင်းနှင့် ကန်ဟောင်ချင်းတို့သည် ထကြွကြကာ ကလေးနှင့်ကဘော်မြစ်ဝှမ်းများကို တိုက်ခိုက်ကြ၏။ ၁၈၈၈ ခုနှစ်နှင့် ၁၈၈၉ ခုနှစ်များတွင် အပြင်းအထန် နှိပ်ကွပ်ခံရသော်လည်း ကဘော်မြစ်ဝှမ်းတွင်မူ အတိုက်အခိုက်မလျော့ခဲ့ချေ။

၁၈၉၀၊၉၁ ခုနှစ် ဝန်းသိုပုန်ကန်ထကြွမှုတွင် ဗိုလ်လေးခေါ် ခေါင်းဆောင်တဦးသည် ဟုမ္မလင်းမြို့ကို တိုက်ခိုက်ခဲ့သည်။ ထိုအချိန်အတွင်း ဗြိတိသျှတို့၏ အာဏာသည် ခရိုင်၏မြောက်ဖက်အထိ ပျံ့နှံ့ခဲ့ပြီးဖြစ်ရာ ဟုမ္မလင်းအထက်မိုင် ၅၀ ကွာ ထမန်းသီးတွင် စစ်ရဲဌာနတခုထားရှိလျက် ထကြွသောချင်းများကို နှိမ်နင်းခဲ့၏။ ၁၈၉၆ ခုနှစ်တွင် ဗြိတိသျှလက်အောက်ခံချင်းများနှင့် လက်အောက်ခံမဟုတ်သောချင်းများကို ခွဲခြားထားနိုင်ရန် အထက်ချင်းတွင်းခရိုင်၏အနောက်မြောက်ဖက်တွင် နယ်နိမိတ်မှတ်တိုင်များစိုက်ထူခဲ့လေသည်။ ထိုအခါမှစ၍ ပုန်ကန်ထကြွမှုများ မပေါ်တော့ဘဲငြိမ်းအေးခဲ့၏။ (ချင်းလူမျိုး — ရှု။)

အထက်ချင်းတွင်း ခရိုင်တွင် ကူးသန်းသွားလာရေးအတွက် ချင်းတွင်းမြစ်လက်တက်များနှင့် မော်တော်ကားလမ်းများကို အသုံးပြု၏။ စစ်တောင်းရွာမှ တမူးမြို့ကိုဖြတ်၍ မဏိပူရသို့ရင်း၊ ကလေးဝနှင့်ကလေးမြို့မှ တမူးသို့ရင်း လမ်းများရှိသည်။ ချင်းတောင်တန်းရှိ ဖလမ်းမြို့သို့ ကလေးဝမှ ယခုအခါ ကားလမ်းဖေါက်လုပ်ထားသည်။ ကလေးဝမှ မြစ်သာမြစ်ဝှမ်းအတိုင်း ပခုက္ကူခရိုင် ဂန့်ဂေါ၊ ထီးလင်းအထိ လမ်းပေါက်သည်။ ကလေးဝအောက်ဖက်ချင်းတွင်းတဖက်ကမ်းရှိ ရွှေကျင်မှ ရွှေဘိုခရိုင်ရေဦးမြို့အထိ လမ်းရှိသည်။ ဖေါင်းပြင်မှ ဟုမ္မလင်းအထိလည်းလမ်းရှိသည်။ ပန်းသာမှ တောင်ဖက်သို့ဖေါက်သောလမ်းသည် ပြင်ကိုင်းတွင် ရေဦးလမ်းနှင့်ဆက်မိသည်။ ရန်ကုန်မှ ကလေးမြို့သို့ လေယာဉ်ပျံနှင့်သွားနိုင်သည်။

၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ မော်လိုက်၊ ကလေးဝ၊ မင်းကင်း၊ ကလေးမြို့၊ တမူးနှင့်ဖေါင်းပြင်မြို့ ၆ မြို့ရှိသည့်

လူဦးရေမှာ ၁၃,၁၄၀ ယောက်ဖြစ်၏။ နေထိုင်သူများတွင် မြန်မာလူမျိုးမှာအများဆုံးဖြစ်၍ ရှမ်း၊ တရုပ်၊ ကုလားနှင့် ကဒူး၊ ကနန်းလူမျိုးများလည်းရှိလေသည်။

အထက်ချင်းတွင်းခရိုင်၏ ရုံးစိုက်ရာမြို့မှာ မော်လိုက်မြို့ ဖြစ်သည်။ ခရိုင်ကို မော်လိုက်နှင့် ကလေးဝဟု ၂ နယ်ခွဲထားသည်။ မော်လိုက်နယ်ပိုင်တပိုင်တွင် မော်လိုက်မြို့နယ်၊ ဖောင်းပြင်မြို့နယ်၊ တမူးမြို့နယ်ဟုမြို့နယ် ၃ နယ်ရှိသည်။ ကလေးဝနယ်ပိုင်တပိုင်တွင် ကလေးဝမြို့နယ်၊ ကလေးမြို့နယ်၊ မင်းကင်းမြို့နယ်ဟုမြို့နယ် ၃ နယ်ရှိသည်။

**ချင်းတွင်းခရိုင် (အောက်)**။ ။စစ်ကိုင်းတိုင်းအဝင်အပါဖြစ်သော အောက်ချင်းတွင်းခရိုင်သည် အောက်ချင်းတွင်းမြစ်ဝှမ်းရှိ မြို့နယ်များကို ပေါင်းထားသောခရိုင်တခုဖြစ်၏။ ထိုခရိုင်၏ မြောက်ဖက်တွင် အထက်ချင်းတွင်းခရိုင်နှင့်ရွှေဘိုခရိုင်၊ အရှေ့ဖက်တွင် စစ်ကိုင်းခရိုင်၊ တောင်ဖက်နှင့်အနောက်ဖက်တွင် ပခုက္ကူခရိုင်တို့ရှိသည်။ ချင်းတွင်းမြစ်သည် ထိုခရိုင်ကို အနောက်မြောက်မှ အရှေ့တောင်သို့ ဖြတ်လျက်စီးဆင်းလေသည်။ ထိုမြစ်ကြောင်းတလျှောက် သင်္ဘောကြီးများ စုန်ဆန်သွားလာနိုင်သော်လည်း မိုးအခါတွင်မူ ရေလျှံသဖြင့် အသွားအလာခက်ခဲသည်။ ခရိုင်၏ အနောက်ဖက်ပိုင်းတွင် ပုံတောင် တောင်တန်း၏မြောက်ဖျားနှင့် ဆက်လျက်ရှိသော မဟူတောင်သည်ထင်ရှားသော တောင်တန်းကြီးတခုဖြစ်ပေသည်။ အောက်ချင်းတွင်းခရိုင်သည် မိုးခေါင်ရေရှား ရပ်ဝန်းတွင်တည်ရှိသဖြင့် နွေအခါတွင် အထူးပူပြင်း၍ မိုးနှင့်ဆောင်းအခါများတွင် နေခင်းထိုင်ခင်းသာယာသည်။ ပျမ်းမျှမိုးရေချိန် ၃၂ လက်မရှိ၏။ သို့သော် မြောက်ဖက်ပိုင်းရှိဒေသများ၌မူ မိုးရေချိန် ၅၂ လက်မအထိရွာသွန်းသည်။

ဥသျှစ်၊ သနပ်ခါး၊ တမာ၊ ထနောင်း၊ ထန်း၊ ကုက္ကိုစသောအပူပိုင်းသစ်ပင်များပေါက်၍ တောင်များပေါ်တွင် ကျွန်း၊ ပျဉ်းကတိုး၊ သစ်ယာ၊ အင်ကြင်း၊ ပိတောက်စသော သစ်တောကြီးများရှိလေသည်။ အောက်ချင်းတွင်း သစ်တောများကို သစ်တောကြိုးဝိုင်းသတ်မှတ်၍ သစ်တောခရိုင်ဝန်တဦးကအုပ်ချုပ်သည်။

ထိုခရိုင်တွင် ကျောက်မီးသွေးကို ဆားလင်းကြီးမြို့နယ်တွင်၎င်း၊ ရွှေကို ပုလဲမြို့နယ်တွင်၎င်း၊ ဂေါ်မိတ်နှင့်အကြွပ်ကို ဆားလင်းကြီးအနီးတွင်၎င်း၊ ရေနံကို ကန္နီနှင့်ပုလဲမြို့နယ်တွင်၎င်း တွေ့ရသည်။ မြေစေး၊ ဂဝံကျောက်နှင့်ကျောက်စရစ်များကို နေရာအနှံ့အပြားတွင်တွေ့ရ၍ ထုံးကျောက်ကို တောင်များ၌ အနည်းငယ်တွေ့ရှိရလေသည်။ ဆားလင်းကြီးရွာတွင် ဆားချက်ကြသည်။

အရာတော်နှင့် ရေထွက်ရွာများတွင် မြေအိုးမြေခွက်များကိုလုပ်ကိုင်ကြ၍ အင်းဒိုင်ရွာမှ ကြေးမောင်း၊ ကြေးဇွန်းနှင့်ကြေးဖလားများထွက်သည်။ ကျောက်ကာရွာနှင့်

မုံရွာမြို့အနီးရှိထင်ရှားသောမိုးညှင်းတောရကျောင်းတိုက်



မောင်းထောင်ရွာမှ ထွက်သောယွန်းထည်များမှာ မြန်မာနိုင်ငံတခုလုံးတွင် ထင်ရှားသည်။ ယင်းမာပင်နယ်တွင် ဖျာနှင့်ထန်းခေါက်ဖါများကိုရက်လုပ်ကြသည်။

ထိုခရိုင်တွင် ဝါဂွမ်း၊ ပြောင်းဖူး၊ မြေပဲ၊ နှမ်းနှင့်ဆေးတို့ကို အကြီးအကျယ်စိုက်ပျိုး၍ ဆန်စပါးကိုမူ အနည်းငယ်သာ စိုက်ပျိုးကြသည်။

တန်ခိုးကြီးဘုရား များစွာရှိသည့်အနက် ကန္နီနယ် မဟူတောင်တွင်ရှိသော အလောင်းတော်ကဿပ၊ ဆားလင်းကြီးနယ်ရှိ ဖိုးဝန်းတောင်နှင့် မိုးညွှင်းတောရတို့မှာ ထင်ရှားလှ၍ နှစ်စဉ်ဘုရားပွဲများဖြင့်စည်ကားသည်။

ချင်းတွင်းနယ်ကို ဗြိတိသျှစစ်တပ်များသည် ခရစ် ၁၈၈၆ ခုနှစ်နှင့် ၁၈၈၇ ခုနှစ်များက စတင်ဝင်ရောက်ခဲ့ကြသည်။ ရှေးအခါက ချင်းတွင်းနယ်ကို ယခုကဲ့သို့ အောက်ချင်းတွင်းခရိုင်၊ အထက်ချင်းတွင်းခရိုင် ဟုခွဲခြားထားခြင်းမရှိဘဲ တနယ်လုံးကို ခရိုင်ဝန်တဦးတည်းက အုပ်ချုပ်ခဲ့၏။ ၁၈၈၈ ခုနှစ်တွင်မှ ၂ ပိုင်းခွဲလိုက်ခြင်းဖြစ်လေသည်။

၁၈၈၇ ခုနှစ်နှင့် ၁၈၈၈ ခုနှစ်များတွင် အင်္ဂလိပ်အစိုးရအားပုန်ကန်ထကြွမှုများဖြစ်ပွားခဲ့သည်။ ပဌမဦးစွာ ဖိုးတုတ်ခေါင်းဆောင်၍ ပုန်ကန်ခဲ့၏။ သို့ရာတွင် ဖိုးတုတ်မှာ အရေးနိမ့်၍ အသတ်ခံခဲ့ရ၏။ ၁၈၈၇ ခုနှစ်နောက်ပိုင်းတွင် ရွှေချိုးဖြူမင်းသားအမည်ခံ ခေါင်းဆောင်တဦးသည် ဗိုလ်စကားနှင့် ဗိုလ်ပျိုအမည်ရှိ နောက်လိုက် ၂ ဦး၏အကူအညီဖြင့် ထကြွပုန်ကန်ခဲ့လေသည်။ ပဌမအကြိမ်ဖြစ်ပွားသော တိုက်ပွဲတွင် ဗြိတိသျှစစ်ဗိုလ် ၂ ဦးကျဆုံးသည်။ ဗြိတိသျှစစ်ကူများရောက်ရှိလာသောအခါ ရွှေချိုးဖြူမင်းသားတို့တိမ်းရှောင်သွားကြ၏။ ၁၈၈၈ ခုနှစ်တွင် ရွှေချိုးဖြူမင်းသားနှင့် ပူးပေါင်း၍ပုန်ကန်ရန်ကြံစည်သော နဂါးဗိုလ်မင်းသားသည် ကွပ်မျက်ခံခဲ့ရ၏။ ၁၈၈၉ ခုနှစ်တွင် ရွှေချိုးဖြူမင်းသား တဖန်ထကြွပြန်သည်။ သို့သော် ဂန့်ဂေါတွင် အနိုမ်နင်းခံရပြီးနောက် ချင်းတောင်တန်းများသို့ ထွက်ပြေးတိမ်းရှောင်သွားရသည်။ ဗိုလ်စကားနှင့် ဗိုလ်ပျိုတို့ကားကျဆုံးကြ၏။ထိုအခါမှစ၍ချင်းတွင်းနယ်မှာငြိမ်းချမ်းစွာရှိခဲ့သည်။

အောက်ချင်းတွင်းခရိုင်ကို မုံရွာနယ်နှင့်ယင်းမာပင်နယ်ဟူ၍ ၂ နယ်ခွဲ၍အုပ်ချုပ်သည်။ခရိုင်ဝန်သည် မုံရွာမြို့တွင်ရုံးစိုက်သည်။ မုံရွာနယ်တွင် မုံရွာမြို့နယ်၊ ဘုတလင်မြို့နယ်နှင့် အရာတော်မြို့နယ်တို့ပါဝင်၍ ယင်းမာပင်နယ်တွင် ယင်းမာပင်မြို့နယ်၊ ကန္နီမြို့နယ်ဆားလင်းကြီးမြို့နယ်နှင့် ပုလဲမြို့နယ်တို့ပါဝင်လေသည်။ ပြည်ထောင်စုပါလီမန် လူမျိုးစုလွှတ်တော်သို့ ခရိုင်အရှေ့ပိုင်းနှင့် အနောက်ပိုင်းမှ အမတ်တဦးစီတင်မြှောက်ရ၍ ပြည်သူ့လွှတ်တော်သို့ မြို့နယ်တနယ်မှ အမတ်တဦးစီတင်မြှောက်ရသည်။

စစ်ကိုင်းရေဦး မီးရထားလမ်းသည် အောက်ချင်းတွင်းခရိုင်ကိုဖြတ်၍ ဖေါက်လုပ်ထားသည်။ မီးရထားလမ်းအပြင် မုံရွာမှ အလုံ၊ ဘုတလင်နှင့် ရွှေဘိုခရိုင်တွင်းရှိ ရေဦး၊ ခင်ဦး၊ ရွှေဘိုမြို့များကိုဖြတ်၍ ရာဇဝတီမြစ်ကစ်းပေါ်ရှိ ကျောက်မြောင်းအထိ၎င်း၊ မုံရွာခရိုင်အတွင်းရှိ သာစည်နှင့်အရာတော်မြို့များသို့၎င်း၊ မုံရွာမှ ချောင်းဦး၊ မြင်းမူမြို့များကိုဖြတ်၍ စစ်ကိုင်းသို့၎င်း ကားလမ်းပေါက်သည်။ မုံရွာတဖက်ကမ်းမှ ယင်းမာပင်၊ပုလဲမြို့များသို့၎င်း၊ဆားလင်းကြီးကြာတက်သို့၎င်း ကျောက်လမ်းများခင်းထားသဖြင့် အသွားအလာလွယ်ကူသည်။

အောက်ချင်းတွင်းခရိုင်၏အကျယ်အဝန်းမှာ စတုရန်းမိုင် ၃၄၇၀ ဖြစ်၍ ၁၉၄၁ ခုနှစ်သန်းကောင်စာရင်းအရ ခရိုင်တခုလုံးရှိလူဦးရေမှာ ၄၇,၃၄၀ ဖြစ်၏။ ၁၉၅၃ ခုနှစ်သန်းကောင်စာရင်းအရ မုံရွာ၊ ယင်းမာပင်၊ ဆားလင်းကြီး၊ ကန္နီ၊ ပုလဲ၊ ချောင်းဦး၊ အလုံနှင့် အရာတော်မြို့ ၈ မြို့၏ လူဦးရေမှာ ၄၄,၂၇၁ ဖြစ်လေသည်။

**ချင်းတွင်းမြစ်။** ။ချင်းတွင်းမြစ်သည် ဧရာဝတီမြစ်၏ အကြီးဆုံးသော မြစ်လက်တက်ဖြစ်သည်။ သလ္လာဝတီမြစ်ဟုလည်း မြန်မာစာပေတွင်ရေးသားသည်။

ချင်းတွင်းမြစ်သည် တနဲ၊တဝန်၊ တရုံမြစ်များတွေ့ဆုံရာမှစတင်လေသည်။ တနဲမြစ်မှာ ကူမွန်တောင်တန်းရှိ ရွှေတောင်ကြီးတောင် အနီးတွင်မြစ်ဖျားခံသည်။ ထိုမှ ဟူးကောင်းတောင်ကြားအထိ မြောက်စူးစူးသို့ စီးဆင်း၍ အနောက်ဖက်သို့ကွေ့ရာ၌ဟူးကောင်းတောင်ကြားမှစီးဆင်းလာသော တရုံမြစ်နှင့် ပူးပေါင်းလေသည်။ ထိုမြစ်ဆုံမှ တောင်ဖက်သို့စီးဆင်းရာ ရေတံခွန်များလွန်ပြီးနောက် ဇင်ဂလိန်ခန္တီးနယ်သို့ရောက်၏။ ဤမှတဖန် အထက်ချင်းတွင်းခရိုင်ကိုဖြတ်၍စီးဆင်းသည်။ ထိုနေရာမှ အောက်ဖက်သို့ရောက်လာသောအခါ အရှေ့ဖက် ကျောက်စိမ်းတွင်းများဒေသတွင် မြစ်ဖျားခံခဲ့သော ဥယုမြစ်သည် ပဌမဆုံးမြစ်လက်တက်အဖြစ် ဟုမ္မလင်းမြို့နှင့် မိုင်အနည်းငယ်ကွာနေရာတွင် ချင်းတွင်းမြစ်တွင်းသို့ စီးဆင်းလေသည်။ ထိုမှတဖန် ချင်းတွင်းမြစ်သည် သောင်သွပ်နယ်၏ အရှေ့ဖက်နယ်နိမိတ်အဖြစ် စီးဆင်းလာသည်။ ချင်းတွင်းမြစ်၏ အခြားမြစ်လက်တက်တခုဖြစ်သော ယူးမြစ်သည် အနောက်ဖက်ရှိ ကဘော်မြစ်ဝှမ်းမှ ချင်းတွင်းမြစ်တွင်းသို့ စီးဝင်ပေါင်းဆုံလာ၏။ ဤမှတဖန် ချင်းတွင်းမြစ်သည် ကင်းတပ်မြို့ကိုဖြတ်၍စီးဆင်းလာရာ အနောက်ဖက်ချင်းနယ်မှစီးလာသော မြစ်သာမြစ်နှင့် ကလေးဝတွင်ပေါင်းဆုံမိလေသည်။

ချင်းတွင်းမြစ်သည် လက်ျာဖက်ကမ်းရှိ မင်းကင်းမြို့အနီးတွင် အရှေ့ဖက်သို့အနည်းငယ်ကွေ့ပြီးနောက် တဖန်မြောက်ဖက်သို့ကွေ့သွားပြန်၏။ ထိုနောက် မောက်ကတော်ရွာ



ချင်းတွင်းမြစ်ကိုမော်လိုက်မြို့အထက်တွင်ဤသို့တွေ့မြင်ရသည်။

အနီးတွင် တောင်ဖက်သို့ကွေ့ပြီးသော် အောက်ချင်းတွင်းခရိုင်အတွင်းသို့စီးဝင်သည်။

အထက် ချင်း တွင်း ခရိုင် အတွင်း၌ ချင်းတွင်းမြစ်စီးဆင်းလာစဉ်က မြစ်ဝှမ်းသည် ကျဉ်းမြောင်းသည်။ မြစ်ကြောတလျှောက်တွင် ထူထပ်သောသစ်တောကြီးများသည် မြစ်ကမ်းပါးအထိ ပေါက်ရောက်သည်။ အနည်းငယ်သောနေရာများတွင် ညီညာသောကမ်းခြေများ ရှိသော်လည်း ကိုင်းတောများပေါက်နေသည်။ ရွာများသည် တရွာနှင့်တရွာအလှမ်းဝေး၍ ရွာလည်းနည်းပါးသည်။ လူနေလည်းကျဲသည်။ အောက်ချင်းတွင်းခရိုင်သို့ ရောက်လာသောအခါမူ ချင်း တွင်း မြစ် ၏ မြင်ကွင်း များ သည် တမျိုး တဖုံဖြစ် လာသည်။ မောက်ကတော်ရွာမှစ၍ မြစ်ဝှမ်းသည်ကျယ်လာ၍ တောင်များသည် မြစ်ကမ်းခြေနှင့်ဝေးသွားသည်။ ထိုဒေသတလျှောက် တွင် ရွာ ငယ် များ ကို ပို၍ တွေ့မြင် နိုင် သည်။ ကမ်းခြေမြေညီ များ တွင် အပူပိုင်း၌ ပေါက်လေ့ရှိသော ကောက်ပဲသီးနှံများကို စိုက်ပျိုးထားသည်ကို တွေ့ရသည်။ ကနီ နှင့် အလုံမြို့ များ ကို လွန်လာပြီးနောက် လက်ဝဲဖက်တနည်း အား ဖြင့် အရှေ့ဖက် ကမ်း တွင် ရှိသော မုံရွာမြို့သို့ ရောက်လာသည်။ မုံရွာ၏တောင်ဖက်တွင် ချင်းတွင်းမြစ်သည် စစ်ကိုင်းနှင့်ပခုက္ကူခရိုင်တို့၏ နယ်နိမိတ်အဖြစ်တည်ရှိသည်။ ထိုမှတပန် အမြင့်မြို့ကိုဖြတ်၍ ရေစကြိုမြို့အလွန်တွင် မြစ်ကြောင်း ၂ ပြကွဲကာ မြင်းခြံအထက် ရေတိုင်ရွာအနီးတွင်ရင်း၊ ပခုက္ကူအထက်တွင်ရင်း ဧရာဝတီမြစ်တွင်းသို့မြစ်ဝ ၂ ခုဖြင့်စီးဝင်လေသည်။ ပခုက္ကူအထက်ရှိ အောက်မြစ်ဝမှသာလျှင် သင်္ဘောများသည် ချင်းတွင်းမြစ်တွင်းသို့ စုန်ဆန်သွားလာကြ၏။ အထက်မြစ်ဝသည် ကောလုနီးနီးဖြစ်နေသည်။

ချင်းတွင်းမြစ်သည် မိုင် ၆၀၀ နီးပါးမျှရှည်လျားသည်။ ဧရာဝတီမြစ်ဆုံမှ အထက် မိုင်ပေါင်း ၄၀၀ အထိ သင်္ဘောခုတ်မောင်းနိုင်သည်။ မီးသင်္ဘောများသည် တနှစ်ပတ်လုံးကင်းတပ်မြို့အထိရင်း၊ မိုးတွင်းအခါတွင် ဟုမ္မလင်းအထိရင်း ဆန်တက်နိုင်ပေသည်။ လှေငယ်များနှင့်မူ မြစ်ကြောင်းတလျှောက်လုံး စုန်ဆန်သွားလာနိုင်သည်။ ချင်းတွင်းမြစ်တွင်း၌ သစ်များကိုပေါင်ဖွဲ့၍ မျှောချကြသည်။ မြစ်ကမ်းပါးများတွင် ဆေးကိုင်းများ၊ ပဲးကိုင်းများစိုက်၏။ မြစ်အောက်ပိုင်းတွင်ကား ကောက်ပဲသီးနှံခင်းများအတွက် ချင်းတွင်းမြစ်မှရေကိုသွယ်၍ယူကြသည်။

ချင်း တွင်း မြစ် ၏ လကျာ ဖက် ကမ်း တွင် သောင် သွပ်၊ ကလေးဝ၊ ကနီစသောမြို့များတည်ရှိ၍ လက်ဝဲဖက်ကမ်းတွင် ဟုမ္မလင်း၊ ကင်းတပ်၊ အလုံ၊ မော်လိုက်နှင့်မုံရွာမြို့ကြီးများတည်ရှိသည်။ ချင်းတွင်းမြစ်ကိုစွဲ၍ အောက်ချင်းတွင်းခရိုင်၊ အထက်ချင်းတွင်းခရိုင်ဟူ၍ခရိုင်ခွဲခြားထားသည်။

ချင်းတွင်းမြစ်များတွင် ရွှေအနည်းငယ်ထွက်၍ ပယင်းတွင်းများ ကျောက်စိမ်းတွင်းများလည်းရှိလေသည်။

ချင်းတွင်းမြစ်ကြောင်းတွင် မင်းကင်း၊ စစ်တောင်းနှင့် ဖေါင်းပြင်မြို့များလည်းရှိသည်။ ကလေးဝမြို့ အောက်ဖက် အရှေ့ဖက်ကမ်းရှိရွှေကျင်မှ ရွှေဘိုခရိုင်ရေဦးသို့ လမ်းပေါက်သည်။ ပန်းသာမှာ အင်းတော်ရေနံတွင်းအတွက် မြစ်ဆိပ်ဖြစ်၍ ကလေးဝတွင် ကျောက်မီးသွေးတွင်းများရှိသည်။

ရောဝတီမြစ်တွင်းသို့ ပခုက္ကူအထက်တွင်စီးဝင်သော ချင်းတွင်းမြစ်၏အောက်မြစ်ဝသည် ပုဂံမင်းတပါး ဖေါက်လုပ်ခဲ့သော တူးမြောင်းဖြစ်သည်ဟု ဆိုကြသည်။ ထိုတူးမြောင်းသည် နှစ်ပေါင်းကြာမြင့်စွာ ပိတ်ဆို့နေခဲ့ရာ ခရစ် ၁၈၂၄ ခုနှစ် ရေကြီးသည့်အခါတွင်မှ ပြန်၍ပေါက်သွားသည်ဟု သမိုင်းအမှတ်အသားရှိသည်။ (ရောဝတီမြစ်။ ချင်းတွင်းခရိုင်၊ အထက်။ ချင်းတွင်းခရိုင်၊ အောက်။ — လည်းရှု။)

# ပြည်ထောင်စုနိုင်ငံတော်၏ အထူးတိုင်းဒေသ

**မြန်မာနိုင်ငံတော် လွတ်လပ်ရေးမရမီက တိုင်းရင်းသားချင်းလူမျိုးတို့အား တောင်တန်းသားများဟူ၍ ခွဲခြားအုပ်ချုပ်ခဲ့သည်။ လွတ်လပ်ရေးရပြီးနောက်၌မူကား နိုင်ငံတော်အစိုးရသည် ချင်းဝိသေသတိုင်းဟူ၍ စုစည်းတည်ထောင်ကာ ပြည်မကြီးနည်းတူ အုပ်ချုပ်မှုအခွင့်အရေးများကို ချင်းလူမျိုးတို့အားပေးအပ်ခဲ့လေသည်။ ယခုအခါ ချင်းရေးရာကောင်စီနှင့် နိုင်ငံတော်အစိုးရ တွဲဖက်၍ကြိုးပမ်းဆောင်ရွက်မှုကြောင့် ချင်းဝိသေသတိုင်းသည် တနေ့တခြားတိုးတက်လျက်ရှိပေသည်။**

**ချင်းဝိသေသတိုင်း။** ။ချင်းဝိသေသတိုင်းဆိုသည်မှာ ရှေးက ချင်းတောင်ခရိုင်ဟုခေါ်သောခရိုင်နှင့် ရခိုင်တောင်တန်းနယ်များကို ပေါင်းစပ်ထားသော အထူးတိုင်းဖြစ်လေသည်။ မြန်မာနိုင်ငံ လွတ်လပ်ရေးရရှိပြီးနောက် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၁၉၆ တွင် ပြဋ္ဌာန်းရည်ညွှန်းခဲ့သည့်အတိုင်း ခရစ် ၁၉၄၈ ခုနှစ် ချင်းဝိသေသတိုင်း အက်ဥပဒေအရ အဆိုပါဒေသ ၂ ခုကိုပေါင်းစပ်ခဲ့သည်။ ချင်းတောင်ခရိုင်သည် မြန်မာနိုင်ငံ အနောက်ဖက်တောင်ကုန်းဒေသ၌ပါဝင်၍ တောင်နှင့်မြောက် တန်းလျက်တည်ရှိသည်။ အရှေ့ဖက်၌ အထက်ချင်းတွင်းခရိုင်နှင့် ပခုက္ကူခရိုင်ရှိ၍ တောင်ဖက်တွင် စစ်တွေခရိုင်ရှိသည်။ အရှေ့တောင်ဖက်တွင် မင်းဘူးခရိုင်နှင့်လည်း မိုင်အနည်းငယ်မျှနယ်စပ်လျက်ရှိသည်။ အနောက်ဖက်တွင် အရှေ့ပါကစ္စတန်ပြည်နယ် (စစ်တကောင်းခရိုင်) နှင့်အာသံပြည်နယ်ရှိသည်။ ယင်းအနောက်ဖက်နယ်စပ်၌ လူရှေတောင်တန်းများ ရှိသည်။ မြောက်ဖက်၌ မဏိပူရပြည်နယ်ရှိသည်။

မူလချင်းတောင်ခရိုင် ဧရိယာမှာ စတုရန်းမိုင်ပေါင်း ၁၀,၃၇၇ ခန့်ရှိ၍ အင်္ဂလန်ပြည် ဝေလနယ်ထက်ကြီးသည်။ ရခိုင်တောင်တန်းဒေသနှင့်ပေါင်းသော် ဧရိယာစတုရန်းမိုင်ပေါင်း ၁၄,၀၀၀ ခန့်ရှိသည်။ ချင်းဝိသေသတိုင်း တတိုင်းလုံး၏လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၁၈၄,၀၅၃ ဖြစ်သည်ဟုဆိုသော်လည်း ၁၉၄၁ ခုနှစ် သန်ကောင်စာရင်းအရဆိုလျှင် မူလချင်းတောင်ခရိုင်တွင် ၁၈၆,၄၀၅ နှင့် ရခိုင်တောင်တန်းဒေသတွင် ၃၄,၀၀၅ ရှိခဲ့ရာ စုစုပေါင်း ၂၂၀,၄၁၀ ရှိခဲ့သည်။

မြန်မာနိုင်ငံကို ဗြိတိသျှအစိုးရတို့ သိမ်းပိုက်ပြီးသည့်နောက် ချင်းတောင်ဒေသမှ လက်နက်ကိုင်ဆူပူသောင်းကျန်းမှုများစွာပေါ်ပေါက်ခဲ့သည်။ ၁၈၉၂ ခုနှစ်တွင် နိုင်ငံရေးအရာရှိတဦးကိုခန့်အပ်၍ ချင်းတောင်ဒေသကို အုပ်ချုပ်စေခဲ့သည်။ ထိုအရာရှိသည် ဖလမ်းမြို့၌ရုံးစိုက်၍ အုပ်ချုပ်ခဲ့သော်လည်း ထင်သလောက်မအောင်မြင်ခဲ့ချေ။ ဆူပူသောင်းကျန်းမှုများကို ၁၈၉၄၊၉၅ ခုနှစ်များသို့ရောက်မှ နှိမ်နင်းအောင်မြင်ခဲ့သည်။ ၁၈၉၆ ခုနှစ်တွင် ချင်းတောင်ဒေသကို မြန်မာနိုင်ငံအဝင်အပါ ခရိုင်တခုအဖြစ် ကျေညာကာ အုပ်ချုပ်ခဲ့သည်။ သို့သော်လည်း မြန်မာပြည်မကြီးကို အုပ်ချုပ်သော ဥပဒေစည်းမျဉ်းများအရ မအုပ်ချုပ်ဘဲ တောင်တန်းဒေသအုပ်ချုပ်မှုဆိုင်ရာ စည်းမျဉ်းဥပဒေများဖြင့်သာ မြန်မာပြည်ဘုရင်ခံက တိုက်ရိုက်အုပ်ချုပ်ခဲ့လေသည်။ ထိုသို့ ဗြိတိသျှဘုရင်ခံက တိုက်ရိုက်အုပ်ချုပ်ခဲ့သည်မှာ မြန်မာနိုင်ငံလွတ်လပ်ရေးရသည့်အထိဖြစ်လေသည်။

ချင်းဝိသေသတိုင်းသည် ယခုအခါ မြန်မာပြည်မကြီးနည်းတူ အုပ်ချုပ်မှုအခွင့်အရေးများ ရရှိပြီဖြစ်၍ ရှေးကကဲ့သို့ အစဉ်အလာ အမွေဆက်ခံယူနိုင်ခွင့်ရှိသော တောင်ပိုင်ကြီးများ၊ သူကြီးများ ခန့်အပ်သောစနစ်မျိုးမရှိတော့ချေ။ ကျေးရွာသူကြီးမှ ချင်းရေးရာဝန်ကြီးအထိ မဲဖြင့်ရွေးကောက်တင်မြှောက်သောစံနစ်ဖြင့်သာ အုပ်ချုပ်လျက်ရှိ၏။

ချင်းဝိသေသတိုင်းကို စီမံအုပ်ချုပ်ရန်အတွက် ပါလီမန်ရှိ ချင်းအမျိုးသားကိုယ်စားလှယ် အမတ်အားလုံးတို့ပါဝင်သော ချင်းရေးရာကောင်စီတခုကို ဖွဲ့စည်းထားရှိသည်။ နိုင်ငံတော်ဝန်ကြီးချုပ်က ချင်းရေးရာကောင်စီနှင့်တိုင်ပင်၍ ချင်းရေးရာဝန်ကြီးကို ခန့်ထားသည်။ ချင်းရေးရာဝန်ကြီးသည် ချင်းရေးရာကောင်စီ၏ အကြံပေးချက်၊ ကူညီချက်များအရ ချင်းဝိသေသတိုင်း၏ ပညာရေး၊ စီးပွားရေးနှင့် တိုးတက်ကြီးပွားရေးများကို စီမံခန့်ခွဲလျက်ရှိသည်။ ချင်းဝိသေသတိုင်းမှ ပြည်ထောင်စုပါလီမန် လူမျိုးစုလွှတ်တော်သို့ အမတ် ၈ ဦး၊ ပြည်သူ့လွှတ်တော်သို့အမတ် ၆ ဦးရွေးကောက်တင်မြှောက်ရသည်။

ချင်းဝိသေသတိုင်းတခုလုံးမှာ တောင်ထူထပ်ပေါများ



ရှံစေးဖြင့်အိုးလုပ်နေသောချင်းအမျိုးသမီးတဦး

သည်။ ကုန်းပြန့်မြေပြန့် မရှိသလောက်ပင်ဖြစ်၏။ တောင်တန်းများမှာ ပေပေါင်း ၅၀၀၀ မှ ၉၀၀၀ အထိမြင့်မားသည်။ မိုးရေချိန်လက်မ ၅၀ မှ ၁၀၀ အထိရွာသွန်းသဖြင့် အမြဲစိမ်းလန်းသောသစ်တောများဖြင့်ဖုံးအုပ်လျက်ရှိသည်။

ချင်းဝိသေသတိုင်းတွင် ထင်ရှားသော တောင်တန်းများမှာ ချင်းတွင်းမြစ်နှင့် မဏိပူမြစ်ကြားရှိ လေသာတောင်တန်း၊ အင်ဗုတ်ကလန်တောင်တန်းနှင့် ရောင်ကလန်တောင်တန်းများဖြစ်သည်။ မဏိပူမြစ်ခေါ် နန်းကသဲချောင်းသည် လုတ်တပ်အိုင်တွင် မြစ်ဖျားခံ၍ ချင်းဝိသေသတိုင်းထဲသို့ စီးဆင်းခဲ့ရာချင်းတွင်းမြစ်၏လက်တက်ဖြစ်သောမြစ်သာမြစ်ထဲသို့စီးဝင်သည်။ ဖလမ်းမြို့သည် မဏိပူမြစ်၏ညာဖက်ကမ်းပေါ်တွင်တည်ရှိသည်။ ဘွယ်နူးမြစ်သည် ရဟိုအရပ်တွင်မြစ်ဖျားခံ၍ ကွေ့ကောက်ကာ တောင်ဖက်သို့စီးဆင်းလာခဲ့ရာပလက်ဝနယ်သို့ရောက်သောအခါ ထိုမြစ်ကို ကုလားတန်မြစ်ဟုခေါ်လေသည်။ ပလက်ဝနယ်မှတဆင့် စစ်တွေခရိုင်ထဲသို့စီးဆင်း၍ဗင်္ဂလားအော်ထဲသို့စီးဝင်သည်။

ချင်းဝိသေသတိုင်း၊ တောင်ပိုင်းချင်းတောင်၊ ကန်ပက်လက်နယ်တွင် ရခိုင်ရိုးမတောင်မှဖြာထွက်သော တောင်တန်းများဖြင့် ပြည့်နှက်လျက်ရှိသည်။ ထိုတောင်တန်းများတွင်ရှိသော ဝိတိုရိယတောင်ထိပ်သည် ပေပေါင်း ၁၀,၄၀၀ မြင့်၍ ချင်းဝိသေသတိုင်းတွင် အမြင့်ဆုံးဖြစ်သည်။ ဝိတိုရိယတောင်ထိပ်နှင့် နီးကပ်စွာရှိသော ကန်ပက်လက်မြို့သည် ပေပေါင်း ၆၅၀၀ မြင့်သောတောင်တန်းပေါ်တွင်တည်ရှိသည်။ ကန်ပက်လက်နယ်တွင် မောချောင်းသည် မြောက်ဖက်ချင်းတွင်းမြစ်ထဲသို့စီးဆင်း၍ ယောချောင်းနှင့် မုန်းချောင်းတို့သည် မင်းဘူးနယ်ထဲသို့ စီးဆင်း၏။ ပလက်ဝနယ်တွင် ကုလားတန်မြစ် အပြင် လယ်မြို့မြစ်မှာ ထင်ရှားသောမြစ်ဖြစ်၏။ ပလက်ဝမြို့သည် ကုလားတန်မြစ်၏ အနောက်ဖက်ကမ်းပေါ်တွင်ရှိသည်။

ချင်းဝိသေသတိုင်းတွင် တောင်ထူထပ်ပေါများသဖြင့် လယ်ယာများမစိုက်ပျိုးနိုင်ချေ။ တောင်ယာစပါးမျိုးကိုသာစိုက်ပျိုးကြသည်။ ထိုမှတပါး ယာခင်းများတွင် ပဲ၊ ပြောင်းဖူး၊ လူး၊ ဆပ်၊ မျောက်ဥ၊ အာလူး၊ ဗူး၊ ဖရုံ၊ သခွား၊ နာနတ်နှင့်ဆေးပင်များကို စိုက်ပျိုးကြသည်။ ဝါကိုလည်းစိုက်ပျိုးကြရာ နယ်သုံးအတွက် ဝါဂွမ်းများစွာရရှိ

မျိုးရိုးအလိုက်ဝတ်ဆင်ထားသောချင်းလုံမပျိုတဦး



အထက်ပုံ (ဝဲ) မဏိပူမြစ်ကိုဖြတ်ကူးသည့်ပြည်တော်သာကြိုးတန်တား။ အထက်ပုံ (ယာ) ခမီချင်းတို့သည် ဝိုင်းဖွဲ့ကာကပွဲအခမ်းအနားကို ကျင်းပလေ့ရှိကြသည်။ အလယ်ပုံ (ဝဲ) တီးတိန်နယ်တွင် မဏိပူမြစ်ကိုကြိုးပုခက်ဖြင့် ဤသို့ဖြတ်ကူးနိုင်သည်။ အလယ်ပုံ (ယာ) ချင်းလုံမပျိုတဦးဗိုင်းငင်နေစဉ်။ အောက်ပုံ (ဝဲ) လေးမြားတို့ကိုအမြဲဆောင်လေ့ရှိသော ကန်ပက်လက်ချင်းအမျိုးသား။ အောက်ပုံ (ယာ) ကန်ပက်လက်ချင်းအမျိုးသားတို့၏ဓားသိုင်းအက။

လေသည်။ ချင်းအမျိုးသမီးများသည် ဝါမှင်ငယ်ယူသောခြည်မျှင်ဖြင့် စောင်၊သင်တိုင်းအစရှိသော အထည်အဝတ်များကို ကျပ်ခုတ် ရက်လုပ်ကြသည်။ ယော၊ မောင်း စသောအနည်းငယ်နိမ့်သောဒေသများတွင် ကျွန်းပင်များအသင့်အတင့်ဖြစ်ထွန်းသည်။ ရှားစေးနှင့်ချိပ်များလည်း အနည်းငယ်မျှထွက်သည်။ ချင်းဝိသေသတိုင်း၌ ဆားကိုဆားတွင်းများမှရရှိ၏။ သို့ရာတွင် မှီတင်းနေထိုင်သောလူထုအတွက် မလုံလောက်သဖြင့်မြန်မာပြည်မမှဆားကိုဝယ်ယူရသည်။ အဝတ်အထည်များ၊ သံထည်၊ ကြေးထည်များနှင့် ဘယဆေး၊ ဆိုးဆေးအမျိုးမျိုးတို့မှာ ချင်းဝိသေသတိုင်း၏ဝင်ကုန်များဖြစ်သည်။

ချင်းဝိသေသတိုင်းတွင် လမ်းပန်းဆက်သွယ်ရေးမကောင်းသေးချေ။ မော်တော်ကားလမ်းများ အနည်းငယ်သာရှိသည်။ အထက်ချင်းတွင်းခရိုင်ရှိ ကလေးမြို့မှ ဖလမ်းသို့ကားလမ်းခရီးဖြင့် မိုင် ၇၀ ဝေးသည်။ ကလေးမြို့၏အနောက်မြောက်ဖက်ကားလမ်းဖြင့် ၂၄ မိုင်ကွာတွင် ဖို့ဝ့်ဂျိုက်မြို့ရှိသည်။ ကားလမ်းမှာ ဤမျှလောက်သာရှိသည်။ မြန်မာနိုင်ငံလွတ်လပ်ရေးရမှ ထိုလမ်းများကို ဖေါက်လုပ်ခြင်းဖြစ်သည်။ ဖို့ဝ့်ဂျိုက်မှ ၄၈ မိုင် အနောက်မြောက်ဖက်သို့ ဆက်လက်သွားလျှင် တီးတိန်မြို့သို့ရောက်သည်။ တီးတိန်မြို့မှ လူရှေနယ်၊ မဏိပူရနယ်များသို့ပေါက်ရောက်နိုင်သည်။ ဖလမ်းမှဟားခါးမြို့ကိုဖြတ်၍ ပခုက္ကူခရိုင်ရှိ ဂန့်ဂေါမြို့သို့ရောက်နိုင်သည်။ ဤလမ်းများမှအပ ချင်းဝိသေသတိုင်းရှိ များစွာသောလမ်းတို့မှာ ကုန်တင်မြည်းလားတို့ဖြင့် သွားလာရသောလမ်းများဖြစ်သည်။ ကလေးမြို့နှင့် ကျောက်တုစခန်းတို့၌ ပြည်တွင်းလေယာဉ်ပျံကွင်းများ ရှိသည်။ ရခိုင်တောင်ကုန်းဖက်ရှိ ပလက်ဝမြို့သို့ကား စစ်တွေမြို့မှ မီးသင်္ဘောဖြင့် ရောက်နိုင်သည်။ ယခုအခါ ပလက်ဝနှင့်မတူပီသို့ ကားလမ်းဖေါက်လုပ်ရန်စီစဉ်လျက်ရှိသည်။

ချင်းဝိသေသတိုင်း၌ ချင်းလူမျိုးများနေထိုင်ကြ၍ မြန်မာနှင့်အခြားလူမျိုး ဦးရေမှာ နည်းပါးလေသည်။ ချင်းတောင်များခရိုင်ဖက်တွင် ချင်းအမျိုးသားဦးရေမှာ ၉၈ ရာခိုင်နှုန်းဖြစ်၍ ရခိုင်တောင်ကုန်းဒေသဖက်တွင် ၇၅ ရာခိုင်နှုန်းဖြစ်သည်။ ချင်းလူမျိုးတို့သည် မြန်မာနိုင်ငံသို့ ရှေးနှစ်ပေါင်းများစွာက ဝင်ရောက်လာခဲ့ကြသော တိဗက်မြန်မာအနွယ်ဝင်များဖြစ်သည်။ (ချင်းလူမျိုး — ရှု။)

ချင်းဝိသေသတိုင်းကို မြောက်ပိုင်းနှင့် တောင်ပိုင်းခရိုင်ဟူ၍ ခရိုင် ၂ ခုခွဲကာ အုပ်ချုပ်သည်။ မြောက်ပိုင်းခရိုင်တွင် ဖလမ်း၊ တီးတိန်နှင့်ဟားခါးမြို့နယ်များပါဝင်သည်။ ဖလမ်းမြို့မှာ တိုင်းမင်းကြီးနှင့်ခရိုင်ဝန်တို့ ရုံးစိုက်ရာမြို့ဖြစ်သည်။ တောင်ပိုင်းခရိုင်တွင် ကန်ပက်လက်၊ မတူပီနှင့်ပလက်ဝနယ်များပါဝင်ပြီးလျှင် ခရိုင်ဝန်သည် ကန်ပက်လက်မြို့၌ရုံးစိုက်လေသည်။

ချင်းဝိသေသတိုင်း၌ နိုင်ငံတော်အထက်တန်းကျောင်း ၇ ကျောင်း အလယ်တန်းကျောင်း ၁၄ ကျောင်းနှင့် မူလတန်း



ကျပ်ခုတ်ရက်ကန်းအတတ်မှာ ချင်းအမျိုးသမီးတိုင်းတတ်မြောက်ရသောအိမ်တွင်းမှုတရပ်ဖြစ်သည်။

## ချင်းလူမျိုး

ကျောင်း ၂၁၇ ကျောင်း မျှရှိသည်။ ဖလမ်းနှင့်ကန်ပက်လက် မြို့များတွင် ခရိုင်ဆေးရုံများရှိသည်။ လူထုပညာရေးဌာနမှ ဘဝသစ်အဖွဲ့များကို မင်းတပ်၊ ပလက်ဝနှင့် ဖလမ်းအရပ်ဒေသများသို့ စေလွှတ်ကာ ကျေးရွာလူထုများပညာတတ်မြောက်ရေး၊ တိုးတက်ကြီးပွားရေးတို့ ကိုနည်းပေးလမ်းပြကူညီလျက်ရှိသည်။

ချင်းဝိသေသတိုင်းတွင် သမဝါယမအသင်း ပေါင်း ၅၀ ကျော်ရှိပြီးဖြစ်ရာ နောက်ထပ်လည်း တိုးတက်လာဖွယ်ရာအကြောင်း ရှိပေသည်။ သမဝါယမဌာနမှ ဝန်ထောက် ၂ ဦးနှင့် မြို့အုပ် ၄ ဦးတို့က သမဝါယမလုပ်ငန်းများကို ဆောင်ရွက်လျက်ရှိသည်။ မင်းတပ်နှင့် ဖလမ်းမြို့များတွင် အစိုးရရက်ကန်းကျောင်းများ ဖွင့်လှစ်ထားရှိသည်။ မြင်းနှင့်လားများမွေးမြူနိုင်ရေးအတွက်နိုင်ငံတော်အစိုးရကချင်းဝိသေသတိုင်းသို့ ငွေပေါင်း ၆၅၀,၀၀၀ ကျပ်ခန့် မတည်ပေးသည်။ ဤလုပ်ငန်းကို တိုင်းပြည်တော်သာအဖွဲ့ကြီးက ကြီးမှူးအုပ်ချုပ်လျက်ရှိ၏။ ချင်းဝိသေသတိုင်းမှလက်ထောက်ကျန်းမာရေးမှူး သင်တန်းကျောင်းတက်နေသူများနှင့် အထက်တန်းပညာများကို လေ့လာရှာမှီးနေကြသော တက္ကသိုလ်ကျောင်းသားအများကိုလည်း အစိုးရထောက်ပံ့စရိတ်များပေးထားလေသည်။

ဖလမ်းတွင်ဗုဒ္ဓအယူဝါဒီဘုန်းကြီးကျောင်းတကျောင်းရှိ၍ ချင်းတောင်သာသနာပြုအဖွဲ့အသျှင်ဦးဥတ္တမသာရကျောင်းထိုင်သည်။ မင်းတပ်နှင့် တုန်းဇံအရပ်တွင် ခရစ်ယန်ဗရင်ဂျီသာသနာပြုအဖွဲ့များရှိသည်။ ထိုသာသနာပြုအဖွဲ့များကဖွင့်လှစ်ထားသော ဆေးပေးရုံများသို့လည်း နိုင်ငံတော်အစိုးရက နှစ်စဉ်ထောက်ပံ့ကြေးများပေးလျက်ရှိသည်။

**ချင်းလူမျိုး။** ။ပြည်ထောင်စု မြန်မာနိုင်ငံ၏အနောက်ဖက်ရှိ အိန္ဒိယ၊ ပါကစ္စတန်နိုင်ငံတို့နှင့် အစပ်ဖြစ်သောဒေသတွင် ဝိသေသတိုင်းတခုအဖြစ် ဖွဲ့စည်းနေထိုင်၍ စစ်မှုထမ်းရာတွင် နာမည်ကျော်ကြားပေသော ချင်းလူမျိုးတို့မှာ မြန်မာ၊ ကချင်၊ ကရင်စသော အခြားပြည်ထောင်စုသားများနည်းတူ တိဗက်မြန်မာအစုဝင် ဘာသာစကားကို ပြောဆိုကြသည့် တိုင်းရင်းသားများဖြစ်ကြသည်။ ယင်းလူမျိုးတို့ကို ရှေးဟောင်းအာသံစကားဖြင့်၎င်း၊ ဗင်္ဂါလီဘာသာဖြင့်၎င်း ကုကီလူမျိုးဟု ခေါ်ကြသည်။ ပုဂံခေတ်ရှေးဟောင်းကျောက်စာများတွင် အနောက်ဖက်ဒေသတောင်များပေါ်တွင် နေထိုင်ကြသူတို့ကို 'ချင်' ဟုရေးထိုးကြသည်။ ဧရာဝတီမြစ်၏ အကြီးဆုံးလက်တက်ဖြစ်သောမြစ်ကို ထိုခေတ်က ချင်တွင် သို့မဟုတ် ခွင်တွင် ဟုရေးထိုးကြ၏။ ပုဂံခေတ်ကျောက်စာများအရ ထိုမြစ်တလျှောက် မြောက်ဖက်အကျဆုံးဟု သိရသောဒေသတို့မှာ ကြံတူ (အနိမ့်အမြင့်) ပင်လ္လီ ၁၀ တိုက်တို့ဖြစ်ရကား ထိုဒေသတို့၏မြောက်ဖက်သို့ ထိုခေတ်ကမြန်မာတို့ မရောက်ရှိသေးဟုယူဆရပေသည်။



ရေဗူးတောင်းများကိုခြင်းထဲ၌ထည့်၍ ကျောပိုးသယ်ယူလေ့ရှိသောချင်းလုံမပျိုများ

### နေထိုင်ရာဒေသ

အကြမ်းအားဖြင့် ဖေါ်ပြရသော် မြန်မာနိုင်ငံအနောက်မြောက်ဖက်စုံမရတောင်တန်းဒေသ၊ နာဂတောင်နှင့်မဏိပူရပြည်နယ်တို့မှ တောင်ဖက်မော်တင်စွန်းရောက်လုနီး ဒေသစပ်ကြားနှင့် အရှေ့ဖက် ချင်းတွင်းမြစ်၏လက်တက်ဖြစ်သော မြစ်သာမြစ်နှင့် အနောက်ဖက် ဗင်္ဂလားအော်ရောက်လုနီးဒေသစပ်ကြား တောင်မြင့်ကုန်းတန်း လျှိုမြောင်တို့မှာ ချင်းလူမျိုးတို့နေထိုင်ရာ အချက်အခြာဒေသဖြစ်ပေသည်။

ချင်းလူမျိုးတို့ နေထိုင်ရာ မြောက်ဖက်အစွန်ဆုံးဒေသ၌ကား ပေ ၁၂,၅၀၀ မြင့်သော စာရာမေတီတောင်ရှိရာ စုံမရတောင်တန်းဒေသဖြစ်၏။ ယင်း၏ အနောက်တောင်ဖက် မဏိပူရမြေပြန့်မှာ ကသည်းခေါ် မေထေးချင်းလူမျိုးတမျိုး၏ဒေသဖြစ်၏။ ထိုဒေသ၏ တောင်ဖက်၌သော် ချင်းတောင်စစ်စစ်ဟုဆိုရမည့် တီးတိန်၊ ဖလမ်းနှင့် ဟားခါးနယ်





များရှိပေသည်။ (တီးတိန်မြို့၊ ဖလမ်းမြို့၊ ဟားခါးမြို့ — ရှု။) ယင်း၏တောင်ဖက်၌သော် ပေ ၁၀,၄၀၀ မြင့်သော ဝိတိုရိယတောင်တဝိုက်ဖြစ်သည့် ပခုက္ကူတောင်တန်းဒေသ (ကန်ပက်လက်) ရှိသည်။ အနောက်ဖက်၌သော်ကား မြောက်ပိုင်းရခိုင်တောင်တန်းဒေသ (ပလက်ဝ) နှင့်ကုလားတန်မြစ်ဝှမ်း၏ မြောက်ဖက်ဒေသတို့ရှိကြသည်။ ထိုဒေသများ၌ ချင်းလူမျိုးတို့ကို တွေ့ရပေသေးသည်။ ထိုမျှမကသေး၊ ချင်းလူမျိုးများကို ရခိုင်ရိုးမတောင်၏တောင်ဖက်ပိုင်းတလျှောက်နှင့် အရှေ့ဖက်မင်းဘူး၊ သရက်မြို့၊ ပြည်ခရိုင်များတွင်တွေ့ရသေး၏။ ထိုဒေသတို့နှင့် တဆက်ထည်းဖြစ်သော ပဲခူးရိုးမတောင်စွယ်တို့၌ပင် ချင်းရွာအချို့ရှိနေသည်။ ပြည်ထောင်စုမြန်မာနိုင်ငံ၏အပ အရှေ့ပါကစ္စတန်ပြည်နယ်နှင့် အာသံပြည်နယ်တို့၌လည်း ချင်းလူမျိုးများရှိပေသေးသည်။

တိဗက်မြန်မာအစုဝင် ဘာသာစကားကိုပြောဆိုသူ လူမျိုးအချို့တို့ မြန်မာနိုင်ငံတွင်းသို့ ရွှေ့ပြောင်းဝင်ရောက်ကြရာတွင် ချင်းလူမျိုးတို့မှာ အရှေ့မြောက်ဖက်ဆီမှ ခပ်စောစောကပင် ဝင်ရောက်လာကြ၍ နောက်ဝင်လာသူတို့ကို နေရာဖယ်ပေးခြင်းအားဖြင့် အနောက်ရိုးမတလျှောက်တွင် အခြေစိုက်လာခဲ့ကြဟန်တူပေသည်။ ထိုမှတဆင့် အနောက်ဖက်အာသံပြည်နယ် မဏိပူရပြည်နယ်နှင့် အနောက်ပါကစ္စတန်ဖက်သို့ တဖြည်းဖြည်းရွှေ့ပြောင်းနေထိုင်ခဲ့ကြ၏။ လွန်ခဲ့သောနှစ်ပေါင်း ၅၀ အတွင်းခန့်တွင် ချင်းလူမျိုးအများပင် အရှေ့ဖက် ဧရာဝတီမြစ်ဝှမ်းမြေပြန့်ဒေသသို့ရင်း၊ ရခိုင်တိုင်းဒေသများသို့ရင်း ပျံ့နှံ့နေထိုင်လာကြသည်ကိုတွေ့ရသည်။

### ဘာသာစကားအလိုက် ချင်းအမျိုးကွဲပြားခြင်း

ချင်းလူမျိုးတို့ပြောဆိုသော ဘာသာစကားများကို လိုက်၍ ကသည်းခေါ် မေထေးအမျိုးနှင့် ချင်းရိုးရိုးဟု အမျိုးခွဲခြားသတ်မှတ်ထား၏။ ချင်းအမျိုးကို တဖန် ရေးကုကီ၊ မြောက်ပိုင်းချင်း၊ အလယ်ပိုင်းချင်း၊ တောင်ပိုင်းချင်းဟု ခွဲခြားပြန်သည်။ ပြောဆိုသောဘာသာစကားတို့မှာ ဘာသာတူအသံကွဲ စကားမျိုးသာပါဝင်သည်သာမက အခြေခံ၌ သာတူ၍ သီးခြားဘာသာစကားများ ကွဲပြားနေသည်လည်း ရှိသည်။ ထိုကြောင့် နိုင်ငံအတွင်း၌ပင် ချင်းဘာသာစကား ၄၄ မျိုးမျှ ကွဲပြားနေပေသည်။ ၁၉၄၁ ခု မြန်မာနိုင်ငံသန်ကောင်စာရင်းအရ ချင်းလူမျိုးဦးရေမှာ ၃၅၀,၀၀၀ ခန့်ရှိ၏။ ယင်းသို့ အမျိုးထွေပြားလှသော ချင်းလူမျိုးတို့အကြောင်းကို သိသာထင်ရှားအောင်ရေးသားရန်မှာ ဘာသာစကားလိုက် ခွဲခြားသတ်မှတ်၍ ဖေါ်ပြမှသာလျှင် လေ့လာသူတို့အတွက် ပိုမိုလွယ်ကူပေလိမ့်မည်။

(အထက်ပုံ) ဝုန်လင်ရှိချင်းလူမျိုးဇနီးမောင်နှံ

(အောက်ပုံ) ဇင်ဂျက်ချင်းအမျိုးသားနှင့်အမျိုးသမီး

## ကသည်းချင်းများ

ချင်းအမျိုးကို ၂ စားခွဲခြားထားရာတွင် ပဌမအမျိုးဖြစ်သော ကသည်းချင်း ခေါ် မေထေးချင်းတို့၏ အကြောင်းကို ကသည်းလူမျိုးတွင် စုံလင်စွာဖေါ် ပြထားသည်ကိုကြည့်ပါ။

## ချင်းရိုးရိုးများ

အထက် တွင် ဖေါ် ပြထား သည့် အတိုင်း ချင်းရိုးရိုး များ တွင်ပါဝင်သော ရှေးကုကီချင်း၊ မြောက်ပိုင်းချင်း၊ အလယ်ပိုင်းချင်း၊ တောင်ပိုင်းချင်းတို့ကို အောက်တွင်ပိုမို၍ရှင်းလင်းစွာသိသာရန် တမျိုးစီ သီးခြားဖေါ် ပြထားပါသည်။

## ရှေးကုကီချင်းများ

ရှေး ကုကီချင်း တို့သည် လွန် ခဲ့သော ၁၂၅ နှစ်လောက်ကတည်းကပင် အာသံနယ် လူရှေတောင်တန်းဒေသ၌ အခြေစိုက်လာခဲ့ဟန်တူသော်လည်း သာဒိုးချင်းများ ဝင်ရောက်နေထိုင်မှုကြောင့် မြောက်ဖက်သို့ရွှေပြောင်းပေးကြရာ လူရှေတောင်တန်းဒေသမြောက်ဖျားနှင့် မဏိပူရနယ်တို့တွင် ယခုတွေ့ရသည်။ ရှေးကုကီတို့၏ ဘာသာစကားမှာ အလယ်ပိုင်းချင်းတို့၏ ဘာသာစကားနှင့် နီးစပ်သည်ဟုဆို၏။ ဤချင်းမျိုးတွင် ပါဝင်သူတို့မှာ ကချာနယ် မြောက်ပိုင်း တိပါရတောင်၊ စီလဟက်တွင် အများဆုံးတွေ့ရသည်။ ထိုအပြင် ရန်ခေါ်နှင့်ဟာလမ်များ၊ မဏိပူရပြည်နယ်ရှိ အံနာလများ၊ ရခိုင်တောင်တန်းနယ်၊ ကုလားတန်မြစ် တဝိုက်ရှိ ကျော သို့မဟုတ် ချော များလည်းပါဝင်သည်။ ယင်း ချောလူမျိုး များကား လွန်ခဲ့သောနှစ် ၃၀၀ ကျော်အထက်က ရခိုင်မိဖုရား စောမဲကြီးသည် ဘုရားကျွန်အဖြစ် လှူဒါန်းခဲ့၍ ထိုအရပ်ဒေသသို့၍ ရောက်လာသည်ဟု သက်ကြီး စကားသက်ငယ်ကြား ရှေးသူဟောင်းတို့၏စကားတွင် ဖေါ်ပြထားသော လူမျိုးများဖြစ်သည်။

## မြောက်ပိုင်းချင်းများ

မြောက်ပိုင်းချင်းလူမျိုး တို့တွင်လည်း နီးစပ်ရာ ဘာသာစကားအလိုက် (က) သာဒိုးချင်းများနှင့် (ခ) စုတ်တေး ကမ်ဟောင်နှင့်စိယင်ချင်းများဟု ၂ စုခွဲထားသည်။

သာဒိုး (၆၀၀၀) နှင့် ယိုး (၁၄၀၀) တို့မှာ ယခင်က မြန်မာပြည်မတွင် နေခဲ့ကြဟန်တူ၏။ နှစ်ပေါင်း ၃၀၀၊၄၀၀ လောက်က နာဂတို့ဒေသဖြစ်သော စုံမရတောင်တန်းဒေသသို့ ဝင်ရောက်နေထိုင်လာကြသည်။ ယခုအခါတွင် တီးတိန်နယ်၏မြောက်ဖက် အစွန်ဒေသနှင့် မဏိပူရပြည် နယ်တို့တွင် တွေ့ရသည်။





(အထက်ပုံ) ဇဟောင်ချင်းအမျိုးသားနှင့်အမျိုးသမီး

(အောက်ပုံ)ငွန်ချင်းအမျိုးသားဇနီးမောင်နှံ

### စုတ်တေး၊ကမ်ဟောင်၊စိယင်

၁၉၃၁ ခု သန်ကောင်စာရင်းအရ စုတ်တေးချင်းဦးရေမှာ ၁၇,၀၀၀ ကျော်၊ ကမ်ဟောင်ချင်း ၂၀,၀၀၀ ကျော်နှင့် စိယင်ချင်း ၃၅၀၀ ကျော်ရှိကြောင်းသိရ၏။ ယင်းတို့မှာ အကြမ်းအားဖြင့် တီးတိန်နယ်တွင်နေကြ၍ တီးတိန်ချင်းဟုလည်း ခေါ်ကြသည်။ စုတ်တေးချင်းတို့သည် တီးတိန်နယ်မြောက်ပိုင်း မဏိပူရမြစ်ကမ်းများပေါ်တွင် နေကြသည်။ အထက်မြန်မာပြည် ကိုသိမ်းပိုက်စဉ်က ဗြိတိသျှတို့ အကျိတ်အနယ်တိုက်ယူရသောချင်းတို့မှာ စိယင်ချင်းများဖြစ်၏။ အမည်ရင်းမှာ ရှီယန်တေးဖြစ်၏။ မြန်မာတို့က သူတို့ကို စိယင်ဟုခေါ်ကြသည်။

စိယင်ချင်းတို့မှာ လူဦးရေနည်း၍ ရွာကြီး ဂ ရွာလောက်တွင် သာနေလင့်ကစား စစ်မှုထမ်းခြင်းတွင် လက်ဦးဖြစ်ခြင်း၊အသိဉာဏ်ကောင်းခြင်း၊ တိုးတက်လိုခြင်းတို့ကြောင့် အရေးပါလှသူများဖြစ်၏။ ဒေသအနှံ့အပြားသို့ ရောင်းဝယ်ဖေါက်ကားလေ့ရှိကြသဖြင့် နေရာအနှံ့အပြားသို့ရောက်သည့်အတိုင်း သူတို့၏စကားကို တီးတိန်နယ်တွင် အများ ပြောဆိုနိုင်၍ ထိုနယ်၏ရုံးသုံးစကားပင် ဖြစ်ခဲ့ပေသည်။ စိယင်ချင်းတို့သည် တီးတိန်၊ စုတ်တေးတို့၏အရှေ့ဖက်ဒေသတွင် နေထိုင်ကြသည်။ ပင်ပန်းခံကာကြိုးစားလုပ်ကိုင်၍ တတ်သိလိုစိတ်ရှိကြသည်။ ယောကျာ်းတို့သည် အမဲလိုက်ခြင်းနှင့် စစ်တိုက်ခြင်း၌ဝါသနာပါသည်။ အလုပ်ကြမ်းမှာမူ မိန်းမနှင့်ကျွန်တို့၏အလုပ်ဖြစ်သည်ဟု စိယင်ချင်းတို့ ဆိုရိုးစကားရှိသည်။ တီးတိန်နယ်ချင်းတို့သည် ဖလမ်းချင်း (ဝှန်လင်တို့မှတပါး) တို့နှင့်မတူဘဲ ဆံနောက်တွဲထုံးကြသည်။ မဏိပူရပြည်နယ်သို့သွားရာလမ်းမှာ ထိုချင်းတို့၏ဒေသကို ဖြတ်သန်းသွားသဖြင့် ယဉ်ကျေးမှုတွင်များစွာတိုးတက်လျက်ရှိကြသည်။

### အလယ်ပိုင်းချင်းများ

ဖလမ်းနှင့်ဟားခါးနယ်များတွင် နေကြသောချင်းများသည် အလယ်ပိုင်းချင်းဖြစ်၏။ ဖလမ်းနယ်ရှိ ချင်းတို့တွင် ရွှန်ကလ သို့မဟုတ် တရှုံချင်းများ (၁၀၀၀)၊ ဇဟောင် သို့မဟုတ် ယဟောင်ချင်းများ (၉၅၀၀)၊ လိုင်ဇို သို့မဟုတ် လွှန်စီအိုချင်းများ (၆၅၀၀)၊ ကွန်လီချင်းများ (၃၅၀၀)၊ ငွန် သို့မဟုတ် တပေါင်ချင်းများ (၆၀၀၀)၊ လူရှေ့ သို့မဟုတ် ငင်တေချင်းများ (၄၀၀၀)၊ ဝှန်လင်ချင်းများ (၃၅၀၀) နှင့်ဇင်ဂျက်ချင်းများ (၆၀၀၀) တို့ပါဝင်သည်။ ဤဒေသတွင် လိုင်ဇိုစကားကိုအသုံးများသည်။

ချင်းတောင်အခြားဒေသနှင့် နှိုင်းစာလျှင် ထိုဒေသတွင် လူဦးရေများပြား၏။ အိမ်ခြေ ၄၀၀ မျှရှိသောရွာကြီးတို့ကို တောင်စောင်းများတွင်တည်ဆောက်နေကြသည်။ ပြောင်း၊ ဗူးဖရုံတို့မှာ အဓိကအစာဖြစ်ပေသည်။ ဝတ်စားဆင်ယင်မှုနည်းပါးလှသည်။ ကိုယ်လုံးကိုယ်ဖန်အားဖြင့်အခြားချင်းတို့လောက်မတောင့်တင်းသော်လည်း ဆက်ဆံရေး၌ ပိုမိုကျွမ်းကျင်ကြ၍ မိတ်သင်္ဂဟပေါများကြသည်။

ယဟောင်တို့သည် မိမိတို့ပါသာ တောင်ရိုးတခုတွင် နေကြ၏။ စုတ်တေး နှင့်ကမ်ဟောင်တို့မှာ မိမိတို့မှဆင်းသက်သူများဟု ယူဆကြသည်။ ဝှန်လင်တို့ကား ကျန်နေရစ်ခဲ့သောလူရှေ့များဖြစ်၏။ တရှုံတို့မှာ တောင်ဖက်ဆီမှ ဟားခါးတိုတိုက်ခိုက်မှုကြောင့် ဖလမ်းသို့ ရွှေ့လာသူများဖြစ်၏။ ဤဒေသရှိ ချင်းအမျိုးစုတို့မှာ ရောနှောနေထိုင်ကြသည်။ ဒေသလိုက်အများသဘောတူရွေးကောက်တင်မြှောက်သောလူကြီး ၅ ဦးပါဝင်သည့် အဖွဲ့က စီမံအုပ်ချုပ်ကြလေသည်။

ဟားခါးနယ်ရှိချင်းများတွင် ဟားခါးနယ်မြောက်ပိုင်းနေလိုင် (ဟားခါး) ကလန်ကလန်နှင့် ယိုကွ (ပေါင်း ၂၄,၀၀၀)၊ တောင်ပိုင်းနေ လောထု (၁၀,၀၀၀)၊ ဇိုတုန် (၉၀၀၀)၊ ဆမ်တန် (၇၀၀၀) တို့ပါဝင်သည်။ ဗိုလ်မှူး အင်းရစ်က ဟားခါးချင်းစုစုပေါင်း ၆ဂ,၀၀၀ ခန့်ရှိမည်ဟုခန့်မှန်းသည်။



ချင်းအမျိုးသမီးများ အ သုံးလုံးသက်ကြီးသင်တန်းတက်နေကြစဉ်

ချင်းတောင်သူပုန်ထစဉ်က ဗြိတိသျှတို့လေးစားလောက်အောင် တိုက်ရည်ခိုက်ရည်ကောင်းစွာနှင့် တော်လှန်တိုက်ခိုက်ကြသည်။ စစ်ရည်စစ်သွေး ရှိသူများဖြစ်၍။ အယပ်အမောင်းကောင်း၍ သန်စွမ်းပင်ပန်းခံနိုင်သူများဖြစ်သည်။ အသိဉာဏ်ကောင်းသူများဖြစ်လင့်ကစား နေထိုင်ရာဒေသမှာ ရောက်ပေါက်ရန် ခဲယဉ်းခြင်းကြောင့် တိုးတက်သင့်သလောက်မတိုးတက်ကြပေ။ ဤဒေသတွင်လိုင် (ဟားခါး) စကားကိုအသုံးများကြ၍။ မိရိုးဖလာ ဆက်ခံလာသော အကြီးအကဲတို့က ဒေသလိုက်အုပ်ချုပ်ကြသည်။

ကမ္ဘာကိုရေလွှမ်းမိုးပြီးနောက် ကျန်နေသောဇနီးမောင်နှံမှပေါက်ဖွားလာသည်ဟု ဟားခါးချင်းတို့ ယုံကြည်ကြသည်။ အကြီးအကဲတို့မှာ ပိုးဖြင့်လုပဆန်းကြယ်စွာ ရက်လုပ်ထားသော လွှာချင်းများကိုရုံကြသည်။ ဝှန်လင်ချင်းတို့မှအပ ဤအလယ်ပိုင်းချင်းတို့သည် မိမိတို့ဆံကို ဦးခေါင်းထိပ်၌ သို့မဟုတ် နဖူးပေါ်၌ထုံးရစ်ကြသည်။ သို့ဖြစ်၍ မြန်မာတို့က ယင်းတို့အားဗောင်းရှည်ဟုခေါ် ဝေါ်ကြသည်။

## လူရှေနှင့်လခါ

အလယ်ပိုင်းချင်းတို့တွင် လူရှေနှင့် လခါချင်းတို့ကိုပါထည့်သွင်းရပေမည်။ မြန်မာနိုင်ငံမှ အာသံပြည်နယ်ဖက်သို့ ရွှေ့ပြောင်းခဲ့ကြသဖြင့် မြန်မာနိုင်ငံအတွင်းမှာ ထိုလူများကို အနည်းငယ်သာတွေ့နိုင်ပေသည်။ လူများစုမှာမူ နိုင်ငံပြင်၌ နေထိုင်ကြ၍။ ရခိုင်တောင်တန်းနယ် မြောက်ပိုင်းတွင် လခါများရှိသေးရာ ထိုဒေသ၌ ယင်းတို့ကို ရခိုင်တို့က ရှမ်းတုဟုခေါ်ကြသည်။ (လခါ၊ လူရှေ — ရှူ။)

## တောင်ပိုင်းချင်းများ

တောင်ပိုင်း ချင်းများတွင် ပါဝင်သူတို့မှာ ပခုက္ကူတောင်တန်းဒေသ၊ ချင်းတောင်နှင့် ရခိုင်တောင်တန်းဒေသတို့ဆုံရာခေါင်လှသည့်ဒေသတွင်နေထိုင်ကြသည်။ ဝေလောင်ချင်းများ၊ တမန်း (၇) များ (၇၀၀၀)၊ မိရမ်များ (၅၀၀၀)၊ ဇိုလမ်နီများ (၂၅၀၀) နှင့်မဂန်ခေါ်ကြိမ်ပတ်ချင်းများ (၃၀၀၀) တို့အပြင် ပခုက္ကူတောင်တန်းဒေသနေ ချင်းများ၊ မင်းဘူး၊ သရက်မြို့၊ ပြည်ခရိုင်များနှင့် ရခိုင်တိုင်းနေချင်းများပါဝင်ကြသည်။

## ပခုက္ကူတောင်တန်းဒေသ

(ချင်းပုတ်၊ချင်းပုန်းနှင့်ယင်ဒူးများ)

ပခုက္ကူတောင်တန်းဒေသတွင် ချောင်း ၁၀ ချောင်းရှိရာ ထိုချောင်းတို့အနက် မြောက်ဖက်ပိုင်း ၇ ချောင်းတွင် ချင်းပုတ်ခေါ် ကန်ပက်လက်ချင်းတို့(၂၀,၀၀၀) နေထိုင်၍ တောင်ဖက်ကန်ပက်လက်အထက် စလင်းနှင့် အခြားတချောင်းတွင် ယင်ဒူးတို့ (၄၅၀၀) နေထိုင်ကြ၍။ မုန်းချောင်းနှင့် ထိုချောင်း၏မြောက်ဖက်နှင့် ဆောမြို့၏ တောင်ဖက်တွင် ချင်းပုန်း (၇၀၀၀) တို့ကိုတွေ့ရ၏။ ထိုမှသည် တောင်ဖက်မင်းဘူးခရိုင်သို့ ပျံ့နှံ့နေထိုင်ကြသည်။

ဤချောင်းများတွင် ချင်းတို့သည် ၁၅ အိမ်၊ အိမ် ၂၀ အစုဖြင့် ရွာကလေးများတည်၍ နေထိုင်ကြ၏။ ထိုအိမ်စုကလေးများကို ပေါင်းကာ ချောင်းအလိုက်အုပ်ချုပ်ရန် ချောင်းအုပ်များကို ခန့်ထားခဲ့လေသည်။ ချောင်းအုပ်တို့မှာ အစိုးရလခစားများဖြစ်၍ ချင်းတောင်ဒေသရှိ အကြီးအကဲများကဲ့သို့ဩဇာအာဏာမရှိကြပေ။

ချင်းပုတ်တို့မှာ အယူသည်း၍ ဗဟုသုတနည်းပါးကြသည့်အတိုင်း တိုးတက်မှုမရှိလှပေ။ နတ်ကိုးကွယ်မှုကို လေးနက်စွာယုံကြည်ကြ၏။ နတ် မမေးဘဲမည်သည့်အမှုကိုမျှ မပြုလိုကြသဖြင့် ယင်းတို့နှင့်ဆက်ဆံရန်မှာ မလွယ်ကူလှပေ။ မင်းတပ်၊ ကန်ပက်လက်တဝိုက်ရှိ ချင်းပုတ်တို့မှာ တောလိုက်ရာ၌ကျွမ်းကျင်ကြသည်။ ၅ ပေမျှရှည်သောလေးနှင့် သတ္တုအဖျားတပ်ထားသောမြားများ၊ ဓါးတို့များကို အမြဲဆောင်သည်။ လေးကြိုးရိုက်ခြင်းမှကာကွယ်နိုင်ရန် ယွန်းချထားသောကြိမ်လက်ပတ်ကို လက်ဝဲလက်တွင်ဝတ်ဆင်ကြသည်။ အမျိုးသားများသည် အဝတ်အထည်ကို လုံလုံလဲလဲမဝတ်ဆင်ကြချေ။ အမျိုးသမီးတို့မှာ ပေါင်လယ်ထိသာရောက်သောသင်တိုင်းများကိုဆင်မြန်းကြ၏။ ထိုသင်တိုင်းများကို ခက်ခဲဆန်းကြယ်စွာရက်လုပ်ထားပေသည်။

ချင်းဝိသေသတိုင်းရှိမဟာမာန်အောင်စေတီ



အမျိုးသားတူရိယာအစုံကိုတီးမှုတ်နေကြသောခမွီချင်းတစု

မင်းတပ်နှင့် ကန်ပက်လက်နယ်ရှိချင်းတို့ကို ချင်းပုတ်ဟုခေါ်လျှင် မနှစ်သက်ကြချေ။ သူတို့နေထိုင်ရာချောင်းကိုစွဲ၍ အမျိုးနာမည်ကိုမှည့်ခေါ်လေ့ရှိသည်။ သို့သော် လူမျိုးခွဲဗေဒအလိုငှာ ချင်းပုတ်ဟုသုံးကြလေသည်။

တောင်ပိုင်းချင်းအချို့တို့သည် များသောအားဖြင့် မျက်နှာတွင် ပယဲထိုးကြသည်။ ထိုးသည့်ပုံစံမှာ လူမျိုးစုကိုလိုက်၍ကွဲပြား၏။ အသက် ၇ နှစ် ၈ နှစ်လောက်မှစ၍ နှစ်စဉ်နှစ်တိုင်း မျက်နှာပြည့် သည့်တိုင်အောင် ထိုးကြသည်။ ပယဲထိုးရသည့်အကြောင်းမှာ အခြားလူမျိုးကဖမ်းဆီးသွားသော် လွယ်ကူစွာရှာဖွေနိုင်ရန်အတွက် ဖြစ်သည်ဟုဆို၏။ ချင်းပုန်းတို့မှာ ဗုဒ္ဓအယူဝါဒကို အများအပြားသက်ဝင်ယုံကြည်ကြသည်။

ချင်းတောင်၏အရှေ့ဖက် တောင်ခြေရင်းတွင် များစွာမြန်မာဆန်လှသော တောင်သားများ (၁၁,၀၀၀) သည် တကောင်းပန်းဘဲမောင်တင့်တယ်မှ ဆင်းသက်ခဲ့၍ တချိန်က ပုပ္ပါးတောင်တွင် နေခဲ့ကြသည်ဟုယုံကြည်ကြသည်။ ချင်းများသည် မြန်မာများနှင့် အိမ်ထောင်ပြုခြင်း မရှိကြပေ။ ပိုးများကိုမွေးမြူ၍ ယောပုဆိုးများကိုရက်လုပ်ကြသည်။

မြန်မာပြည်မအတွင်း တောင်ဖက်အကျဆုံးချင်းတို့မှာ ရှိုသို့မဟုတ် အရှိုချင်းများဖြစ်၏။ ၁၉၂၁ ခု သန်ကောင်စာရင်းတွင် လူဦးရေပေါင်း ၆၀,၀၀၀ ကျော်ပြထားသော်လည်း ၁၉၃၁ ခုနှစ်မှ ၁၅၀၀ ကျော်သာပြထားသည်။ ထိုသန်ကောင်စာရင်းတွင် သီးခြားအမည် ခွဲခြားဖော်ပြခြင်း မရှိသောချင်းလူမျိုးဦးရေ ၉၀,၀၀၀ ရှိသည့်အနက် ၄၀,၀၀၀ ကျော်မှာ မကွေးတိုင်းအတွင်း၌ ဖော်ပြထားပေသည်။

## ရခိုင်တိုင်း

ရခိုင်တိုင်းရှိချင်းလူမျိုးတို့တွင် လူဦးရေအများဆုံးမှာ ခမွီသို့မဟုတ် ခမွေလူမျိုးဖြစ်၏။ လူဦးရေ ၃၀,၀၀၀ မျှရှိ၍ စစ်တွေခရိုင်တွင် ၃ ပုံ ၂ ပုံ၊ ရခိုင်တောင်တန်းဒေသတွင် ၃ ပုံ ၁ ပုံပျံ့နှံ့လျက်ရှိသည်။ အခြားချင်းလူမျိုးများမှာ ပခုက္ကူတောင်တန်းနယ်ရှိ ချင်းပုန်း၊ ယင်ဒူး တို့နှင့်နွယ်သော ပို၊



ဝါကြိတ်နေသော ချင်းအမျိုးသမီးတဦး



ချင်းအမျိုးသားနှင့်အမျိုးသမီး

မုံယင်၊ ကို၊ ကယင်တို့ဖြစ်သည်။ ယင်းတို့ကို ကျောက်ဖြူနှင့် စစ်တွေခရိုင်တွင်တွေ့ရ၏။ ခမ္မိ သို့မဟုတ် ခမွေတို့ကို့ ရခိုင်တောင်တန်းဒေသ၊ စစ်တကောင်းခရိုင် တောင်ကုန်းဒေသတို့တွင်တွေ့ရ၏။ အရိုင်းနှင့် အဝဟု ၂ မျိုးကွဲသေးသည်။ အရိုင်း ခမ္မိတို့ အား တနည်း အားဖြင့် အဖျား ခမ္မိဟုလည်း အချို့တို့က ခေါ် သည်။

အခြား ချင်း အမျိုး များ မှာ ရခိုင် တောင် တန်း ဒေသရှိ တောင်ဆို (၁၀၀၀)၊ စစ်တွေခရိုင်ရှိ ကောကဒန် (၃၀၀)၊ ကျောက်ဖြူခရိုင်တွင် အများဆုံးတွေ့ရသော လဲဒူ (၁၇၀၀)၊ စစ်တု (၅၀၀၀)၊ မတု (၁၅၀) နှင့်ချောင်းကြီးချင်း (၃၆) တို့အပြင် ကျောက်ဖြူနယ်အတွင်းတွင်အများဆုံးအခြေတည် နေထိုင်၍ သံတွဲနယ်အတွင်းတွင် အနည်း အကျဉ်းသာနေထိုင် သည် ကို တွေ့ရသော စိုင် ဘောင် ချင်း (၈၀၀၀) တို့ ဖြစ်လေသည်။

အထူးသဖြင့် တီးတိန်နယ်မှချင်းတို့သည် ကုန်းဘောင်ခေတ်မြန်မာဘုရင် များ လက်ထက် စော်ဘွားနယ်အဖြစ်ဖွဲ့စည်းထား၍ ခေါင်းဆောင်တို့မှာ စော်ဘွားအဖြစ် ခြီးမြှင့်ခြင်းခံခဲ့ရသော လူမျိုးများဖြစ်ပေသည်။ ထိုစဉ်ကတည်းကပင် မြန်မာနိုင်ငံ၏အရေးတွင် ပါဝင်ဆောင်ရွက်လိုသော တိုင်းရင်းသားများဖြစ်၏။ အထက်မြန်မာပြည်ကို ဗြိတိသျှတို့သိမ်းပိုက်ပြီးနောက် ချင်းတောင်တွင် အုပ်ချုပ်မှုအခြေစိုက်ရန်ကြိုးစားရာတွင် ၁၈၈၈ ခုနှစ်မှ ၁၈၉၆ ခုနှစ်ထိ ဗြိတိသျှတို့ကိုခုခံတိုက်ခိုက် ခဲ့ကြသည်။ အခြေစိုက်အုပ်ချုပ်မိသည်တိုင်အောင် ၁၉၁၇၊ ၁၈ ခုနှစ်တွင် ဟားခါးနှင့်ကုကီချင်းတို့က ၂ နှစ်ကြာမျှတော်လှန်တိုက်ခိုက်ခဲ့ကြ၏။

ပဌမကမ္ဘာစစ်အတွင်း ၁၉၁၇ ခုနှစ်က ချင်းအမျိုးသား ၁၀၀၀ ခန့် ကို အလုပ် သမား တပ် အဖြစ် ပြင်သစ်နိုင်ငံသို့ ဗြိတိသျှတို့ကပို့ခဲ့လေသည်။ ၁၉၂၁ ခုနှစ်တွင် အမှတ် ၄/၂၀ ချင်း သေနတ် ကိုင် တပ် ကို ဖွဲ့ခဲ့၏။ ၁၉၃၇ ခု နှစ်တွင် အိန္ဒိယပြည်နှင့် မြန်မာပြည်ခွဲခွာပြီးသည့် နောက်သော် မြန်မာသေနတ်ကိုင်တပ်များဖွဲ့စည်းရာတွင် တပ်တိုင်း၌လိုလိုပင် ချင်းအမျိုး သားတို့ ဝင်ရောက်အမှုထမ်းခဲ့သည်ကို တွေ့မြင်သိရှိရပေသည်။

လွတ် လပ် ရေး ရပြီး သည့်နောက် ချင်းအမျိုးသားတို့မှာ များစွာနိုးကြားတိုးတက်လာ၏။ တောင်တန်းဗုဒ္ဓသာသနာပြု အဖွဲ့၏ ကြိုး စား မှု ကြောင့် ချင်း အချို့တို့သည် ဗုဒ္ဓအယူဝါဒကို စတင်ယုံကြည်လာကြလေပြီ။ အုပ်ချုပ်မှုဖက်တွင် ချင်းဝိသေသတိုင်းဟု သတ်မှတ်ကာ ဝန်ကြီးတဦးက ဦး ဆောင်၍ အုပ် ချုပ် လာရာ လမ်းပန်းဆက် သွယ် ရေး၊ ပညာရေး၊ စီးပွားရေးနှင့်ကျန်းမာရေးတို့ဖက်တွင် ထူးခြားစွာတိုးတက်လာသည်နှင့်အမျှ ချင်းဝိသေသတိုင်းသည် ယခုအခါ ပြည်ထောင်စုအတွင်း၌ ခေတ်နှင့်ယှဉ်ပေါင်တန်းလိုက်နိုင်အောင် ကြိုးစားတိုးတက်လျက်ရှိပေသည်။ ဖေဖွာရီလ ၂၀ ရက်နေ့ကိုချင်းအမျိုး သားနေ့ဟု ပြည်ထောင်အစိုးရက အသိအမှတ်ပြုထားလေသည်။ (ချင်းဝိသေသတိုင်း — ရှု။)

ဦးဘရှင်။



ဖလမ်းမြို့အနီးရှိ ချင်းရွာမှဆားချက်သမားများနှင့် ချက်ပြီးဆားခဲများ

**ချောင်းဆိုးခြင်း။** ။ချောင်းဆိုးခြင်းသည် အကြောင်းအမျိုးမျိုးကြောင့် ဖြစ်တတ်သည်။ အဆုတ်မြေးရောင်လျှင် ချောင်းဆိုးရောဂါ ဖြစ်နိုင်၏။ အဆုတ်မြေးရောင်ခြင်းသည် ရုံဖန်ရံခါ တီဘီရောဂါနှင့်ယှဉ်၍ ဖြစ်တတ်လေသည်။ အဆုတ်အတွင်းရှိ သွေးကြောအချို့ ပေါက်သွားခြင်းကြောင့်လည်း ချောင်းဆိုးရောဂါ ဖြစ်နိုင်၏။ အဆုတ်သည် သွေးကိုစုဆောင်းထားရာ အင်္ဂါမဟုတ်သည့်အတွက် ချောင်းဆိုးလိုက်သောအခါ သွေးသည် ချွဲသလိပ်နှင့်အတူ ပြင်ပသို့ ထွက်လာ၏။ ဤသို့ဖြစ်ခြင်းကို ချောင်းဆိုးသွေးပါသည်ဟု ဆိုသည်။ အဆုတ်ထဲသို့ တျူဗါကယ်များဝင်နေခြင်းကြောင့်လည်း ချောင်းဆိုးရောဂါ ဖြစ်နိုင်သေး၏။ အဆုတ်တွင် တျူဗါကယ်ရှိနေလျှင် အများအားဖြင့် အမြစ်ခြောက်နာ စွဲကပ်တတ်သည်။

တခါတရံ လေပြွန် ၌ရင်း၊ ဗရွန်ကပ်လေရှူပြွန် ၌ရင်း၊ အဆုတ်၌ရင်း မည်သို့မျှပေါက်ပြန်ခြင်းမရှိဘဲလျက် လည်ချောင်းနောက်ပိုင်းတွင် ယားယံတတ်၏။ လျှာခင် ရှည်နေသောအခါ လည်ချောင်း၏ နောက်ဖက်ပိုင်းကို ယားယံစေတတ်သည်။ အထူးသဖြင့် လဲလျောင်းနေချိန်တွင် လျှာခင်သည် လည်ချောင်းနှင့်ထိခိုက်၍ မနားမနေ ချောင်းဆိုးတတ်၏။ ပါးသိရောင်ခြင်း၊ လည်ချောင်းနောက်ဖက်ပိုင်းရှိ အမြေးထူနေခြင်း၊ လေပြွန်အိမ်တွင် သို့မဟုတ် လေပြွန်အိမ်အနီးအနားတွင် ပေါလိပ် အဖုထွက်ခြင်း စသည်တို့ကြောင့်လည်း ချောင်းဆိုးတတ်၏။ အသက်ရှူရာနှင့် ဆက်သွယ်သော နှစ်ကြောများ ဖုရောင်ခြင်းကြောင့်လည်း ချောင်းဆိုးနိုင်၏။ ထိုချောင်းမျိုးဆိုးရာတွင် အသက်ရှူရ အလွန်ကျပ်၏။ ဝမ်းပိုက်တွင်းရှိသော အင်္ဂါများ၊ အထူးသဖြင့် ဒိုင်ယာဖရမ်နှင့် ပူးကပ်လျက်တည်ရှိသော အင်္ဂါများ၏ ပေါက်ပြန်မှုကြောင့်လည်း ချောင်းဆိုးနိုင်၏။ အသည်းရောင်သောကြောင့်လည်း ချောင်းဆိုးနိုင်၏။ အသည်းရောင်ရာတွင် တျူဗါကယ်နှင့်စပ်ဆိုင်သော ပစ္စည်းများသည် အသည်းတွင် ပိတ်ဆို့နေတတ်၏။ အစာအိမ်ပေါက်ပြန်လျှင်လည်း သလိပ်ကင်းသောချောင်းမျိုး ဆိုးတတ်၏။ ထိုကြောင့် ချောင်းတချက်ဆိုးခြင်း သို့မဟုတ် ချောင်းဆိုးရာတွင် အားရတင်းတိမ်ခြင်းမရှိခြင်းသည် အများအားဖြင့် အစာမကြေခြင်း၏ လက္ခဏာဖြစ်၏။ ကျောက်ကပ်၊ ပန်ကရိ၊ သရက်ရွက်တို့၏ ပေါက်ပြန်မှုကြောင့်လည်း ချောင်းဆိုးနိုင်၏။ အချုပ်အားဖြင့် ဝမ်းပိုက်အတွင်းရှိ အင်္ဂါများပေါက်ပြန်လျှင် ချောင်းဆိုးရောဂါ ဖြစ်တတ်ပေသည်။



ကြက်ညှာချောင်းသည်ကလေးများတွင်အလွန်ကူးစက်လွယ်သည်။

ချောင်းဆိုးခြင်းသည် ဗရွန်ကိုက်တစ် ရင်ကျပ်နာ၊ တီဘီရောဂါ၊ အဆုတ်ရောင်နာ၊ ကြက်ညှာချောင်းစသောရောဂါများ၏ လက္ခဏာများဖြစ်နိုင်၏။ အဆုတ်ကိုဆက်သွယ်သောပြွန်ချောင်းနှင့် လေဝင်ထွက်ရာ လမ်းကြောင်းများကိုပြင်ပအညစ်အကြေးမှ ကင်းရှင်းစေရန်မျှသာ ချောင်းဆိုးခြင်းသည် ကျန်းမာရေးနှင့်ညီညွတ်၏။ ချောင်းဆိုးလွန်ခြင်းသည် ရင်ပတ်ကြွက်သားနှင့် ဝမ်းပိုက်ကြွက်သားများကိုနာကျင်စေတတ်သဖြင့် အဆက်မပြတ်ချောင်းဆိုးခြင်းကိုပျောက်အောင်ကုသသင့်၏။

ကြက်ညှာချောင်းသည် အလွန်ကူးစက်လွယ်သောရောဂါဖြစ်၍ ကြီးပြင်းသောသူများထက် ကလေးသူငယ်များ၌အများအားဖြင့် ဖြစ်တတ်၏။ ကြက်ညှာချောင်းစွဲကပ်ရာမှ တဆင့်တိုး၍ ဗရွန်ကိုက်တစ် ရင်ကျပ်နာ၊ အဆုတ်ရောင်နာ၊ သွေးလွန်နာနှင့် တက်နာဖြစ်ပြီးလျှင် လူအမြောက်အမြား နှစ်စဉ် နှစ်တိုင်း

သေကြေကုန်ကြ၏။ ကြက်ညှာရောဂါကြောင့် လူနာသည် တခါတရံ မျက်စိကန်းနိုင်၏။ နားပင်းနိုင်၏။ တီဘီရောဂါကိုလည်းလွယ်ကူစွာ စွဲကပ်နိုင်လေသည်။

ကလေးသူငယ်တွင် ကြက်ညှာချောင်း စွဲကပ်နေလျှင် ထိုကလေးကို အခြားကလေးများနှင့် နီးနီးကပ်ကပ်မနေစေရန် မိခင်က သတိပြုရမည်။ ပါးစပ်မှထွက်လာသော တံတွေးမှုန်အားဖြင့် ဤရောဂါသည် ပြန့်ပွား ကူးစက်နိုင်၏။ ချောင်းဆိုးနေချိန်တွင် ပါးစပ်မှထွက်လာသော တံတွေးမှုန်နှင့် နှာခေါင်းမှထွက်လာသော နှာရည်မှုန်များ ပြင်ပသို့လွင့်စင်မသွားရအောင် အဝတ်ပိုင်း၊ အဝတ်စကလေးများဖြင့် နှာခေါင်းနှင့် ပါးစပ်ကို ဖုံးအုပ်ထားသင့်၏။ ပေကျံနေသော အဝတ်စကို မီးရှို့ပစ်ရမည်။ လူနာ၏ အသုံးအဆောင်ဖြစ်သော ပန်းကန်ပြား၊ ဇွန်း၊ ခက်ရင်း၊ လက်သုတ်ပုဝါနှင့် မျက်နှာသုတ်ပုဝါများကို သီးခြားထားရှိရမည်။ ကလေးသူငယ်ကို နေ့စဉ်စားနေကျ အာဟာရဖြစ်မည့် အစားအစာကို စားစေ၍ လေကောင်းစွာရသောအခန်းတွင် အိပ်စေရမည်။ ကလေးသူငယ်အား ဖလန်နယ်စသော အနွေးထည်များကို ဝတ်နေကျအဝတ်များ အောက်တွင်ခံ၍ ဝတ်ပေးသင့်၏။ လေကောင်း လေသန့်သည် ဤရောဂါပျောက်ကင်းရာ ပျောက်ကင်းကြောင်းတွင် အကူအညီ အထောက်အပံ့တရပ် ဖြစ်ပေသည်။

ချောင်းဆိုးခြင်းသည် အခြားရောဂါကြီးများဖြစ်အောင် လမ်းခင်းပေးတတ်သဖြင့် ချောင်းဆိုးရောဂါ ဖြစ်သည်ဟု အထင်ရှိလာလျှင် တတ်ကျွမ်းနားလည်သော ဆရာဝန်များထံ၌ အစစ်အဆေးခံကာ အမြန်ဆုံးပျောက်ကင်းအောင် ကုသရပေမည်။

**ချောင်းဆုံမြို့။** ။ချောင်းဆုံမြို့သည် မြန်မာနိုင်ငံအောက်ပိုင်း တနင်္သာရီတိုင်း ကျိုက္ခမီခရိုင်ရှိ ဘီလူးကျွန်းတကျွန်းလုံး အပါအဝင်ဖြစ်သော ချောင်းဆုံမြို့နယ်၏ ရုံးစိုက်ရာမြို့ ဖြစ်သည်။ ဘီလူးကျွန်း၏ အလယ်ချိုင့်ဝှမ်းတွင်တည်ရှိ၍ ရှေးအခါကပင် အစည်ကားဆုံးသော ရွာတန်းရှည်ကြီးဖြစ်သည်။ မြို့ပိုင်ရုံး၊ ရဲဌာန၊ စာပို့တိုက်၊ ဆေးရုံ၊ စျေးနှင့်နိုင်ငံတော်အထက်တန်းကျောင်းရှိ၏။ ဘီလူးကျွန်း၏တောင်ဖက်အစွန်ရှိ မူးရစ်ကလေးရွာသို့ငှင်း၊ မြောက်ဖက်အစွန်ရှိ ကလို့ရွာသို့ငှင်း၊ အရှေ့ဖက်အစွန်ရှိ နတ်မော်သင်္ဘောဆိပ်သို့ငှင်း မော်တော်ကားများနှင့် သွားလာနိုင်၍၊ နတ်မော်မှတဆင့် မော်လမြိုင်သို့ ကူးတို့သင်္ဘောရှိသည်။

ချောင်းဆုံမြို့နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင်



ချောင်းဆုံမြို့ကန်အလယ်တွင်တင့်တယ်စွာတည်ရှိသောရေသိမ်

၂၄၅၇ ဖြစ်သော်လည်း စပါးစိုက်ပျိုးသော ဧရိယာမှာ စတုရန်းမိုင် ၁၉၀ သာဖြစ်သည်။ သို့ရာတွင် မြေသြဇာ ထက်သန်ကောင်းမွန်၍ မြန်မာနိုင်ငံတွင် အကောင်းဆုံး ဆန်စပါးထွက်ရာ မြို့နယ်တခုဖြစ်သည်။

ချောင်းဆုံမြို့၏လူဦးရေမှာ ၁၉၅၃ ခုသန်ကောင်စာရင်းအရ ၃၂၉၀ ခန့်ဖြစ်သည်။

**ချောင်းတာလိုင်းငှက်။** ။စစ်တလိုင်းငှက် — ရှု။

**ချောင်းဦးမြို့။** ။ချောင်းဦးမြို့သည် မုံရွာခရိုင် (အောက်ချင်းတွင်းခရိုင်) အတွင်းရှိ၊ မြို့ပိုင်ရုံးစိုက်ရာ မြို့တမြို့ဖြစ်သည်။ ဒုတိယကမ္ဘာစစ် မဖြစ်မီက၊ စစ်ကိုင်းခရိုင်အတွင်း မြင်းမူနယ်အပိုင်၊ မြို့ပိုင်ရုံးစိုက်ရာမြို့ ဖြစ်ခဲ့သည်။ စစ်ပြီးနောက်၌၊ ခရိုင်ရုံးစိုက်ရာမြို့နှင့်ဝေးကွာ၍ အုပ်ချုပ်ရေးလုပ်ငန်း တွင်ကျယ်မှုမရှိသဖြင့်၊ နီးစပ်ရာ မုံရွာခရိုင်အတွင်း သွတ်သွင်းထားခဲ့သည်။ စစ်ကိုင်း ရေဦးသွား ရထားလမ်း

နှင့် ကားလမ်းများအပေါ်၌ တည်ရှိ၍၊ မြင်းမူမြို့နှင့် ၂၂ မိုင်ဝေးကွာပြီးလျှင်၊ မုံရွာမြို့နှင့် ၁၄ မိုင်ဝေးသည်။

မြို့၏အကျယ်အဝန်းမှာ၊ စတုရန်းမိုင် ၂ မိုင်ခန့်ရှိ၍၊ နိုင်ငံတော်အထက်တန်းကျောင်း၊ စာပို့တိုက်၊ ရဲဌာန၊ ဆေးရုံနှင့်တကွ ဈေးရုံအဆောက်အအုံများဖြင့် စည်ကားစွာ တည်ရှိသည်။ ဒုတိယကမ္ဘာစစ်အတွင်း စစ်ဒဏ်ကို လုံးဝမခံရသော မြို့တမြို့ဖြစ်၍ အပျက်အစီးမရှိ၊ ရှေးကအတိုင်း တည်ရှိသည်။

သမိုင်းအရ၊ ရှေးအခါက 'ချောင်းဦးဆယ်ရွာ' ဟု ထင်ရှားခဲ့၍၊ ပုဂံပြည် စောရဟာမင်းကြီးလက်ထက်၊ သက္ကရာဇ် ၂၇၇ ခုနှစ်၊ မိဂသီနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၄ ရက်၊ တနင်္ဂနွေနေ့တွင်၊ ရွာတည်သည်။ ရွာတည်ရာအရပ်၌ အစဉ်အလာအရ၊ ဓာတ်အင်းများမြှုပ်နှံရာတွင်၊ တူးရွင်းသံမီးတောက်သောကြောင့် 'သံတောက်ရွာ' ဟု သမုတ်စေပြီးလျှင်၊ ထိုရွာကို ရွာမပုံ၍ ရွာပေါင်း ၁၀ရွာပြုစုခဲ့ရာမှ 'သံတောက်ဆယ်ရွာ' ဟု တွင်လာသည်။ ထိုနောက်မှ 'ချောင်းဦးဆယ်ရွာ' ဟု ပြောင်းလဲခေါ်တွင်လာသည်။

ချင်းတွင်းမြစ်နှင့် ၆ မိုင်ဝေးကွာ၍၊ ကုန်းပိုင်းလည်းမကျ ရေပိုင်းလည်းမက ဗဟိုဒေသ၌ တည်ရှိသောကြောင့်၊ ယာလုပ်ငန်း၊ လယ်လုပ်ငန်းများဖြင့်၊ အရောင်းအဝယ်ဖွံ့ဖြိုးသော မြို့တမြို့ဖြစ်သည်။ ပဲ၊ ပြောင်း၊ နှမ်း၊ ဝါနှင့်စပါးများ ထွက်သည်။ မြို့၏လူဦးရေမှာ ၁၉၅၃ ခုနှစ်တွင်ကောက်ယူခဲ့သော သန်ကောင်စာရင်းအရ၊ ၆၄၄၂ ယောက်ခန့်ရှိလေသည်။

**ချိုင့်ဝှမ်းမြစ်ဝှမ်းများ။** ။ချိုင့်ဝှမ်းများသည် သာမန်အားဖြင့် မြေအောက်လှုပ်ရှားမှုကြောင့် ဖြစ်ပေါ်လာတတ်သည်။ မြေအောက်လှုပ်ရှားမှုကြောင့် မြေမျက်နှာပြင်ထက်၌ မြေကြီးသည် စုန့်တက်လာပြီးလျှင် တောင်တန်းများဖြစ်ပေါ်လာတတ်၍ အပေါ်ယံမြေလွှာတွင် တွန့်ခေါက်ကြောင်းများ သို့မဟုတ် မြေလွှာပြတ်လွဲကြောင်းများ ဖြစ်ပေါ်လာတတ်လေသည်။ ယင်းသို့ဖြင့် ပေါ်ပေါက်လာသော ချိုင့်ဝှမ်းများအပြင် မြေဆီလွှာနှင့် ကျောက်မာတို့တိုက်စားခြင်းခံရသဖြင့် ပေါ်ပေါက်လာသော ချိုင့်ဝှမ်းများလည်းရှိသေးသည်။ ချိုင့်ဝှမ်းအားလုံးလိုလိုပင် တောင်တန်းများအကြားတွင် ရှိတတ်သည်။ အချို့မှာ တောင်တန်းများနှင့် ယှဉ်ပြိုင်တည်ရှိကာ၊ အချို့မှာ တောင်တန်းများကို ကန့်လန့်ဖြတ်၍တည်ရှိ၏။ ထိုသို့ ကန့်လန့်ဖြတ်တည်ရှိသော ချိုင့်ဝှမ်းများမှာ အများအားဖြင့် တောင်တန်းအပြတ် တနေရာကိုတိုက်စား စီးဆင်းသွားသောမြစ်ချောင်းတို့ကြောင့် ဖြစ်ပေါ်လာတတ်သည်။ ယင်းတို့မှာ ကျဉ်းမြောင်း နက်ရှိုင်းပြီးလျှင် ယင်းတို့တလျှောက် မြစ်



ချောင်းဦးမြို့တွင်ထင်ရှားသောရတနာသရွေဂူစေတီတော်



အာဖဂနိစတန်နိုင်ငံကာဗူမြို့အနီးရှိထင်ရှားသောခိုင်ဗာတောင်ကြားလမ်း

ချောင်းများစီးဆင်းတတ်သည်။ ချိုင့်ဝှမ်းအောက်ခြေမှာလည်း ထိုမြစ်ချောင်း အောက်ခင်းပြင်ထက်ပင် မကျယ်တတ်ပေ။

ထိုကန့်လန့်ဖြတ် ချိုင့်ဝှမ်းမျိုးသည် တောင်တန်းအမြင့်ပိုင်းတွင် တည်ရှိသောအခါ ယင်းတို့တလျှောက် တောင်ကြားလမ်းများကို တွေ့ရတတ်၏။ တောင်ကြားလမ်းများမှာ စစ်တပ်များ၊ ကုန်သည်များ စသည်တို့ ချီတက်ကူးသန်းသွားလာရာ လမ်းမကြီးများအဖြစ် အလွန်အရေးပါလေသည်။ ထင်ရှားသော တောင်ကြားလမ်း ကြီးတခုမှာ အာဖဂနိစတန်နိုင်ငံ ကာဗူမြို့အနီးရှိ ခိုင်ဗာ တောင်ကြားလမ်းဖြစ်ပေသည်။

ချိုင့်ဝှမ်းများကို ပုံပန်းသဏ္ဍာန်အလိုက် သက်နု သက်ရင့်နှင့် သက်ကြီးဟူ၍ ၃ မျိုး ၃ စားခွဲခြားနိုင်သည်။ သက်နုချိုင့်ဝှမ်းသည် နက်စောက်၍ ကျဉ်းမြောင်းသည်။ ချိုင့်ဝှမ်းအလယ်တွင် မကြာမတင်ကမှ ဖြစ်ပေါ်လာသည့် ရေစီးသန်သောချောင်းတခုရှိတတ်သည်။ သက်ရင့်ချိုင့်ဝှမ်းသည် နက်ရှိုင်း၍ကျယ်သည်။ ချိုင့်ဝှမ်းကမ်းပါးများသည် ပြေပြေပြစ်ပြစ် မြင့်တက်သွားတတ်သည်။ သက်ကြီးချိုင့်ဝှမ်းကား အလွန်ကျယ်၍ အောက်ခြေပြန့်သည်။ ကမ်းပါးများသည် အလွန်အမင်း နိမ့်လျှောနေတတ်သည်။ မြေပျော့ပေါ်၌ စီးဆင်းနေသော မြစ်ချောင်းတို့သည် ကျောက်မာကို ကန့်လန့်ဖြတ် စီးဆင်းနေသော မြစ်ချောင်းထက်ပို၍ လျင်မြန်စွာ သက်ကြီးမြစ်ဝှမ်းမျိုးကို ဖြစ်ထွန်းစေနိုင်သည်။ ထို့ကြောင့်ပင် တနေရာ၌ သက်နုချိုင့်ဝှမ်းဖြစ်ထွန်းတတ်၍ အခြားတနေရာ၌ သက်ကြီး ချိုင့် ဝှမ်း များ ဖြစ် ထွန်း နေတတ်သည်။

မြစ်ချောင်းများသည် မြစ်အောက်ခင်းပြင်ကို တဖြည်းဖြည်းနက်သည်ထက် နက်အောင်ပွန်းပြင်လျက်ရှိစဉ်၊ လေမိုးနှင့်ဆီးနှင်းစသည်တို့က ချိုင့်ဝှမ်းကမ်းပါးယံများကို တိုက်စားလျက်ရှိလေသည်။ အစတွင် မြစ်အောက်ခင်းပြင်ကို နက်အောင်ပွန်းသောလုပ်ငန်းမှာ ပို၍မြန်သည်။ သို့သော် မြစ်ချောင်းတို့၏မျက်နှာပြင်သည် ယင်းတို့စီးဝင်ရာ ရေထုမျက်နှာပြင်နှင့် တပြေးတည်းဖြစ်လာသော အခါ၌ကား တဖြည်းဖြည်း ရေစီးနှေးသွားသဖြင့် မြစ်အောက်ခင်းပြင်ကို မနက်စေတော့ပေ။

သို့ရာတွင် မြစ်သည် ယင်း၏ရေစီးကြောင်း၌ အတားအဆီး တခုခုနှင့် တွေ့လျှင် ရေစီး ကြောင်း ပြောင်းလွဲသွားတတ်ရာ မြစ်မှာကျယ်သည်ထက် ကျယ်လာတတ်သည်။ သို့ဖြစ်၍ မြေဆီလွှာကိုတိုက်စား၍ ဖြစ်ပေါ်လာသောချိုင့်ဝှမ်းတို့သည် မြစ်ဖျားခံရာတွင် ကျဉ်းမြောင်း နက်ရှိုင်း၍ မြစ်ဝတွင်ကျယ်ပြန့်သည်။ ထို့ပြင် မြစ်ဝတွင်အောက်ခြေမှာ ကျယ်ပြန့်ညီညာပြီးလျှင် မြေဩဇာကောင်းမွန်တတ်၏။ ကျတ်တီးပြင်ဒေသများ၌ကား ချိုင့်ဝှမ်း ကမ်းပါးယံများကို တိုက်စားသည့်လုပ်ငန်းထက် မြစ်အောက်ခင်းပြင်ကို နက်

အောင်ပြုသည့်လုပ်ငန်းက ပို၍မြန်သောကြောင့် နက်ရှိုင်းသောလျှိုကြီးများ ဖြစ်ပေါ်တတ်သည်။ ထိုကဲ့သို့သော ချောက်ကြီးများတွင် အမေရိကန်ပြည်ထောင်စု အယ်ရီဇိုးနားပြည်နယ်ရှိ ဂရင်းကင်ညွန်ချောက်သည် အထင်ရှားဆုံးဖြစ်သည်။ (ကင်ညွန်ချောက်ကြီး — ရှု။)



ရုရှဂီတပညာရှင်ပီ၊အိုင်၊ချိုင်ကော့စကီး

**ချိုင်ကော့စကီး, ပီ၊ အိုင်** (ခရစ် ၁၈၄၀–၁၈၉၃)။ ပီတာ အစ်လျိ ချိုင်ကော့စကီးသည် ရုရှနိုင်ငံ ဗော့တကင့်မြို့တွင် ၁၈၄၀ ခုနှစ်၌ ဖွားမြင်သည်။ သူ၏ဖခင်မှာ သတ္တုတွင်းအင်ဂျင်နီယာတဦးဖြစ်၏။ ချိုင်ကော့စကီးအား မွေးဖွားပြီးနောက် မကြာမီပင် စိန်ပီတာဗတ်မြို့သို့ ပြောင်းရွှေ့လာခဲ့ကြသည်။ မိဖရိုးရာတွင် တူရိယာဂီတနှင့် တစုံတရာ ဆက်သွယ်ခြင်းမရှိသော်လည်း ချိုင်ကော့စကီးသည် ဂီတကို အထူးစိတ်ပါဝင်စားလှသဖြင့် စိန်ပီတာဗတ်မြို့ရှိ အနုပညာကျောင်းကြီးတွင် ဂီတပညာကို ဝင်ရောက်သင်ခဲ့သည်။

သူ၏ဆရာမှာ နာမည်ကျော် စန္ဒယားဆရာကြီး ရူဗင်စတိုင်ဖြစ်၍ ပညာသင်ကြားနေစဉ်တွင် နာမည်ကျော် ဂီတစာဆို ရင်မစကီ ကောဆာကော့ အစရှိသည့် နာမည်ကျော် လူငယ်ဂီတပညာသည်တစုနှင့် ရင်းနှီးခင်မင်ခဲ့၏။ ထိုနောက် မောစကိုအနုပညာသင်ကျောင်းသို့ သွားရောက်ကာ ဂီတပါမောက္ခအဖြစ်ဖြင့် ဆောင်ရွက်ရသည်။ အင်္ဂလန်ပြည်သို့လည်း မကြာမကြာ သွားရောက်လည်ပတ်လေ့ရှိခဲ့၏။ ၁၈၇၇ ခု နှစ်တွင် အိမ်ထောင်ပြုခဲ့သော်လည်း ၄ လအကြာတွင် ကွာရှင်းခဲ့ရလေသည်။

ယင်းသို့ အိမ်ထောင်ကွဲပျက်ရ၍ စိတ်မချမ်းသာဖြစ်နေခိုက်တွင် ငွေကြေးအခက်အခဲနှင့် ကြုံရပြန်သည်။ ထိုအခါတွင် သူ၏အရည်အခြင်းကို သိပြီးဖြစ်သော နဒက်ဒါဖွန်မက်ခေါ် အမျိုးသမီးကြီးတဦးက သူ့အား လစဉ်ငွေကြေးထောက်ပံ့၍ ဂီတတွင် ထူးချွန်အောင် လိုက်စားစေလေသည်။ သို့ရာတွင် ချိုင်ကော့စကီးသည် ထိုအမျိုးသမီးကြီးနှင့် ကိုယ်တိုင် တွေ့ဆုံခွင့် မရရှိခဲ့ချေ။ စာဖြင့်သာ ဆက်သွယ်လျက် လစဉ်ထောက်ပံ့ငွေကို ယူနေခဲ့ရာ ၁၈၉၀ ပြည့်နှစ်တွင် သူ၏ကျေးဇူးရှင် အမျိုးသမီးကြီး စီးပွားပျက်လေသောကြောင့် ထောက်ပံ့ငွေများလည်း ရပ်စဲသွားလေသည်။ ထိုအခါတွင် ချိုင်ကော့စကီးမှာ စိတ်အပျက်ကြီး ပျက်ခဲ့ရပြန်သည်။ ချိုင်ကော့စကီး သီကုံးသောကဗျာ တေးချင်းများသည် ရုရှဂီတ အစစ်မဟုတ်ဟူ၍ အစတွင် လူကြိုက်မများခဲ့သော်လည်း တဖြည်းဖြည်း ကျော်ကြားလာပေသည်။ သို့ရာတွင် ချိုင်ကော့စကီးမှာ အမြဲတမ်း စိတ်မကောင်းစရာနှင့် တွေ့ကြုံနေရသူတယောက်ဖြစ်ခဲ့၏။ သူ၏ကျေးဇူးရှင် စီးပွားပျက်ပြီးနောက် ၃ နှစ်အကြာ ၁၈၉၃ ခုနှစ်တွင် ချိုင်ကော့စကီးသည်လည်း ကွယ်လွန်ရှာလေသည်။

**ချစ်ထွန်း၊ ဦး၊ ဝေါ်လတာ** (ခရစ် ၁၈၉၈–၁၉၄၇)။ ကိုယ်လုံးကိုယ်ပေါက်သန်မာတောင့်တင်းလုပအောင် ကာယဗလလိုက်စား လေ့ကျင့်သည့်ဖက်၌ မြန်မာနိုင်ငံတွင်ရှေးဦးစွာ ထင်ရှားကျော်ကြားသော ပုဂ္ဂိုလ်မှာ ဝေါ်လတာချစ်ထွန်းပင်ဖြစ်သည်။ ကာယဗလလေ့ကျင့်သော ပုဂ္ဂိုလ်များမှာ ရှေးကမြန်မာနိုင်ငံတွင် နည်းပါးလှ၏။ ဝေါ်လတာချစ်ထွန်းမှာ ဤသို့လေ့ကျင့်ခြင်းဖြင့် ကိုယ်ကာယအနေအထား လုပသောကြောင့် အထူးထင်ရှားခဲ့သည်။

ဝေါ်လတာ ချစ်ထွန်းကို ၁၈၉၈ ခုနှစ် အောက်တိုဘာလ ၁၄ရက်နေ့တွင် မော်လမြိုင်မြို့၌ အပဆရာဝန်ကြီး ဦးချစ်ထွန်းနှင့် အမိဒေါ်သိန်းငွေတို့မှ ဖွားမြင်သည်။ မွန်အမျိုးသားဖြစ်၍ ခရစ်ယန်အယူဝါဒကို ကိုးကွယ်ကာ အမည်ကိုလည်း ဝေါ်လတာချစ်ထွန်းဟုပင် ဖခင်အမည်ကိုလိုက်၍ ခေါ်တွင်ခဲ့သည်။

ငယ်စဉ်က ရန်ကုန်မြို့ စိန်ပေါလ်ကျောင်းနှင့် ရန်ကုန်တက္ကသိုလ်၊ ကာလကတ္တားတက္ကသိုလ်များတွင် ပညာသင်ကြားပြီးနောက် ဆေးပညာကို ကာလကတ္တားတွင် သင်ယူ

တတ်မြောက်ခဲ့သည်။ စိတ်နှင့်ဆိုင်သော ရောဂါများကို အထူးကုသနိုင်၍ ရန်ကုန်မြို့တန်တားကလေးစိတ္တဇဆေးရုံ၌ ဆရာဝန်အဖြစ်နှင့် အမှုထမ်းခဲ့သည်။

ဝေါ်လတာ ချစ်ထွန်းသည် ၈ နှစ်အရွယ်ကျောင်းနေစဉ်ကပင် ကိုယ်ကာယ လှပရေးအတွက် လိုက်စားလေ့ကျင့်ခဲ့၍ အလေးမခြင်းကိုလည်း နှစ်သက်ဝါသနာပါသည်။ ရင်ပတ်ကြီးထွားစေသော လက်ဆွဲစပရင်များဖြင့် စတင်လေ့ကျင့်ခဲ့၍ အသက် ၁၆ နှစ်အရွယ်သို့ ရောက်သောအခါ အလေးမခြင်းကို စတင်လေ့ကျင့်သည်။

ဝေါ်လတာချစ်ထွန်းမှာ ကျောင်းသားဘဝ တလျှောက်လုံး အိန္ဒိယနိုင်ငံ ဗင်္ဂလားနယ်၌ နေထိုင်ရသဖြင့် မြန်မာနိုင်ငံမှာထက်ပင် ဗင်္ဂလားနယ်၌ ထင်ရှား၍ လူသိများသည်။ အသက် ၂၀ နှင့် ၃၀ ကြားတွင် အလွန်အင်အားသန်စွမ်း၍ ကျန်းမာရေးနှင့် အလေးမပြိုင်ပွဲ၊ ကိုယ်ကာယအလှပြိုင်ပွဲများကိုလည်း ဝင်ရောက်ယှဉ်ပြိုင်ခဲ့သည်။



ပဌမဆုံးကာယဗလလေ့ကျင့်သူဝေါ်လတာချစ်ထွန်း

ကိုယ်ကာယလှပသဖြင့် မြန်မာရုပ်ရှင်များ ခေတ်စားစအခါက 'ပန်းပဲမောင်တင့်တယ်' ဇာတ်ကားတွင် မောင်တင့်တယ်အဖြစ် ပါဝင်ရိုက်ကူးခဲ့ရသည်။ မြန်မာလူမျိုးထဲမှ ကာယဗလ တောင့်တင်းသန်မာရေးကို စတင်မျက်စိဖွင့်ပေးခဲ့သူ ကျေးဇူးရှင်ပုဂ္ဂိုလ်တဦးဖြစ်ပေသည်။

၁၉၄၇ ခုနှစ် နိုဝင်ဘာလ ၁၉ ရက်နေ့တွင် မော်တော်ဆိုင်ကယ် စီးသွားစဉ် မတော်တဆမော်တော်ကားတိုက်မိ၍ ထိုဒဏ်ရာဖြင့်ကွယ်လွန်သည်။

**ချစ်ပမန့်ရှဥ့်။** ။ချစ်ပမန့်ခေါ် ချစ်စရာကောင်းသော ရှဥ့်ကလေးတမျိုးကို မြောက်အမေရိကတိုက်၌ တွေ့ရသည်။ ယင်း၏အရွယ်မှာ နှာဖျားမှ အမြီးဖျားအထိ ၉½ လက်မ ၁၀ လက်မခန့်ရှည်၍၊ ကြွက်၊ ပူးတို့ကဲ့သို့ ကိုက်ဖြတ်သတ္တဝါမျိုးပင်ဖြစ်သည်။ နုတ်သီးချွန်၍ အမြီးစုတ်ဖွားဖြစ်သည်။ အရောင်မှာ အညို သို့မဟုတ် နီညိုရောင်ဖြစ်၍၊ ကျောနှင့်ကိုယ်နံဘေးတွင်၎င်း၊ ပါးတွင်၎င်း၊ အဖြူစင်းများပါရှိသဖြင့် အလွန်လှပသည်။ ပါးစောင် ၂ ဖက်၌ အသီးအနှံစသော အစာများကို သိုလှောင်သယ်ဆောင်ရန် အိတ်များပါရှိခြင်းကြောင့် ထူးဆန်းသည်။ (ကိုက်ဖြတ်သတ္တဝါ — လည်းရှု။)

ဤရှဥ့်ကလေးမျိုးသည် ရှဥ့်အစစ်တို့ကဲ့သို့ သစ်ပင်ထက်တွင်မနေဘဲ မြေပေါ်၌သာ အနေများသည်။ အလွန်သိတတ်၍၊ မနေမနား အလုပ်လုပ်လေ့ရှိ၏။ နေထိုင်ရန် တွင်းတူးရသည်။ ရန်သူအသိခက်အောင် တူးဆွပြီးသောမြေကြီးများကို တွင်းဝမှ ခပ်ဝေးဝေးနေရာ၌ ထားတတ်သည်။ တွင်းမှာ ပေ ၂၀ ခန့်နက်၍ တွင်း၌ ရေညှိ၊သစ်ရွက်၊ မြက်တို့ဖြင့် အိပ်ရာနေရာတို့ကို ပြုလုပ်သည်။ အစာလှောင်ခန်းများပြုလုပ်၍၊ ဆောင်းရာသီ ခိုအောင်းချိန်၌ စားသုံးရန် အစာ ရေစာတို့ကို လိုသည်ထက်ပို၍ မြောက်မြားစွာ စုဆောင်းတတ်သည်။ ရန်သူနှင့်တွေ့က ထွက်ပြေးနိုင်ရန် အပေါက်ဖေါက်လုပ်ထားသည်။

ယင်းတို့သည် တကောင်နှင့်တကောင် ရင်းနှီးခင်မင်စွာ နေထိုင်တတ်သည့်အလျောက် များသောအားဖြင့် နေရာကောင်းတခုကို ရွေးချယ်ပြီးနောက် ကိုယ်စီ ကိုယ်င တွင်းတူးကာ အုပ်ဖွဲ့၍နေထိုင်လေ့ရှိကြသည်။ နွေရာသီ နေသာသောအခါများတွင်၊ တွင်းအပြင်ဖက်၌ နေပူစာလှုံယင်း တကောင်နှင့်တကောင်ဆူညံစွာ အသံပြု၍ နေတတ်သည်။ ထိုသို့သောအချိန်တွင် တကောင်ကောင်က အချက်ပေးလိုက်လျှင် ရန်သူဖြစ်သော မြေခွေးများလာ၍လော၊ စွန်များဝဲ၍လောဟု တွေးတောမနေတော့ဘဲ တခါတည်းတွင်းထဲအရောက် ဝင်ပြေးလေ့ရှိကြသည်။ တကိုယ်ကောင်းစိတ်မရှိသည့်အတိုင်း တကောင် ၂ ကောင်က ရန်သူကို အမြဲစောင့်ကြည့်၍နေတတ်သည်။ ရန်သူလာလျှင်လည်း မိမိတကိုယ်တည်း လွတ်ရုံမပြေးဘဲ အခြားအဖေါ်များကိုပါ အချက်ပေးလေ့ရှိသည်။

ချစ်ပမန့်ရှဉ့်ကလေးတို့သည် နွေနှင့်ဆောင်းဦးရာသီတွင် သစ်သီးသစ်ဥများကို စား၍ရင်း၊ ငှက်သိုက်ထဲက ဥများကိုခိုး၍ရင်း၊ ပိုးကောင်များကိုဖမ်း၍ရင်း၊ ပျော်ပျော်ပါးပါး စားသောက်လျက် အချိန်ကိုကုန်စေသည်။ ထိုနောက် ဆောင်းဥတုအေးမြသောရာသီ ရောက်လာသောအခါ စုဆောင်းထားသော အစာကိုစားသောက်၍ တွင်းအောင်းကာ ဆောင်းခိုနေတော့သည်။

ဤရှဉ့်ကလေးမျိုးသည် မေလ၊ ဇွန်လလောက်တွင် သားတခါမွေး၍ ဩဂုတ်လ လောက်တွင်လည်း တခါတရံ တသားထပ်မွေးတတ်သည်။ တကြိမ်လျှင် လေးငါးကောင်ခန့်မွေးတတ်၏။ အနောက်နိုင်ငံများတွင် ချစ်ပမန့်ရှဉ့်ကို အချို့က အိမ်တွင်အလှမွေး၍ ယုယကြသော်လည်း၊ တောင်သူလယ်သမားများကမူ မိမိတို့၏ယာခင်း စိုက်ခင်းများကို ဖျက်ဆီးသောရန်သူဟူ၍ ယူဆကြကာ ထိုရှဉ့်ကလေးများမလာရောက်နိုင်ရန်ကာကွယ်ကြသည်။ (ရှဉ့် — လည်းရှု။)

**ချစ်ဖွယ်၊ ဦး** (မြန်မာ ၁၂၃၄–၁၃၀၆)။ ။အငြိမ့်သဘင်တွင် လူရွှင်တော်အဖြစ်နှင့် အမည်ကျော်ကြားရုံမျှသာမက အငြိမ့်၏အနုပညာ အဆင့်အတန်းကိုပါ မြှင့်တင်ပေးခဲ့သော ပညာရှင်အနေနှင့် နှောင်းလူတို့၏လေးစားခြင်းခံရသည့်ဦးချစ်ဖွယ်ကို မန္တလေးမြို့ ယိုးဒယားဈေးအုဋ်ဝန်မင်းဝင်းအတွင်း၌ အဖဦးဖိုး၊ အမိဒေါ်မယ်တို့မှ ၁၂၃၄ ခု ပြာသိုလတွင်ဖွားမြင်သည်။ ငယ်မည်မှာ မောင်ချစ်ပေါ် ဟူ၏။

ဖခင်ဦးဖိုးသည် ယိုးဒယားမျိုးရိုးဖြစ်သည်။ စစ်သုံ့ပန်းတဦးအဖြစ်နှင့် မန္တလေးသို့ရောက်ရှိလာခဲ့သည်။ ယိုးဒယားရာမဇာတ်ကို ကပြရာ၌ အမြဲပင်ကြီးကြပ်စီမံပေးခဲ့ရသည်။ ဦးချစ်ဖွယ်မှာ ငယ်စဉ်က ကျောက်သွေးလုပ်ငန်းကို သက်မွေးဝမ်းကျောင်းအဖြစ်ဖြင့် လုပ်ကိုင်ခဲ့သော်လည်း ဖခင်စီမံသော ရာမဇာတ်တော်ကြီးကပြတိုင်း ဟနုမန်မျောက်အဖြစ်ဖြင့် ပါဝင်ကပြခဲ့ရသည်။

အသက် ၂၀ အရွယ်သို့ရောက်သောအခါ မန္တလေးမြို့တရုပ်တန်းရပ်ရှိ အငြိမ့်ဆရာ ဦးလေးတာနှင့် ဦးလေးဖါတို့၏ တိုက်တွန်းချက်အရ အငြိမ့်မင်းသမီးမစိန်ကျော့နှင့် တွဲဖက်၍ လူရွှင်တော်အဖြစ် ပါဝင်ကပြခဲ့ရာမှ သဘင်လောကထဲသို့ ရောက်လာခဲ့လေသည်။ ဤသည်တွင် မစိန်ကျော့နှင့် အကြောင်းပါခဲ့သည်။ သို့သော် မစိန်ကျော့မှာ မကြာမီကွယ်လွန်ခဲ့လေသည်။ ထိုနောက် ရန်ကုန်မြို့၌ ရေကျော် မစိန်ပု၏အငြိမ့်ကိုတည်ထောင်သည်။ ထိုနောက်၌ကား ဦးချစ်ဖွယ်သည် မိမိနှင့်အလားတူ နာမည်ကျော်ကြားသည့်အငြိမ့်မင်းသမီးကြီး မစိန်သုံးနှင့် အကြောင်းပါပြီးလျှင် မစိန်သုံးအငြိမ့်အဖွဲ့တွင် ပါဝင်ခဲ့လေသည်။

ဦးချစ်ဖွယ်သည် တီထွင်ဉာဏ် ကောင်းသူတဦးဖြစ်သည်။ အငြိမ့်လောကထဲသို့ဦးချစ်ဖွယ်ဝင်ရောက်ချိန်က မြန်မာနိုင်ငံတွင် အငြိမ့်ပွဲများကို ပတ္တလားဝိုင်းများဖြင့်သာ ကပြလေ့ရှိသည်။ သို့သော် ဦးချစ်ဖွယ်၏ ကြိုးစားချက်ကြောင့် စန္ဒယားဝိုင်းနှင့်တွဲဖက်သော အငြိမ့်အဖွဲ့များပေါ် ပေါက်လာခဲ့သည်။ စန္ဒယားပါသောအငြိမ့်ကို လူကြိုက်များလာသည့်အလျောက် စန္ဒယားမမြရီ၊ စန္ဒယားမမကြီးစသည်ဖြင့် အငြိမ့်မင်းသမီးများအမည်ရှေ့တွင် စန္ဒယားဆိုသောစကားလုံးကိုထည့်သွင်းသုံးစွဲခဲ့ကြသည်။

အငြိမ့်သဘင်၏သဘောမှာ ငြိမ့်ငြောင်းသာယာသော ဂီတနှင့်ပန်တျာသဘောဖြစ်သည်။ သို့သော် အငြိမ့်ခေတ်စားလာချိန်အတွင်းတွင် ရုန့်ရင်းသောရသကိုပေါ် စေသည့် အဆို၊ အကနှင့် ပျက်လုံးတို့သည် အနုပညာသဘောကို အတော်ပင် အနှောင့်အယှက် ပြုခဲ့သည်။ ဤအချက်ကို



တွင်းအောင်းကာဆောင်းခိုတတ်သောချစ်ပမန့်ရှဉ့်



အငြိမ့်သဘင်ကိုပြုပြင်ခဲ့သည့်ဦးချစ်ဖွယ်

ဦးချစ်ဖွယ်သည်ပြုပြင်ပေးခဲ့ရာ ချစ်ဖွယ် စိန်သို့ ဟူသောအမည်မှာ လူကြီးပိုင်း၊ လူလတ်ပိုင်း၊ လူငယ်ပိုင်း အားလုံးတို့၏မြတ်နိုးခြင်းကိုခံရသော အမည်ဖြစ်လာခဲ့သည်။ ဤအချက်သည်ဦးချစ်ဖွယ်က အငြိမ့်သဘင်အနုပညာကို မြှင့်တင်ပေးခဲ့သောအချက်ဖြစ်သည်။ ဦးချစ်ဖွယ်သည် လူရှင်တော်တဦးဖြစ်သည်ဆိုငြားသော်လည်း သာမညမဟုတ်ချေ။ အားလပ်ချိန်များ၌ အဝေးရောက်မင်းနှင့် ဝက်မစွတ်ဝန်ထောက်မင်းတို့ထံ၌ မြန်မာသုခုမအနုပညာနှင့်စာပေများကို သွားရောက်ဆည်းပူးလေ့ရှိသည်။ ထို့ကြောင့် ပရိသတ်ကို ယဉ်ကျေးဖွယ်ရာသော ပျက်လုံးများနှင့် ဖြေဖျော်နိုင်စွမ်းရှိရုံမျှသာမက ရတု၊ ရကန်၊ အဲ၊ အန်၊ တေးချင်း၊ သီချင်းကြီး၊ သီချင်းခန့်တို့ဖြင့်လည်း နားထောင်၍မငြီးအောင် သီဆို၍ အသုံးတော်ခံနိုင်စွမ်း ရှိပေသည်။ ထို့ပြင် ပရိသတ်တို့အား ခေတ်ကိုမျက်မှောက်ပြု၍ အသိဉာဏ်ပွားစေရန် စာပေဗဟုသုတများကို ပျက်လုံး၌အကွက်ဆိုက်အောင် ထည့်သွင်းတတ်သူဖြစ်သည်။ အငြိမ့်စင်ပေါ်မှနေ၍ ပွဲကြည့်ပရိသတ်များစွဲမြဲနာယူလောက်သော လင်္ကာများကို ကြည်လင်ပြတ်သားစွာရွတ်ဆိုနိုင်သူ တဦးလည်းဖြစ်သည်။ ထိုသို့ အချက်ကျကျအဆိုပိုင်ပိုင် ပြောဆိုနိုင်သဖြင့်လည်း နာမည်ကျော်မင်းသမီးမစိန်သုံးနှင့် ရေစက်ဆုံခဲ့ခြင်းဖြစ်သည်။ လက်ထပ်မင်္ဂလာပွဲ၊ရဟန်းခံရှင်ပြုပွဲစသော သမင်္ဂလအခမ်းအနားများတွင် ကာလ ဒေသ ပယောဂနှင့်လိုက်လျောညီစွာ ကဗျာလင်္ကာနှင့်နဘေထပ်များကို ပရိသတ်စွဲလောက်အောင် ရွတ်ဆိုနိုင်သဖြင့် သမင်္ဂလအခမ်းအနားများအတွက် ဦးချစ်ဖွယ်ပါဝင်သောအငြိမ့်ကို မရအရငှားရမ်းလေ့ရှိကြသည်။

ဦးချစ်ဖွယ် ရွတ်ဆိုလေ့ရှိသော နဘေထပ်လင်္ကာများ အနက် ချေတာရေးကို ရည်ညွှန်းထားသော ငွေစက္ကူလင်္ကာ၊ ထန်းရေအရက်သောက်စား၍ မှောက်မှားသောလင်္ကာ၊ အမျိုးသားကျောင်းဘွဲ့ လင်္ကာများပါဝင်သည်။ ထိုလင်္ကာများသည် ပွဲကြည့်ပရိသတ်တို့အား ကိုယ်ကျင့်ကောင်းမွန်စေရန် တိုက်တွန်းနှိုးဆော် ပေးသည်သာမက ခေတ်နှင့်တပြေးတည်း ပေါ်ပေါက်နေသော အမျိုးသားရေးစိတ်ဓာတ်ကိုပါ သရုပ်ဖော်ပြလေသည်။

သာဓကပြရလျှင် ငွေစက္ကူလင်္ကာတွင် 'ကျွန်ုပ်တို့မြန်မာပြည်ကြီး သတိတွေပေးခဲ့ပါသည်။ ပရိယေသနအရေးနှင့် အဖြောင့်တမျိုးရှာကြသော်လဲ၊ တထောင့်ကိုးရာနှစ်ဆယ့်တခုနှစ်မှာလှ၊ တကယ့်အမှုဖြစ်၍ ကြီးမားတဲ့အခင်းစရိုက်၊ စီးပွားအတင်းလိုက်တော့ ငွေအကုန်၊ မီးရထားနှစ်စင်းတိုက်၍ မြေပတုံအောင်၊ သေရပုံအလွန်ရိုင်းပါသဖြင့်၊ မွန်တလိုင်းမြန်မာ ဒဏ်ရာ အညီများတဲ့အပြင်၊ ပန်ချာဗီကုလားတွေ ဘေးအကုန်ပေါက်ပြီး၊ ဟံသာဝတီတလွှားက၊ ဆေးရုံရောက်ရသည်၊ သဒ္ဓေးတို့လုံလောက်၍ စိန်ကျောက်ကောင်းဝယ်သော်လည်း၊ ပုသိမ်အနောက်ချောင်းနယ် ယခင်တနှစ်က၊ ငါးဝန်မြစ်မြေတာတခြမ်းကျိုးလျက်၊ ရေဟာလွှမ်းမိုး၍ လိုင်းအပေါင်းလာသဖြင့်၊ ငါးသိုင်းချောင်းရွာ အထင်ကရ မြုပ်တဲ့ပြင်၊ တဇင်လှ အသုတ်နှင့် အင်းရဲကျုံပျော်ခိုက် ကရော၊ ဆင်းရဲတာဂုဏ်ဖေါ် ထိုက်ပါရဲ့' ဟူ၍ ထိုခေတ်ကဖြစ်ပျက်သောအခြင်းအရာတို့ကို မှတ်တမ်းတင်ခဲ့သည်။

ငွေစက္ကူလင်္ကာ၌ပင်လျှင်၊ ငွေတည်းဟူသော မနအကြောင်းဖေါက်ပြန်တတ်ပုံကို ဋီကာဖွင့်ယင်း မြန်မာတို့ခေါင်းပေါင်းစထောင်နိုင်မည့်ခေတ်ကို မြော်ကြည့်ခဲ့သည်။ 'နံနက်စောစောနေထွက်တပြုု၊ ငွေစက္ကူကြောင့်အသက်သေပျောက်၊ ငွေစက္ကူကြောင့်တန်ခိုးပအရောင်ထ၊ ငွေစက္ကူကြောင့် အစိုးရထောင်ကျ၊ ငွေစက္ကူကြောင့် အလှူပေး၊ ငွေစက္ကူကြောင့် အပူမအေး၊ ငွေစက္ကူကြောင့် ပြည်ပေါ်တခွင်ချစ်၊ ငွေစက္ကူကြောင့် အီဆော်လွင်ဖြစ်၊ ငွေစက္ကူ

ကြောင့် စိန်တွေတလျှမ်းလျှမ်း၊ ငွေစက္ကူကြောင့် အိမ်တွေဝရမ်းဖမ်း၊ ငွေစက္ကူကြောင့်တမျိုးအလှကြိုက်၊ ငွေစက္ကူကြောင့် သူခိုးဓားပြတိုက်၊ ငွေစက္ကူကြောင့် ကြည်ညိုလို့မယားကပြုံး၊ ငွေစက္ကူကြောင့် ညီအစ်ကိုသား အဖမုန်း၊ ငွေစက္ကူကြောင့်အထူးဖြစ်၊ ငွေစက္ကူကြောင့်အရှူးဖြစ်၊ ကူးခဲ့တဲ့သက္ကရာဇ် တာမရှည်ခင်က၊ ကမာကြည်စပါးနက်ဆန် စားလျက်၊ မြန်မာပြည်တသက် အမှန်မရှားနိုင်ပါဘူး—ဗျာ့၊ အထက်နဘန်ကြားအောင် ဝေယံလယ်က၊ ရေနံသယ် မြန်မာပြည်ခေါင်းပေါင်းစထောင်ပါလိမ့်' ဟုသီဆိုခဲ့သည်။

အမျိုးသားစိတ်ဓာတ်ရှိသူတဦး ဖြစ်သည့်အားလျော်စွာ၊ ဦးချစ်ဖွယ်သည် ပင်နီဖျင် ရင်ဖုံးအကျီကို အမြဲဝတ်ဆင်ကာ အငြိမ့်ကပြလေ့ ရှိသည်။ အမျိုးသားကျောင်းများ ပေါ်ပေါက်လာပုံနှင့် စပ်လျဉ်း၍ 'တို့မြန်မာ တို့ချစ်ခင်၊ ဘဝတကမ္ဘာမမုန်းဘဲ၊ မနအသပြာဖြုန်း၍ အရိုင်းမသင်ကြနှင့်၊ လသာတုန်းဗိုင်းငင် ဆိုတာလို၊ တလိုင်းကချင်မွန်မြန်မာ တစုတို့က၊ ဝံသာနုအထူးခေတ် တကယ်ကြုံကြပေါ့၊ ဦးချစ်ဖွယ်က၊ အစုံစုံအခါထူးကောင်းတာမို့၊ ဗမာစကူးကျောင်း ပညာဆွယ်ကြလျှင်၊ အင်္ဂါကြွယ်၊ လက်လှမ်းလို့မှီလိမ့်' စသည်ဖြင့်အမျိုးသားစိတ်ဓာတ်များကို လှုံ့ဆော်ပေးသည့် တေးဂီတတို့ကိုသီဆိုခဲ့လေသည်။

ထိုပြင် ဦးချစ်ဖွယ်သည် ရှေးမြန်မာဇာတ်လောကကိုသရုပ်ဖေါ်သော

၁။ 'အကြွားဒြပ်ကားဇာတ်လောက်ငွေမကုန်၊ အလှိုင်းအဝါဆိုင်းမပါဒုံဒုံသဘော ဗုံရှည်လိုပတ်တောရယ်နှင့် ဟော....ဟော....ဟောကလို့ခုန်။ တော....တောကျတဲ့ဗုံ ဖေ့ပိန်ဘုံ။ ဟပ်ချီး ဟပ်ချီးပတ်ပလာလို့ ပိန့်ဘုံဖေ့ပိန်းဘုံ။

၂။ ပုဆိုးထမိပုဝါကမကုန်၊ သပြာရရုံ၊ တမျိုးအထည် ဘာဗျာအစုံ၊ ဒါကတဖုံ၊ စောင်ကြမ်းပိုက်စီး၊ နမလိုက် ကြီးကိုခြုံ၊ ပလုံမောင်ရို လေးလေး၊ ဖေ့ပိန့်ဘုံ။

၃။ ထည့်ကာထည့်ကာ ယကွင်းမှာတဲ့ အမှင်းတွေပုံ၊ ဟင်းတွေပုံ။ ထည့်ကာထည့်ကာ ယကွင်းမှာတဲ့ အမှင်းတွေပုံ၊ ဟင်းတွေပုံ။ နှိုက်လူကုန်၊ နှိုက်လူကုန်၊ နှိုက်ကြလူကုန်၊ ဇာတ်ဆရာအနုံ၊ ဖက်ချောက်လိပ်မပေးနိုင်လို့၊ ဆေးရွက်ကြီးကိုင်၊ ဖေ့ပိန်ဘုံ။

၄။ မင်းသမီး မင်းသား သစ္စာထားပုံ၊ သစ္စာထားပုံ။ မလေးခင်ပြူပြူနှစ်၊ ချစ်လိုက်ပါတဲ့အာရုံ၊ အာရုံ၊ ရွှေမြင့်မိုရ်တောင်လုံး တုံးမှတ်ပါလို့ခုန်၊ ဖေ့ပိန်ဘုံ။

၅။ လေးကောက်ကြီးနှင့်သူ့ဟန်သွင်ပုံ၊ ကိန်းကျပ်ကျပ်နှံ့ ဗိန်းပတ်ပတ်ဘုံ၊ အတီးသမားတွေက၊ မင်းသမီးရဲ့ထမိန်ပေါက်၊လေးကောက်ကြီးနှင့်ချိတ်ခါဆွဲတော့၊ တပွဲလုံးဆူလို့ တပွဲလုံးညံလို့ တပွဲလုံးဆူလို့ သိမ့်သိမ့်တုန်၊ မင်းသမီးပေါင်နား မင်းသားကပ်တော့၊အရင်းအဖျားမှတ်သတဲ့၊ (ဝါ၊ မင်းသမီးအနားမင်းသားကပ်တော့ အစဉ်းစားကြပ်သတဲ့၊) ပတ်ပလာလို့ ပိန့်ဘုံ' ကိုမကြာခဏရွတ်ဆို ကပြလေ့ရှိ၏။ ထိုဗုံရှည်သီချင်းမှာ ၁၉၀၇ ခုနှစ်လောက်၌ ငါးပတ်ဦးချမ်းအေး (ဗုံရှည်မင်းသားဟောင်း) က မအူပင်မြို့မှ မင်းသမီး ကျော်ဗလနှင့်တွဲ၍ မလက်တိုအလှူရုပ်သေးစင်တွင် သီဆိုသည်ဟုအမှတ်အသားရှိသည်။

ဦးချစ်ဖွယ်အတွက် သီချင်းကဗျာများရေးစပ်ပေးသူများမှာ မန္တလေးရှမ်းပွဲဦးဖိုးဒင်၊ ဆရာကြည်၊ ဆရာထာနှင့် နန်းတော်ရှေ့ဆရာတင်တို့ ဖြစ်၏။ ဦးချစ်ဖွယ်နှင့်ခေတ်ပြိုင်ပေါ်သော လူရွှင်တော်များမှာ ဦးချစ်စရာ၊ ဦးရွှေဒင်္ဂါး၊ ဦးလောကဓာတ်၊ ဦးရွှေဗျိုင်းနှင့် ဦးတက်တိုးတို့ဖြစ်ကြသည်။ ဦးချစ်ဖွယ်ကို အငြိမ့်ဆရာဦးချစ်ဖွယ် ဟူ၍ရင်း ဦးချစ်ဖွယ်ကြီးဟူ၍ရင်း ခေါ်ကြသည်။ ဦးချစ်ဖွယ်သည် ၁၃၀၆ ခုနှစ်၌ အဆုတ်အအေးမိသောရောဂါဖြင့် မန္တလေးမြို့ကျောက်သွေးတန်းရပ်၌ကွယ်လွန်ခဲ့လေသည်။

**ချစ်မောင်၊ ဦး။ ဂျာနယ်ကျော်** (မြန်မာ ၁၂၇၄–၁၃၀၇)။ ဦးချစ်မောင်သည် ၁၂၈၂ ခုနှစ် (ခရစ် ၁၉၃၀ ပြည့်) လောက်မှစ၍ ထင်ရှားလာသော သတင်းစာဆရာ၊ စာရေးဆရာနှင့် မျိုးချစ်ပုဂ္ဂိုလ်တဦးဖြစ်သည်။ ဂျာနယ်ကျော်သတင်းစဉ်ကို ထုတ်ဝေသောကြောင့် နာမည်ထင်ရှားကျော်စောကာ ဂျာနယ်ကျော် ဦးချစ်မောင်ဟု မြန်မာနိုင်ငံတဝှန်းလုံး ကျော်ကြားခဲ့လေသည်။

ဦးချစ်မောင်ကို သာယာဝတီခရိုင်အုတ်ဖိုမြို့တွင် အဖဦးမြ၊ အမိဒေါ်စောယုတို့မှ ၁၂၇၄ ခုနှစ် ပြာသိုလဆန်း ၁၃ ရက် တနင်္လာနေ့တွင် ဖွားမြင်သည်။ ဒေါ်စောယု၏ ဖခင်မှာ ဗြိတိသျှတို့ မြန်မာနိုင်ငံကိုသိမ်းယူစဉ်က တော်လှန်တိုက်ခိုက်ယင်းကျဆုံးခဲ့သော ရွှေကျင်ဝန်ကြီးဦးကြင်ဖြစ်သည်။

ဦးချစ်မောင်သည် ငယ်စဉ်က လက်ပံတန်းမြို့တွင် ပညာသင်ကြားရလေသည်။ လက်ပံတန်းမြို့ အစိုးရအထက်တန်းကျောင်း၊ ကျောင်းအုပ်ကြီး မစ္စတာ အို၊ အောင်ထွန်းက ကျောင်းထားပေးသဖြင့်၊ ဆယ်တန်းစာမေးပွဲကို အောင်မြင်ကာ ထိုကျောင်း၌ပင် ခေတ္တကျောင်းဆရာအဖြစ်ဆောင်ရွက်ခဲ့သည်။ ထို့နောက် ရန်ကုန်မြို့သို့ စာအုပ်ဝယ်ရန်ခေတ္တလာရောက်ရာမှ တခါတည်းမပြန်တော့ဘဲ နေ့်ရထာသတင်းစာတိုက်တွင် ဝင်ရောက်အလုပ်လုပ်ကိုင်သည်။

ထို့နောက်တွင် ဈေးနှုန်းသတင်းစာတိုက်နှင့် မြန်မာ့အလင်းသတင်းစာတိုက်များတွင် ဝင်ရောက်လုပ်ကိုင်သည်။ ဦးချစ်မောင်သည် ဥာဏ်ထက်မြက်၍ အလုပ်ကို မနားမနေကြိုးစားလုပ်ကာ စာမပြတ်ဖတ်လေ့ရှိသဖြင့်၊ မြန်မာ့အလင်း

သတင်းစာတိုက်တွင် ညအယ်ဒီတာဘဝမှ အယ်ဒီတာချုပ် အဖြစ်သို့ရောက်အောင် အဆင့်ဆင့်တိုးတက်လာခဲ့သည်။ သတင်းစာအယ်ဒီတာအဖြစ်ဖြင့် မျိုးချစ်စိတ်အရင်းခံရှိပြီး ဖြစ်သည့်အတိုင်း နိုင်ငံအတွက်အကျိုးရှိမည့် အရေးကိစ္စ



ဂျာနယ်ကျော်ဦးချစ်မောင်

များတွင် ရဲရဲရင့်ရင့် ရေးသားဖော်ပြလေ့ရှိသည်။ ထိုသို့ရေးသားယင်း လွတ်လပ်စွာရေးသားခွင့်အတွက် တိုက်ရှင်နှင့် စိတ်သဘောချင်းမတူသဖြင့် ၁၃၀၁ ခုနှစ် (ခရစ် ၁၉၃၉ ခုနှစ်) တွင် အယ်ဒီတာအဖြစ်မှ နုတ်ထွက်လိုက်သည်။

ထိုသို့နုတ်ထွက်ပြီးနောက် မိမိကိုယ်တိုင်ဦးစီး၍ ဂျာနယ်ကျော်အမည်ဖြင့် သတင်းစဉ်တစောင်ကို ထုတ်ဝေလိုက်ရာ နိုင်ငံရေး၊စစ်ရေးတို့ကို ပြတ်ပြတ်သားသား ဝေဖန်ရေးသားသဖြင့် အလွန်လူကြိုက်များခဲ့သည်။ ထိုဂျာနယ်တွင် ဗြိတိသျှခေတ် တိုင်းပြည်လူထုကို မျိုးချစ်စိတ်ထက်သန်စေရန်နှင့် လွတ်လပ်ရေးဆန္ဒပြင်းထန်စေရန် အထူးတိုက်တွန်းရေးသား၍ ဆင်းရဲသားတို့၏ နစ်နာမှုများကို တင်ပြကာ နယ်ချဲ့အစိုးရအား ပြင်းထန်စွာဝေဖန်ရေးသားသည်။

ရွှေလင်းယုန် ကလောင်အမည်ဖြင့် 'ရှ ၁ရှာ ဖွေဖွေ' အမည်ရှိစာအုပ်နှင့် 'ကမ္ဘာကြီးပျက်စီးလုနီးပြီလော' စသောနိုင်ငံရေးကျမ်းများကို ရေးသားသည်။ 'သူ' အမည်ရှိသော ဝတ္ထုတပုဒ်ကိုလည်း ရေးသားရာ စိတ်နေစိတ်ထား ပြုပြင်ရေးအတွက် သင်ခဏ်းစာပေးသော ဝတ္ထုဖြစ်သဖြင့် လူကြိုက်အလွန်များခဲ့ပေသည်။ 'မှိုင်းမှုံမှုံ' ဝတ္ထုကိုလည်း ဦးချစ်မောင်ပင်ရေးသည်။

ဂျပန်ခေတ်တွင် ဘိုကလေးမြို့သို့ ရှောင်ခွာနေပြီး နောက်ရန်ကုန်မြို့သို့ပြန်လာကာ တော်လှန်ရေးလုပ်ငန်းများကိုဆောင်ရွက်သည်။ ဗြိတိသျှစစ်တပ်များ ပြန်ဝင်လာသောအခါ ဖမ်းဆီးခြင်းခံရသေးသည်။ ထိုနောက် ဗိုလ်ချုပ်အောင်ဆန်း ခေါင်းဆောင်သော ဖဆပလ ဗဟိုဦးစီးအဖွဲ့တွင်ပါဝင်ကာ၊ လွတ်လပ်ရေးအတွက် အရေးဆိုရာတွင် ထိရောက်စွာ ပါဝင်ဆောင်ရွက်သည်။ ဖဆပလ အစိုးရဖွဲ့စည်းရန် အတွက် ဘုရင်ခံထံသို့တင်ပြသော တောင်းဆိုချက် စည်းကမ်းများကို ရေးဆွဲရာတွင် ဦးချစ်မောင်၏ အကြံဉာဏ်များစွာပါဝင်သည်။ ထိုနှစ်တွင် မြန်မာနိုင်ငံစာရေးဆရာအသင်း၌ ဥက္ကဋ္ဌအဖြစ်ဆောင်ရွက်သည်။

ထိုသို့ဆောင်ရွက်နေဆဲတွင် ရုတ်တရက်မကျန်းမာဖြစ်၍ ၁၃၀၇ ခုနှစ် နှောင်းတန်ခူးလဆန်း ၂ ရက်နေ့တွင် ကွယ်လွန်ရာ ဖဆပလအဖွဲ့ချုပ်မှ ကြီးမှူး၍ ကြံတောသုသာန်တွင်သင်္ဂြိုဟ်သည်။

ဦးချစ်မောင်တွင် သား ၂ ယောက်နှင့် သမီး ၁ ယောက်ကျန်ရစ်သည်။ ဇနီးမှာ အမျိုးသမီးစာရေးဆရာ ဂျာနယ်ကျော်မမလေး အမည်ခံ ဒေါ်မမလေးဖြစ်သည်။ ဒေါ်မမလေးသည် သူ၏ခင်ပွန်း ဦးချစ်မောင်၏ အတ္ထုပ္ပတ္တိကို 'သူလိုလူ' ဟူသော စာအုပ်တွင် မှတ်တမ်းတင်ခဲ့သည်။

**ချစ်လှိုင်။ ဦး။** (မြန်မာ ၁၂၄၁–၁၃၁၄)။ ။မြန်မာနိုင်ငံရေးသမိုင်းတွင် ထင်ရှားသော ခေါင်းဆောင်ကြီးတဦးဖြစ်ခဲ့သည့် ဦးချစ်လှိုင်သည် မော်လမြိုင်မြို့ သစ်ကုန်သည် သဌေးဦးသာညွှန်း ဒေါ်ရင်တို့၏ ဒုတိယသားဖြစ်၍ ၁၂၄၁ ခုနှစ် နယုန်လပြည့်ကျော် ၆ ရက် တနင်္လာနေ့တွင် ဖွားမြင်ခဲ့လေသည်။

ဦးချစ်လှိုင်သည် အသက် ၂၀ အရွယ်တွင် အင်္ဂလန်သို့သွား၍ ဝတ်လုံပညာကို သင်ကြားအောင်မြင်လာခဲ့သည်။ မြန်မာပြည်သို့ ပြန်ရောက်သောအခါမှစ၍ ဝိုင်၊ အမ်၊ ဘီ၊ အေ၊ ဗုဒ္ဓဘာသာ ကလျာဏယုဝအသင်းကို ငွေအား လူအားဖြင့် ကူညီခဲ့သည်။ ခရစ် ၁၉၁၇ ခုနှစ်မှစ၍ မော်လမြိုင်မြို့ ဝိုင်၊အမ်၊ဘီ၊အေ၊အသင်း၏ ဥက္ကဋ္ဌအဖြစ်ဖြင့် ဆောင်ရွက်၏။ ၁၉၁၉ ခုနှစ်တွင် ပုသိမ်မြို့၌ ကျင်းပသော မြန်မာနိုင်ငံလုံးဆိုင်ရာ ဝိုင်၊ အမ်၊ ဘီ၊ အေ၊ နှင့် အလားတူအသင်းများ

အစည်းအဝေးပွဲ၌ ဦးချစ်လှိုင်အား ဥက္ကဋ္ဌအဖြစ်တင်မြှောက်ခဲ့သည်။ နောက်နှစ်တွင် ပြည်မြို့၌ကျင်းပသော အစည်းအဝေးက ဆုံးဖြတ်ခဲ့သည့်အတိုင်း ဂျီ၊ စီ၊ ဘီ၊ အေ၊ ခေါ် မြန်မာအသင်းချုပ် ပေါ် ပေါက်လာရာ ဦးချစ်လှိုင်ပင် ဥက္ကဋ္ဌအဖြစ်တင်မြှောက်ခြင်း ခံခဲ့ရသည်။ ဦးချစ်လှိုင်သည် မိမိစီးပွားဥစ္စာများကို အနစ်နာခံလျက် မြန်မာနိုင်ငံရေးတွင် ရဲဝံ့စွာခေါင်းဆောင်မှုပေးခဲ့သည်။ (ဗုဒ္ဓကလျာဏယုဝအသင်း၊၊ ဂျီ၊ စီ၊ ဘီ၊ အေ — ရှု။)

နောင်အခါ အဌမ အက်ဒွပ်ဘုရင်ဖြစ်လာသော အင်္ဂလိပ်ဝေလမင်းသားသည် ၁၉၂၁ ခု၌ တိုင်းခမ်းလှည့်လည်ရာ၊ ရန်ကုန် သို့မရောက်မီတွင်၊ အင်္ဂလိပ်အစိုးရက ဦးချစ်လှိုင်အား အခြားမြန်မာခေါင်းဆောင်အချို့နှင့်အတူ ဖမ်းဆီး၍အကျယ်ချုပ်ထားခဲ့လေသည်။ နိုင်ငံရေးကိုဆောင်ရွက်ရာ၌ပြည်သူပြည်သားများ၏ ကြည်ညိုလေးစားခြင်းကိုခံရသဖြင့် ၁၉၂၂ ခုနှစ်နှင့် ၁၉၂၄ ခုနှစ်တွင် သရက်၊ ပေါင်းတည်မြို့များ၌ကျင်းပခဲ့သော ပြည်လုံးကျွတ် ညီလာခံကြီးများက သမတဥက္ကဋ္ဌဘွဲ့ကို အပ်နှင်းကြ၏။ ယင်းအခါမှ အစပြု၍ 'သမတဦးချစ်လှိုင်' ဟု တွင်သည်။ ထိုစဉ်က ဦးချစ်လှိုင်အား သရဖူမဆောင်းရသော မြန်မာပြည်၏ရှင်ဘုရင်ဟုပင် ခေါ်ကြသည်။ နိုင်ငံရေးတရားများကို လှည့်လည် ဟောပြောစဉ် ရောက်လေရာအရပ်တိုင်း၌ အမျိုးသားများကရွှေထီးများ ထီးဖြူများ မိုးပေးခြင်း၊ အမျိုးသမီးများကဆံပင်ကိုဖြန့်၍ လမ်းခင်းပေးခြင်း၊ ကရဝိတ်ပေါင်များဖြင့် ကြိုဆိုခြင်းများကို ပြုလုပ်ကြသည်။

ခရစ် ၁၉၂၂ ခုနှစ်၌ ဗြိတိသျှအစိုးရက မြန်မာပြည်အား ဒိုင်အာခီအုပ်ချုပ်ရေး ပေးသောအခါ၊ လက်ခံသင့်မခံသင့်အရေးနှင့်စပ်လျဉ်း၍ ၁၉၂၃ ခုနှစ်တွင်ဂျီ၊ စီ၊ ဘီ၊ အေနှစ်ခြမ်းကွဲသွားသည်။ ဦးချစ်လှိုင်သည် သပိတ်မှောက်ဝံသာနုဂျီ၊ စီ၊ ဘီ၊ အေ၊ ကိုခေါင်းဆောင်သည်။ ဦးချစ်လှိုင်သည် မြန်မာပြည်၏ ရွေးရေးနှင့်သက်ဆိုင်၍ ကျင်းပသောဗိလတ်မျက်နှာစုံညီ အစည်းအဝေးများကို ၁၉၃၁ ခုနှစ်နိုဝင်ဘာလတွင် တကြိမ်၊ ၁၉၃၃ ခုနှစ် အောက်တိုဘာလတွင် တကြိမ်၊ ၂ ကြိမ်တိုင်တိုင် တက်ရောက်ခဲ့သည်။ ၁၉၃၅ ခုနှစ်ရွေးကောက်ပွဲ၌ အိန္ဒိယပြည်နှင့်ခွဲရေး တွဲရေး ပြဿနာပေါ် ပေါက်ခဲ့ရာ တွဲရေးဖက်မှ အရွေးခံရသည်။ ဗြိတိသျှခေတ်ဥပဒေပြုကောင်စီဥက္ကဋ္ဌ အဖြစ်ဖြင့် ၁၉၃၂ ခုနှစ်၌ တကြိမ်၊ ၁၉၃၅ ခုနှစ်၌ တကြိမ် ပေါင်း ၂ ကြိမ်တိုင်တိုင် ရွေးကောက်တင်မြှောက်ခြင်းလည်း ခံရသည်။

၁၉၃၇ ခုနှစ်တွင် အောက်လွှတ်တော် ဥက္ကဋ္ဌအဖြစ် တင်မြှောက်ခြင်း ခံရသည်။ အင်္ဂလန်ပြည် လန်ဒန်မြို့တွင် ကျင်းပသော ဆဋ္ဌမဂျော့ဘုရင် နန်းတက်ပွဲသို့ ၁၉၃၇ ခုနှစ်၌ တက်ရောက်ခဲ့သည်။ ဦးချစ်လှိုင်သည် နိုင်ငံရေးကို ဆောင်ရွက်ရာတွင် ဦးပု၊ဦးထွန်းအောင်ကျော်တို့နှင့်အတူ 'လှိုင်၊ ပု၊ ကျော် ပါတီ' ကိုငင်း၊ ဦးမြတ်သာထွန်း၊ ဆာဘပေါ်ထွန်းတို့နှင့်



မြန်မာအမျိုးသားခေါင်းဆောင်ကြီး ဦးချစ်လှိုင်

အတူ 'လှိုင်၊မြတ်၊ ပေါ် ပါတီ' ကိုငင်း ဖွဲ့စည်းတည်ထောင်ခဲ့ဘူးသည်။ ထို့ပြင် ဦးချစ်လှိုင်သည် စစ်အတွင်းလွှတ်လပ်သောခေတ် ၁၉၄၃ ခုနှစ် ဩဂုတ်လ ၅ ရက်နေ့၌ အဓိပတိ၏ အတိုင်ပင်ခံအမတ်တဦးအဖြစ် ခန့်အပ်ခြင်းခံခဲ့ရဘူးသည်။

စစ်ပြီးလွှတ်လပ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော်ခေတ်၌လည်း ဦးချစ်လှိုင်သည် နိုင်ငံရေးကိုပင် ဆက်လက်ဆောင်ရွက်ပြန်သည်။ မော်လမြိုင်မြို့နယ်မှ ရွေးကောက်ပွဲတွင်ဝင်ရောက်ယှဉ်ပြိုင်၍အရွေးခံအနိုင်ရခဲ့သည်။ ပါလီမန်ပြည်သူ့လွှတ်တော်၌ အတိုက်အခံခေါင်းဆောင်တဦးအဖြစ် ဆောင်ရွက်ခဲ့သည်။ မကွယ်လွန်မီ ၁၉၅၂ ခုနှစ် ဇတ်ဂျက် အစည်းအဝေးအထိ ပါလီမန်လွှတ်တော်သို့တက်ရောက်ခဲ့၏။

ထိုသို့ နိုင်ငံရေးကို ဆောင်ရွက်ယင်း ဦးချစ်လှိုင်သည် ၁၉၅၂ ခုနှစ်အောက်တိုဘာလ ၃၁ ရက်နေ့ (၁၃၁၄ ခုနှစ် တန်ဆောင်မုန်းလဆန်း ၁၄ ရက်နေ့) နံနက် ၆ နာရီခွဲ အချိန်တွင် ရန်ကုန်မြို့ ဘောင်ဒရီလမ်း (အမှတ် ၁၇၅) နေအိမ်၌ကွယ်လွန်အနိစ္စရောက်သည်။ ဦးချစ်လှိုင်၌ ဖြောင့်မှန် ရိုးသားသော စိတ်ဓာတ်နှင့် အလှူပေးရက်ရောသော စေတနာများရှိသည်။ ကွယ်လွန်သွားသောအခါတွင် ဇနီး ဒေါ်အိနှင့်သမီး ၂ ယောက် ကျန်ရစ်ခဲ့သည်။

**ချည်ချောင်း။** ။မြန်မာတူရိယာများတွင် တံပိုးမျိုး ဂ ပါးဆိုသော လေတူရိယာ ဂပါးရှိသည်။ ထိုတွင်ချည်ချောင်း တူရိယာမှာ တပါးအပါအဝင်ဖြစ်သည်။ ချည်ချောင်း တူရိယာပြုလုပ်ပုံမှာ ပြွေအသေးစား ၆ လုံးမှ ဂ လုံး ခန့်တို့ကိုစု၍ ချည်နှောင်ထားခြင်းဖြစ်သည်။ အသံ အနိမ့် အမြင့်ကိုလိုက်၍ ပြွေကို အရှည်အတို စီ၍ထားရသည်။

ချည်ချောင်းတူရိယာသည်ချိုသာငြိမ့်လေးသောအသံကို ဖြစ်စေသည်။ ပုဂံခေတ်အခါကပင် ထိုတူရိယာကို မြန်မာ လူမျိုးတို့ သုံးစွဲနေပြီဖြစ်ကြောင်း အထောက်အထားများ ရှိသည်။ ပုဂံခေတ်က ပေါ်ပေါက်ခဲ့သော 'တပြားနှစ်ပြား၊ ပလင်ပြား' အစရှိသော ရတုမျိုးကို မိကျောင်း၊ ချည် ချောင်း၊ စောင်းတရောတို့ဖြင့် တီးချက် စည်းချက်မိအောင် သီဆိုနိုင်ကြောင်းနှင့် ပုဂံဦးတင်က ကဗျာဗန္ဓသာရကျမ်း တွင် ရေးသားဖော်ပြထားသည်။ ထိုတူရိယာမှာ ယခုအခါ ကွယ်ပျောက်နေပြီဖြစ်သော်လည်း ရှေးပုဂံခေတ်နှင့် အင်းဝ ခေတ်များ ကောင်းစားစဉ်က အရေးပါ အရာရောက် သော တူရိယာတခု ဖြစ်ခဲ့သည့်အလျောက် တံပိုးမျိုး ဂပါး တွင် ထည့်သွင်းထားခြင်းဖြစ်လေသည်။

ချည်ချောင်း မှုတ်နေသော မိန်းမရုပ်ပုံကို အာနန္ဒာလိုဏ် ဂူထဲတွင် ယနေ့တိုင် တွေ့မြင်နိုင်သေးသည်။ အင်းဝခေတ် တွင် စီကုံးဖွဲ့ဆိုခဲ့သော သျှင်အဂ္ဂသမာဓိ၏ ဘုံခန်းပျို့တွင် 'သံလေးချည်ချောင်း၊ သာသည့်စောင်းနှင့်၊ မိကျောင်းညီ လုပ်' ဟု ချည်ချောင်းတူရိယာကို စောင်း၊ မိကျောင်း တို့နှင့်ယှဉ်တွဲကာ ဖော်ပြထားလေသည်။

**ချဉ်ပေါင်။** ။ချဉ်ပေါင်သည် မာလဗေစီအီး မျိုးရင်း တွင်ပါဝင်သည်။ ချဉ်ပေါင်ပင်ကို အပူပိုင်းဒေသနှင့်သမပိုင်း ဒေသများတွင် စိုက်ပျိုးနိုင်သည်။ အပူပိုင်းဒေသတွင် ချဉ် ပေါင်ပင်ပို၍ ဖြစ်သည်။ ချဉ်ပေါင်ပင်ကို အမျိုးအစား လိုက်၍ ရက္ခဗေဒအရ အမည်အမျိုးမျိုးဖြင့်ခေါ်၏။ ချဉ် ပေါင်ကြီး၊ လျှော်ချဉ်ပေါင်၊ ဓာတ်ချဉ်ပေါင်၊ ချဉ်ပေါင် လက်ချား၊ ချဉ်ပေါင်ခါးတို့သည် ဟိုင်ဗစ္စကပ်ကန်နာဗီနပ် မျိုးစုတွင် ပါသည်။ ယင်းမျိုးစုကို အင်္ဂလိပ်လို ဒက်ကန် လျှော်ဟုခေါ်သည်။ ချဉ်ပေါင်ရိုင်းကို ဟိုင်ဗစ္စကပ် လူနာ ရီဖိုးလီယပ် ဟူ၍၎င်း၊ တောချဉ်ပေါင်ကို ဟိုင်ဗစ္စကပ် ပန် ဂျူရီဖေါမစ် ဟူ၍၎င်း၊ ဗိလတ်ချဉ်ပေါင်နှင့် ချဉ်ပေါင်နီကို ဟိုင်ဗစ္စကပ် ဆက်ဒါရီဖါးဟူ၍ ၎င်းခေါ်၏။ ဗိလတ်ချဉ် ပေါင်နှင့်ချဉ်ပေါင်နီကို အင်္ဂလိပ်လို ရိုဇဲဟုခေါ်သည်။

ချဉ်ပေါင်ကို အိမ်သုံးအတွက် ခြံတွင်း၌စိုက်သည့်အခါ မျိုးစေ့ကိုအခင်းတွင် ကြဲ၍စိုက်သည်။ အပင်ပေါက်လာ သည့်အခါ မရွှေ့ပြောင်းဘဲ စားသုံးသည်။ တောင်သူလယ် သမားများလည်း ဤကဲ့သို့ သာမန်စိုက်၍ စားသုံးတတ် သည်။ သို့သော် ကျနသောနည်းမှာ ချဉ်ပေါင်မျိုးစေ့ များကို ပျိုးခင်းတွင်စိုက်ပျိုးရသည်။ အပင်ကလေးများ သည် ၄ လက်မ သို့မဟုတ် ၅ လက်မ မြင့်လာသောအခါ ယင်းတို့ကို မြေဩဇာကောင်းသည့်မြေတွင် တပင်နှင့်တပင် ၃ ပေစီခွာ၍ စိုက်ပျိုးသင့်၏။ လျှော်အတွက် စိုက်သည့် လျှော်ချဉ်ပေါင်ကိုမူ ခပ်ထူထူစိုက်မှသာလျှင် အကိုင်းနည်း နည်းဖြာထွက်နိုင်၍ အပင်ရှည်ရှည်ရမည်။

ချဉ်ပေါင်ပင်သည် တလကြာသောအခါ၊ ၂ ပေမျှမြင့် လာသည်။ ထိုအခါ အပေါ်ပိုင်းရှိ အရွက်များကို ချက်ပြုတ် စားရန် ဆွတ်ခူးနိုင်သည်။ ပြေိုလ လောက်တွင်စိုက်သော



ယဉ်ကျေးမှုပြပွဲတွင်ပြထားသောချည်ချောင်းတူရိယာ



ချဉ်ပေါင်နီခေါ် ဗိလတ်ချဉ်ပေါင်

ချဉ်ပေါင်ပင်သည် အောက်တိုဘာလတွင် အပွင့်ပွင့်သည်။ မျိုးစေ့အတွက်ထားလိုသော အပင်များကိုသာ စက်တင်ဘာလ လွန်သည်အထိ ထားသင့်သည်။ ဆောင်းဥတုတွင် ပေါက်သောချဉ်ပေါင်ပင်များသည် နေထိများ၍ ၁၂ လက်မ အထိမမြင့်မီ အပွင့်ပွင့်သောကြောင့် သုန်ဖျင်းကြသည်။

ချဉ်ပေါင်ရွက်ကို ချက်ပြုတ်စားနိုင်၍ ချဉ်ပေါင်သီးနှင့် ချဉ်ပေါင်ရွက်တို့ကို ယိုထိုးစားနိုင်ပေသည်။ ချဉ်ပေါင်စေ့သည် ဆေးဖက်ဝင်သည်။ ချဉ်ပေါင်နီ၏အရွက်ကို အဆိပ်ဖြေဆေးအဖြစ် သုံးရသည်။ ချဉ်ပေါင်လျှော်ကို ကြိုးကျစ်ယူနိုင်သည်။

ပန်းချဉ်ပေါင်ဟူ၍ မြန်မာများခေါ် နေသည့်အပင်မှာ ချဉ်ပေါင်မျိုးမဟုတ်ပေ။ စားသုံးရသည့်အပင်လည်း မဟုတ်ပေ။ ပန်းချဉ်ပေါင်သည် မလေဗေစီအီး မျိုးရင်းတွင်ပါသော်လည်း ချဉ်ပေါင်နှင့်မျိုးစုချင်းမတူပေ။ အောသီယာရိုဇီယာမျိုးဖြစ်၍ အင်္ဂလိပ်လို ဟော်လီဟော့ဟုခေါ် သည်။ (ပန်းချဉ်ပေါင် — လည်းရှု။)

**ချဉ်ဖတ်။** ။ချဉ်ဖတ်သည် မြန်မာလူမျိုးတို့ စားသုံးသော တို့စရာတမယ်ဖြစ်၏။ ထမင်းစားရာတွင်၊ အဆီ၊ အသား၊ အချို၊ အဆိမ့်တို့ကြောင့် အီဆိမ့်နေခြင်းကိုဖြေ၍ ထမင်းမြိန်စေရန် ချဉ်ဖတ်ကို ငါးပိရည်၊ ငန်ပြာရည်ဖျော်တို့ဖြင့် တို့၍ စားကြသည်။

ချဉ်ဖတ်ထည့်နည်းမှာ ချဉ်ဖတ်ထည့်လိုသော အသီး၊ အရွက်စသည်တို့ကို အလိုရှိသလို လှီးစိတ်၍၊ ဆား၊ ထမင်းချမ်းသင့်ရုံတို့ဖြင့် သမအောင်နယ်ကာ၊ စဉ့်အိုး၊ အင်တုံ သို့မဟုတ် ကြွေအိုးတို့တွင် ခေတ္တသိပ်ထားရသည်။ ထို့နောက် ဆန်ဆေးရည်ကို အပေါ်မှလောင်းထည့်၍ ကုပ်ဖိထားရသည်။ ထမင်းချမ်းနှင့် ဆန်ဆေးရည်တို့အစား၊ဖွဲနုကို အရည်ကျို၍ ဆားသင့်ရုံနှင့်နယ်ထားသော အသီးအရွက်များပေါ်တွင် ခပ်နွေးနွေးလောင်းချ၍လည်း ချဉ်ဖတ်ထည့်နိုင်သည်။

ဆား၊ ထမင်းချမ်းနှင့် ဆန်ဆေးရည်တို့မှ ဖြစ်လာသော အချဉ်ဓာတ်သည် အသီး၊ အရွက်များကို ချဉ်စေ၍၊ ၂ ရက်၊ ၃ ရက်ခန့်အကြာတွင် ချဉ်ဖတ်ဖြစ်လာသည်။

ကန်စွန်း၊ လယ်ပဒူ၊ ကြာလင်ပန်း၊ ဟင်းဂလာ၊ ဂန့်ဂလာ၊ မုန်ညင်း၊ မုန်လာ၊ မြုန်းမွေး၊ တမာစသော အရွက်များ၊ ငှက်ပျောဖူး၊ တောက်တာဖူးစသော အဖူးများ၊ ကြောင်လျှာ၊ ခအောင်းစသော အသီးများ၊ ညံပွင့် အစရှိသော အပွင့်များ၊ ကြိမ်ဖူး၊ ဖလံတောင်ဝှေး စသော အရိုးများနှင့် မုန်လာဉအစရှိသော သစ်ဉများကို ချဉ်ဖတ်ထည့်၍ မြန်မာတို့စားသုံးလေ့ရှိကြသည်။

**ချန်ကေရှိတ်** (ခရစ် ၁၈၈၇ ဖွား)။ ။တရုပ်နိုင်ငံ၏ သမတဟောင်းဖြစ်သော ချန်ကေရှိတ်သည် ကိုယ်ပိုင်မြေကို



ချဉ်ပေါင်ကြီးခေါ် ချဉ်ပေါင်ခါး



ကိုမင်တန်တရုပ်သမတချန်ကေရှိတ်

ကိုယ်တိုင်လုပ်သော တောင်သူလယ်သမားမျိုးရိုးမှ ဆင်းသက်ပေါက်ဖွားလာသူဖြစ်၍၊ ၁၈၈၇ ခုနှစ် အောက်တိုဘာလ ၃၁ ရက်နေ့တွင် တရုပ်နိုင်ငံ ချီကျန်နယ် ဝူလင်းမြို့ကလေး၌ ဖွားမြင်လေသည်။ အသက် ၁၈ နှစ်အရွယ်တွင် ဂျပန်နိုင်ငံသို့ သွားရောက်၍ တိုကျိုမြို့၏ စစ်တက္ကသိုလ်တွင် စစ်အတတ်ကို လေ့လာဆည်းပူးခဲ့သည်။ ၁၉၀၉ ခုနှစ်တွင် စစ်တက္ကသိုလ်မှဆင်း၍ ဂျပန်စစ်တပ်ထဲသို့ဝင်ရောက် အမှုထမ်းခဲ့သည်။ ဂျပန်နိုင်ငံ၌ နေထိုင်ခဲ့စဉ်က တရုပ်အမျိုးသားခေါင်းဆောင်ကြီး ဒေါက်တာဆွန်ယက်ဆင်နှင့် တွေ့ဆုံခဲ့ရာ ဆွန်ယက်ဆင်၏ နိုင်ငံရေးတရားများကို ကြားနာရသဖြင့် အထူးနှစ်သက်ပြီးလျှင် ဆွန်ယက်ဆင်၏ ကိုမင်တန်ဟု နောင်အခါအမည်တွင်လာသည့် တုံမင်ဟွီ ခေါ် တရုပ်တော်လှန်ရေး လျှို့ဝှက်ဂိုဏ်းထဲသို့ ဝင်ရောက်ခဲ့လေသည်။ (ဆွန်ယက်ဆင် — ရှု။)

၁၉၁၁ ခုနှစ်တွင် တရုပ်နိုင်ငံ၌ တော်လှန်ရေးကြီး ဖြစ်ပွားသောအခါ ချန်ကေရှိတ်သည် တရုပ်နိုင်ငံသို့ ပြန်လာခဲ့ပြီးလျှင် ဆွန်ယက်ဆင်နှင့် ကူညီလုပ်ကိုင်ခဲ့ရာ ဆွန်ယက်ဆင်၏ အားထားခြင်းကို ခံခဲ့ရသည်။ ၁၉၁၂ ခုနှစ်တွင် ဆွန်ယက်ဆင်သည် တရုပ်သမတနိုင်ငံ၏ ယာယီသမတ အဖြစ်နှင့် ဆောင်ရွက်စဉ်၊ ဟင်နရီပုယီ အမည်တွင်သော မန်ချူးမင်းဆက်မှ ဆင်းသက်လာသည့် တရုပ်ပြည်ဘုရင် ဆူအံတုံသည် ထီးနန်းစွန့်လေသည်။ ထိုအခါ ဆွန်ယက်ဆင်ဦးစီးသောတော်လှန်ရေးအဖွဲ့က ယူအန်ရှိကိုင်ကို သမတ အဖြစ်ဖြင့် တင်မြှောက်လေသည်။ သို့သော် ၁၉၁၃ ခုနှစ်၌ကား ယူအန်ရှိကိုင်သည် တရုပ်အမျိုးသားသမဂ္ဂကို အာဏာနှင့် ဖိနှိပ်လာ သောကြောင့် ဆွန်ယက်ဆင်သည် ယူအံရှိကိုင်ကို တော်လှန်ရန်စီမံလေသည်။ ထိုနောက် ချန်ကေရှိတ်သည် ရှန်ဟိုင်းမြို့မှနေ၍ ယူအံရှိကိုင်ကိုတော်လှန်လေသည်။ ဆွန်ယက်ဆင်မှာမူ ကန်တုန်မြို့ကိုသိမ်းပိုက်၍ တရုပ်ပြည် ရေကြောင်း ကြည်းကြောင်းဆိုင်ရာ သေနာပတိ အဖြစ်ကို ခံယူကာ ပီကင်အစိုးရနှင့် စင်ပြိုင်အစိုးရအဖွဲ့ ဖွဲ့သည်။ ချန်ကေရှိတ်လည်း ကန်တုန်သို့လာ၍ ဆွန်ယက်ဆင်၏ နိုင်ငံရေးကြိုးပမ်းမှုတွင် ကိုယ်ထိလက်ရောက် ပူးပေါင်းပါဝင်ခဲ့သည်။

၁၉၂၄ ခုနှစ်တွင် ချန်ကေရှိတ်သည် ဝှမ်ပိုအာ စစ်တက္ကသိုလ်တွင် ကျောင်းအုပ်ဖြစ်ခဲ့သည်။ ထိုနောက် ဆွန်ယက်ဆင်၏ အကူအညီဖြင့် တရုပ်နိုင်ငံတောင်ပိုင်းရှိ တရုပ်အမျိုးသား စစ်တပ်များ၏ သေနာပတိရာထူးကို ရရှိသည်။ ထိုအချိန်မှစ၍ တရုပ်နိုင်ငံကြီး တစည်းတလုံးတည်းဖြစ်ရေးကို ကြိုးပမ်းတိုက်ခိုက်လာခဲ့ရာ ကမ္ဘာကျော်သော ပုဂ္ဂိုလ်ကြီးတဦးအဖြစ်သို့ ရောက်ရှိခဲ့လေသည်။ ချန်ကေရှိတ်သည် ဤကဲ့သို့ အောင်ပန်းအသီးသီးကို ဆွတ်လှမ်းနိုင်ခဲ့ခြင်းမှာလည်း ဆိုဗီယက်တို့၏ အကူအညီရရှိသောကြောင့်ပင် ဖြစ်ပေသည်။ ၁၉၂၅ ခုနှစ်တွင် ဆွန်ယက်ဆင် ကွယ်လွန်ပြီးနောက် ချန်ကေရှိတ်သည် ကိုမင်တန်အဖွဲ့၏ ဗဟိုအမှုဆောင်အဖွဲ့ဝင်ဖြစ်လာသည်။ ၁၉၂၇ ခုနှစ်တွင်ကား ချန်ကေရှိတ်နှင့် ကွန်မြူနစ်တို့ နှစ်ခြမ်းကွဲပြီးလျှင် ထိုအချိန်မှစ၍ ပြည်တွင်းစစ်ပွဲကြီး ဖြစ်ပွားခဲ့လေသည်။ ၁၉၂၈ ခုနှစ်တွင် ချန်ကေရှိတ်သည် တရုပ်အမျိုးသား အစိုးရအဖွဲ့ဥက္ကဋ္ဌ ဖြစ်လာလေရာ၊ အာဏာရှင်တမျှ တန်ခိုးတက်ခဲ့သည်။

ထိုအတောအတွင်း ချန်ကေရှိတ်သည် မိမိ၏ပဌမဇနီးကို ကွာရှင်းလိုက်ပြီးနောက် ၁၉၂၇ ခုနှစ်တွင် ဆွန်မေလင်း အမည်ရှိ ချောမောလှပသော မိန်းမပျိုတဦးနှင့် လက်ထပ်လိုက်လေသည်။ ပဌမဇနီးနှင့် ချန်ချင်ကိုးအမည်ရှိ သားတယောက်ထွန်းကားခဲ့သည်။ ဆွန်မေလင်းမှာ ဒေါက်တာဆွန်ယက်ဆင်၏ ခယ်မဖြစ်၍၊ ခရစ်ယန်အယူဝါဒီ အထက်တန်းစား တရုပ်ဆွေမျိုးစုမှ ပေါက်ဖွားလာသူဖြစ်သည်။ ၁၉၃၀ ပြည့်နှစ်တွင် ချန်ကေရှိတ်လည်း ခရစ်ယန်အယူကို ယူလိုက်လေသည်။

ချန်ကေရှိတ်ဦးစီးသော ကိုမင်တန်ပါတီနှင့် ကွန်မြူနစ်တို့ အာဏာလုပွဲ အခြေအနေမှာ တနေ့တခြား ပြင်းထန်လာသည်။ ၁၉၃၆ ခုနှစ် အောက်တိုဘာလတွင် တရုပ်နိုင်ငံ

အနောက်မြောက်ပိုင်းတွင် စစ်တာဝန်ခံဖြစ်သော မာရှယ် ချန်ရွှေလျန်က ချန်ကေရှိတ် ဆီအန်းမြို့သို့အလာတွင် ဖမ်းဆီး၍ အကျယ်ချုပ်ထားပြီးလျှင် ကွန်မြူနစ်များနှင့် ပူးပေါင်း၍ ဂျပန်အားပြန်လည်တိုက်ခိုက်ရန် နားချလေသည်။ ချန်ကေရှိတ်သည် ၁၅ ရက်ကြာမှလွတ်လာ၏။ ချန်ကေရှိတ်သည် ၁၉၂၈ ခုနှစ်မှ ၁၉၃၁ ခုနှစ်အထိ တရုပ်နိုင်ငံ၏ သမတအဖြစ် ဆောင်ရွက်ခဲ့၍ ဝန်ကြီးချုပ်အဖြစ်ကား အကြိမ်ပေါင်းများစွာဆောင်ရွက်ရသည်။ ၁၉၃၇ ခုနှစ်တွင် တရုပ်နိုင်ငံကို ဂျပန်က စတင်တိုက်ခိုက်ရာ ချန်ကေရှိတ်သည် တရုပ်နိုင်ငံ၏မြို့တော်ကို ချုံကင်းမြို့သို့ ရွှေ့ပြောင်းပြီးလျှင် စစ်သေနာပတိချုပ်အဖြစ် ဂျပန်တို့ကို ခုခံတိုက်ခိုက်ခဲ့၏။ ၁၉၄၂ ခုနှစ်တွင် တရုပ်နိုင်ငံ စစ်မျက်နှာရှိ မဟာမိတ်တပ်ပေါင်းစု၏ သေနာပတိချုပ်အဖြစ် ခန့်ထားခြင်းခံရသည်။

၁၉၄၃ ခုနှစ်တွင် သမတလင်းဆင်း ကွယ်လွန်သဖြင့် ကိုမင်တန်ပါတီက ချန်ကေရှိတ်အား သမတအဖြစ် ရွေးကောက်တင်မြှောက်ခဲ့ကြသည်။ ချန်ကေရှိတ်သည် သမတအဖြစ် ခန့်ထားခြင်းခံရသော်လည်း ဝန်ကြီးချုပ်အဖြစ်ရင်း၊ စစ်သေနာပတိချုပ်အဖြစ်ရင်း ဆက်လက်ဆောင်ရွက်သည်။ ၁၉၄၃ခု နှစ်တွင် ကိုင်ရိုမြို့၌ ရူးဇဗဲ့၊ချာချီတို့နှင့် တွေ့ဆုံခဲ့လေသည်။ ၁၉၄၅ ခုနှစ်တွင် တရုပ်နိုင်ငံရှိ ဂျပန်တို့သည် ချန်ကေရှိတ်ထံ လက်နက်ချကြသည်။ ၁၉၄၆ ခုနှစ် မေလတွင် တရုပ်အစိုးရအဖွဲ့ကို နန်ကင်းမြို့သို့ ရွှေပြောင်းခဲ့ပြီးနောက် အမျိုးသားလွှတ်တော်အတွက် ရွေးကောက်ပွဲကြီးကျင်းပစေခဲ့သည်။ ထိုအမျိုးသားလွှတ်တော်က ပါလီမန်အုပ်ချုပ်ရေးစနစ်ကို လျာထားသောအခြေခံဥပဒေကို အတည်ပြုပြဋ္ဌာန်းခဲ့၏။ ချန်ကေရှိတ်ကိုလည်း သမတအဖြစ် ပြန်လည်တင်မြှောက်ခဲ့သည်။ ထိုအချိန်အခါက ချန်ကေရှိတ်အစိုးရနှင့် တရုပ်ပြည် မြောက်ဖက်အစွန်ဖြစ်သည့် မန်းချူးရီးယားနယ်ကို လက်ဝယ်ရနေသော မော်စီတုံးခေါင်းဆောင်သည့် တရုပ်ကွန်မြူနစ်များ ပူးပေါင်း ညှိညှိတ်ရန် စေ့စပ်ခဲ့သေးသည်။ သို့သော် စေ့စပ်မှု မအောင်မြင်ခဲ့ချေ။ ဂျပန်တို့ လက်နက်ချပြီးချိန်မှစ၍ ကိုမင်တန်နှင့် ကွန်မြူနစ် ပြည်တွင်းစစ်များမှာ တဖန်ပြန်လည်ဖြစ်ပွားခဲ့ရာ ချန်ကေရှိတ်၏ ကိုမင်တန်တပ်များ တဖြည်းဖြည်း ရှုံးခဲ့၍ တရုပ်ကွန်မြူနစ်တို့က နယ်တနယ်ပြီး တနယ်သိမ်းပိုက်ခဲ့ပြီးလျှင် နောက်ဆုံး ၁၉၄၉ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် တရုပ်နိုင်ငံ တနိုင်ငံလုံးကို သိမ်းပိုက်မိကြလေသည်။

ထိုအခါမှစ၍၊ ချန်ကေရှိတ်သည် သူ၏အစိုးရအဖွဲ့ကို အလုံးအရင်းနှင့်တကွ ပေါ်မိုးဆားကျွန်းသို့ ရွှေပြောင်းရန် စီစဉ်ခဲ့ရာ ၁၉၅၀ ပြည့်နှစ် မတ်လ ၁ ရက်နေ့တွင် အပြီးတိုင်ရွှေ့ပြောင်းနိုင်ခဲ့သည်။ ချန်ကေရှိတ်၏ တရုပ်အမျိုးသား သမတနိုင်ငံမှာ ကုလသမဂ္ဂတွင်ပါဝင်သော နိုင်ငံဖြစ်သည်။ တရုပ်ပြည်မကြီးကို ကိုယ်စားပြုလျက်ရှိသည်ဟု ချန်ကေရှိတ်၏အစိုးရက ယူဆသည်။ ဤယူဆချက်ကို အခြေတည်၍ ချန်ကေရှိတ်သည် တရုပ်ပြည်မကြီးကို ပြန်လည်သိမ်းပိုက်ရန် လှုံ့လပြုလျက်ရှိသည်။ မော်စီတုံးခေါင်းဆောင်သော တရုပ်ပြည်သူ့ သမတအစိုးရအဖွဲ့ကလည်း ပေါ်မိုးဆားကျွန်းသည် တရုပ်ပြည်၌အပါအဝင်ဖြစ်သည်ဟု ယူဆကာ ထိုကျွန်းကိုသိမ်းပိုက်ရန် ရည်ရွယ်သည်ဟု ကျေညာထားသည်။

**ချိန်တာရာ။** ။တာရာကြီး ၉ လုံး — ရှု။

**ချိန်ဗာလိန်သားအဖ။** ။ချိန်ဗာလိန် ဟူသောမျိုးရိုးအမည်ဖြင့်၊ ဗြိတိသျှနိုင်ငံရေးသမိုင်း၌ ထင်ရှားသော သားအဖ သုံးယောက် ထွန်းကားခဲ့သည်။ ထိုသူတို့မှာ အဖဖြစ်သူ ဂျိုးဇက်ချိန်ဗာလန်၊ သားများဖြစ်သူ ဆာဂျိုးဇက်၊ အော်စတင် ချိန်ဗာလိန်နှင့် အာသာ၊ နက်ဗီး ချိန်ဗာလိန်တို့ ဖြစ်ကြသည်။

ဂျိုးဇက် ချိန်ဗာလိန် (ခရစ် ၁၈၃၆–၁၉၁၄) သည် ၁၈၃၆ ခု ဇူလိုင်လ ၈ ရက်နေ့တွင် လန်ဒန်မြို့၌ဖွားမြင်သည်။ ၉ နှစ်သားအရွယ်တွင် စတင်ပညာသင်ကြားခဲ့သည်။ သူ၏ ဖခင်မှာ နိုင်ငံရေးလောကတွင် လစ်ဗရယ် ပါတီဝင်တဦး ဖြစ်၏။ ချိန်ဗာလိန်သည် ကျောင်းမှထွက်သောအခါ ၂ နှစ်ခန့်မျှ ဖခင်၏လုပ်ငန်း၌ ဝင်ရောက်ကူညီပေးလေသည်။ ထိုနောက် ၁၈၅၄ ခုနှစ်တွင် ဗာမင်ဂမ်မြို့သို့ ပြောင်းရွှေ့၍ သံဝက်အူလုပ်ငန်းကို နက်တယ်ဖိုးဆိုသူနှင့်အတူ စတင်လုပ်ကိုင်သည်။ စိတ်ကူးဉာဏ်ကောင်းခြင်း၊ ကြိုးစားအားထုတ်မှုရှိခြင်းတို့ကြောင့် အချိန်အနည်းငယ်အတွင်း တိုးတက်ကြီးပွားလာကာ ပေါင်းသင်းဆက်ဆံရေးတွင်လည်း ထင်ရှားကျော်စောလာသည်။ မြို့ရေးရွာရေး ဆောင်ရွက်မှုများတွင် အထူးစိတ်ဝင်စား၍ ပညာရေးကိုလည်း အားပေးခဲ့၏။ ၁၈၆၅ ခုနှစ်တွင် အမျိုးသားပညာရေးအသင်း၏ ဥက္ကဋ္ဌဖြစ်လာသည်။

ထိုအချိန်တွင် ချိန်ဗာလိန်၏အမည်မှာ အထူးပင်ထင်ရှားလာလေသည်။ ၁၈၇၃ ခုနှစ်တွင် ဗာမင်ဂမ်မြို့တော်ဝန်ဖြစ်၍ လစ်ဗရယ်နှင့် ကွန်ဆားဗတစ်ပါတီတို့၏ ထောက်ခံအားပေးမှုကို ရရှိခဲ့သည်။ ၁၈၇၆ ခုနှစ်တွင် ဗာမင်ဂမ်မဲဆန္ဒခရိုင်မှ ဗြိတိသျှပါလီမန်အမတ်အဖြစ်ဖြင့် ရွေးကောက်တင်မြှောက်ခြင်းခံရသည်။

ပါလီမန်သို့ရောက်၍ မကြာမီပင် ချိန်ဗာလိန်၏ထက်မြက်သော အရည်အချင်းများသည် ထင်ရှားလာခဲ့ပေသည်။ ၁၈၈၀ ပြည့်နှစ်တွင် ဂလက်စတုန် ခေါင်းဆောင်သော လစ်ဗရယ်အစိုးရအဖွဲ့ ဖွဲ့စည်းသောအခါ၊ ချိန်ဗာလိန်သည် ကက်ဗိနက်တွင် ကုန်သွယ်ရေးဝန်ကြီးအဖြစ် ခန့်

အပ်ခြင်းခံရသည်။ ၁၈၈၆ ခုနှစ်တွင် ဒေသန္တရအုပ်ချုပ်ရေးအဖွဲ့ ဥက္ကဋ္ဌအဖြစ် ထမ်းရွက်ရပြန်သည်။ ထိုနောက် အိုင်ယာလန်အရေး၌ ဝန်ကြီးချုပ် ဂလက်စတုန်၏ ဟုမ်ရူးခေါ် ကိုယ်ပိုင်အုပ်ချုပ်ရေးဥပဒေကြမ်းတွင် သဘောကွဲလွဲကာ ကန့်ကွက်သည့်အနေဖြင့် ထိုရာထူးမှ နုတ်ထွက်ခဲ့လေသည်။ ထိုအခါမှစ၍ အတိုက်အခံပြုခဲ့ရာ များစွာအောင်မြင်ခဲ့သည့်အပြင် သူ၏နောက်လိုက်အင်အားလည်း ပို၍တောင့်တင်းလာလေသည်။

ထိုနောက် ၉ နှစ်လုံးလုံး ဂျိုးဇက်ချိန်ဗာလိန်သည် ကွန်ဆားဗတစ်ပါတီနှင့် အတူပူးပေါင်း၍ ဂလက်စတုန်၏အဖွဲ့ကို အတိုက်အခံပြုခဲ့သည်။ ၁၈၉၅ ခုနှစ်၌ လော့ ဆောစဗာရီသည် တတိယအကြိမ် အစိုးရဖွဲ့စည်းသောအခါ ကိုလိုနီနယ်များဆိုင်ရာ ဝန်ကြီးဖြစ်လာသည်။ တောင်အာဖရိကစစ်ရေးတွင် အစမှအဆုံးတိုင် ကိုလိုနီများဆိုင်ရာ ဝန်ကြီးအဖြစ်ဆောင်ရွက်ခဲ့သည်။ ထိုစစ်ကိုအခြေပြု၍ ဩစတြေးလီးယားတိုက်အား ကိုယ်ပိုင်အုပ်ချုပ်ရေးပေးရန်နှင့် ဗြိတိသျှအင်ပိုင်ယာတွင် စီးပွားရေးဆက်ဆံမှုများ တိုးတက်ရန်ကြိုးပမ်းဆောင်ရွက်ခဲ့သည်။ သို့ရာတွင် အစိုးရအဖွဲ့၌ သဘောကွဲလွဲမှုများ ပေါ်ပေါက်ခဲ့သဖြင့် ၁၉၀၃ ခုနှစ်တွင် ကိုလိုနီ



ကိုလိုနီနယ်များဆိုင်ရာဝန်ကြီးဂျိုးဇက်ချိန်ဗာလိန်

ဆိုင်ရာဝန်ကြီးရာထူးမှ နုတ်ထွက်ခဲ့လေသည်။ ထိုနောက် ဆိပ်ကမ်းခွန် တိုးတက်ကောက်ခံရေးကိစ္စတွင် စိတ်အားထက်သန်စွာ ဆောင်ရွက်သည်တွင် ကမ်ဗာလန်မဲဆန္ဒခရိုင်မှ ထပ်မံအရွေးခံရလေသည်။ သို့ရာတွင် ၁၉၀၆ ခုနှစ်၌ ကျန်းမာရေးချွတ်ယွင်းလာသဖြင့် နိုင်ငံရေးတွင် ထိရောက်စွာ မဆောင်ရွက်နိုင်တော့ဘဲ အနားယူယင်း ရံဖန်ရံခါ ဟောပြောမှုများဖြင့် အချိန်ကုန်လွန်စေခဲ့သည်။

၁၉၁၀ ပြည့်နှစ်တွင် ကမ်ဗာလန် မဲဆန္ဒခရိုင်မှပင် အတိုက်အခံမရှိဘဲ ပါလီမန်အမတ်အဖြစ် အရွေးခံရပြန်သည်။ သို့ရာတွင် အသက်ကြီးရင့်လှပြီဖြစ်၍ သူ့သားအကြီး၏ အဖေးအမဖြင့် ပါလီမန်သို့ တက်ခဲ့ရသည်။ ၁၉၁၄ ခုနှစ် ဇူလိုင်လ ၂ ရက်နေ့တွင် ကမ်ဗာလန်ခရိုင် ဟိုင်းဗာရီရှိ သူ၏နေအိမ်၌ ကွယ်လွန်လေသည်။

ဂျိုးဇက် ချိန်ဗာလိန်သည် အဟောအပြောကောင်းသူတဦးဖြစ်သည့်အပြင် ပြောစရာရှိလျှင် တဖက်သားကို မညှာမတာ ပြောဆိုတတ်သည်။ အစိုးရအဖွဲ့ဝင်အဖြစ်နှင့် သူ၏ကြိုးပမ်းချက်များမှာ ဥဒါန်းတွင်ရစ်သည်။ ဗြိတိသျှအင်ပိုင်ယာ တည်တံ့ခိုင်မြဲရေး၊ အာဖရိကတိုက်နှင့် ဩစတြေးလီးယား တိုက်တို့အား ကိုယ်ပိုင်အုပ်ချုပ်ခွင့် ပေးအပ်ရေးတို့မှာ သူ၏အထင်ရှားဆုံးနှင့် အထိရောက်ဆုံး စွမ်းဆောင်မှုများဖြစ်သည်။ သူ့ကြောင့် အမေရိကန်နှင့် ဗြိတိန်ဆက်ဆံရေးသည် တိုးတက်ကောင်းမွန်လာခဲ့ပေသည်။

ဆာ ဂျိုးဇက် အော်စတင် ချိန်ဗာလိန် (ခရစ် ၁၈၆၃–၁၉၃၇) သည် ဂျိုးဇက် ချိန်ဗာလိန်၏ ပဌမဇနီးမှမွေးသောသားအကြီးဖြစ်သည်။ ဗာမင်ဂမ်မြို့တွင် ဖွားမြင်၍ ကိမ်းဗရစ်တက္ကသိုလ် ရပ်ဂဗီနှင့်ထရင်နီတီကောလိပ်ကျောင်းတို့တွင် ပညာဆည်းပူးခဲ့ပြီးနောက် ပြင်သစ်နှင့်ဂျာမနီသို့ ခေတ္တသွားရောက်နေထိုင်ခဲ့၏။ ထိုနောက် သူ၏ဖခင်ကဲ့သို့ပင် ဒေသန္တရအုပ်ချုပ်ရေး အဖွဲ့များမှနေ၍ ပါလီမန်သို့ဝင်ရောက်ခဲ့သူဖြစ်သည်။ သူ၏ဖခင်ကျန်းမာစဉ်ကပင် ဟုမ်ရူးအရေးများ၌ ကူညီဆောင်ရွက်ခဲ့သည်။

၁၈၉၂ ခုနှစ်မှ ၁၉၁၄ ခုနှစ်အထိ အရှေ့ဝုစတာရှိုင်ယာ မဲဆန္ဒခရိုင်မှ အမတ်ဖြစ်၍၊ ၁၉၁၄ ခုနှစ်တွင် သူ့ဖခင်၏နေရာ ဗာမင်ဂမ်အမတ်အဖြစ် အရွေးခံရသည်။ ၁၈၉၅ ခုနှစ်မှ ၁၉၀၀ ပြည့်နှစ်အထိ မြို့ပြဖက်ရေတပ်ဝန်ကြီးဖြစ်၍ ၁၉၀၀ ပြည့်နှစ်မှ ၁၉၀၂ ခုနှစ်အထိ ရွှေတိုက်တော်အတွင်းဝန်ဖြစ်သည်။ ထိုနောက် စာတိုက်မင်းကြီးအဖြစ် ဆောင်ရွက်ပြီးလျှင် ၁၉၀၃ ခုနှစ်တွင် ဘဏ္ဍာရေးဝန်ကြီး (ရွှေတိုက်စိုးဝန်ကြီး) ဖြစ်လာသည်။ ၁၉၀၆ ခုနှစ်တွင် ယူနီယန်နစ်အဖွဲ့ အရေးနိမ့်သွားသဖြင့် အော်စတင် ချိန်ဗာလိန်သည်လည်း ဘဏ္ဍာရေးဝန်ကြီးရာထူးမှထွက်၍ ယူနီယန်နစ်အဖွဲ့ခေါင်းဆောင်ဖြစ်လာသည်။

၁၉၁၁ ခုနှစ်တွင် ဗဲလဖူးသည် ကွန်ဆားဗတစ်ပါတီခေါင်းဆောင်အဖြစ်မှ နုတ်ထွက်သည်။ ထိုအခါ အော်စတင် ချိန်ဗာလိန်သည် ဝေါလတာ လောင်းဆိုသူနှင့်အတူ ခေါင်းဆောင်အဖြစ် အရွေးခံရန် အမည်တင်သွင်းခဲ့သည်။ သို့ရာတွင် နှစ်ဦးစလုံးက အမည်များကို ပြန်လည်ရုပ်သိမ်းကာ၊ ဗိုနာ လောကို ခေါင်းဆောင် တင်မြှောက်ခဲ့ကြသည်။ သို့သော် ဗိုနာလောသည် အော်စတင် ချိန်ဗာလိန်သားအဖတို့ ထောက်ခံအားပေးနေသော ဆိပ်ကမ်းခွန် တိုးတက်ကောက်ခံရေးကိစ္စနှင့် ဟုမ္မရူးကိစ္စတို့ကို အတိုက်အခံပြုလာသည်။ ထိုကြောင့် အော်စတင်ချိန်ဗာလိန်နှင့် ဗိုနာလောတို့သည် ဆက်ဆံရေး၌ တနေ့တခြား ပျက်ပြားလာလေသည်။ (ဗိုနာ လော — ရှု။)

၁၉၁၅ ခုနှစ်တွင် ဝန်ကြီးချုပ် အက်စကွစ် ခေါင်းဆောင်သော ညွန့်ပေါင်းအစိုးရအဖွဲ့ ဖွဲ့စည်းလိုက်သောအခါ အော်စတင် ချိန်ဗာလိန်သည် အိန္ဒိယပြည်ဆိုင်ရာဝန်ကြီးအဖြစ်ပါဝင်ရပြန်သည်။ ၁၉၁၇ ခုနှစ်တွင် မက်ဆိုပိုတေးမီးယားကော်မစ်ရှင် အစီရင်ခံစာတွင်ပါရှိသော အပြစ်ဆိုချက်များနှင့် စပ်လျဉ်း၍ ထိုရာထူးမှ နုတ်ထွက်လိုက်သည်။ ၁၉၁၈ ခုနှစ်တွင် စစ်အစိုးရအဖွဲ့၌ ပါဝင်ရပြန်ပြီးနောက်၊ စစ်အပြီးတွင် ဘဏ္ဍာရေးဝန်ကြီးဖြစ်ပြန်သည်။ ထိုအချိန်က ဗြိတိသျှစစ်ကြွေးများ ဖြေရှင်းပေးဆပ်ရေးနှင့် ဘဏ္ဍာတော်တိုးပွားတောင့်တင်းရေး စသည်တို့ကို ကြိုးပမ်းဆောင်ရွက်ခဲ့သည်။

၁၉၂၀ ပြည့်နှစ်တွင် ကွန်ဆားဗတစ် ပါတီခေါင်းဆောင် ဗိုနာ လော မကျန်းမာသဖြင့် နုတ်ထွက်လေရာ အော်စတင် ချိန်ဗာလိန် ခေါင်းဆောင်ဖြစ်လာလေသည်။ သို့ရာတွင် ကွန်ဆားဗတစ် နောက်လိုက်ဂိုဏ်းသားများနှင့် သဘောကွဲလွဲချက်များကြောင့် ၁၉၂၂ ခုနှစ်တွင် နုတ်ထွက်လိုက်၏။ ၁၉၂၄ ခုနှစ်တွင် ဗော်လဒွင်အစိုးရအဖွဲ့၌ အော်စတင် ချိန်ဗာလိန်သည် နိုင်ငံခြားရေးဝန်ကြီးဖြစ်လာသည်၊ ၁၉၂၅ ခုနှစ်ဖက်သို့ ရောက်သောအခါ သူ၏ ဆောင်ရွက်ချက်များသည် အထူးပင်အောင်မြင်လာခဲ့သည်။ ထိုနှစ်တွင် အခိုက်အတန့်အားဖြင့် ဥရောပငြိမ်းချမ်းရေးကို ရရှိစေသော လိုကားနိုးစာချုပ်၊ ချုပ်ဆိုအောင်မြင်ရာ အော်စတင် ချိန်ဗာလိန်သည် ဆာဘွဲ့ဖြင့် သူကောင်းပြုခြင်း ခံရရုံမက ငြိမ်းချမ်းရေးဆောင်ရွက်မှုများအတွက် ခြီးမြှင့်သော နိုဗဲဆုကိုလည်း ရရှိခဲ့သည်။ ၁၉၂၇ ခုနှစ်တွင် တရုပ်နိုင်ငံအရေး၌လည်း ဆာအော်စတင် ချိန်ဗာလိန်၏ဆောင်ရွက်ချက်များသည် အထူးပင် အောင်မြင်လာခဲ့သည်။ ၁၉၂၈ ခုနှစ်တွင် မကျန်းမာသဖြင့် ကာလီဖိုးနီးယားပြည်နယ်သို့ ပင်လယ်ခရီးထွက်ခဲ့သည်။ ၁၉၂၉ ခုနှစ်တွင် ဆာအော်စတင်ချိန်ဗာလိန်သည် ရေတပ်ဝန်ကြီးအဖြစ် ဆောင်ရွက်ရပြန်သည်။ ထိုနောက် ၁၉၃၇ ခုနှစ် မတ်လ ၁၆ ရက်နေ့တွင်ကွယ်လွန်သည်။

အာသာ နက်ဗီး ချိန်ဗာလိန် (ခရစ် ၁၈၆၉–၁၉၄၀) သည် ဂျိုးဇက် ချိန်ဗာလိန်၏ ဒုတိယဇနီးမှ ၁၈၆၉ ခုနှစ် မတ်လ ၁၈ ရက်နေ့တွင် ဖွားမြင်သည်။ ငယ်စဉ်ကပင် ဗာမင်ဂမ်တက္ကသိုလ်၌ ပညာဆည်းပူးခဲ့ပြီးနောက်၊ ဖခင်၏ စီးပွားရေးလုပ်ငန်းကို တာဝန်ယူဆောင်ရွက်၏။ ၁၉၁၅၊ ၁၆ ခုနှစ်တွင် ဗာမင်ဂမ် မြို့တော်ဝန်ဖြစ်လာသည်။ ပဌမကမ္ဘာစစ်အတွင်းက အမျိုးသားစစ်မှုဝန်ထမ်းဌာနတွင် ညွှန်ကြားရေးဝန်အဖြစ် ဝင်ရောက်ထမ်းရွက်ခဲ့သည်။ ၁၉၁၈ ခုနှစ်တွင် ဗာမင်ဂမ် မဲဆန္ဒနယ် လေဒီဝူအရပ်မှ ပါလီမန်အမတ်ဖြစ်လာသည်။

၁၉၂၂၊ ၂၃ ခုနှစ်တွင် စာတိုက်မင်းကြီးအဖြစ် ထမ်းရွက်ပြီးနောက် ကျန်းမာရေးဌာနတွင် ဝန်ကြီးဖြစ်လာ၏။


ဘဏ္ဍာရေးဝန်ကြီး ဆာအော်စတင်ချိန်ဗာလိန်



အာသာနက်ဗီးချိန်ဗာလိန်

၁၉၂၃ ခုနှစ်တွင် ဘဏ္ဍာရေးဝန်ကြီးအဖြစ် ခန့်အပ်ခြင်းခံရသည်။ သို့ရာတွင် အစိုးရ ရသုံးမှန်းခြေစာရင်း မတင်မီ အစိုးရအဖွဲ့ပြုတ်ကျလေသည်။ ၁၉၂၄ ခုနှစ်တွင် ဗော်လဒွင်၏ အစိုးရ ဒုတိယအကြိမ် ဖွဲ့စည်းသောအခါ ကျန်းမာရေးဌာန ဝန်ကြီး အဖြစ် ခန့် ထားခြင်း ခံရသည်။ ဤသို့ ကျန်းမာရေးဌာနဝန်ကြီး အဖြစ်ဖြင့်ထမ်းရွက်နေစဉ် ၁၉၂၉ ခုနှစ်တွင် ဒေသန္တရအုပ်ချုပ်ရေး အက်ဥပဒေကို အတည်ပြုသည် အထိ ဆောင်ရွက်ခဲ့သည်။ ၁၉၃၁ ခုနှစ်တွင် နက်ဗီး ချိန်ဗာလိန်သည် ဘဏ္ဍာရေးဝန်ကြီးအဖြစ် တဖန်လှဲပြောင်းဆောင်ရွက်ရာ၌ နိုင်ငံအား စီးပွားရေးအကျပ်အတည်းများမှ လွတ်မြောက်အောင် စွမ်းဆောင်နိုင်ခဲ့လေသည်။ ထိုရာထူး၌ပင် ဆက်လက်ဆောင်ရွက် လာခဲ့ရာ၊ ၁၉၃၇ ခုနှစ်ဝန်ကြီးချုပ် ဗော်လဒွင် နုတ်ထွက်သည့်အခါ၌ နက်ဗီး ချိန်ဗာလိန်သည် ဝန်ကြီးချုပ် အဖြစ်ဆက်ခံ၍ ကွန်ဆားဗတစ် အစိုးရအဖွဲ့ ဖွဲ့စည်းနိုင်ခဲ့လေသည်။

နက်ဗီး ချိန်ဗာလိန်အစိုးရလက်ထက်တွင် ဂျာမနီပြည်မှ ဟစ်တလာသည် အင်အားကောင်းလာ၍ ဗြိတိန်ကိုပင် ခြိမ်းခြောက်ခဲ့လေသည်။ ပြည်တွင်းစီးပွားရေး အခြေအနေ ကောင်းမွန်ရေး၊ ဘဏ္ဍာတော်ခိုင် လုံတောင့် တင်း ရေး တို့၌ သာ အာရုံစိုက်၍ စွမ်းလွန်းတမံဆောင်ရွက်ခဲ့သော နက်ဗီး ချိန်ဗာလိန်သည် ဟစ်တလာ၏ခြိမ်းခြောက်မှုများ တရားလွန်လာသောအခါတွင် ငြိမ်းချမ်းရေးကို လုံးပန်းရလေတော့သည်။ ၁၉၃၈ ပြည့်နှစ်တွင် မျူးနစ်မြို့၌ ဟစ်တလာနှင့် တွေ့ဆုံဆွေးနွေး၏။ ဟစ်တလာ တောင်းဆိုချက်အချို့ကို လိုက်လျောပြီးနောက် စစ်မတိုက်ရေးစာချုပ်ကို ချုပ်ဆိုကျေညာခဲ့သည်။ သို့ရာတွင် ဟစ်တလာသည် ကတိမတည်ကြောင်းတွေ့ရသဖြင့် ၁၉၃၉ ခုနှစ် စက်တင်ဘာလ ၃ ရက်နေ့တွင် ဂျာမနီအား စစ်ကြေညာခဲ့ရလေသည်။ (ဟစ်တလာ — ရှု။) ငြိမ်း ချမ်း ချိန် တွင် ခေါင်း ဆောင် ကောင်း တယောက်ဖြစ်ခဲ့သော်လည်း စစ်အတွင်း၌ကား ခေါင်းဆောင်မှုကို ကောင်းစွာမပေးနိုင်သောကြောင့် ၁၉၄၀ ပြည့်နှစ်မေလ ၁၀ ရက်နေ့တွင် ရာထူးမှနုတ်ထွက်လိုက်ရသည်။ သူ၏နေရာတွင် ဝင်စတန် ချာချီတက်လာ၏။ ထိုနောက် အစိုးရအဖွဲ့ဝင်ဝန်ကြီးတဦးအဖြစ် အောက်တိုဘာလ ၃ ရက်နေ့အထိ ဆောင်ရွက်ပြီးလျှင် မကျန်းမာသဖြင့် ထိုရာထူးနှင့် တကွ ကွန်ဆားဗတစ်ပါတီ ခေါင်းဆောင်အဖြစ်မှ နုတ်ထွက်လေသည်။ သူ၏ဥရောပငြိမ်းချမ်းရေး မြှော်လင့်ချက်များ ပျက်ပြားသည်ကို တွေ့မြင်ရပြီးနောက် ၁၉၄၀ ပြည့်နှစ် နိုဝင်ဘာလ ၉ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ချိန် သီး**။ ။တိုင်ကပ်နာရီကိုကြည့်လျှင် တချက်ချင်း မှန်မှန်လွဲနေသော ချိန်သီးကို တွေ့ရပေမည်။ ထိုချိန်သီးသည် နာရီကို မှန်မှန်သွားစေရန် စီမံပေးသော အရေးကြီး အစိတ်အပိုင်းတခုဖြစ်သည်။ (နာရီကြီးငယ်များ — ရှု။)

ချိန်သီးလွဲရာ၌ အရေးကြီးသောအချက်ကို ပဌမဆုံးတွေ့ရှိခဲ့သူမှာ သိပ္ပံကဝိကြီး ဂယ်လီလေအိုဖြစ်၏။ ခရစ် ၁၅၈၃ ခုနှစ်တွင် ဂယ်လီလေအိုသည် ပီစာမြို့ ဘုရားရှိခိုးကျောင်းအတွင်း မျက်နှာကြက်တနေရာ၌ တွဲလောင်းချည်ထားသော မီးအိမ်တလုံး လွှဲရမ်းနေသည်ကို တွေ့ရသည်။ မီးအိမ်လွှဲနေသည်ကို သူ၏ကိုယ်၌ သွေးခုန်ချက်နှင့် မှတ်သားတိုင်းကြည့်ရာ မီးအိမ်၏လွှဲခွင် ကျဉ်းသည်ဖြစ်စေ၊ ကျယ်သည်ဖြစ်စေ တပတ်အပြည့် လွှဲမိသည့်အချိန်ချင်းသည် အတူတူပင်ဖြစ်သည်ကို သတိပြုမိလေသည်။ (ဂယ်လီလေအို — ရှု။) မီးအိမ်၏လွှဲခွင်ဆိုသည်မှာ မီးအိမ်လွှဲရာ၌ ဝဲဖက်စွန်းမှ ယာဖက်စွန်းအထိ လွှဲသွားသော ခွင်ကိုဆိုလိုသည်။

ချိန်သီး လွှဲခြင်း၏သဘောမှာ ဤသို့ဖြစ်၏။ တွဲလောင်းကျကာ တည်ငြိမ်နေသော ချိန်သီးကို နံဘေးတဖက်သို့ ရွှေ့၍ ပြန်လွှတ်လိုက်သောအခါ ချိန်သီးသည် ကမ္ဘာ့ဆွဲအားကြောင့် ဗဟိုနေရာသို့ ပြန်ကျလာသည်။ သို့သော် ထိုနေရာတွင် ရပ်မနေဘဲ ကျလာသည့်အဟုန်ဖြင့် အခြားတဖက်သို့ လွဲတက် သွားပြန် သည်။ ထိုသို့တက်သွားစဉ် အဟုန်နှင့်



တိုင်ကပ်နာရီတွင်ချက်မှန်မှန်လွှဲလျက်ရှိသောချိန်သီး

ကမ္ဘာ့ဆွဲအားတို့ ညီမျှသွားသောနေရာ၌ တန့်ရပ်သွားပြီးနောက် ကမ္ဘာ့ဆွဲအားကြောင့်တဖန် ဗဟိုသို့ကျလာရပြန်သည်။ ဤသို့ဖြင့် ချိန်သီးအဟုန်သည် တဖြည်းဖြည်း လျော့နည်းလာသည့်အလျောက် ချိန်သီး၏လွှဲခွင်သည်လည်း တဖြည်းဖြည်း ကျဉ်းမြောင်းလာပြီးသည့်နောက်ဆုံးတွင် ချိန်သီးသည်ဗဟို၌ ရပ်သွားလေသည်။ ချိန်သီးလွှဲနေစဉ်အတွင်း စလွှတ်လိုက်သောနေရာမှ အခြားတဖက်သို့ လွှဲသွားပြီးတဖန် ပဌမနေရာသို့ ပြန်ရောက်လာသည်အထိကို တပတ်လွှဲဟုခေါ်သည်။

ကမ္ဘာမြေကြီး၏ မျက်နှာပြင်ပေါ်တွင် ကမ္ဘာ့ဆွဲအားသည် ဒေသတခုမှာနှင့် တခုမှာမတူချေ။ ယင်းသို့ ဒေသအလိုက် ကမ္ဘာ့ဆွဲအား ပြောင်းလဲသွားသည့် အခါများတွင်ဖြစ်စေ၊ ချိန်သီးကြိုးအလျားကို အတိုအရှည် ပြောင်းလဲပေးသည့် အခါများတွင်ဖြစ်စေ လွှဲချိန်သည် ပြောင်းလဲသွားတတ်သည်။ (အာကာဓနုသတ္တိ — ရှု။) သို့သော် တိုင်ကပ်နာရီ ချိန်သီးတံ၏ အောက်ဖက်ထိပ်၌ ဝက်အူတခုရှိသည်။ ထိုဝက်အူကို လှည့်ပေးခြင်းဖြင့် ချိန်သီးကိုမြှင့်နိုင် နှိမ့်နိုင်၍ ချိန်သီးတံ အလျားကို နာရီအချိန်မှန်မှန်သွားသည်အထိ အလိုရှိသလို ကန့်သတ်ပေးနိုင်သည်။

ချိန်သီး၏လွှဲချိန်သည် ကမ္ဘာအရပ်ရပ်၌ ကမ္ဘာ့ဆွဲအားကိုမှီ၍ ပြောင်းလဲသည့်အလျောက်၊ ချိန်သီးကို ကမ္ဘာအရပ်ရပ်ရှိ ကမ္ဘာ့ဆွဲအား တိုင်းတာရေးအတွက်လည်း အသုံးပြုနိုင်သည်။

ရိုးရိုးချိန်သီး တပ်ဆင်ထားသော တိုင်ကပ်နာရီသည် ရာသီဥတုအလိုက် မြန်လိုက်နှေးလိုက်နှင့် အချိန်မမှန်နိုင်ဘဲ ရှိတတ်သည်။ ထိုသို့ဖြစ်ရခြင်းမှာ ပူသောအခါတွင် ချိန်သီးတံသည် ရှည်လာ၍ အေးသောအခါတွင် တိုသွားသည့်အလျောက် ချိန်သီးတံ၏အလျားသည် အမြဲတမ်းတသမတ်တည်းမရှိသောကြောင့် ဖြစ်သည်။ ထိုကြောင့် ခေတ်မှီတိုင်ကပ်နာရီများတွင် ချိန်သီးတံရှည်ထွက်ခြင်း တိုဝင်ခြင်းမရှိအောင် စီမံထားသော ချိန်သီးမျိုးကို တပ်ဆင်ထားသည်။ ထိုချိန်သီးမျိုး၏ ချိန်သီးတံကို သတ္တုနှစ်မျိုးဖြင့် ပူးတွဲပြုလုပ်ထားသည်။ ပူလာသောအခါတွင် သတ္တုတမျိုးသည် အထက်သို့စန့်ထွက်လာ၍၊ အခြားသတ္တုတမျိုးက အောက်သို့စန့်ထွက်သွားသည်။ ထိုသတ္တု ၂ မျိုး၏ စန့်ထွက်သည့်အတိုင်းအဆချင်း တူညီစေရန် စီမံထားသည့်အတွက် ချိန်သီးတံအလျား၌ ပြောင်းလဲမှု မဖြစ်ပေါ်နိုင်ချေ။ မကြာသေးမီကလည်း 'အင်ဗား' ခေါ် သံမဏိနှင့် နစ်ကယ် ရောစပ်ထားသော သတ္တုစပ်တမျိုးပေါ်လာသည်။ ထိုသတ္တုစပ်သည် အပူအအေးကြောင့် စန့်ထွက်ခြင်း ကျုံ့ဝင်ခြင်း မရှိသလောက်ဖြစ်ရာ၊ ထိုသတ္တုစပ်ဖြင့် အလျားမပြောင်းသော နာရီချိန်သီးတံများကို ပြုလုပ်နိုင်သည်။

**ချိန်။ ဦး။** ။'နှိုင်းနှိုင်းချိန်ချိန်သုခမိန်' ဆိုသော မြန်မာလူမျိုးတို့ ဆိုရိုးစကားနှင့်လျော်ညီစွာကုန်းဘောင်ခေတ်တွင် အရာခပ်သိမ်းတို့၌ နှိုင်းချိန်ဝေဖန် မြော်မြင်တတ်သော ပညာရှိတဦး ပေါ်ထွန်းခဲ့လေသည်။ ပညတ်သက်ရာ ဓာတ်သက်ပါ ဆိုသောစကားကဲ့သို့ ထိုပုဂ္ဂိုလ်ကြီး၏ နာမည်တွင် သူ၏နှိုင်းချိန် ခိုင်မြဲသော အလေ့အထကို ပေါ်ပြလျက်ရှိပေသည်။ ယင်းသုခမိန်ကား ဝေါဟာရလီနတ္ထဒီပနီ ကျမ်းပြုဆရာ ဦးချိန်ပင်ဖြစ်သည်။

မြန်မာဂန္ထဝင်တွင် ဝေါဟာရလီနတ္ထဒီပနီကျမ်းကြီး ထင်ရှားသလောက် ဦးချိန်၏အမည်ထင်ပေါ်ခြင်း မရှိခဲ့သည်မှာ ဝမ်းနည်းစရာဖြစ်၏။

ဦးချိန်မှာ ဆရာကောင်းတပည့် တဦးဖြစ်ပေသည်။ ဦးချိန်သည် မုံရွေးဇေတဝန်ဆရာတော်ဟု ကျော်စောထင်ရှားပြီးလျှင် ပဋ္ဌာနဝုဓပျို့၊ နာဒရပျို့၊ သီလဝပျို့များနှင့် သမန္တစက္ခုဒီပနီ၊ ရာဇောဝါဒကျမ်း၊ ကဝိမဏ္ဍနီသတ်ပုံကျမ်းများကို ပြုစုတော်မူခဲ့သော အရိယာဝံသအာဒိစ္စရံသီ ဆရာတော်၏ အန္တေဝါသိက တပည့်အဖြစ်ဖြင့် နှစ်ပေါင်းများစွာ ဆည်းကပ်သင်ကြားခဲ့သည်။ သူသည် ဘာသန္တရ၊ ဂန္ထန္တရဗဟုသုတ တို့နှင့်ပြည့်စုံသော ပုဂ္ဂိုလ်တဦးဖြစ်သည့်ပြင်၊

နက်နက်နဲနဲ ကြံဆတွေးတောခြင်း၊ မေးမြန်းစူးစမ်းခြင်းများကိုလည်း ပြုလုပ်ခဲ့သည်။

မုံရွေး ဇေတဝန်ဆရာတော်ဘုရား ရေးသားသော သမန္တစက္ခုဒီပနီကျမ်းတွင် ဦးချိန်ရှင်သာမဏေ ရှင်သီရိမာလာဘဝက မေးမြန်းသော ပုစ္ဆာများကို တွေ့မြင်နိုင်ပေသည်။ ဦးချိန်သည် အထူးသဖြင့် ပါဠိစာပေ၊ သင်္ချိုင်စာပေများတွင် နှံ့စပ်ကျွမ်းကျင်သော ပုဂ္ဂိုလ်တဦးဖြစ်ပေသည်။ ထို့ကြောင့် သာသနာပိုင် ဗားကရာဆရာတော်ဘုရားကြီး၏ တိုက်တွန်းတော်မူချက်အရ၊ မာဂဓအဘိဓာန်ကျမ်း၏အဖွင့်ဖြစ်သော အဘိဓာနတ္ထဝိသောဓနီကျမ်းကို ပြုစုခဲ့သည်။ ပုဂံမင်းလက်ထက် မကွေးဝန်ထောက်တော်မင်း၊ မင်းကြီးမဟာမင်းလှစည်သူ တောင်းပန်တိုက်တွန်းချက်အရ၊ ဝေါဟာရလိနတ္ထဒီပနီကျမ်းကို ပြုစုခဲ့သည်။ ဤကျမ်းမှာ မြန်မာဝေါဟာရများ၏ တိမ်မြုပ်နေသော အဓိပ္ပါယ်များကို ဖော်ပြထားသော ကျမ်းဖြစ်သည်။ ကျမ်းပြုပုဂ္ဂိုလ်သည် ပင်ပန်းကြီးစွာနှင့် စေ့စေ့ငငစုံစမ်းရှာဖွေခဲ့ရကြောင်း သူ၏ကျမ်းက သက်သေခံပေသည်။ သို့ရာတွင် ဦးချိန်မှာ ပါဠိ၊ မာဂဓဘာသာများတွင် အားသန်သူဖြစ်ရကား များစွာသောမြန်မာဝေါဟာရများကိုမာဂဓဘာသာဖက်သို့ဆွဲငင်၍ ရေးသားထားသည်ကို တွေ့ရသည်။ ထိုမှတပါး ဦးချိန်သည် တဇ္ဇတ္ထဒီပနီအမည်ဖြင့် တစ္ဆေသဉ္ဇန့်ပေါင်းကျမ်းကိုလည်းရေးသားခဲ့သေးသည်။ ဦးချိန်၏ တစ္ဆေဝတ္ထုများမှာ ဖတ်ရှုဖွယ်ကောင်းသော ရှေးဟောင်းတစ္ဆေဝတ္ထုများဖြစ်ပေသည်။ သူ၏တစ္ဆေပုံပြင်ဝတ္ထုများကိုဒုတိယကမ္ဘာစစ်ကြီးမဖြစ်မီက၊ ရန်ကုန်တက္ကသိုလ်ကျောင်းအုပ်ကြီးဦးဖေမောင်တင်ကအင်္ဂလိပ်ဘာသာသို့ ပြန်ဆိုရေးသားခဲ့သည်။

ဦးချိန် ကျမ်းဂန် နှံ့စပ်တတ်ပွန်ပုံကို ကဝိလက္ခဏာဒီပနီဆရာ မြောင်လှမြို့စား မင်းကြီးသီရိမဟာဇေယျသူ ဘွဲ့ခံဦးခြိမ့်က သူ၏ ကဝိလက္ခဏာဒီပနီကျမ်းတွင် ချီးကျူးထားသည်မှာ 'မာဂဓဘာသာ၊ သက္ကတဘာသာမျိုးနှင့်တကွ ဂန္ထန္တရဗဟုသုတအရာတွင် ကမ်းတဖက်ရောက် ဆိုတန်ဆိုထိုက်သော ငါတို့ဆရာ ၁၁၅၇ ခုဖွား၊ လှေသင်းအတွင်းဝန်မင်းကြီးမဟာဇေယျသင်္ခယာ' စသည်ဖြင့် ဖြစ်သည်။

ဦးချိန်ကို ဘိုးတော်ဘုရားလက်ထက် သက္ကရာဇ် ၁၁၅၇ ခုနှစ် အလုံမြို့စီရင်စု မုံရွာမြို့တွင် ဖွားမြင်သည်။ ဘကြီးတော်ဘုရားလက်ထက်တွင် မဟာဇေယျသင်္ခယာဘွဲ့နှင့် သံတော်ဆင့်ကြီးအရာ ခန့်အပ်ခြင်းခံရသည်။ ထိုနောက် သာယာဝတီမင်း၊ ပုဂံမင်းနှင့် မင်းတုန်းမင်းတရားကြီးလက်ထက်တိုင် အမှုတော်ကို ဆက်လက်ထမ်းဆောင်သည်။ မင်းတုန်းမင်းတရားကြီးလက်ထက်တော်တွင် မင်းကြီးမဟာဇေယျသင်္ခယာဘွဲ့နှင့် လှေသင်းအတွင်းဝန် ရာထူးတို့ဖြင့် ချီးမြှင့်မြှောက်စားခြင်းကို ခံရသည်။

ထိုသို့ မင်း ၄ ဆက်တိုင်တိုင် သူကောင်းပြုခြင်းခံရသော ပညာရှိကြီးမှာ သက္ကရာဇ် ၁၂၃၇ ခုနှစ်တွင် အနိစ္စရောက်လေသည်။ ဦးချိန်သည် ကျမ်းဂန်တတ်မြောက်သော်လည်း မာန်မာနထောင်လွှားခြင်းမရှိ၊ မိမိကိုယ်ကို နှိမ့်ချတတ်၍ သီလဂုဏ်၊ သမာဓိဂုဏ်တို့နှင့် ပြည့်စုံသည်။ ပညာရှာမှီးခြင်း၌ ရောင့်ရဲတင်းတိမ်ခြင်းမရှိဘဲ၊ နေ့ညမယုတ် အားထုတ်ဆည်းပူးတတ်သော ပုဂ္ဂိုလ်ကြီးဖြစ်ပေသည်ဟု မှော်ဘီဆရာသိန်းကြီးရေးသားသော ပညာရှိကြီးများအကြောင်း၌ ဖော်ပြပါရှိသည်။

**ချပ်ဝတ်တန်ဆာ။** ။လူတို့စစ်တိုက်ကြသောအခါ၊ မိမိ၏ ခန္ဓာကိုယ်ကို ရန်သူ့လက်နက်များ မထိမရှစေခြင်းငှာ ကာကွယ်ရန် ဝတ်စားဆင်ယင်သောတန်ဆာကို ချပ်ဝတ်တန်ဆာဟုခေါ်သည်။

ချပ်ဝတ်တန်ဆာ အဆင့်ဆင့်ဖြစ်ပေါ်လာပုံမှာ၊ ဓား၊ လှံ၊ လေး၊ မြား၊တင်းပုတ် စသည်တို့ကို ခံရန်တီထွင်ထားသော



ချပ်ဝတ်တန်ဆာဝတ်ထားသောဩစတြီးယားဘုရင်တပါး၏ရုပ်တု

ဒိုင်းလွှားများမှ အစဖြစ်သည်။ ရှေးခေတ်အီဂျစ်၊ အဆီးရီးယန်း၊ ဂရိနှင့်ရောမလူမျိုးတို့သည် ရန်သူနှင့်ရင်ဆိုင်တိုက်ခိုက်သောအခါ သားရေဖြင့်ပြုလုပ်သော ဒိုင်းလွှားများကို အသုံးပြုကြသည်။ ထိုနောက် အသိဉာဏ်တစတစ တိုးတက်လာသောအခါ ဦးခေါင်းကိုကာကွယ်ရန် သံခမောက်စသည်တို့ကို တီထွင်ကြပြန်သည်။ ထိုမှ တဆင့်ထက်တဆင့် ကြံဆကြလေရာ၊ ရင်အုပ်ကိုရင်း၊ ဒူးမှခြေမျက်စိအထိ ခြေထောက်ကိုရင်း ကာကွယ်ရန် သံချပ်တန်ဆာများကို တီထွင်ကြပြန်သည်။ ထိုနောက်၌မူကား သံပြားပါးပါးတို့ကိုဆက်စပ်၍ ကိုယ်စွပ်အင်္ကျီသဖွယ် ပြုလုပ်ဝတ်ဆင်ကြသည်။ ဤသည်တွင် ချပ်ဝတ်တန်ဆာ ဖြစ်ပေါ်လာလေသည်။

သံပြားချပ်များဖြင့် ပြုလုပ်သော သံချပ်အင်္ကျီအစစ် မပေါ်မီက ရှေးခေတ်သူရဲကောင်းများသည် သားရေကို သံချပ်အင်္ကျီကဲ့သို့ချုပ်၍ ဝတ်ဆင်ကြ၏။ ပစ္စည်းဥစ္စာချမ်းသာကြွယ်ဝသော စစ်သူရဲကောင်းအမတ်ကြီးအချို့သာ ကမ္ဘာ့အရှေ့ပိုင်း နိုင်ငံများမှလာသော သံကွင်းဆက်အင်္ကျီများကို ဝတ်ဆင်နိုင်ကြလေသည်။ ချပ်ဝတ်တန်ဆာများအနက် နော်မန်လူမျိုးများ စတင်အသုံးပြုခဲ့သော ခေါင်းစွပ်သံချပ်ဦးထုပ်မှာ အတော်ပင်စိတ်ချရ၏။ သံချပ်ခေါင်းစွပ်၏ ပုံသဏ္ဌာန်မှာ ထိပ်ဝိုင်း၍ နှာခေါင်းကိုကာကွယ်သည့် သံနှာတံလည်းပါ၏။ ထူးခြားချက်တခုမှာ ရန်သူ၏ဓားချက်လှံချက်များသည် သံခမောက်နှင့်ထိလျှင် ဘေးသို့ချော်ထွက်သွားခြင်းပင်ဖြစ်သည်။

ထိုနောက် လူများသည် တခေတ်ထက်တခေတ် သံချပ်အင်္ကျီများကို ကောင်းသည်ထက် ကောင်းအောင် ထွင်လာကြသည်။ ၁၄ ရာစုအတွင်း ကရူးဆိတ်စစ်သည်တော်များ ဝတ်ဆင်ကြသော သံချပ်အင်္ကျီများမှာ လွန်စွာလေးလံတောင့်တင်း၍ ဝတ်ဆင်ရာတွင် မသက်သာလှချေ။ ထိုသံချပ်အင်္ကျီမျိုးကိုဆင်မြန်း၍ တိုက်ခိုက်သည့်အခါ၌လည်း လက်နက်ကရိယာများကို လွတ်လွတ်လပ်လပ် စိတ်တိုင်းကျ မကိုင်ဆောင်နိုင်ကြချေ။ ထိုပြင် သံပြားချပ်အဆက်အစပ်များဖြစ်သော သားရေ သို့မဟုတ် အဝတ်များမှာ ရန်သူ၏လှံချက် ဓားချက်ထိသွားသောအခါ ချုပ်ရိုးစုတ်ပြတ်သွားသဖြင့် ဒဏ်ရာဒဏ်ချက်ရရှိတတ်လေသည်။ ချုပ်ရိုးများ စုတ်ပြတ်သွားသည့်အခါတွင်လည်း သံပြားချပ်အစများ တွဲရရွဲဖြစ်နေ၍ လွတ်လပ်စွာ မလှုပ်ရှားနိုင်တော့ပေ၊ သို့ရာတွင် သံပြားချပ်တို့ဖြင့်ပြုလုပ်ထားသော သံချပ်အင်္ကျီသည် သံကွင်းဆက်အင်္ကျီထက် ဓားသွား လှံသွားတို့၏ဒဏ်ကိုပို၍ခံနိုင်သည်။ သံကွင်းဆက်အင်္ကျီထက်လည်း ပို၍လေးလံသည်။ သံချပ်အင်္ကျီဝတ်ဆင်၍ တိုက်ခိုက်နေသောစစ်သူရဲတဦးသည် မြင်းပေါ်မှလိမ့်ကျ၍ မြေပေါ်၌လဲနေလျှင် ကိုယ်တွင်ဒဏ်ရာတစုံတခု မရရှိဘဲနှင့် သံချပ်အင်္ကျီ၏အလေး



၁၆ ရာစုခေတ်ကချပ်ဝတ်တန်ဆာဝတ်ဆင်ထားသည့်ဂျာမန်မြင်းစီးသူရဲပုံ

ချိန်ဒဏ်ကြောင့် ရုတ်ခြည်းထနိုင်ရန် ခဲယဉ်းလှပေသည်။ ရှေးခေတ်အခါက ချပ်ဝတ်တန်ဆာများကို ဆင်မြန်းထားသော သူရဲကောင်းများ၏ ပုံပန်းသဏ္ဍာန်မှာ လွန်စွာပင် တင့်တယ်ခန့်ညားး၍ ကျက်သရေရှိလှပေသည်။ စစ်သူရဲများသည် နေရောင်ထဲ၌ တလက်လက်တောက်ပနေသော သံချပ်အင်္ကျီ၊သံချပ် ဦးထုပ်၊သံချပ် မျက်နှာဖုံး၊ သံချပ် ဖိနပ် စသည်တို့ကိုဝတ်ဆင်လျက် လက်ထဲတွင် ဒိုင်းလွှား လှံစသည်တို့ကို ကိုင်ဆောင်၍ ရန်သူကိုချေမှုန်းမည့်အသွင် ဆောင်နေသည်။ သူတို့စီးထားသော မြင်းများမှာလည်း သူတို့ကဲ့သို့ပင် ချပ်ဝတ်တန်ဆာ အပြည့်အစုံနှင့်ဖြစ်ပေသည်။ သံခမောက်များတွင် တပ်ဆင်ထားသော နူးညံ့ပျော့ပျောင်းသည့် ငှက်တောင်မွေးများမှာလည်း လေထဲတွင် တလူလူလွင့်လျက်ရှိလေသည်။

ယင်းသို့ ချပ်ဝတ်တန်ဆာများကို အပြည့်အစုံဆင်မြန်းလိုက်သောအခါ မိမိတို့လူကို မိမိတို့မှတ်မိရန် ခဲယဉ်းသဖြင့်၊ လူ မမှားစေရန် စစ်သူရဲ၏အမျိုးအနွယ် အမှုထမ်းသော တပ် သို့မဟုတ် အဖွဲ့အမည်စသည်တို့၏ အမှတ်အသားများကို သံချပ်အင်္ကျီရင်ပတ်နှင့် ဒိုင်းလွှားပေါ်တွင် တပ်ဆင်ထားလေ့ရှိသည်။

ရှေးခေတ်က တယောက်ချင်းတိုက်ပွဲ၊ရင်ဆိုင်တိုက်ပွဲများတွင် ချပ်ဝတ်တန်ဆာများကို ဝတ်ဆင်လေ့ရှိကြ၏။ တယောက်ချင်း တိုက်ပွဲများကို လူသူကင်းဝေးသည့် နေရာတခုခုတွင် ၂ဦးချင်းချိန်းဆိုတိုက်ခိုက်၏။ တခါတရံယခုခေတ် လက်ဝှေ့ပွဲများကဲ့သို့ အပျော်သက်သက် ပြုလုပ်ကြသည်လည်းရှိ၏။ ဘုရင်နှင့် မိန်းမပျိုများရှေ့တွင်လည်း သတ္တိစွမ်းကိုပြရန် ပြုလုပ်လေ့ရှိကြသည်။ ရံဖန်ရံခါ တောထဲတွင် မမြော်လင့်ဘဲ ရန်သူချင်းတွေ့ဆုံသဖြင့် တိုက်ခိုက်ကြခြင်းလည်းရှိ၍၊ တခါတရံ မြို့စား ရွာစားများ တဦးနှင့်တဦး အချိန်းအချက်ပြုလုပ်လျက် နောက်လိုက်နောက်ပါများဖြင့် တိုက်ခိုက်ကြခြင်းလည်းရှိလေသည်။

၁၃ ရာစုမှ ၁၆ ရာစုအထိ နှစ်များအတွင်းတွင် စစ်သူရဲများသည် မိမိတို့ကိုယ်ကိုသာမက မိမိတို့စီးသည့် စစ်မြင်းကြီးများကိုပင် ချပ်ဝတ်တန်ဆာများဆင်၍ တိုက်ပွဲဝင်ကြသည်။ သို့ရာတွင် မြင်း၏ဘေးနှစ်ဖက်၊ ကျော၊လည်ပင်းအပေါ်ပိုင်းနှင့် မျက်နှာတို့ကိုသာ ချပ်ဝတ်တန်ဆာများဖြင့် ဖုံးအုပ်ပေးထားနိုင်၍ အရေးကြီးသည့်အပိုင်းအချို့နှင့် ခြေထောက်လေးချောင်းစလုံးတွင်ကား ဖုံးအုပ်ပေးနိုင်ခြင်း မရှိချေ။ မြင်းကြီးများသည် ကိုယ်တွင်သံချပ်ထည်များကို ဝတ်ဆင်ရသည့် အပြင် ချပ်ဝတ်တန်ဆာများကို အပြည့်အစုံဝတ်ဆင်ထား၍ အလွန်လေးလံသော သူရဲကောင်း၏ကိုယ်ကို ထမ်းနေရသောကြောင့် လျင်မြန်ဖျတ်လတ်စွာ ခုန်ပေါက်ပြေးလွှားရှောင်တိမ်းခြင်း မပြုနိုင်တော့ပေ။ သို့ဖြစ်၍ ချပ်ဝတ်တန်ဆာများကို ဝတ်ဆင်၍ တိုက်ရခြင်းသည် များစွာအကျိုးရှိသင့်သလောက် မရှိသည်ကိုတွေ့ရလေသည်။ ၁၆ ရာစုက မြင်းများတွင်တပ်ဆင်ပေးသော ချပ်ဝတ်တန်ဆာများကို စီးသူ၏ချပ်ဝတ်တန်ဆာနှင့် လိုက်အောင်ပြုလုပ်ထားသဖြင့် အလေးချိန်ပေါင် ၈၀ (၂၂⅔ ပိဿာ) အထိ လေးတတ်လေသည်။

ထိုနောက် ခဲယမ်းမီးကျောက် ပေါ်လာသောအခါတွင် ရှေးသံချပ်ဝတ်တန်ဆာ ဆင်ယင်မှုခေတ် ကုန်ဆုံးလေတော့သည်။ ရှေးခေတ် မြန်မာစစ်သည်တော်များမှာကား အနောက်နိုင်ငံ စစ်သူရဲများကဲ့သို့ ချပ်ဝတ်တန်ဆာများကို ဆင်မြန်းသည့် အလေ့အထမရှိခဲ့ပေ။ သို့ရာတွင် မြန်မာနိုင်ငံသမိုင်းတွင် ထင်ရှားသော စစ်သူကြီး မဟာဗန္ဓုလသည် သံချပ်အင်္ကျီကိုဝတ်ဆင်၍ စစ်တိုက်ခဲ့ဘူးသည်ဟု အဆိုရှိလေသည်။ မဟာဗန္ဓုလ၏ သံချပ်အင်္ကျီကို အင်္ဂလန်ပြည် လန်ဒန်မြို့ ဗြိတိသျှပြတိုက်တွင် ယနေ့ထက်တိုင် တွေ့ရှိနိုင်သည်။ (ဗန္ဓုလ — ရှု။)



ကရူးဆိတ်စစ်သည်များဝတ်ဆင်သောချပ်ဝတ်တန်ဆာ

**ချိပ်။** ။ချိပ်မှာ လက်စီဖာလက်ကာခေါ် အင်းဆက်ပိုးမှ ရရှိသောအစေးဖြစ်သည်။ ချိပ်ပိုးများသည် ဘေးအန္တရာယ် အသွယ်သွယ်တို့ကို ကာကွယ်ရန်အလို့ငှာ မိမိတို့ကိုယ်ကို အစေးတမျိုးထုတ်လုပ်၍ ဖုံးလွှမ်း၏။ ထိုအစေးမှာ ချိပ်ဖြစ်သည်။ ထိုချိပ်ကို အလိုရှိကြသဖြင့် ထိုပိုးတို့ကို အမြောက်အမြားမွေးမြူကြသည်။

လက်စီဖာလက်ကာပိုးမျိုးကို ဥရောပတိုက်မှအပ မြောက်နှင့်တောင်အမေရိကတိုက်၊ ဩစတြေးလီးယားတိုက်၊ အာရှတိုက်နှင့် အာဖရိကတိုက်များတွင် တွေ့နိုင်သည်။ အာရှတိုက်၌ ပေါ်မိုးဆားကျွန်း၊ နီပေါနိုင်ငံ၊ သီဟိုဠ်ကျွန်းနှင့် ဂျားဗားကျွန်းများတွင် တွေ့နိုင်သည်။ အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံတို့သည် ကမ္ဘာပေါ်၌ ချိပ်အဓိကထွက်သော နိုင်ငံများဖြစ်ကြသည်။

မြန်မာနိုင်ငံ၌ သစ်တောခရိုင်ပေါင်း ၇ ခုရှိသည့်အနက် သစ်တောခရိုင် ၄ ခု၌ ချိပ်ထွက်သည်။ ယင်းတို့မှာ မြစ်ဝကျွန်းပေါ်သစ်တောခရိုင်၊ မြောက်ဖက်သစ်တောခရိုင်၊ အလယ်သစ်တောခရိုင်နှင့် ချင်းတွင်းသစ်တောခရိုင်များဖြစ်သည်။ မြစ်ဝကျွန်းပေါ် သစ်တောခရိုင်၌ သရက်နှင့်ဟင်္သာတခရိုင်များ၊ မြောက်ဖက်သစ်တောခရိုင်တွင် ကသာ၊ ဗန်းမော်နှင့်မန်စီနယ်များ၊ အလယ်သစ်တောခရိုင်တွင် မေမြို့နယ်၊ ချင်းတွင်းသစ်တောခရိုင်တွင် အထက်ချင်းတွင်း၊ ယော၊ မင်းဘူး၊ မြစ်သား၊ မြို့နယ်များနှင့်မူးမြစ်ဝှမ်းဟူသည်တို့တွင် ချိပ်ထွက်သည်။ ယင်းတို့အပြင် မြန်မာနိုင်ငံ၌ ချိပ်အများဆုံးထွက်သော ဒေသမှာ ရှမ်းပြည်နယ်ဖြစ်သည်။ မြန်မာနိုင်ငံမှထွက်သော ချိပ်ရာခိုင်နှုန်း ၇၀ မျှလောက်ကို ရှမ်းပြည်နယ်မှရရှိသည်။

ချိပ်ပိုးတို့သည် အချို့သောအပင်များ၊ ချုံဖုတ်များ၊ နွယ်ပင်များပေါ်တွင်နေကာ အပင်မှထွက်သောအရည်ကို စုတ်ယူ၍အသက်ရှင်ကြရသည်။ စုတ်ယူသော အရည်များမှ တဖန်အစေးလုပ်ယူကြသည်။ ချိပ်ပိုးများ နေလေ့ရှိသော အပင်များမှာ ရှားပင်၊ ကုက္ကိုပင်၊ တောင်မန်ကျည်းပင်၊ ဩဇာပင်၊ သတိုပင်၊ ပေါက်ပင်၊ ရင်းတိုက်ပင်၊ တမလန်းပင်၊ သစ်နုပင်၊ သဒ္ဒတ်ပင်၊ သဖန်းပင်၊ ကဒွတ်ပင်၊ ညောင်သပြေပင်၊ ညောင်ချဉ်ပင်၊ ညောင်ပိန္နဲပင်၊ ဗောဓိညောင်ပင်၊ ဆင်သဖန်းပင်၊ အင်ကြင်းပင်၊ သဘော်ကုက္ကိုပင်၊ ကြို့ပင်၊ သစ်ရာပင်၊ ဆီးပင်ဟူ၍ဖြစ်သည်။

ချိပ်ပိုးလောင်းသည် လှေပုံသဏ္ဍာန်နှင့်တူ၍ အရှည်မှာ မီလီမီတာ တဝက်ကျော်မျှရှိသည်။ အရောင်မှာ နီ၏။ ထိုပိုးလောင်းကောင်ကလေးများသည် ချိပ်ပိုးမ ကိုယ်ခန္ဓာ၏ဆဲများမှ ပေါက်လာ၍ အတော်အတန်သွားသွားနိုင်ကြသည်။ ချိပ်ပိုးမ တကောင်မှ ချိပ်ပိုးလောင်းကလေးပေါင်း ၁၀၀၀ ခန့်ပေါက်နိုင်၏။ ပျမ်းမျှခြင်းအားဖြင့်



ဆီးပင်၏ပင်စည်တွင်ချိပ်ပိုးများအိမ်ဖွဲ့နေစဉ်

ကောင်ရေ ၂၀၀ မှ ၅၀၀ အထိ ပေါက်နိုင်၏။ ထိုပိုးလောင်းကောင်ကလေးများသည် အရည်ရွှမ်းနေသော အရွက်နုများကို စားသောက်ရန် ပို၍နှစ်သက်သည်။ ရင့်နေသော သစ်ရွက်ကြမ်းများကို ကောင်းစွာ မစားသောက်နိုင်ကြပေ။ ထို့ကြောင့် ချိပ်ပိုးများကို မွေးမြူသောအခါ အရွက်နုများထွက်လာရန် အပင်မှ သစ်ကိုင်းများကို ချိုင်ပေးကြရ၏။ အကိုင်းအခက်များကို ချိုင်ထားခြင်းမရှိသော အပင်များ၌လည်း ချိပ်ပိုးများကို မွေးမြူနိုင်သည်။ သို့သော် ချိပ်များ ရသင့်သလောက်မရရှိနိုင်။

ချိပ်ပိုးများကို မွေးမြူရာ၌ ချိပ်ပိုးလောင်းများတွယ်နေသော အကိုင်းကိုဖြတ်တောက်၍ မွေးမြူလိုသောအပင်၌ ချိတ်တွယ်ပေးရသည်။ ဤသို့ဖြင့် ချိပ်ပိုးကောင်များသည် အပင်သို့ကူး၍ အရွက်နုကလေးများမှ အရည်ကို စုတ်ယူစားသောက်ကြသည်။ အများအားဖြင့် အကိုင်းအခက်များ အောက်ဖက်မှနေ၍ ပင်ရည်ကိုစုတ်ယူ စားသောက်တတ်ကြသည်။ မကြာမီအတွင်းမှာပင် ပိုးလောင်းကောင်ကလေးများသည် တကောင်အပေါ် တကောင်ထပ်၍ အများအပြားပြွတ်သိပ်ကာ ပေါ်ပေါက်လာကြသည်။

ချက်ခြင်းပင် ချိပ်ပိုးလောင်းကောင်ကလေးများသည် ချိပ်ရည်ကိုထုတ်ကြ၏။ ထိုချိပ်ရည်ကို ချိပ်ပိုးများအတွင်းရှိ ဂလင်းများ၏ အကူအညီဖြင့်ထုတ်သည်။ ပဌမ၌ ချိပ်ရည်

သည် ပိုးလောင်းများ၏ကိုယ်ပေါ်၌ တောက်ပြောင်လျက် ရှိ၏။ ထိုနောက် ထိုအရည်သည် တဖြည်းဖြည်းမာသွား၍ ချိပ်ပိုး၏ကိုယ်ကို ဖုံးလွှမ်းသွားသည်။ ဖုံးလွှမ်းထားသော ချိပ်ရည်အတွင်း၌ပင် ချိပ်ပိုးများသည် ချိပ်ရည်ကို ဆက်လက်ထုတ်ပေးကြ၏။

ချိပ်ပိုးအမနှင့်အထီးရှိရာ အထီးများသည် မိမိတို့၏ချိပ်ရည်နှင့်ပြုလုပ်ထားသော ပိုးအိမ်များအတွင်း၌ အဆင့်ဆင့်ပြောင်းလဲ၍ ကြီးကောင်ဝင်ပိုးဘဝသို့ ကူးပြောင်းသွားကြလေသည်။ ကြီးကောင်ဝင်ပိုးသည် ပိုးလောင်းကောင်နှင့် လုံးဝမတူတော့ပေ။ အထီးများသည် ကြီးကောင်ဝင်ပိုးများဖြစ်လာသောအခါ မိမိတို့၏ ပိုးအိမ်များမှ ထွက်လာ၍ အမများနှင့် မျိုးဆက်ပွားရန် ဆောင်ရွက်ကြသည်။ ဆောင်ရွက်ပြီးသောအခါ မကြာမီအတွင်းမှာပင် သေဆုံးသွားကြသည်။ ရရှိသောချိပ်သည် အများအားဖြင့် ချိပ်ပိုးမများမှ ထုတ်သော ချိပ်ဖြစ်သည်။ အမှန်စင်စစ် ချိပ်ထုတ်ခြင်း အလုပ် အားလုံးကို ချိပ်ပိုးထီးများ မိမိတို့အိမ်ထဲမှ ထွက်လာပြီးနောက်မှ ပြုလုပ်ကြလေသည်။

ချိပ်ပိုးအမများသည် မိမိတို့အိမ်အတွင်း၌ မလှုပ်မရှားနေ၍ ချိပ်ကိုထုတ်ပေးကြသည်။ ဤသို့ဖြင့် ချိပ်အဆောက်အအုံမှာ တဖြည်းဖြည်း ကြီးမားလာလေသည်။

ပိုးဥဖြစ်သည့်အချိန်မှ ကြီးကောင်ဝင်ပိုးမက တဖန်ဥပြန်အုသည့် အချိန်အထိကို ဇီဝစက်တခုဟု ခေါ်သည်။ ထိုအချိန်မှာ ချိပ်ရရှိရန်ကြာသော အချိန်ပင်ဖြစ်သည်။ ရာသီဥတု အခြေအနေနှင့် မွေးမြူသောအပင်များကို လိုက်၍ တနှစ်အတွင်း ဇီဝစက် ၂ ခုမှ ၄ ခုအထိရှိနိုင်ပေသည်။

ချိပ်များကို လိုက်လံစုဆောင်းရာ၌ ချိပ်တွယ်နေသော အကိုင်းအခက်များကို ဖြတ်တောက်ယူကြ၏။ သိမ်းယူသောအခါ ရှိသမျှချိပ်အားလုံးကိုမယူဘဲ၊ နောက်ထပ်မွေးမြူရန်အတွက် အချို့အဝက်ကို ချန်ထားခဲ့ကြရ၏။ ထိုနောက် သစ်ကိုင်းများတွင်ရှိနေသော ချိပ်များကိုခွာယူ၍ အလိုရှိသောနေရာများသို့ တင်ပို့ရောင်းချကြ၏။ တခါတရံ ချိပ်များတွယ်ကပ်နေသော သစ်ကိုင်းများကို အကိုင်းလိုက်လည်း တင်ပို့ရောင်းချတတ်သည်။ မြန်မာနိုင်ငံမှ ထွက်သော ချိပ်များကို အိန္ဒိယနိုင်ငံသို့ တင်ပို့ရောင်းချသည်။ အိန္ဒိယနိုင်ငံ၌ ထိုချိပ်ကို အမျိုးမျိုးပြုပြင်၍ ရှဲလက်ခေါ် ချိပ်လွှာများပြုလုပ်ယူကြသည်။

ချိပ်မှ ချိပ်လွှာလုပ်ယူရာ၌ ပဌမ ချိပ်ကိုအမှုန့်ကြိတ်ပြီး လျှင် ရေနွေးထဲတွင်ထည့်၍ ဆေးကြောပစ်ရသည်။ ဤကဲ့သို့ပြုလုပ်ပေးခြင်းအားဖြင့် ချိပ်ကိုပျော့ပျောင်းသွားစေ၍ အထဲတွင်ပါရှိသော ဆိုးဆေးများကို ထွက်သွားစေသည်။ ထိုဆိုးဆေးများမှာ ချိပ်ပိုးများ၏ ကိုယ်ခန္ဓာများမှ ထွက်လာသောပစ္စည်းများဖြစ်၍ အနီပုပ်ရောင်ရှိ၏။ ရှေးအခါက ထိုဆိုးဆေးများကို အလွန်တရာမှပင် တန်ဖိုးထား၍ အသုံးပြုကြလေသည်။ မြန်မာနိုင်ငံ၌ ထိုဆိုးဆေးများကို ပိုးလုံချည်များ ဆေးရောင်ဆိုးရာတွင် အသုံးပြုကြသည်။ သို့ရာတွင် ယခုအခါ အခြားဆိုးဆေးအမျိုးမျိုး ပေါ်ပေါက်လာသဖြင့် ယင်းတို့ကို ရှေးအခါကလောက် တန်ဖိုးမထားကြတော့ပေ။

ရေဖြင့် ၃၊၄ ကြိမ်မျှ ဆေးကြောပြီးသောအခါ ချိပ်ကို ခြောက်သွေ့သွားအောင် ပြုလုပ်ပေးရ၏။ ယင်းကို တဖန်အရည်ကျိုပေးသောအခါ ချိပ်လွှာများကို ရရှိလေသည်။

ချိပ်လွှာသည် ပယင်းရောင်အရင့်မှ အမည်းရောင်အထိ အရောင်အမျိုးမျိုးရှိ၏။ ယင်းကို တဖန်အရောင်ချွတ်ပေးနိုင်၏။ အရောင်ချွတ်ပြီးသောအခါမှ ချိပ်လွှာကို အလိုရှိသောအရောင် ပြန်ဆိုးပေးရန် အကောင်းဆုံးဖြစ်သည်။ အရှေ့အိန္ဒိယကျွန်းစု၌ အဝါရောင် ပြန်ဆိုးပြီးသောအခါမှ ချိပ်လွှာကိုအလှအပ တန်ဆာပစ္စည်းများပြုလုပ်ရန် အသုံးပြုကြလေသည်။ ချိပ်လွှာသည် ဓာတ်ပြားများပြုလုပ်ရာတွင် အရေးအကြီးဆုံးသော ပစ္စည်းတမျိုးဖြစ်ပေသည်။

**ချုံကင်းမြို့**။ ။ချုံကင်းမြို့သည် တရုပ်နိုင်ငံအနောက်ပိုင်း ဆီချွမ်ပြည်နယ်တွင်ရှိ၍ ရှေးနှစ်ပေါင်း ၄၀၀၀ ကျော်ကပင် ပေါ်ထွန်းခဲ့သော မြို့ဟောင်းတခုဖြစ်သည်။ ဘီစီ ၂၂ ရာစုနှစ်ခန့်က တရုပ်ပြည် ဆီယာမင်းဆက်မှ ယူဘုရင်၏မိဖုရားကြီးမှာ ထိုဒေသတွင်မွေးဖွားခဲ့သည်ဟုအဆိုရှိသည်။ ဘီစီ ၂၂၀ နှစ်က တရုပ်ပြည့်ရှင် ရှိဝှန်းတီဘုရင်သည် ချုံကင်းမြို့ကိုသိမ်းပိုက်၍ တရုပ်ပြည်မထဲသို့ ထည့်သွင်းခဲ့သည်။

ဤမြို့မှာ ယန်ဆီမြစ်နှင့် ကီယလင်မြစ်တို့ တွေ့ဆုံရာ ကျောက်ဆောင်ကျွန်းဆွယ်ပေါ်တွင် တည်ရှိသည်။ ထိုမြစ်များမှာ တရုပ်နိုင်ငံအနောက်ပိုင်းကို အလယ်ပိုင်းနှင့်၎င်း၊ ပင်လယ်ဆိပ်ကမ်းမြို့များနှင့်၎င်း ဆက်သွယ်ပေးရာ ခရီးလမ်းကြောင်းကြီးများဖြစ်ပေသည်။ ထိုကြောင့် ချုံကင်းမြို့မှာ တရုပ်နိုင်ငံ၏ အနောက်ဖက်အစွန်ကျသော ဆီချွမ်ပြည်နယ်နှင့် အလယ်ပိုင်းကိုဆက်သွယ်ပေးရာ သဘာဝတံခါးဟုဆိုနိုင်သော မြို့ကြီးတခုဖြစ်သည့်ပြင် ယူနန်ပြည်နယ်မြောက်ပိုင်းနှင့် တိဗက်နိုင်ငံအရှေ့ပိုင်းတို့မှ ကုန်စည်များစုဝေးထုတ်နုတ် ဖလှယ်ရာ ဗဟိုအချက်အခြာ မြို့တမြို့လည်းဖြစ်သည်။ ၁၈၉၀ ပြည့်နှစ်တွင် တရုပ်ပြည်နှင့် အနောက်နိုင်ငံအချို့တို့ ချုပ်ဆိုသောပီကင်းစာချုပ်အရ ချုံကင်းမြို့ကို နိုင်ငံခြားသားများ နေထိုင်ရောင်းဝယ်ခွင့်ရှိသော စာချုပ်ပါ မြစ်ကြောင်းသင်္ဘောဆိပ်မြို့အဖြစ်ဖြင့် ကြေညာခဲ့သည်။ ၁၉၄၃ ခုနှစ်တွင်မှ ထိုအခွင့်အရေးပေးရခြင်း ရပ်စဲသွားလေသည်။

မြို့ပတ်ပတ်လည်ကို ၅ မိုင်ရှည်လျားသော ကျောက်တံတိုင်းကြီးဖြင့် ကာရံထားလေသည်။ ထိုတံတိုင်းကြီးတွင်



ချုံကင်းမြို့ရှိကြီးမားခန့်ညားသောလူထုအစည်းအဝေးကျင်းပရာအဆောက်အအုံသစ်

မြို့တံခါး ၉ ပေါက် ဖေါက်ထားသည်။ ချုံကင်းမြို့၏ရာသီဥတုမှာ သာယာခြင်းမရှိသည့်အပြင် ကျန်းမာရေးနှင့်လည်း မညီညွတ်ချေ။

မြို့ပတ်ဝန်းကျင်အရပ်မှ လက်ဖက်၊ ဆန်စပါးနှင့် ပိုးခြည်များထွက်သည်။ တောင်ပေါ်ဒေသများမှ သိုးမွေးနှင့် သားရေများရရှိသည်။ မြစ်ကြောင်း သယ်ယူပို့ဆောင်ရေးတွင် ကတ္တူကြီးများနှင့် မီးသင်္ဘောငယ်များကို အသုံးပြုကြသည်။

ရှေးသုံးဝေါဟာရ၌ ချုံကင်းမြို့ကို ပါဆီအင်ဟုခေါ်သည်။ ချုံကင်းမြို့တွင် ၁၉၂၃ ခုနှစ်မှစ၍ မျူနီစီပယ်အဖွဲ့ကိုဖွဲ့စည်းခဲ့သည်။ တရုပ်ဂျပန် စစ်အတွင်းက တရုပ်နိုင်ငံမြို့တော် နန်းကင်းမြို့မှာ ဂျပန်များလက်သို့ကျဆုံးသွားရာ ၁၉၃၇ ခုနှစ် နိုဝင်ဘာလတွင် တရုပ်နိုင်ငံမြို့တော်ကို ချုံကင်းမြို့သို့ ပြောင်းရွှေလာခဲ့သည်။ ၁၉၃၆ ခုမှ ၁၉၃၈ ခုနှစ်အတွင်း ဖေါက်လုပ်ပြီးစီးခဲ့သော တရုပ်မြန်မာလမ်းမကြီးမှာ ချုံကင်းမြို့မှ ကွန်မင်းမြို့ကိုဖြတ်၍ မြန်မာနိုင်ငံနှင့် ဆက်သွယ်ထားသော မော်တော်ကားလမ်းကြီးဖြစ်သည်။ ဤလမ်းမကြီးမှ တရုပ်နိုင်ငံသို့ စစ်သုံးပစ္စည်းအမြောက်အမြားကို တင်ပို့ခဲ့သည်။

၁၉၄၀ ပြည့်နှစ်တွင် ချုံကင်းမြို့တော်ကို အရံမြို့တော်အဖြစ် ကြေညာပြီးနောက် ခရိုင် ၄ ခုကို မျူနီစီပယ်နယ်နိမိတ်အတွင်းသို့ နောက်ထပ်ထည့်သွင်းခဲ့သည်။ ထိုသို့ တိုးချဲ့ပြီးနောက် ချုံကင်းမြို့မှာ စတုရန်းမိုင်ပေါင်း ၁၁၆ မိုင် ခန့်ကျယ်ဝန်းလာသည်။ ၁၉၃၈ ခုမှ ၁၉၄၁ ခုနှစ်အတွင်း ဂျပန်တို့၏ဗုံးကြဲတိုက်ခိုက်ခြင်းကိုခံရသဖြင့် မြို့အနီမ့်ပိုင်းရပ်ကွက်မှာ ယိုယွင်းပျက်စီးခဲ့သည်။ ဤမြို့တွင် ၁၉၃၉ ခုနှစ်က လူဦးရေ ၅၅၀,၀၀၀ မျှသာရှိခဲ့ရာ ၁၉၄၂ ခုနှစ်ရောက်သောအခါလူဦးရေ ၁,၀၀၀,၀၀၀ ကျော်မျှအထိ တိုးတက်နေထိုင်လာခဲ့ကြသည်။

ဒုတိယ ကမ္ဘာစစ်ကြီးပြီး၍ ၁၉၄၆ ခုနှစ် မေလသို့ရောက်သောအခါ၊ ချန်ကေရှိတ်သည် တရုပ်နိုင်ငံ၏မြို့တော်ကို ချုံကင်းမှ နန်းကင်းမြို့သို့ပြောင်းလိုက်သည်။

ချို။ဆရာ။ ။ကုန်းဘောင်ဆက် နောက်ဆုံးမင်းဖြစ်သည့် သီပေါမင်းလက်ထက်တော်မှစ၍ ထင်ရှားကျော်စောလာသော မန္တလေးမြို့မှ မြန်မာပန်းချီဆရာ အနုပညာသည်ကြီး တဦးကား ဆရာချိုဖြစ်သည်။

ဆရာချို၏မွေးသက္ကရာဇ်ကို အသေအချာ မသိရသော်လည်း မြန်မာသက္ကရာဇ် ၁၂၂၈ ခုနှစ်တွင် မွေးဖွားသည်ဟု ခန့်မှန်းရသည်။ ဆရာချိုသည် မင်းတုန်းမင်းလက်ထက်၌



နန်းမြို့တွင်း၌

အမှုထမ်းရသော ပန်းချီတော် ဦးကြာညွန့်၏တပည့်ဖြစ်သူ ဆရာစာ၏အန္တေဝါသိကဖြစ်သည်။ ဆရာစာထံ၌ ပညာများဆည်းပူးယင်း သီပေါမင်းထံ၌ အမှုတော်ထမ်းရွက်သည်။ ရိက္ခာတော် ငွေကျပ်ချိန် ၄၀၊ ၅၀ ခန့်ရသည်ဟု အဆိုရှိသည်။ ထိုခေတ်က မန္တလေးနေပြည်တော်သို့ လာရောက်အမှုထမ်းကြသော ဣတာလျံပန်းချီဆရာ ၂ ဦး ရှိကြရာ ထိုသူတို့ထံမှလည်း ဆရာချိုသည် ပန်းချီပညာဆိုင်ရာ အဖိုးတန်ပညာရပ်များနှင့် ပစ္စည်းကရိယာများကို ရလိုက်လေသည်။ သို့သော် ဆရာချိုသည် တတိယအင်္ဂလိပ်မြန်မာ စစ်ပွဲဖြစ်ပွားသည်တွင် အင်္ဂလိပ်တို့၏ဖမ်းဆီးခြင်းကိုခံရကာ ၃ လမျှ အကျဉ်းခံနေရပြီးနောက် ကာနယ်ဆလေဒင်က သူ့ထံ၌အမှုထမ်းရန်ခေါ်ယူသည်။ သီပေါမင်းပါတော်မူပြီးသည့်နောက် ဗြိတိသျှခေတ်ဦး၌ ဆရာချိုသည် မန္တလေး၌ပင် ပန်းချီပညာဖြင့်ဆက်လက်၍ အသက်မွေးသည်။ ထိုနောက် ရန်ကုန်သို့ဆင်းလာ၍ ကျုံးကြီးလမ်း၌ နေထိုင်ရာတွင် ပန်းချီပညာများကို အားပေးခြင်းမရှိရကား ဆရာချိုသည် ဆိုင်းဘုတ်များရေးဆွဲယင်း ဆင်းရဲငြိုငြင်စွာ နေထိုင်ခဲ့ရသည်။ တခါက ဆရာချိုသည် ပန်းချီပညာဖြင့်အသက်မွေးရခြင်းကို စွန့်လွှတ်၍ ဆန်အရောင်းအဝယ်လုပ်ကိုင်ရန်ပင် စိတ်ကူးခဲ့ဘူးလေသည်။

ဆရာချိုသည် ရှေးမူ ယိုးဒယားဟန်နှင့် မြန်မာဟန်များဖြစ်သော နဂါး၊ဂဋုန်၊ကုမ္ဘာဏ်၊ နယား၊ခြင်္သေ့၊ဆင်၊ခြူးပန်း၊ကနုတ်ပန်းစသည်တို့ကို ကျွမ်းကျင် နိုင်နင်းစွာ ရေးဆွဲခဲ့သည်။ ထို့ပြင် ရွှေရေး၊ငွေရေးပန်းချီနှင့် သေနင်္ဗျူဟာနှင့်ဆိုင်သော စစ်ခံတပ် အဆောက်အအုံပုံစံများကိုလည်းရေးဆွဲခဲ့သေးသည်။ ထိုရေးဆွဲခဲ့သော ပုံများအနက် အချို့မှာ 'နန်းတွင်းဥယျာဉ်ဝယ်၊' 'သခ်ပတ္တာ၊' နှင့် 'နန်းတွင်းသူ' တို့ဖြစ်သည်။ ဆရာချိုသည် ဆင်ရုပ်ပုံများရေးဆွဲရာ၌ ပိုမိုနိုင်နင်း ကျွမ်းကျင်ဟန်ရှိသည်။ ဆရာချိုရေးဆွဲသော ဆင်ရုပ်ပုံများမှာ အသက်ဝင်လှုပ်ရှားနေဘိသကဲ့သို့ရှိ၍ မာန်လည်းပါလှသည်။

ဆရာချိုကား ပန်းချီကျော်တဦး ဖြစ်ရုံသာမဟုတ်သေး၊ ဘုရားတည်ကျောင်းဆောက် အစရှိသော ဗိသုကာအတတ်ပညာကိုလည်း ကောင်းစွာကျွမ်းကျင်တတ်မြောက်သော ဆရာကြီးတဦးဖြစ်ပေသည်။

ထိုသို့ထင်ပေါ်ကျော်ကြား၍ အနောက်နိုင်ငံသားများ မှတ်တမ်းတင်ထားခြင်းခံရသော ဆရာချိုသည် ၁၂၇၈ ခုနှစ် အသက် ၅၀ အရွယ်တွင် ရန်ကုန်မြို့၌ကွယ်လွန်ခဲ့လေသည်။

**ခြ။** ။ခြသည် အိုင်စေ့တားရားခေါ် မျိုးစဉ်တွင်ပါဝင်သော ပိုးကောင်မျိုးဖြစ်သည်။ မျိုးစဉ်သီးခြားထားရခြင်းမှာ အခြားပိုးကောင်မျိုးတို့နှင့် မတူသောပုံပန်းသဏ္ဍာန်



မြန်မာဘုရင်ကိုမှီလိုက်သောပန်းချီကျော်ဆရာချိုနှင့်သားများပုံ

ရှိခြင်းကြောင့်ဖြစ်၏။ ခြတို့၏ ပေါင်းသင်းဆက်ဆံပုံ၊ နေထိုင်ပုံတို့မှာ ပျား၊ ပရွက်ဆိတ်၊နကျယ်ကောင် စသည် တို့၏အမူအကျင့်နှင့်မတူချေ။ (ပျား၊ ပရွက်ဆိတ်၊ နကျယ်ကောင်–လည်းရှု။)

ခြကို အာဖရိကတိုက်၊ အာရှတိုက်၊ အမေရိကတိုက် နှင့် ဩစတြေးလီးယားတိုက်များတွင်တွေ့ရသည်။ ခြသည် ပူအိုက်သောနေရာမှန်လျှင် မည်သည့်နေရာတွင်မဆို နေလေ့ရှိ၍ တောတောင်လွင်ပြင် သဲကန္တာရစသော ဒေသအမျိုးမျိုး၌နေနိုင်သည်။ ကျောက်ဖြစ်ရုပ်ကြွင်းများကို ထောက်ခြင်းအားဖြင့် ခြသည် အလွန်ရှေးကျသောကာလမှ စ၍ရှိခဲ့ကြောင်းသိရသည်။ (ကျောက်ဖြစ်ရုပ်ကြွင်း—ရှု။)

ခြတို့၏လုံ့လဝီရိယကား စံနမူနာထားလောက်ပေသည်။ ယင်းတို့သည် သေးငယ်သောကိုယ်ခန္ဓာနှင့် မလိုက်အောင် ကြီးမားခမ်းနားသော ခြတောင်ပို့ကြီးများကိုဆောက်လုပ် နိုင်ကြ၍ အချို့သောခြတောင်ပို့ကြီးများမှာ မြေကြီးမှ ပေ ၂၀ ကျော်အထိပင် မြင့်တတ်၏။ တောင်ပို့အတွင်း၌ နေထိုင်သော ခြတို့၏အရေအတွက်မှာလည်း သိန်းသန်းနှင့်ချီ၍များပြားကြလေသည်။

ခြအမျိုးပေါင်း ၁၂၀၀ ခန့်ရှိသည့်အနက် အချို့မှာသစ်ပင်အို သစ်ပင်ဆွေးများအတွင်းဖက်၌ ဝင်ရောက်နေတတ်ကြသည်။ အချို့ကမူ သစ်ပင်စိမ်းများ၏ အပြင်ဖက်တွင်နေကြသည်။ သို့သော်မည်သို့နေကြသည်ဖြစ်စေ ခြတို့သည်မြေကြီးဖြင့်ပြုလုပ်ထားသော ခြအိမ်အောက်၌သာလျှင်ပုန်းအောင်း၍နေထိုင်လေ့ရှိကြသည်။ အချို့သောခြမျိုးက မြေအောက်တွင် အသိုက်အအုံကြီးများဆောက်လုပ်လျက် ထိုအသိုက်အအုံအတွင်း၌ အိပ်ခန်း၊စားစရာသိုလှောင်ခန်း၊ကလေးခန်းများ အပြင် ခြသွားလမ်း၊ လေဝင်လမ်း၊ ရေစီးလမ်းစသော လမ်းကြီးလမ်းငယ် အသွယ်သွယ်တို့ကိုဖေါက်လုပ်ကာ တခမ်းတနား စီမံနေထိုင်လေ့ရှိကြသည်။ ယင်းတို့၏ မြို့တော်ကြီးသို့ဝင်ရာ လမ်းမကြီးပေါ်တွင် မြေအောက်မှတူးဖေါ်ထားသော ကျစ်စာများဖြင့် တောင်ကြီးသဖွယ် မို့မောက်နေအောင်ဖို့ထားတတ်၍ ထိုတောင်ပို့အတွင်း၌လည်း ဆိုင်ရာ အခန်းများနှင့် လမ်းများဖေါက်လုပ်ထားသည်။

အာဖရိကတိုက်အလယ်ပိုင်းတွင် အဆိုပါခြတောင်ပို့ကြီးမျိုး မြောက်မြားစွာ တောင်တန်းကလေးသဖွယ် စီတန်းလျက်ပေါ်ပေါက်နေသည်ကို တွေ့နိုင်သည်။ ယင်းတို့သည် အုတ်ဖြင့်ပြုလုပ်ထားသည့်အလား ခိုင်ခံ့သည်ကိုလည်းတွေ့ရပေသည်။

ခြတောင်ပို့အတွင်း၌ ခြအမျိုးမျိုး နေထိုင်ကြသည်။ မြောက်မြားလှသောခြထုကြီးကို အုပ်ချုပ်ရန် ခြတောင်ပို့တွင် ခြဘုရင်တကောင်နှင့် ခြဘုရင်မတကောင်ရှိသည်။ ခြနိုင်ငံ၏ ရန်သွယ်ကိုကာကွယ်ရန် ခြစစ်သားများလည်း ရှိသည်။ ခြနိုင်ငံကြီး စည်ပင်ဝပြောရေးအတွက် အစွမ်းကုန် အလုပ်လုပ်နေကြသောခြလုပ်သားများလည်းရှိသည်။ မွေးကျွေးပြုစုနေရဆဲဖြစ်သော ခြပေါက်စကလေးများလည်းရှိကြသည်။ ခြပေါက်စကလေးများသည် ဥမှပေါက်လာသည့်



**သစ်တုံးတတုံးကိုဖေါက်ထွင်း၍အိမ်ဖွဲ့နေသောခြများ**

အရွယ်မှာပင် အရွယ်ရောက်ပြီး ခြကြီးများနှင့်မခြား ဦးခေါင်း၊ ဦးမှင်နှင့်ခြေ ၆ ချောင်းစုံလင်စွာပါရှိသည်။ အင်္ဂါစုံပါရှိငြားသော်လည်း မိမိဖာသာသွားလာစားသောက်ခြင်း မပြုနိုင်သေးပေ။ ခြလုပ်သားများက ဤအကောင်ကလေးများအရွယ်မရောက်မခြင်း ရက်အနည်းငယ်မျှ အစာရေစာ ကျွေးမွေးပြုစုကြရသည်။

ခြလုပ်သားများ၏ကိုယ်မှာ ပျော့ပျောင်းဝဖိုင့်၍ ဦးခေါင်းနှင့်ပခုံးမှာအညိုရောင်ဖြစ်သည်။ ခြလုပ်သားတို့သည် ခြပေါက်စကလေးများကို ကျွေးမွေးပြုစုခြင်း၊ အစာရိက္ခာရှာဖွေစုဆောင်းခြင်း၊ ခြဘုရင်နှင့်ခြဘုရင်မတို့အား လုပ်ကျွေးခြင်း၊ တောင်ပို့ကြီးများ တည်ဆောက်ခြင်း၊ အခန်းများပြုလုပ်ခြင်း၊ မြေအောက်လမ်းကြီးများ ဖေါက်လုပ်ခြင်းစသည့် အလုပ်မျိုးစုံကို မရပ်မနားလုပ်ကိုင်ကြသည်။ ခြစစ်သားတို့သည် သာမန်ခြလုပ်သားတို့ထက် ကိုယ်ခန္ဓာကြီးမားသည်။ ကြီးမားသောဦးခေါင်းရှိ၍ မေးရိုးမှာလည်းကြီးမားခိုင်ခံ့ပြီးလျှင် တံစဉ်ပုံနှင့်တူသည်။ ထူးဆန်းသည်မှာ ခြစစ်သားနှင့်ခြလုပ်သား ၂မျိုးစလုံးပင် များသောအားဖြင့် မျက်စိကန်းနေသော အချက်ဖြစ်၏။ သို့သော် နားကားမပင်းပေ။ ယင်းတို့၏ နားများသည် ရှေ့ခြေထောက်စုံပေါ်တွင်ရှိ၍ တကောင်နှင့်တကောင် အသံပြု အချက်ပေးသော အခါ

နှံကောင်များကဲ့သို့ ပခုံးနှင့်ဦးခေါင်းကိုပွတ်၍ ထွက်ပေါ်လာသောအသံဖြင့် အချက်ပေးသည်ဟုယူဆရသည်။

ခြဘုရင်သည် ခြလုပ်သားများထက် ကိုယ်ထည်အတန်ငယ်ကြီးမားသည်မှတပါး အသွင်အပြင် မထူးခြားလှချေ။ သို့သော်ခြဘုရင်မကြီးမှာမူ၄လက်မခန့်အထိကြီးမားသည်။ ဦးခေါင်းမှာ အဆမတန်သေးငယ်၍ခြေ ၆ ချောင်းမှာလည်း သေးသွယ် ပျော့ပျောင်းသည်။ ခြဘုရင်မသည် မြေအောက်ခြမ္ဘိုတော်အတွင်းရှိ သီးသန့်ခန်းမဆောင်တွင်သာ အမြဲတစေနေထိုင်သောကြောင့် ဘုရင်မကို မြင်ဘူးသူရှားပေသည်။ ခြဘုရင်မ၏တာဝန်မှာ ဥများကိုအဆက်မပြတ်အုပေးရန်သာဖြစ်ရာ တမိနစ်လျှင် ပျမ်းမျှဥပေါင်း ၆၀ ခန့် အုပေးနိုင်သည်။ ခြဘုရင်နှင့်ခြဘုရင်မ ၂ ဦးစလုံးမှာ ခြလုပ်သားတို့ကဲ့သို့ များစိကန်းများ မဟုတ်ကြချေ။ သို့သော် မှောင်မိုက်နေသော တောင်ပို့ထဲတွင်သာ အနေများသည့်အတိုင်း ယင်းတို့၏မျက်စိများသည် များစွာအသုံးမဝင်ချေ။

ခြသည် လူတို့၏အကျိုးစီးပွားကို များစွာပျက်စီးဆုံးပါးစေတတ်သည်။ ယင်းတို့သည် သတ္တုကလွဲလျှင် မည်သည့်အရာဝတ္ထုမျိုးကိုမဆို မရှောင်ဘဲစားပစ်တတ်သည်။ အချို့အရပ်ဒေသများတွင် ခြ၏ရန်တခုတည်းကြောင့် သစ်သားအိမ်များကိုပင်မဆောက်ဝံ့ကြပေ။ တိုင်၊ ရက်မ၊ ကြမ်းပြင်များကို လူမသိအောင်အတွင်းကျိတ် စားသောက်ဖျက်ဆီးတတ်သည့်အတွက်လည်း ခြတို့၏ရန်မှာ ထင်သည်ထက်အဆပေါင်းများစွာဆိုးရွားကြောက်မက်ဖွယ်ကောင်းသည်။

ခြတို့သည် သစ်သားကိုစားနိုင်ရန်အတွက် ယင်းတို့၏အစာအိမ်ထဲရှိ အလွန်သေးငယ်သော ပရိုတိုဇိုဝါခေါ်တိရစ္ဆာန်ကလေးတမျိုးက အကူအညီပေးသည်။ ပရိုတိုဇိုဝါတို့၏တာဝန်မှာ မာကျောသောသစ်သားကို ပျော့စေခြင်းဖြင့် ခြတို့အား အစာကိုချေဖျက်စေနိုင်သည်။ သို့သော် အဆိုပါ ပရိုတိုဇိုဝါများကိုယ်တိုင်ပင် မကြာခဏ ခြတို့၏အစာနှင့်ရောရှ၍ကြေပျက်သွားတတ်သည်။ ထိုအခါမျိုးတွင် ခြသည်သစ်သားကို ယခင်ကကဲ့သို့ဆက်လက်၍စားစေကာမူ အာဟာရမဖြစ်တော့ပေ။

ခြတို့၏အစာမှာ သာမန်အားဖြင့် မြေဆွေးနှင့်သစ်ဆွေးများဖြစ်ကြ၏။ သစ်ဆွေးကိုမူ အနှစ်သက်ဆုံးဖြစ်၍ ခြတို့သည် သစ်ဆွေးရရန်အလို့ငှာ မူလနေထိုင်ရာ အိုးအိမ်ကိုစွန့်ကာ အစာရှာထွက်လေ့ရှိသည်။ ယင်းတို့အစာရှာထွက်သည့်အခါ မြေအောက်ဥမင်လမ်းများဖြင့် လိုရာခရီးသို့ရောက်အောင်သွားတတ်ကြသည်။

အချို့သောခြမျိုးများသည် မိမိတို့၏တောင်ပို့အတွင်း အစာအလို့ငှာ မှိုတမျိုးကိုပျိုး၍ထားတတ်ကြသည်။ အချို့ခြမျိုးမှာကား ပိုးကောင်ငယ်တို့ကို မွေးမြူထားတတ်သည်။ ထိုပိုးကောင်ငယ်တို့မှာ ခြတို့ကြိုက်နှစ်သက်သောအာဟာရအရည်တမျိုးကို ပေးနိုင်စွမ်းရှိသည်။ ခြတွင် အုပ်သင်းဖွဲ့၍နေတတ်သော အခြားပိုးကောင်မျိုးတို့နှင့် ကွာခြားသည့်အချက်တချက်ရှိသေး၏။ ယင်းမှာ အခြားပိုးကောင်မျိုးတို့၌ လုပ်သားသည် နပုလ္လိင်များသာ ဖြစ်ကြသော်လည်း ခြလုပ်သားများတွင်မူ အထီးအမဟူ၍ ပါရှိကြသည်။ သို့သော် ယင်းအထီးအမတို့သည် အမြုံများဖြစ်ကြသည်။ ခြစစ်သားတွင်လည်း ဤနည်းနှင်နှင်ဖြစ်၏။ ဥမှပေါက်ခါစ ခြကလေးများသည် လက်ဦးတွင် အားလုံးအတူတူလိုပင်ဖြစ်သည်။ သို့သော် အစားအစာနှင့် ပြုစုပုံကွဲလွဲလာသောကြောင့် ကြီးပြင်းလာသောအခါ မျိုးပွားနိုင်သောခြဘုရင်နှင့်ဘုရင်မလောင်းများ၊ ခြစစ်သားများ၊ ခြလုပ်သားများဟူ၍ အလိုအလျောက်သုံးစားကွဲလာသည်။ ခြဘုရင်နှင့်ဘုရင်မလောင်းတို့၌ အရွယ်ရောက်လျှင် အတောင် ၂ စုံစီပေါက်လာသည်။ မကြာမီပင် ထိုကဲ့သို့အတောင်ပေါက်လာသောခြတို့သည် ပလူအဖြစ်ဖြင့် အစုလိုက်အဝေးလိုက်တွင်းမှ အဆက်မပြတ်ထွက်ကာ ပျံသန်းကြတော့၏။ သို့သော် များသောအားဖြင့် ကျီးငှက်၊ ကြွက်၊ ဖား၊ ပုတ်သင်၊ အိမ်မြှောင်တို့၏ အစာသာဖြစ်ရပြီးလျှင် အနည်းငယ်မျှသာ သေဘေးမှလွတ်ကင်းကျန်ရစ်ခဲ့ကြသည်။

ထိုအချိန်ကား ခြတို့၏မိတ်လိုက်ချိန်ဖြစ်၏။ အထက်ပါအတိုင်း အသက်မသေဘဲ ကျန်ရစ်ခဲ့သော ပလူကောင်တို့သည် မြေသို့သက်ချိန်တွင် အတောင်ကိုချွတ်ပစ်ကြ၍ အသီးသီးမိတ်ရွေးပြီးလျှင် အိုးအိမ်သစ်ထူထောင်ရန် နေရာရှာကြလေသည်။ အချို့လည်း မြေအောက်သို့ဝင်၍ မိမိတို့ဖာသာ အိုးသစ်အိမ်သစ်ထူထောင်ကြသည်။

ထူးဆန်းအံ့သြဖွယ်ကောင်းသော ခြတို့၏စည်းရုံးနေထိုင်ပုံနှင့်စပ်လျဉ်း၍ အကြောင်းရင်းကို ယခုတိုင်မည်သူမျှအသေ



မှန်ဘီလူးအောက်တွင်တွေ့မြင်ရသောခြများ

အချော မဖြေရှင်းနိုင်သေးပေ။ ယခုအထိ အများကကျေနပ် လက်ခံနေရသောရှင်းလင်းချက်မှာ ဇာတိစိတ်အလျောက် ဖြစ်ရသည်ဟူသော အချက်ဖြစ်၏။ တောင်အမေရိက၊အာဖရိကနှင့် ဩစတြေးလီးယားတိုက်၌ရှိသော ခြမျိုးတို့သည် ခြတောင်ပို့ကြီးများကို တောင်နှင့်မြောက်တန်း၍သာ တည်ဆောက်လေ့ရှိသည်။ သို့တည်ဆောက်ခြင်း၏ သဘောမှာ တောင်ပို့ ၂ ဖက်စလုံး နေရောင်ရ၍ ခြောက်သွေ့စေရန်ဖြစ်သည်ဟု ယူဆရသည်။ ယင်းတောင်ပို့ အရှေ့နှင့်အနောက်ဖက် ဘေး ၂ ဖက် ၂ ချက်သည် ပြားလျက်ရှိသည်။ ဤအချက်တို့ကား ခြ၏ဇာတိစိတ်နှင့်စပ်လျဉ်း၍ ထူးခြားသောအချက်များပေတည်း။

**ခြေ။** ။ခန္ဓာကိုယ်ကို မတ်မတ်တည်နိုင်အောင် အောက်ခြေမှနေ၍ ထောက်ပေးထားသော အင်္ဂါအစိတ်အပိုင်းကို ခြေထောက်ဟုခေါ်သည်။ ထိုခြေထောက်၏ အောက်အခြေခံအင်္ဂါအစိတ်အပိုင်းမှာ ခြေဖြစ်သည်။ ဇီဝဗေဒသဘောဖြင့် အတန်းမြင့်သည်ဟု ဆိုရသော သတ္တဝါများတွင် ရှေ့ခြေကို လက်ဟုခေါ်ရသည်။ လူတွင် ခြေချင်းဝတ်မှ အောက်ပိုင်းတခုလုံးကိုခြေဟုခေါ်သည်။ ကျောရိုးမဲ့သတ္တဝါတို့၌ ခြေပေါင်းများစွာရှိနိုင်သော်လည်း၊ ကျောရိုးရှိသတ္တဝါများတွင်မူ ခြေ ၄ ချောင်းသာ ပါရှိမြဲဖြစ်သည်။ (ကျောရိုးရှိသတ္တဝါ — ရှု။)

လူ၏ ခြေနှင့်အတူဆုံးမှာ မျောက်နှင့်မျောက်ဝံတို့၏ခြေများပင်ဖြစ်သည်။ သို့သော် မျောက်တို့၏ ခြေများသည် အမှန်အားဖြင့် လက်နှင့်ပို၍ဆင်သည်။ သူတို့၏ခြေမများမှာ လူ၏ခြေမများကဲ့သို့မဟုတ်ဘဲ လက်မများကဲ့သို့ပင် ကိုင်တွယ်အသုံးပြုနိုင်သည်။ ထိုပြင် လူ၏ခြေကဲ့သို့လည်း ခုံး၍မနေဘဲ၊ လက်ကဲ့သို့ခပ်ပြားပြားဖြစ်နေသည်။ ဤကဲ့သို့ ခြေဖမိုးခုံးခြင်းမှာ အမှန်စင်စစ် လူနှင့်တိရစ္ဆာန်တို့ ကွဲပြားသောအချက်ကြီး တရပ်ပင်ဖြစ်သည်။

လူ၏ခြေကို ခြေမျက်စိပိုင်း၊ ခြေဖမိုးပိုင်းနှင့် ခြေချောင်းပိုင်းဟု ၃ ပိုင်းခွဲထား၍၊ ထို ၃ ပိုင်း၌ အရိုးပေါင်း ၂၆ ချောင်းပါရှိသည်။ ခြေမျက်စိပိုင်းတွင် ခြေဖနောင့်နှင့် ခြေခုံနောက်ပိုင်းတို့ပါဝင်၍ ထိုအပိုင်း၌ တိုတုတ်ခိုင်မာသောအရိုး ၇ ခုပါရှိသည်။ ခြေဖမိုးပိုင်းတွင် ခြေခုံရှေ့ပိုင်းပါဝင်၍ ထိုအပိုင်း၌ တဖြည်းဖြည်း သေးသွယ်ပြီး ကားသွားသော အရိုး ၅ ခုပါရှိသည်။ ခြေချောင်းပိုင်းတွင် ခြေမ၊ ခြေညှိုး၊ ခြေသန်းစသော ခြေချောင်းများပါဝင်၍ ထိုအပိုင်း၌ ခြေချောင်းရိုးဆစ်ပေါင်း ၁၄ ခုပါရှိသည်။ ခြေမ၌ အဆစ် ၂ ဆစ်ရှိသည်။ ကျန်ခြေချောင်းများ၌ အဆစ် ၃ ဆစ်စီရှိသည်။ အဆိုပါ အရိုးများပေါ်တွင် တဖန်ခြေကို ညွှတ်နိုင် ဆန့်နိုင်စေရန် သက်ဆိုင်ရာ အသားအရေ၊ ကြွက်သား၊ အကြော၊ အရွတ်များဖြင့် ဖုံးလွှမ်းလျက်ရှိပြန်သည်။

ထူးခြားချက်မှာ လူနှင့်တိရစ္ဆာန် အသီးသီး၌ရှိသော ခြေတို့၏ အနေအထားနှင့် အသုံးပြုပုံချင်းမှာ မတူကြချေ။ လူ၏ခြေတွင် ခြေဖနောင့်သည် မြေကြီးနှင့်ထိလျက်ရှိ၍၊ ဝက်ဝံတွင်လည်း ထိုအတိုင်းပင်ဖြစ်သည်။ ကြောင်၊ ခွေးစသော တိရစ္ဆာန်များတွင်မူ ခြေဖနောင့်သည် မြေကြီးမှ ကွာလျက်ရှိသည်။ ယင်းတို့သည် ခြေချောင်းကလေးများဖြင့် ထောက်၍သာလျှင် သွားလာပြေးလွှားကြ၏။ ကျွဲ၊ နွား၊ မြင်း၊ ဆိတ်၊ သမင်၊ ဒရယ်စသော တိရစ္ဆာန်များကား ခြေချောင်းအားလုံးဖြင့် မထောက်တော့ဘဲ၊ ခြေချောင်းတခုတည်း၏ ထိပ်ဖြင့်သာလျှင် ထောက်၍သွားလာပြေးလွှားကြသည်။



လူ၏ခြေတွင်အရိုးများဖွဲ့စည်းတည်ရှိနေပုံ

ခြေ၏အနေအထားသည် အသုံးချပုံကိုလိုက်၍၊ တဖြည်းဖြည်း ပြောင်းလဲလာတတ်ရာ၊ ထိုသို့ပြောင်းလဲလာသော ခြေများအနက် မြင်း၏ခြေမှာ အလွန်မှတ်သားဖွယ်ကောင်းသည်။ ယခုခေတ်မြင်းတို့၌ ခွာတခုတည်း (ဝါ) ခြေချောင်း တချောင်းတည်းသာရှိသည်။ သို့သော် ရှေးဟောင်းကျောက်ဖြစ်ရုပ်ကြွင်းများကို လေ့လာသောအခါ ခြေချောင်း ၅ ချောင်းပါရှိသော ရှေးမြင်းများမှ တဖြည်းဖြည်းဆင့်ကဲ ပြောင်းလဲလာသည်ကိုတွေ့ရသည်။

**ခြေစိမ်းကလေးငှက်။** ။ခြေစိမ်းကလေးငှက်ကို မြန်မာနိုင်ငံ၌ အတွေ့ရနည်းသည်။ ဆောင်းဥတု၌သာ မြန်မာနိုင်ငံသို့ လာရောက်ကျက်စားသောငှက်မျိုးဖြစ်သည်။

အလျား ၉ လက်မခန့်ရှိသည်။ ကျောမှာ မွဲပြာရောင်ဖြစ်သည်။ သို့သော် ကျောဖက်နောက်ပိုင်းနှင့် ဖင်ပိုင်းမှာမူ ဖြူသည်။ ဝမ်းပိုင်းတလျှောက်လုံး အဖြူသန့်သန့်ရှိသည်။ နှုတ်သီးနှင့်ခြေတံ ရှည်လျားသေးသွယ်သည်။

ခြေစိမ်းကလေးငှက်သည် ရေအိုင်နှင့်ရွှံ့ညွန်များတွင်၎င်း၊ ပင်လယ်ကမ်းစပ်လတာပြင်တွင်၎င်း၊ အုပ်သင်းဖွဲ့ကာ အစာရှာဖွေလေ့ရှိသည်။ အစာစားစဉ် နှုတ်သီးကို ရမ်းလေ့ရှိ

သည်။ အော်သံမှာ စူးရှပြတ်သား၏။ အရွယ်ငယ်သည့်မှတပါး အသွင်သဏ္ဌာန်အားဖြင့် ခြေစိမ်းငှက်နှင့် အလွန်တူသောကြောင့် ခြေစိမ်းကလေးဟုတွင်သည်။

**ခြေစိမ်းငှက်။** ။ခြေထောက်များစိမ်းနေသည်ကိုအစွဲပြု၍ ဤငှက်ကို ခြေစိမ်းငှက်ဟုခေါ်သည်။

ခြေစိမ်းငှက်သည်ဗြိတိသျှကျွန်းစုတွင်ပေါက်ပွား၍ အာဖရိကတိုက်၊အာရှတိုက်နှင့် နယူးဇီလန်အပါအဝင် ဩစတြေးလီးယားတိုက်အထိ ပျံ့နှံ့စွာနေသည်။ မြန်မာနိုင်ငံသို့ ဆောင်းဥတုတွင်သာ လာရောက်ကျက်စားသော ငှက်ဧည့်သည်တမျိုးဖြစ်သည်။

အလျား ၁၄ လက်မခန့် ရှိသည်။ ပျံသန်းသောအခါ ဖွေးဖွေးသောဖင်ပိုင်းနှင့် အမြီးကို ကောင်းစွာမြင်နိုင်သည်။ ခြေစိမ်းငှက်သည် မြစ်ကမ်းပါးနှင့်ရေအိုင်များ၊ ပင်လယ်ကမ်းစပ် လတာပြင်များတွင် တကောင်တည်းကျက်စားတတ်သည်။ ရေပိုးရေမွှားများ၊ ငါးကလေးများကို ရှာဖွေစားတတ်သည်။ ပျံခါနီးတွင် သာယာငြိမ့်ငြောင်းစွာ လေချွန်သကဲ့သို့မြည်တတ်သည်။

**ခြေနီငှက်။** ။ခြေထောက်နီသည်ကိုအစွဲပြု၍ ဤငှက်ကို ခြေနီငှက်ဟုခေါ်သည်။ မြန်မာနိုင်ငံသို့ ဆောင်းရာသီတွင်သာ လာရောက်ကျက်စားတတ်သော ငှက်မျိုးဖြစ်သည်။ ရေတွင်သွားလာကျက်စားသော ငှက်မျိုးများတွင်၊ အလှဆုံးဖြစ်သည်ဟုဆိုကြသည်။

ဗြိတိသျှကျွန်းစုတွင် ပေါက်ပွား၍ ဆောင်းရာသီတွင် အာဖရိကတိုက်တောင်ပိုင်းမှ ဖိလစ်ပိုင်ကျွန်းစုအထိ ပျံ့နှံ့စွာနေသည်။

အလျား ၁၁ လက်မခန့်မျှရှိသည်။ ခြေထောက်ရှည်၍နီသည်။ နှုတ်သီးလည်းရှည်သည်။ ပျံသန်းသည့်အခါဖွေးဖွေးသောဖင်ပိုင်းနှင့် မြီးတောင်များကိုမြင်ရသည်။ တောင်ပံမှာတပိုင်းဖြူ၍ တပိုင်းညိုမည်းနေသည်။ နွေဥတု၌ ကိုယ်အပေါ်ပိုင်းမည်းနက်၍ အောက်ပိုင်းညိုသည်။

ခြေနီငှက်သည် ချောင်းနှင့်လတာပြင်ရှိရာ အရပ်များတွင်ကျက်စားသည်။ ရေလွှမ်းသည့်အခါ လယ်ကွင်းများတွင်လည်း ကျက်စားတတ်သည်။ ပျံသန်းရာတွင် လျင်မြန်သည်။ ဘယ်ယိမ်းညာနွဲ့ပျံတတ်သည်။ တောင်ပံအနည်းငယ် ရိုက်တတ်သည်။ စိတ်ယနမကင်းသည့်အခါ လည်တညိတ်ညိတ်နှင့် နေတတ်သည်။ မြေသို့သက်သည့်အခါ အတောင်ကိုကျောပေါ်၌ထောင်၍ တခဏမျှတင်ထားတတ်သည်။ ခြေနီငှက်၏ အစာမှာ ရေပိုးရေမွှားနှင့် ပိုးကောင်မွှားကောင်များဖြစ်၍၊ နှစ်ကောင်သုံးကောင်စသည်ဖြင့် အုပ်သင်းကလေးများဖွဲ့ကာ နေလေ့ရှိကြသည်။

ခြေနီငှက်၏အသံမှာ နားထောင်ကောင်းသော လေချွန်သံမျိုးဖြစ်သည်။ သို့သော် ကြောက်လန့်တကြားဖြစ်သည့်အခါ ဆူညံစွာအော်၍ တဟုန်ထိုးပျံတတ်သည်။

**ခြောက်လပန်းပင်။** ။ခြောက်လပန်းပင်သည် ဆက်ဆီဖရာဂေးစီး မျိုးရင်းတွင်ပါဝင်သည်။ ရုက္ခဗေဒဆိုင်ရာအမည်မှာ ဟိုက်ဒရန်းဂျီယာ ဟော်တင်းရှား ဖြစ်သည်။ အပွင့်များသည် အဆုပ်လိုက်ပွင့်လေ့ရှိပြီးလျှင်၊ အရောင်မှာ အမျိုးကိုလိုက်၍ အဖြူ၊ အပြာနှ၊ ပန်းရောင်စသည်ဖြင့် အမျိုးမျိုးဖြစ်တတ်သည်။ များသောအားဖြင့် ပန်းရောင်ဖြစ်တတ်၏။ ခြောက်လပန်းသည် ညှိုးနွမ်းလွယ်ခြင်းမရှိဘဲ ကြာရှည်ခံသဖြင့် အလှစိုက်ပျိုးရန်ကောင်းသော ပန်းပင်မျိုးဖြစ်သည်။

ခြောက်လပန်းသည် ပန်းဝတ်မှုန်သယ်ဆောင်တတ်သော ပျားပိတုန်း၊ ပိုးဖလံများကို မိမိ၏အပြင်ပန်းအလှဖြင့် မိမိရှိရာသို့ ဆွဲဆောင်သည်။ သို့သော် ခြောက်လပန်းထုပ်ရှိအပေါ်ယံအပွင့်များတွင် ဝတ်ဆံဖို ဝတ်ဆံမများ လုံးဝမရှိချေ။ မျိုးပွားနိုင်သော အပွင့်ကလေးများသည် အတွင်း



ခြေစိမ်းကလေးငှက်　　　ကမ်းစပ်တွင်ကျက်စားတတ်သောခြေစိမ်းငှက်　　　ရေငှက်မျိုးများတွင်အလှဆုံးဖြစ်သောခြေနီငှက်



လေယာဉ် ပျံပေါ် မှ ဒီဒီတီဆေးရည်ပက်ဖျန်း၍ ခြင်၏အန္တရာယ်ကိုနှိမ်နင်းကြသည်။

ပိုင်း၌သာ ရှိကြသည်။ ခြောက်လပန်းတွင် အမျိုးပေါင်း ၂၅ မျိုးကျော်ကျော်မျှရှိ၍ အထူးသဖြင့် တောင်နှင့်မြောက် အမေရိကတိုက်၊ ဂျပန်၊ တရုပ်နှင့်အိန္ဒိယနိုင်ငံတို့ရှိ တောင်တန်းများတွင် အများအပြား ပေါက်ကြသည်။ ခြောက်လပန်းပင်ရှည်မျိုးကို ခြံစည်းရိုးတလျှောက်တွင်၎င်း၊ အပင်ပုမျိုးကို ပန်းအိုးများဖြင့်၎င်း မျက်စိပသာဒကြည့်၍ လှအောင် စိုက်ပျိုးလေ့ရှိကြသည်။

ခြောက်လပန်းတွင် စိတ်ကြိုက်အရောင် ဖြစ်ထွန်းရရှိအောင် လောင်းပေးသောရေထဲ၌ သင့်တော်သောဓာတ်ပစ္စည်းများ ဖျော်ထည့်ပေးခြင်းဖြင့် ပြုပြင်ဖန်တီးပေးနိုင်သည်။ ပမာအားဖြင့် အပြာရောင်ဖြစ်စေလိုပါက၊ ရေထဲ၌ဒုတ္တာကို ဖျော်ထည့်ပေးရ၍၊ ပန်းရောင်ကို အလိုရှိပါက ပိုတက်ဆီယမ်ပါမန်ဂနိတ်ကို ဖျော်ထည့်ပေးရသည်။

**ခြင်။** ။ခြင်သည် အင်းဆက်မျိုးဖြစ်၍ ကူလီစီဒေးမျိုးရင်းတွင်ပါသည်။ ယင်းကို အခြားအင်းဆက်ပိုးများနှင့် လွယ်လင့်တကူခွဲခြား၍ သိရှိနိုင်၏။ ခြင်မျိုးပေါင်း ၂၀၀၀ ခန့်ရှိသည်။ နှစ်စဉ်နှစ်တိုင်း သိပ္ပံဆရာတို့သည် ခြင်မျိုးသစ်များကို ထပ်မံတွေ့ရှိနေကြသည်။ ခြင်များကို အမျိုးအစားခွဲခြားထားရာ အဓိကအားဖြင့် အေဒီ၊ အနိုဖီလီ၊ ဆိုရိုပိုရား၊ ကြူလက်၊ ကြူလီဆီတာ းဟူ၍ အုပ်စု ၅ ခု ရှိသည်။ ထိုအဓိကအုပ်စု ၅ ခုအပြင် အခြားအုပ်စုပေါင်း ၄၀ ခန့်လည်း ရှိသေးသည်။ ထိုအုပ်စုတိုင်း၌ ခြင်မျိုးပေါင်း အမြောက်အမြားရှိသည်။

ခြင်၏ဦးခေါင်းသည် ဝိုင်း၏။ ဦးခေါင်းနှင့် ရင်ပိုင်းကို ဆက်ထားသော လည်တိုင်သည် တို၍သေးသွယ်သည်။ ဦးမှင်များသည် မျက်စိရှေ့တွင်ရှိ၏။ ယင်းတို့သည် ခြင်ထီး၌ အမွေးတောင်များနှင့်တူ၍ ခြင်မ၌ ခြည်မျှင်ကလေးများနှင့်တူသည်။ ထိုဦးမှင်များသည် အာရုံကိုသိနိုင်သောအပိုင်းများဖြစ်သည်။ ယင်းတို့ကို အသုံးပြု၍ အစာကို၎င်း၊ မိမိတို့၏မိတ်ဖက်ကို၎င်း ရှာဖွေနိုင်ကြသည်။ ထိုပြင် မိမိတို့မြင်ကြရသောအရာဝတ္ထုများသည် မိမိနှင့်မည်မျှကွာဝေးနေသည်ကိုလည်း အာရုံကိုခံယူသော ဦးမှင်များကြောင့် သိရှိနိုင်ကြသည်။ ဦးမှင်တချောင်း၌ အပိုင်းပေါင်း ၁၅ ပိုင်း ပါရှိသည်။

ခြင်၌ ကြက်၊ ငှက်၊ ဝက်စသည့်တိရစ္ဆာန်တို့ကဲ့သို့ နှုတ်သီးမရှိ။ အရေပြားကိုပေါက်၍ သွေးကိုစုတ်နိုင်ရန်အလို့ငှာ စုတ်တံပါသော နှာမောင်းသာရှိသည်။ ထိုနှာမောင်း၌ အပိုင်း ၄ ပိုင်းရှိ၍ အပိုင်း ၁ ပိုင်းမှာ ပြွန်ချောင်းကဲ့သို့သော စုတ်တံဖြစ်၏။ သွေးကိုစုတ်ယူရာ၌ တံထွေးကိုထိုပြွန်ချောင်းမှတဆင့် အသားထဲသို့ သွင်းလိုက်၏။ တံထွေးသည် သွေးကိုကြဲစေသည်။ ထိုကြောင့် သွေးကိုစုတ်ယူရာ၌ သွေးအလိုက်သွက်လာသည်။ ခြင်ထီး၏နှာမောင်းသည် ခြင်မ၏နှာမောင်းနှင့် လုံးဝမတူပေ။ ခြင်ထီးနှာမောင်းသည် ခြင်မ

နှာမောင်းကဲ့သို့ မသန်မာသဖြင့် ခြင်ထီးသည် ခြင်မကဲ့သို့ လူနှင့်တိရစ္ဆာန်များကိုကိုက်၍ သွေးမစုတ်ယူနိုင်ပေ။ ခြင်ထီးနှာမောင်း၏ အစိတ်အပိုင်းအချို့သည် အလွန်ပင်သေးငယ်သည်။ တခါတရံ ယင်းအင်္ဂါအစိတ်အပိုင်းများ လုံးဝ မပါရှိတတ်ပေ။

ခြင်၏ရင်ပိုင်းသည် တြိဂံပုံရှိ၍ အကျယ်ဆုံးအပိုင်းသည် ထိပ်၌ရှိသည်။ ခြေ ၆ ချောင်းလုံးသည် ရင်ပိုင်းနှင့်ဆက်လျက်ရှိကြ၏။ အချို့ခြင်များ၏ ရင်ပိုင်းအပေါ်ဖက်တွင် အရောင်အသွေးအမျိုးမျိုးရှိသည့် အကြေးများပါရှိတတ်သည်။ သိပ္ပံပညာရှင်များသည် ထိုအကြေးများ၏အရောင်အသွေးကိုငင်း၊ ရင်ပိုင်းဘေးတွင်ပေါက်သည့်အမွေးများကိုငင်း ကြည့်၍ ခြင်တို့၏အမျိုးအစားကို ခွဲခြားနိုင်ကြသည်။

ခြင်၌ အတောင် ၂ ခုရှိ၏။ ထိုအတောင်များရှိ သွေးကြောကလေးများကို အကြေးခွံများက ဖုံးအုပ်ထားကြသည်။ ထိုအကြေးခွံများသည် ခြင်ကိုကိုင်တွယ်ရာ၌ ကျွတ်သွားတတ်ကြသည်။ သိပ္ပံပညာရှင်များသည် အတောင်ပေါ်ရှိ သွေးကြောကလေးများ ဖြာနေကြပုံကိုကြည့်၍လည်း ခြင်တို့၏အမျိုးအစားကို ခွဲခြားနိုင်ကြသည်။ ခြင်သည် တစက္ကန့်လျှင် အတောင်ပံကို ၂၇၈ ကြိမ်မှ ၃၀၇ ကြိမ်အထိခတ်၍ ပျံသန်းသည်။

ခြင်၏ခြေချောင်းများသည် သေးသွယ်ရှည်လျား၍ ယင်းတို့၌ အပိုင်း ၅ ပိုင်းရှိ၏။ ခြေချောင်းများ၏ အဖျား၌ ခြေသည်းတစုံစီပါရှိသည်။ ခြင်သည် ထိုခြေသည်းများကို အသုံးပြု၍ ချောမွတ်သောမျက်နှာပြင်ပေါ်တွင် မြဲမြံစွာ တွယ်ကပ်နေနိုင်သည်။ မျက်နှာကြက်၌ပင် စောက်ထိုးနေနိုင်သည်။ အချို့ခြင်များ၏ခြေထောက်၌ အမွေးနှင့်အကြေးခွံများရှိသည်။ ထိုအကြေးခွံတို့ကို ကြည့်၍လည်း ခြင်တို့၏အမျိုးအစားကို ခွဲခြားနိုင်ကြသည်။

ခြင်သည် ရေမျက်နှာပြင်ပေါ်၌ ဥတတ်သည်။ နောင်အခါ ရေရှိမည့်နေရာမျိုး၌လည်း ဥတတ်သည်။ အချို့ခြင်များသည်ရေဝင်နေသောသစ်ခေါင်းများတွင် ဥတတ်ကြ၏။ ဥမှပေါက်လာသော အကောင်လောင်းများသည် အလွန်သေးငယ် ကြသောကြောင့် ယင်းတို့ကို လွယ်လင့်တကူ မမြင်နိုင်ပေ။ သို့သော် ရက်ပေါင်းအနည်းငယ်အတွင်းမှာပင် အပူရှိန် အနည်းအများကိုလိုက်၍ ကြီးပြင်းလာကြသည်။ အကောင်လောင်းဘဝ၌ အချို့ခြင်မျိုးသည် ရက်ကြာကြာနေကြရ၍ အချို့ခြင်မျိုးသည် ရက်အနည်းငယ်သာ နေကြရသည်။ ပိုးလောင်းကောင်သည် ရေထဲရှိမှုန်မှုန်မွှားမွှားအစာများကို စားသည်။ ယင်း၏ကိုယ်အဖျားနားတွင်ရှိသောပြွန်ချောင်းကို ရေပြင်ထက်သို့ထုတ်၍ လေရှူ၏။ ဤသို့လေရှူရန် မကြာခဏ ရေပြင်သို့တက်လာရ၏။ ပိုးလောင်းကောင်သည် အရေ ၄ ကြိမ် လဲသည်။ နောက်ဆုံးအကြိမ် အရေလဲပြီးသောအခါ ကိုယ်အသွင်အပြင်သည် သိသိသာသာ ပြောင်းသွား၍ ပိုးတုံးလုံးဘဝသို့ ရောက်သည်။ အချို့ပိုးလောင်းကောင်များသည် လေရှူရန် ရေပြင်သို့လုံးဝတက်မလာကြဘဲ ရေထဲရှိအပင်မြစ်များကို မိမိတို့၏ချွန်ထက်သောလေပြွန်ချောင်းများဖြင့် တွယ်ကပ်၍ နေတတ်ကြ၏။ ဤအတိုင်းနေ၍ ခြင်ကောင်ဖြစ်ခါနီးတွင် ရေထဲမှ ထွက်လာတတ်ကြသည်။

ပိုးတုံးလုံးဘဝ၌ ခြင်သည် အစာမစားပေ။ သို့သော် ကိုယ်ခန္ဓာသည် လျှင်မြန်စွာပြောင်းလဲလျက်နေသည်။ ဤအချိန်တွင် လေကိုရှူ၍ ငြိမ်သက်စွာနေတတ်သည်။ အနှောင့်အယှက်ပြုသည့်အခါကျမှ လှုပ်ရှားသည်။ အင်္ဂါစုံလာသောအခါ ပိုးတုံးလုံး၏ကျောသည် ပွင့်ထွက်သွား၍ ထိုအထဲမှ ခြင်ကောင်ထွက်လာသည်။ နေသာသောနေ့များ၌ ခြင်ပေါက်လေ့ရှိ၏။ သို့မှသာ မပျံသန်းမီ အတောင်များသည် ခြောက်သွေ့သွားကြပေမည်။

ခြင်သည် နွေးသောဒေသများတွင် ဥမှ ခြင်ဖြစ်လာရန် ရက်သတ္တ ၂ ပတ်မျှသာကြာသည်။ သို့သော် အေးသောဒေသများ၌မူ ဥမှခြင်ဖြစ်ရန် တလ သို့မဟုတ် တလကျော်ကျော်မျှ ကြာသည်။

အင်္ဂါစုံဘဝသို့ရောက်လာသော ခြင်မနှင့်ခြင်ထီးတို့သည် အလေ့အကျင့်အားဖြင့် အလွန်ပင်ကွာခြားကြသည်။



အဆုပ်လိုက်ပွင့်လျက်ရှိသောခြောက်လပန်းများ



မြောင်းဖေါက်ပေးခြင်းဖြင့်ခြင်များကိုသုတ်သင်နိုင်သည်။

ခြင်ထီးသည် လူနှင့်တိရစ္ဆာန်များမှ သွေးကို မစုတ်ယူနိုင်ကြပေ။ ထို့ကြောင့် လူဆီသို့ သွေးစုတ်ရန်မလာတတ်ကြ။ အစာအလို့ငှာ အပင်များ၏ ပင်စည်ကိုစုတ်၍ အရွက်နှင့် အသီးများကိုလျက်တတ်၏။ ခြင်ထီးတို့သည် မိမိတို့ပေါက်ဖွားရာဒေသအနီးအနားတွင် ပျံဝဲလေ့ရှိကြ၏။ ပျံသန်းရာ၌ တောင်ပံခတ်သံဖြင့် ခြင်မများကိုဆွဲဆောင်ခေါ်ယူကာ မိတ်ဖက်တတ်သည်။

ခြင်မသည် ခြင်ထီးထက် သန်မာသည့်ပြင် ပို၍လည်း အသက်ရှည်သည်။ ခြင်မတမျိုးစီး၌ နှစ်သက်သောအစာ တမျိုးစီရှိ၏။ အချို့ခြင်မမျိုးသည် ဖါးကဲ့သို့သောသွေးအေးသတ္တဝါများ၏သွေးကို နှစ်သက်သည်။ အချို့အမျိုးသည် ငှက်သွေးကို နှစ်သက်သည်။ အချို့အမျိုးသည် လူနှင့် တိရစ္ဆာန်ကဲ့သို့သော သတ္တဝါများ၏သွေးကိုပို၍ နှစ်သက်ကြသည်။

ခြင်သည် ငှက်ဖျားရောဂါစသောအနာရောဂါများကို ကူးစက်စေတတ်သည်ဟု သိပ္ပံပညာရှင်များက ဆိုကြသည်။ ခြင်သည် ငှက်ဖျားရောဂါဖြစ်နေသောလူ၏သွေးကိုစုတ်ယူ၍ လူကောင်းတယောက်ကိုကိုက်မိလျှင် ထိုသူ၌ငှက်ဖျားရောဂါစွဲကပ်သည်။ ငှက်ဖျားရောဂါကိုဖြစ်စေသော ပလက်စမိုဒီယမ် ခေါ်ပါရာဆိုက်များသည် လူ၏သွေးထဲနှင့် အနိုဖီလီခြင်၏ ကိုယ်ခန္ဓာထဲ၌သာလျှင် အသက်ရှင်၍ နေနိုင်ကြသည်။ အနိုဖီလီခြင်များကြောင့် ငှက်ဖျားရောဂါ ကူးစက်တတ်ကြောင်းကို ဆရာဝန်ကြီး ကာနယ် ဆာရော်နယ် ရော့ သိရှိခဲ့လေသည်။ အနိုဖီလီခြင်မျိုး ၂၀၀ ခန့်ရှိသည့်အနက် အမျိုး ၄၀ လောက်သာလျှင် ငှက်ဖျားရောဂါကို ကူးစက်စေနိုင်သည်။ အမှန်စင်စစ် ထိုခြင်တို့၏ကိုယ်ခန္ဓာအတွင်း၌ မူလကတည်းက ငှက်ဖျားရောဂါပိုးများ မပါရှိကြပေ။ ငှက်ဖျားရောဂါမရှိသောဒေသများတွင်လည်း အနိုဖီလီခြင်မျိုးများကို တွေ့ရသည်။ (ငှက်ဖျားရောဂါ — ရှု။)

ခြင်ရိုးရိုးနှင့် ငှက်ဖျားရောဂါခြင်တို့ ကွဲပြားပုံမှာ ခြင်ရိုးရိုးသည် ဝတ္ထုတခုပေါ်၌ နားနေသောအခါ ခြင်၏ကိုယ်နှင့် ထိုဝတ္ထုတို့သည် မျဉ်းတပြေးတည်းဖြစ်၍နေသည်။ ငှက်ဖျားခြင်ဖြစ်က သူ၏အမြီးသည် ကော့ထောင်၍နေတတ်၏။ တဖန်ရိုးရိုးခြင်၌ရှိသော ဦးမှင့်တို့သည် နှုတ်သီးထက်ရှည်၍ ငှက်ဖျားခြင်ဦးမှင့်တို့သည် နှုတ်သီးထက်တို၏။ ငှက်ဖျားခြင်၏နှုတ်သီးမှာလည်း ခြင်ရိုးရိုး၏နှုတ်သီးထက်ပို၍ထူ၏။

ခြင်များသည် အဝါဖျားနှင့် တုပ်ကွေးကြီးရောဂါများကိုလည်း သယ်ဆောင်နိုင်ကြသည်။ အေဒီအီဂျစ်ပတီခေါ် ခြင်တမျိုးကြောင့် အဝါဖျားရောဂါ ကူးစက်တတ်ကြောင်းကို ခရစ် ၁၉၀၀ ပြည့်နှစ်တွင် ဒေါက်တာ ဝေါလတာ ရိ က သိရှိခဲ့လေသည်။ အေဒီအီဂျစ်ပတီခြင်မျိုးသည် လူကိုလုံးဝမှီခို၍ အသက်ရှင်ကြရသည်။

ယင်းတို့ကို လူတို့နှင့်မိုင်ဝက်ကျော်ဝေးသော နေရာများတွင် တွေ့ရခဲ၏။ ထိုခြင်မျိုးသည် အပူပိုင်းဒေသနှင့် နွေးသောဒေသများတွင် မိမိတို့ဖါသာ နေနိုင်ကြသည်။ ခြင်များသည် ရေစည်ရေပုံးထဲရှိရေပေါ်၌ ဥတတ်ကြသည်။ ခြင်ထီးတို့ထက် ခြင်မများက ပို၍အကိုက်သန်သည်။ မြေနှင့် နီးနီးနေရာများ၌ နေ့ရောညပါကိုက်တတ်ကြသည်။

အနာရောဂါများကိုဖြစ်စေသောခြင်မျိုးကို သုတ်သင်ပစ်ခြင်းအားဖြင့် ခြင်ကြောင့်ကူးစက်တတ်သော အနာရောဂါ



ပိုးလောင်းကောင်များကိုရေနံဆီဖျန်း၍လည်းသုတ်သင်နိုင်သည်။

များကို ကာကွယ်နိုင်ပေသည်။ ခြင်များကို သုတ်သင်ပစ်ရန်နည်း ၃ မျိုးရှိ၏။ ယင်းတို့မှာ အင်္ဂါစုံခြင်များကိုသတ်ပစ်ခြင်း၊ ရေ၌ပေါက်ပွားသောပိုးလောင်းကောင်များကိုသတ်ပစ်ခြင်း၊ ခြင်အုတတ်သောနေရာများ၌ ရေမဝပ်အောင်ပြုလုပ်ခြင်းတို့ဖြစ်သည်။ အင်္ဂါစုံခြင်များကို သုတ်သင်ရာ၌ ဒီဒီတီ သို့မဟုတ်အေအီရိုဆိုးခေါ် ပိုးသတ်ဆေးများကို အသုံးပြုကြ၏။ ထိုပိုးသေဆေးများကို ဖျန်းပေးခြင်းအားဖြင့် အင်္ဂါစုံခြင်များသေစေနိုင်၏။

ရေထဲရှိပိုးလောင်းကောင်များကို သုတ်သင်ရာ၌ ရေနံဆီသို့မဟုတ် ဓာတ်ဆီကို ရေပေါ်၌ဖျန်းထားကြ၏။ ဤသို့ပြုလုပ်ခြင်းဖြင့် ရေပြင်သို့တက်၍ အသက်ရှူကြရသော ပိုးလောင်းကောင်များသည် အသက်ရှူရန်လေကို မရရှိနိုင်ကြတော့ပေ။ ဒီဒီတီကဲ့သို့သောပိုးသတ်ဆေးများကို ရေထဲသို့ထည့်ပေးခြင်းအားဖြင့်လည်း ပိုးလောင်းကောင်များကို သေစေနိုင်သည်။ ထို့ပြင် ပိုးလောင်းကောင်များကိုစားသော မင်နိုခေါ် ငါးကလေးများကို ရေအိုင်များ၌မွေးထားခြင်းဖြင့်လည်း ပိုးလောင်းကောင်များကို သုတ်သင်နိုင်ပေသည်။

ခြင်နှိမ်နင်းရန်ကောင်းသောနည်းမှာ ခြင်ပေါက်နိုင်သည့်နေရာများ၌ ရေမဝပ်စေရန် ပြုလုပ်ပေးခြင်းဖြစ်သည်။ ထို့ကြောင့် ဝပ်နေသောရေကို မြောင်းဖောက်ထုတ်၍၎င်း၊ ရေဝပ်သောနေရာကို မြေဖို့ပေး၍၎င်း ခြင်ကို နှိမ်နင်းနိုင်၏။

လူကိုခြင်မကိုက်အောင် ကာကွယ်နည်းတနည်းမှာ ခြင်နိုင်သော ဓာတ်ဆေးများကို အသုံးပြုခြင်းဖြစ်သည်။ စစ်တရွှန်နယ်လာခေါ် အဆီကို အသားပေါ်၌ သုတ်လိမ်းထားလျှင် ခြင်မကိုက်နိုင်ပေ။ အိမ်၌ သံဆန်ခါများ တပ်ထားခြင်းဖြင့်၎င်း၊ အိပ်ရာ၌ ခြင်ထောင် ထောင်ခြင်းဖြင့်၎င်း ခြင်မကိုက်အောင်ကာကွယ်နိုင်ကြသေးသည်။

မြန်မာနိုင်ငံ၌ ငှက်ဖျားရောဂါ ကာကွယ်ရေးလုပ်ငန်းများကို ပြည်သူ့ကျန်းမာရေးဌာနက ဦးစီး၍ ဒေသအနှံ့အပြား၌ ဆောင်ရွက်လျက်ရှိသည်။ ၁၉၅၂ ခုနှစ် ပြည်တော်သာစီမံကိန်းအရ မြန်မာနိုင်ငံတခုလုံးကို အပိုင်းကြီး ၆ ခုပိုင်း၍ တပိုင်းစီ၌ ငှက်ဖျားရောဂါကာကွယ်ရေး အဖွဲ့တခုစီက ကြီးကြပ်ဆောင်ရွက်ရန် စီစဉ်ထားလေသည်။ ထိုအပိုင်းကြီး ၆ ခု မှာ (၁) ရောဝတီတိုင်းနှင့်ပဲခူးတိုင်း (၂) မန္တလေးတိုင်းနှင့်စစ်ကိုင်းတိုင်း (၃) တနင်္သာရီတိုင်း (၄) ရခိုင်တိုင်း၊ မကွေးတိုင်းနှင့်ချင်းဝိသေသတိုင်း (၅) ရှမ်းပြည်နယ်နှင့်ကယားပြည်နယ် (၆) ကချင်ပြည်နယ်တို့ဖြစ်သည်။ ကမ္ဘာ့ကျန်းမာရေးအဖွဲ့ (ဒဗ္ဗျူ၊အိပ်၊အို) သည် ရှမ်းပြည်နယ်မြောက်ပိုင်းအတွက်၎င်း၊ စီးပွားရေးပူးပေါင်းမှုအုပ်ချုပ်ရေးအဖွဲ့ (အီး၊ စီ၊ အေ) သည် ရှမ်းပြည်နယ်တောင်ပိုင်းနှင့် စစ်တွေမြို့တို့အတွက်၎င်း တာဝန်ယူကြကာ ငှက်ဖျားရောဂါ ကာကွယ်ရေးလုပ်ငန်းများကို ဆောင်ရွက်ကြသည်။ ထိုလုပ်ငန်းများကို ဆောင်ရွက်ကြရာ၌ ခြင်များကို ဆေးဖျန်း၍ သတ်ပစ်ကြ၏။ ငှက်ဖျားရောဂါ ထူပြောသောဒေသများတွင် တွေ့သောခြင်အမျိုးအစားကိုခွဲခြား၍ ထိုခြင်တို့ပေါက်ပွားသော နေရာများ၊ ထိုခြင်တို့၏အလေ့အကျင့်များကို လေ့လာပြီးလျှင် ခြင်များကို လိုက်လံသုတ်သင်ကြ၏။ ပိုးလောင်းကောင်များကို စားသော ငါးမျိုးများကိုပင် နိုင်ငံခြားမှမှာယူ၍ ခြင်ပေါက်ပွားရာရေအိုင်များတွင် မွေးမြူထားရန် ဖြန့်ဖြူးပေးကြသည်။ မရှိဆင်းရဲသောလူများကို မက်ပါကရင်ခေါ် ငှက်ဖျားရောဂါဆေးပြားများ အခမဲ့ ပေးဝေကြ၏။ ထို့ပြင် အများပြည်သူအကျိုးအတွက် ငှက်ဖျားရောဂါနှင့်စပ်လျဉ်း၍ ဗဟုသုတရရှိစေရန် ငှက်ဖျားရောဂါသယ်ဆောင်သောခြင်တို့၏ ပေါက်ပွားရာဒေသများ၊ ထိုခြင်တို့ပေါက်ပွားလာကြပုံ၊ ထိုခြင်များကိုနှိမ်နင်းနိုင်ပုံတို့ကို စာရွက်စာတမ်းများဖြင့်၎င်း၊ ရုပ်ရှင်ကားများဖြင့်၎င်း အရပ်ရပ်သို့လှည့်လည်ပြသလျက်ရှိကြသည်။




ခြင်ပေါက်ပွါးလာပုံကို ဥဘဝ ပိုးတုံးလုံးဘဝ အကောင်လောင်းဘဝ ဟူ၍အဆင့်ဆင့်ပြထားသည်။

**ခြင်ရုပ်ပင်။** ။ခြင်ရုပ်ပင်သည် လွင်ပြင်နှင့်တောင်ကုန်း ဒေသများတွင် ပေါက်လေ့ရှိသည့် သစ်ပင်တမျိုးဖြစ်သည်။ အမြင့်သည် ပေ ၇၀ မှ ၈၀ အထိရှိ၏။ သစ်သား အတော် အသင့်မာသည်။ အရောင်မှာ နီသည်။ သစ်ကြောညီ သည်။ ထိုသစ်သား ၁ ကုဗပေသည် ပေါင် ၄၀ လေးသည်။

ခြင်ရုပ်ပင်မှပျဉ်ကို ကြမ်းခင်းနိုင်၏။ သေတ္တာ၊ စည်ပိုင်း စသည်တို့လည်း လုပ်နိုင်သည်။ ထိုပြင် လှေစပ်ရာတွင်လည်း သုံးနိုင်သည်။ သစ်ခေါက်ကို သားရေနယ်ရန် ဖန်ရည် လုပ်ရာ၌ တခါတရံသုံးလေသည်။ သစ်ရည်နှင့်အစေးကို ပန်းနာရောဂါအတွက် ဆေးအဖြစ်သုံးလေ့ရှိသည်။

အသီးကို အစိမ်းစားနိုင်သည်။ ထိုပြင် ချဉ်ဖတ်ထည့်၍ လည်း စားသုံးကြသည်။

# သားကောင်တို့၏ဘုရင်

**ကေသရာဇာခြသေ့မင်းဟူ၍ ခေါ် လေ့ရှိသောသားရဲသည် စင်စစ်အားဖြင့် ကြောင်မျိုးရင်းတွင်အပါအဝင်ဖြစ်သည်။ ခြသေ့သည် ကြောင်နှင့်ပုံပန်းသဏ္ဌာန် တူသည်ဟုမဆိုသာသော်လည်း ကြောင်ကဲ့သို့ လျင်မြန်ဖျတ်လတ်သည်သာမက ခွန်အားကြီးမား ခြင်းကြောင့် တော၌မင်းမူနိုင်ပေသည်။**

**ခြသေ့။** ။သားကောင်တို့၏ဘုရင်ဟုခေါ်သော ခြသေ့ သည် ကြောင်နှင့်တမျိုးတနွယ်တည်းဖြစ်သည်။ ခြသေ့၊ ကြောင်နှင့် ကျားတို့သည် မျိုးရင်းတခုထဲတွင် ပါဝင်ကြ သည်။ မျိုးတူဖြစ်ကြသည့်အတိုင်း ခြသေ့နှင့် ကြောင် တို့သည် အရွယ်အစားနှင့် အရောင်အဆင်းကလွဲလျှင် များ စွာကွဲပြားခြားနားခြင်းမရှိချေ။ ကွဲလွဲချက်အနည်းငယ်မှာ ကြောင်၏မျက်စိသူငယ်အိမ်သည် ထက်အောက်ရှည်လျား လျားဖြစ်၍ ခြသေ့၏မျက်စိသူငယ်အိမ်မှာ စက်ဝိုင်းကဲ့သို့ဝိုင်း သည်။ ကြောင်သည်သစ်ပင်တက် ကျင်လျင်၍ ခြသေ့မှာ သာမန်အားဖြင့်သစ်ပင်တက်လေ့မရှိပေ။ ကြောင်၏သား မွေးသည် တကိုယ်လုံးတွင် တညီတည်းလိုလိုပေါက်သည်။ ခြသေ့မှာဆိုလျှင် ခြသေ့အထီး၌ လည်ပင်း တဝိုက် တွင် လည်ဆံမွေးထူထပ်စွာပေါက်သည်။ (ကြောင်-လည်းရှု။)

ရှေးခေတ်က ခြသေ့များကို အာဖရိကတိုက်တဝှမ်းလုံးနှင့် အာရှတိုက် တောင်ပိုင်း၊ ဥရောပတိုက် အရှေ့တောင်ပိုင်း ဒေသများတွင် အနှံ့အပြားတွေ့ရသည်။ ယခုအခါ အာဖရိ ကတိုက်နှင့် အာရှတိုက်တွင် ခြသေ့ကိုတွေ့ရသေးသော်လည်း ရှေးကလောက် အရေအတွက်မများတော့ချေ။ ခြသေ့ သည် ကြီးပြင်းသောအရွယ်၌ ဦးခေါင်းမှအမြီးဖျားအထိ ၉ ပေ ၁၀ ပေခန့်အထိရှည်၍ ၄ ပေခန့်မြင့်သည်။ အကြီး ဆုံးသောခြသေ့သည် အကြီးဆုံးသောကျားလောက် မကြီး မားပေ။ အကြီးဆုံးသောကျားများမှာ ၁၁ ပေခန့်ရှည်၍ ကိုယ်အလေးချိန်ပေါင် ၄၅၀ မှ ၅၀၀ အထိရှိတတ်သည်။ သို့ရာတွင် ခြသေ့၏ခွန်အားမှာ အလွန်ကြီးမား၏။ သူ၏ကြီး မားသောရှေ့လက်ဖြင့် ပုတ်ခတ်လိုက်ရုံမျှဖြင့် နွား၏ဦးခေါင်း ခွံကိုကွဲစေနိုင်၍ မြင်းကျောရိုးကို ကျိုးစေနိုင်သည်။ နွား ပေါက်တကောင်ကိုလည်း ပါးစပ်ဖြင့် ကိုက်ချီ၍ သွားနိုင် လောက်အောင် အင်အားကြီးမားလေသည်။ ကျားနှင့် ခြသေ့တို့၏ ကိုယ်ခန္ဓာအနေအထားကို နှိုင်းစာကြည့်လျှင် ခြသေ့သည် လျင်မြန်ပေါ့ပါးဖျတ်လတ်စွာ ကွင်းပြင်များ၌ ကျက်စားနိုင်အောင် သဘာဝက ဖန်တီးထားသည်ကိုတွေ့ ရသည်။ အကြောင်းမှာ ခြသေ့၏ကိုယ်အရှေ့ပိုင်းသည်ကြီး မား၍ ကိုယ်နောက်ပိုင်းမှာ သေးသည့်အတိုင်း သားကောင် များကို မိမိကိုယ်အလေးဖြင့်ဖိ၍ ဆွဲလှဲနိုင်သည်။ ကျား ၏ကိုယ်မှာမူ ခြသေ့နှင့်စာလျှင် ပိုမိုအချိုးကျ၍ စိုစွတ်ထိုင်း မှိုင်းသော တောနက်ကြီးများနှင့် ပို၍သပ္ပာယဖြစ်သည်။ (ကျား — လည်းရှု။)

ခြသေ့သည် ပေ ၃၀ ခန့်အမြင့်ကိုခုန်နိုင်သည်။ တာတို ပြေးရာ၌ တောဆိတ်တို့မှလွဲလျှင် ခြသေ့လောက်အပြေးမြန် သောတိရစ္ဆာန်မျိုးရှားလေသည်။ ခြသေ့တွင် နီကြန့်ကြန့် အရောင်အသွေး ရှိသဖြင့်လည်း ခပ်လှမ်းလှမ်းမှကြည့်လျှင်



ခြင်ရုပ်ပင်၏အခက်အရွက်များ

ခြင်္သေ့ကိုသဘာဝပတ်ဝန်းကျင်မှ ရုတ်တရက်ခွဲခြား၍မရပေ။ ထို့ကြောင့် အာဖရိကတိုက်တောကြီးများထဲ၌ ဖြတ်သန်းသွားလာရသောခရီးသည်တို့သည် ခြင်္သေ့၏ရန်မှကင်းဝေးစေရန်ခြင်္သေ့ရှိမရှိကို အတော်ပင် သတိထား၍ ကြည့်ရှုသွားလာကြရသည်။

ခြင်္သေ့သည် အလွန်ဆာလောင်နေမှသာလျှင် နေ့လည်နေ့ခင်းတွင် အစာရှာထွက်လေ့ရှိသည်။ များသောအားဖြင့်ကား တနေကုန်အိပ်တတ်သည်။ ဤသို့ အိပ်စက်သည့်အခါတွင်လည်း အနည်းဆုံး မျက်လုံးတဖက်ကိုတဝက်ခန့်ဖွင့်၍အိပ်လေ့ရှိသဖြင့် ခြင်္သေ့ကိုအလစ်တွင်ဖမ်းရန် အတော်ပင်ခဲယဉ်းပေသည်။

ခြင်္သေ့သည် ညနေအစာရှာမထွက်မီ နီးရာရေအိုင်သို့မဟုတ် စမ်းချောင်းသို့ ရေသောက်ဆင်းလေ့ရှိသည်။ ရေသောက်ပြီးမှ ဦးခေါင်းကိုမော့ကာ နံဘေးပတ်ဝန်းကျင်သို့ လှည့်ပတ်ကြည့်ရှု၍ အနီးအနားတဝိုက်တွင် အမဲကောင်များရှိ မရှိကိုအနံ့ခံတတ်သည်။ အနီးအနား၌ အမဲကောင်မရှိခဲ့သော် ခြင်္သေ့သည် ရေသောက်ဆင်းလာမည့် တောမြင်း၊ တောဆိတ်၊ မြင်းကျားစသော အမဲကောင်များကိုချုံကွယ်တခုမှ ပုန်းအောင်းယင်း စောင့်မြှော်နေတတ်သည်။ အကယ်၍ အချိန်အတန်ကြာသည့်တိုင်အောင် မည်သည့်သားကောင်မှ ရေသောက်မဆင်းခဲ့လျှင် ခြင်္သေ့သည်ခေါင်းကို မြေကြီးနှင့်ကပ်၍ ကျယ်လောင်စွာ ကြောက်မက်ဖွယ်ကောင်းလောက်အောင် ဟိန်းဟောက်လိုက်သည်။ ဟိန်းသံကြီးမှာ တတောလုံးပဲ့တင်ထပ်သွားရကား ချုံဖုတ်ကလေးများအောက်တွင် ခိုအောင်းနေကြသော တောကောင်ကလေးများမှာ ဆောက်တည်ရာမရဖြစ်ပြီးလျှင် ထိုမှ၎င်းမှ ကြောက်လန့်တကြားထွက်ပြေးကြ၏။ ထိုအခါ ခြင်္သေ့သည် နှစ်သက်ရာသားကောင်ကို လျင်မြန်စွာတဟုန်တည်းခုန်အုပ်လေတော့သည်။

သားကောင်သေးငယ်လျှင် ခြင်္သေ့သည် သူခိုအောင်းနေထိုင်ရာ ဂူအတွင်းသို့ကိုက်ချီသွားပြီးမှ စိမ်ပြေနပြေစားသောက်တတ်သည်။ မချီနိုင်သောသားကောင်ကိုမူ မြေပေါ်၌တရွတ်တိုက်၍ ဆွဲသွားတတ်သည်။ အကယ်၍ ထိုထက်မကကြီးနေပါက အလိုရှိသမျှကိုကိုက်ဖွဲ့၍ယူငင်သွားတတ်သည်။ သို့သော်ခြင်္သေ့သည်သားကောင်များကိုဖမ်းဆီးသတ်ဖြတ်ရာ၌ အခါတိုင်းမလွယ်ကူပေ။ အားကောင်းသောကျွဲများနှင့် တွေ့သည့်အခါမျိုးတွင် စားရသည်နှင့်မမျှအောင် ပင်ပန်းရသည်။

ခြင်္သေ့များ အမဲလိုက်ပုံနှင့်စပ်လျဉ်း၍ ပါဏဗေဒပညာရှင်ကြီးများ အချင်းချင်းတဦးနှင့်တဦး ယူဆပုံမတူကြချေ။ သို့သော် သိရသလောက်မှာ ခြင်္သေ့သည် သတ္တိကောင်းသည့်အတိုင်း တကောင်ချင်းအမဲလိုက်ထွက်ခြင်းကို ပို၍နှစ်သက်သည်။ မိတ်လိုက်ချိန်နှင့် သားငယ်များအရွယ် အတော်အတန်ရောက်သည့်အခါများတွင်မူ မိသားတစုလုံး တပျော်



သားငယ်ကလေးများကို ဂရုစိုက်စောင့်ရှောက်တတ်သောခြင်္သေ့မ

တပါးအမဲလိုက်ထွက်လေ့ရှိကြသည်။ ကြောင်အနွယ်ဝင်ဖြစ်၍ ခြင်္သေ့သည် ညဖက်၌အမဲလိုက်ခြင်းကိုပို၍နှစ်သက်သည်။

လူကိုတမင်လာ လိုက်လံရန်ပြုတတ်သော ခြင်္သေ့ဟူ၍မရှိသလောက်ရှားသည်။ သို့သော် အိုမင်းရင့်ယော်လာ၍ သမင်၊ ဒရယ်၊ တောဆိတ်စသည်တို့ကို ငယ်ရွယ်စဉ်ကကဲ့သို့ ဖျတ်လတ်ပေါ့ပါးစွာ မဖမ်းယူနိုင်တော့သည့်အခါ အဖမ်းရလွယ်သောလူကို သတ်ဖြတ်စားသောက်တတ်သောအကျင့် ပေါ်လာတတ်သည်။ လူသားကို တခါစားဘူးပြီးလျှင်ကား ထိုခြင်္သေ့သည် လူတို့၏ရပ်ရွာအနီးတွင် လူရိပ်လူခြည်ကို ချောင်းမြောင်းစောင့်မြှော်နေတတ်သဖြင့် အလွန်ကြောက်ဖွယ်ကောင်းသည်။ တခါတရံ ရပ်ရွာထဲသို့ ရဲတင်းစွာဝင်၍ပင် လူကိုကိုက်ချီသွားတတ်သည်။

ခြင်္သေ့မသည် ခြင်္သေ့ထီးလောက်ပင် ခွန်အားဗလကြီး၍သတ္တိကောင်းသည်။ ကိုယ်လုံးကိုယ်ထည်မှာလည်း ခြင်္သေ့ထီးနှင့်ရွယ်တူလောက်ပင်ဖြစ်၏။ သို့သော် ခြင်္သေ့ထီးမှာကဲ့သို့ လည်ဆံမွေးမရှိခြင်းကြောင့် အမြင်အားဖြင့်သေးငယ်သည်ဟုထင်ရသည်။ ခြင်္သေ့မသည် တကြိမ်လျှင် ခြင်္သေ့ကလေး ၂ ကောင် ၃ ကောင်ခန့်မွေးတတ်သည်။ မွေးဖွားလာသော ခြင်္သေ့ငယ် ကလေးများကို မိခင်ခြင်္သေ့မကြီးသည် အထူးဂရုစိုက်၍ စောင့်ရှောက်တတ်၏။ ခြင်္သေ့ကလေးများရှိနေလျှင် ခြင်္သေ့မကြီးသည် အမဲလိုက်ထွက်လေ့မရှိဘဲ၊ ခြင်္သေ့ကလေးများကို မျက်ခြည်မပြတ်ထိန်းကျောင်း၍နေသည်။ ထိုအချိန်တွင် ခြင်္သေ့ထီးကြီးကိုပင် ကလေးများထံ ဝင်ခွင့်မပေးပေ။ အဘယ်ကြောင့်ဆိုသော် ခြင်္သေ့ထီးကြီးတို့သည် မိမိတို့၏ရင်သွေးကလေးများကိုပင် သတ်ဖြတ်စားသောက် တတ်သောကြောင့်ဖြစ်၏။ ခြင်္သေ့အထီးကလေးသည် ၃ နှစ်ခန့်ကြာသော် လည်ဆံမွေးပေါက်စပြုလာသည်။ သို့သော် အသက် ၇ နှစ် ၈ နှစ်ခန့်ဖြစ်လာမှ ကောင်းစွာအရွယ်ရောက်သည်။ အရွယ်မရောက်မီကပင် မိဖများနှင့်အတူတကွ အမဲလိုက်ထွက်ကာ သားကောင်ဖမ်းသည့်အတတ်ကို လက်ထပ်သင်ကြားသည်။ ကြောင်အနွယ်ဝင်ပင်ဖြစ်သော်လည်း ခြင်္သေ့သည် မွေးဖွားစအခါတွင် ကြောင်ကဲ့သို့မျက်စိပိတ်၍မနေဘဲ မွေးလျှင်မွေးခြင်းပင် မျက်စိပွင့်လျက်ပါလာသည်။ ခြင်္သေ့၏သက်တမ်းမှာ အနှစ် ၄၀ မှ ၅၀ အတွင်း၌ရှိ၏။ ခြင်္သေ့ကိုလွယ်ကူစွာဖမ်းလှောင်ထားနိုင်၍ ထိုသို့ဖမ်းလှောင်ထားသည့်အချိန်အတွင်း လွတ်လပ်စွာပေါက်ပွားနိုင်သည်။ ခြင်္သေ့ကိုကျားနှင့်လည်း အမျိုးစပ်ပေးနိုင်သည်ကိုတွေ့ရသည်။ (ကြောင်ကိုလည်း — ရှု။)

ခြင်္သေ့သည် အများအားဖြင့် ညကစားခဲ့သောအစာကြောင့် အလိုဆန္ဒပြည့်ဝနေတတ်သည်။ ထိုကြောင့် ခြင်္သေ့ကိုနေ့ဖက်တွင် များစွာစိုးရိမ်စရာမလိုချေ။



ခွန်အားကြီးမားသောအာဖရိကခြင်္သေ့မျိုးအထီး

# မြန်မာတို့ဂုဏ်ယူလောက်သည့်အမျိုးသားကစားနည်း

**နိုင်ငံခြားမှကစားနည်းများမည်မျှပင် ခေတ်စားလာစေကာမူ မြန်မာတို့၏ အနုပညာတရပ်ဖြစ်သော ခြင်းခတ်ခြင်းမှာ တနေ့တခြားတိုးတက်လျက်ရှိပေသည်။ ခြင်းခတ်ခြင်း စတင်ပေါ်ပေါက်လာပုံနှင့် ကစားနည်းစည်းမျဉ်းအမျိုးမျိုးကို ဤအကြောင်းရပ်တွင်ဖော်ပြထားသည်။ မြန်မာမှုတရပ်ဖြစ်သောခြင်းခတ်ခြင်းကို လူတိုင်းလေ့လာအပ်ပေသည်။**

**ခြင်းခတ်ခြင်း။** ။ခြင်းခတ်ခြင်းသည် မြန်မာတို့၏ကစားခုန်စားမှုတရပ်ဖြစ်၏။ ခြင်းခတ်ရာ၌ ခြင်းလုံးကို အသုံးပြုသည်။ ခြင်းလုံးမှာ ကြိမ်ကိုထိုးထားသော ပစ္စည်းဖြစ်၍ သဏ္ဍာန်မှာလုံးသည်။ ထိုခြင်းလုံးကို ခြေဖြင့်ခတ်ကျောက်တော့မြှောက်၍ကစားရသည်။

မြန်မာမှုတွင် ခြင်းသည် အရေးပါလှသည်။ ပြည်ထောင်စုမြန်မာနိုင်ငံအပျော်တမ်း ခြင်းလုံးအဖွဲ့ချုပ်၏ ဆောင်ပုဒ်ဖြစ်သော ‘အပေးအယူ၊ စိတ်ကြည်ဖြူ။ ခြင်းမူစာဂ၊ မျှစိတ္တ’ ဟူသည့် လက်ာအတိုင်း ခြင်းကစားခြင်းသည် လူမှုဆက်ဆံရေး၊ စာရိတကောင်း မွန်ရေး တို့အတွက် အထောက်အပံ့ဖြစ်သည်။ စိတ်ရှည်ခြင်း၊ သည်းခံခြင်း၊ ဇွဲကောင်းခြင်းတို့ကိုလည်း အားပေးသည်။ ခြင်းကစားရာ၌တကိုယ်ကောင်းသဘောမရှိရဘဲ အများနှင့် အတူပူးပေါင်းရသည် ဟူသောစိတ်ကိုထားရသဖြင့် ခြင်းသည် လောဘ၊ ဒေါသ၊ မောဟစိတ်တို့မှ ကင်းစင်ကြည်လင်အောင် ပြုပြင်ပေးတတ်သည်ဟု ခြင်းပါရဂူတို့က ဆိုလေ့ရှိကြသည်။



မြန်မာတို့၏ခြင်းခတ်ဟန်တရပ်

ခြင်းလုံးကိုပြုလုပ်ရာ၌ အလျား ၁၀ ပေကျော်ရှည်လျားသောကြိမ်နန်းကို တပတ်ချင်း ရစ်ခွေကာ ကွင်းများစပ်အောင်ထိုးရသည်။ ကြိမ်နန်း ၈ ပင်ရှိလျှင် ၈ပတ်ခြင်း၊ ၁၀ ပင်ရှိလျှင် ၁၀ ပတ်ခြင်းဟုခေါ်သည်။ ၈ ပတ်ခြင်း၏လုံးဝန်းမှာ ၁၄ လက်မခန့်ရှိ၍ ညိုတဖက် ထွာတဖက်ခြင်းဟူ၍ရင်း၊ ထွာညိုဆိုင်ခြင်းဟူ၍ရင်း ခေါ်သည်။ ထွာညိုဆိုင် ဟူသည်မှာ လက်မထိပ်ချင်း၊ လက်ခလယ်နှင့်လက်ညှိုးထိပ်ချင်းထိ၍ တိုင်းတာသောအဝန်းကိုဆိုလိုသည်။ လုံးဝန်း ၁၆ လက်မခန့်ရှိသောခြင်းကို ထွာဆိုင်ခြင်းဟုခေါ်သည်။ ထွာဆိုင်မှာလက်မထိပ်ချင်း၊ လက်ခလယ်ထိပ်ချင်းထိသောအဝန်းဖြစ်သည်။ လက်မထိပ်ချင်း၊ လက်ညှိုးထိပ်ချင်းထိသော အဝန်းရှိသည့်ခြင်းကို ညိုဆိုင်ခြင်းဟုခေါ်သေးသည်။ ခြင်းလုံးတိုင်းတွင် ထောင့် ၅ ထောင့်ရှိသော အပေါက် ၁၂ ပေါက်ပါရှိသည်။

အများအားဖြင့် ကြိမ်နန်းကြိုး၏ပြက်မှာ ⅜ လက်မခန့်ရှိ၍အထူမှာ ⅟₁₆ လက်မမှ ⅛ လက်မခန့်ရှိသည်။ ခြင်းလုံး၏အလေးချိန်မှာ ကြိမ်အမျိုးအစားကိုလိုက်၍ ၅ ကျပ်သားမှ ၈ ကျပ်သားအထိရှိသည်။ပုံမှန်ထွာဆိုင်ခြင်းမှာ၆ ကျပ်သားခန့်ရှိသည်။

**ခြင်းလုံး ဖြစ်ပေါ်လာပုံ**

ခြင်းလုံးကို ရှေးအခါက ခြေလုံးဟုလည်းရေးသားခေါ်ဆိုခဲ့ကြကြောင်းကို စာများ၌ ဖတ်တွေ့ရလေသည်။ ခရစ် ၁၇၇၄ ခုနှစ်၌ ပုံနှိပ်ထုတ်ဝေသော စီ၊ အေ။ ဂေါ်ဒန်ရေး ‘မြန်မာပြည်သို့ကျွန်ုပ်တို့ခရီးထွက်ခြင်း’ စာအုပ်တွင် ‘ခြေလုံးကစားသည်’ ဟုရေးသားထားသည်ကို တွေ့ရသည်။ ထိုပြင် မင်းတုန်းမင်းလက်ထက် ကော်က်စိုက်မများသီဆိုသော ရှေးသီချင်း တပုဒ်တွင် ‘သူ့သားသူ့မေနှိမ်တယ်၊ ဆိုးချိန်မို့

(အထက်ပုံ) ခြင်းယိုင်ခတ်ဝိုင်းအတွင်းတည့်ဖဝါးခတ်ဟန်

(အောက်ပုံ) ဂုမ္ဘာန်ဒူးတိုက်ခတ်ဟန်ကိုဝိုင်းအတွင်း၌မြင်ရစဉ်



လေး၊ ညနေ၊ ခတ်ခြေလုံးနှင့်ပျော်တုန်းမှီလေး၊' ဟုရေးစပ်ခဲ့သည်ကိုလည်း တွေ့ရပေသည်။ ရှမ်းဘာသာအားဖြင့်ကား ခြင်းလုံးကို မက်ခီလုင်ဟုခေါ် လေသည်။

မြန်မာနိုင်ငံတွင် ခြင်းလုံး စတင်ပေါ် ပေါက်လာသည်ကို တိကျစွာရှာဖွေမတွေ့ရသေးချေ။ သို့ရာတွင် ခန့်မှန်းခြေအားဖြင့်ဆိုရသော် သရေခေတ္တရာမြို့ဟောင်း ဒွတ္တပေါင်မင်းကြီးတည်ထားခဲ့သော ဘောဘောကြီးစေတီ ဌပနာတိုက်မှ ငွေအတိပြီးသော ခြင်းလုံးတလုံးတူးဖေါ်တွေ့ရှိရသဖြင့် ထိုခေတ်ကပင် ခြင်းလုံးပေါ် ပေါက်နေခဲ့ပြီဟု ယူဆရပေသည်။ ထိုနောက် မြန်မာသက္ကရာဇ် ၁၂၀၀ ခုနှစ်၌ နန်းတက်သော ပုဂံမင်းလက်ထက်တွင် ယိုးဒယားပန်းပုသမား တဦးသည် ဆင်စွယ်ဖြင့် ထုထွင်းပြုလုပ်ထားသော ခြင်းလုံးတလုံးကို ပုဂံမင်းအားဆက်သရာ ပုဂံမင်းသည် နှစ်သက်တော်မူလှ၍ ထိုပုံအတိုင်းကြိမ်ဖြင့်ထိုးစေပြီးသော် မိမိလူပျိုတော်သားများအား စတင်ခတ်မြှောက်ကစားစေသည်ဟု အဆိုရှိခဲ့သည်။

## ခြင်းကစားနည်းအဆင့်ဆင့်

ခြင်းကစားနည်းကို မူလက ခြင်းသေနှင့်ခြင်းရှင်နှစ်မျိုးခွဲခြားသည်ဟုအမှတ်အသားပြုကြသည်။ ခြင်းသေကို ညှပ်ခြင်းဟူ၍ရင်း၊ ခြင်းညှပ်ဟူ၍ရင်းခေါ် ဆိုကြသည်။ ခြင်းသေဟူသည်မှာ ကစားသူတဦးတည်းက ခြင်းလုံးကို သူ၏ကိုယ်ခန္ဓာအဆစ်အပိုင်း အမျိုးမျိုးပေါ်တွင် ရွှေ့ပြောင်းတော့ခတ်ကစားခြင်းဖြစ်သည်။ ဒူး၊ ပေါင်၊ ဒူးခေါက်၊ ပခုံးတို့ဖြင့် ခြင်းကိုညှပ်၍ကစားသည်လည်းရှိ၏။ ဤကိုအစွဲပြု၍ ခြင်းညှပ်ဟုတွင်သည်။ ထိုခြင်းညှပ်ဟူသောအခေါ် မှာ ယခုအခါတွင် ပျောက်လုမတတ်ရှိနေပြီ။ ခြင်းသေကစားနည်းကို ခြင်းလုံး ၁ လုံးမှသည် ၆ လုံးခန့်အထိ ခဲရာခဲဆစ်အဆန်းအပြား ကစားကြသည်လည်းရှိ၏။

ခြင်းသေကစားရာမှ ခြင်းရှင်ကစားနည်းသို့ ကူးပြောင်းလာသည်ဟု ဆိုကြသည်။ ခြင်းသေကစားခြင်းသည် ရိုးလာသောအခါ ခြင်းလုံးတလုံးတည်းကိုလူ ၄၊ ၅ ယောက်ဝိုင်းဖွဲ့၍ မြေပေါ် သို့မကျရအောင် ခတ်ကြသည်။ ဤခြင်းခတ်နည်းကို ခြင်းရှင်ဟုခေါ် ဝေါ် လာကြသည်။

ဤခြင်းရှင်ခတ်နည်းတွင် ခြင်းကစားသူတို့သည် ဦးစွာ၌ခြင်းကို မြေသို့မကျရအောင် ပဓာနထားကြသည်။ ထိုနောက်၌ကား တန်တောင်ဖြင့်တွက်ခြင်း၊ ပခုံးဖြင့်တော့ခြင်း ခေါင်းဖြင့်ဆတ်ခြင်းဟူသော ကစားပုံအမျိုးမျိုးကို အဆန်းထွင်လာကြသည်။ ထိုနောက်တဖန် ခြေဖြင့်သာ လုပယ်ဉ်ကျေးစွာကစားကြရာ၌ ခြေထိပ်၊ ခြေဖနောင့်၊ အတွင်းခြေဘေး၊ အပြင်ခြေဘေး၊ ခြေဖမိုး၊ ခြေဖဝါး၊ ဒူး၊ ဒူးခေါက်တို့ဖြင့် ၈ မျိုးကစားကြပြန်သည်။



မန္တလာခေါ် ခြေဖျားကြော့ခတ်ဟန်

ယင်းသို့ကစားကြရာမှ ကျွမ်းကျင်သူတို့သည် ကျွမ်းကျင်မှုကိုပြလိုသောသဘောဖြင့် ခြင်းကိုနည်းအမျိုးမျိုးဆင်၍ခတ်ကြပြန်သည်။ ထိုခတ်နည်းကို ဆင်ခြင်းဟုခေါ်သည်။ ဆင်ခြင်း၏သဘောမှာ တဖက်ကပေးလိုက်သောခြင်းကို မိမိကျွမ်းကျင်သောခြင်းခတ်နည်းဖြင့် ခံယူ၍ကစားခြင်း ဖြစ်သည်။ သို့သော် ဆင်ခြင်းမှာ တဦးကောင်းကစားနည်းဖြစ်၍ကျွမ်းကျင်သူအဖို့ ပျော်ရွှင်ဖွယ်ဖြစ်စေကာမူ သူမျှလောက်မကျွမ်းကျင်သူတို့အဖို့ ပျင်းရိထိုင်းမှိုင်းဖွယ်ဖြစ်သောကြောင့် ဆင်ခြင်းမကစားနိုင်စေရန် ကစားဖော်တို့က ခြင်းကို လည်ပင်း၊ ဝမ်းပိုက်စသောနေရာများသို့ ထိုး၍ပေးကြ၏။ ထိုကစားနည်းမျိုးကို ထိုးခြင်းဟုခေါ်ကြပြန်သည်။

ကစားဖော်က ထိုးခြင်းကိုပေးလိုက်သောအခါ ထိုးခြင်းကိုခံယူသူသည် ခေါင်းကိုငုံ့၍၎င်း၊ ကိုယ်ကိုတိမ်း၍၎င်း ပေးလိုက်သောခြင်းကို မရ ရအောင်ခတ်ရသည်။ ဥဒါဟရဏ်မှာ၊ လည်ပင်းဆီသို့ တည့်တည့်ပေးသောခြင်းကို လက်ခံသူသည် ကိုယ်ကိုညွှတ်၍ လက်ခံသည်။ ထိုအခါ ခြင်းသည် လည်ပင်းကိုလွန်သွားလေသည်။ ဤသို့လွန်သည့်အခါမှ ဒူး၊ ခြေဖျားစသည်တို့ဖြင့်ခတ်သည်။ ဤထိုးခြင်းကိုခတ်သောအခါ ခြင်းသည်အထက်သို့မြင့်စွာ ထောင်မတက်ဘဲ ဝိုင်း၏အထက်နားလောက်တွင်သာ ဝဲ၍နေသည်။ မူလက ခြင်းသည် အထက်သို့ထိုး၍တက်စမြဲရှိခဲ့ရာ ယခုထိုးခြင်းခတ်နည်းသို့ရောက်သော် ခြင်းသည်ထောင်၍မတက်တော့ဘဲ ယိမ်းယိုင်၍ဝဲနေသောကြောင့် ထိုဗျုပ္ပတ်ကိုမှီ၍ ခြင်းယိုင်ခတ်ဟုခေါ်လာကြပြန်သည်။ ခြင်းယိုင်ခတ်နည်း၌ နိမ့်နိမ့်ခတ်လျှင် ခြင်းယဉ်ခတ်ဟု အမည်ပေးကြပြန်သည်။ ခြင်းယိုင်ခတ်ရာ၌ ခြင်းကိုကြည့်၍ခတ်ခြင်း၊ မြောက်လာသောခြင်းကိုသာကြည့်၍ ကျလာသောခြင်းကို မကြည့်ဘဲခတ်ခြင်း၊ ခြင်းကိုလုံးဝမကြည့်ဘဲခတ်ခြင်းဟူ၍ ကျွမ်းကျင်သလိုအမျိုးမျိုးတီထွင်ကြသည်။

### ယခုခေတ်ခြင်းခတ်နည်းခွဲခြားထားပုံ

ယင်းကဲ့သို့ ခြင်းခတ်ပုံ ခတ်နည်းများ အဆင့်ဆင့်တိုးတက်လာသည့်အလျောက် ခတ်နည်းအမျိုးမျိုးတို့ကို ခွဲခြား၍ပြခဲ့ကြသည်။ ယခုခေတ်၌မူ အဆိုပါခတ်နည်းမျိုးစုံကို အကြမ်းအားဖြင့် ပိုင်းခြားလျှင် ၃ မျိုးသာရှိသည်ဟုယူဆကြသည်။ ထို ၃ မျိုးမှာ ခြင်းယိုင်ခတ်၊ ခြင်းယဉ်ခတ်၊ (တနည်းအားဖြင့်ခြင်းနှခတ်)၊ အပြိုင်ခတ်ဟူ၍ဖြစ်သည်။ ခြင်းအပြိုင်ခတ်ဟူသည်မှာ ၁၉၀၀ ခုနှစ်က စတင်တီထွင်သော အမှတ်ပေးစံနစ်နှင့် ယှဉ်ပြိုင်ခတ်ခြင်းပင်ဖြစ်သည်။ ထိုအပြိုင်ခတ်ပွဲကို ထိုနှစ် ရန်ကုန်မြို့ အစိုးရဟိုက်စကူးကျောင်း ကစားခုန်စားပွဲ၌ ထည့်သွင်းယှဉ်ပြိုင်ခဲ့သည်မှ အစပြုလာသည်ဟု အမှတ်အသားထားကြသည်။

### ခြင်းလုံးခတ်စည်းမျဉ်း

၁၉၄၀ ပြည့်နှစ်တွင် မြန်မာပြည်လုံးဆိုင်ရာ ခြင်းယိုင်ခတ်ပွဲကြီးကို ယခင်က ဘီ၊ အေ၊ အေ၊ ကွင်း (ယခုအောင်ဆန်းကစားကွင်း) ထဲတွင် အမှတ်ပေးစံနစ်ဖြင့် ကျင်းပသည်။ ဤသည်မှစ၍ ခြင်းလုံးဝါသနာပါသူ ပုဂ္ဂိုလ်များသည် ခြင်းလုံးခတ်စည်းမျဉ်းကို သတ်မှတ်ရန်လှုံ့လထုတ်ခဲ့ကြသည်။ သို့ရာတွင် ဒုတိယကမ္ဘာစစ်ကြောင့် စည်းမျဉ်းညှိနှိုင်းဆွေးနွေးခြင်းကို မပြုနိုင်ကြပေ။ မြန်မာသက္ကရာဇ် ၁၃၁၅ ခုနှစ် ပဌမဝါဆိုလပြည့်ကျော် ၃ ရက် (၁၉၅၃ ခုနှစ် ဇွန်လ ၂၉ ရက်) နေ့၌ကား မြန်မာနိုင်ငံတော်တဝှန်းလုံးရှိ ၃၃ ခရိုင်မှ ကိုယ်စားလှယ်များသည် ရန်ကုန်မြို့တွင် ကျင်းပသောပြည်ထောင်စုမြန်မာနိုင်ငံလုံးဆိုင်ရာ ခြင်းလုံးညီလာခံ၌ ခြင်းခတ်ပြိုင်ပွဲစည်းမျဉ်းများကို သတ်မှတ်ပြဋ္ဌာန်းလိုက်လေသည်။

ထိုစည်းမျဉ်းများအရ ခြင်းလုံးခတ်ပြိုင်ပွဲ ၄ မျိုးရှိသည်။ ထို ၄ မျိုးမှာ တဦးချင်း အတော့ခတ်ပြိုင်ပွဲ၊ တဦးချင်း အတွဲခတ်ပြိုင်ပွဲ၊ ဝိုင်းလည်ခတ် (ဝိုင်းဖွဲ့) ပြိုင်ပွဲ၊ အလှခတ် (ဝိုင်းဖွဲ့) ပြိုင်ပွဲဟူ၍ဖြစ်သည်။

ထိုပြိုင်ပွဲတို့၌ အရည်အခြင်းကိုလိုက်၍ အဆင့် ၄ ဆင့် သတ်မှတ်ပေးသည်။ စတုတ္ထအဆင့် တဦးချင်းအတော့ခတ်ပြိုင်ပွဲများကို ၆ ပေအချင်းရှိသော စည်းဝိုင်းတွင်း၌ ကစားစေသည်။ ပဌမအဆင့် အတော့နှင့်အတွဲခတ်ပြိုင်ပွဲများကို ၁၂ ပေအချင်းရှိသော စည်းဝိုင်းအတွင်း၌ ကစားစေသည်။ ဝိုင်းအဖွဲ့လိုက်ပြိုင်ပွဲများကို အချင်း ၂၁ ပေရှိသော စည်းဝိုင်း၌ ကစားစေသည်။ စည်းဝိုင်း၏ဗဟိုတွင် ၆ လက်မခန့်ရှိသော သံမှိုကိုမြေပြင်နှင့်ညီအောင်ရိုက်မြှုပ်ထားရ၏။

### ခြင်းခတ်ဟန်အမျိုးမျိုး

ခြင်းလှုပ်ရှားပုံအလိုက် ကျခြင်း၊ တက်ခြင်း၊ ပေးခြင်း၊ ဆင်ခြင်း၊ ထိန်းခြင်း၊ တော့ခြင်း၊ လှန်ခြင်း၊ လာခြင်း၊ထွက်ခြင်း၊ ထောက်ခြင်း၊ ထိုးခြင်း၊ ဖြတ်ခြင်း၊ ပို့ခြင်း၊ မြေထိခြင်း၊ ကော်ခြင်းစသည်ဖြင့်အမှတ်သညာထားလေ့ရှိသည်။

ခြင်းခတ်ရာတွင် ခတ်နည်းများစွာရှိသော်လည်း ဒူး၊ ခြေဖမိုး၊ ခြေဖဝါး၊ ခြေဖနောင့်၊ အတွင်းခြေဘေး၊ အပြင်ခြေဘေး စသည်အားဖြင့် ခြောက်နေရာ၊ ဗယ်ညာနှစ်ဖက်ပေါင်း ၁၂ နေရာဖြင့်သာ ခတ်ကစားရသည်။ ပခုံး၊ ခေါင်း၊ ကျောက်ကုန်း၊ တင်ပါးဆစ်၊ တန်တောင်၊ ဒူးခေါက်၊ ခြေသလုံးစသော ကိုယ်အင်္ဂါအစိတ်အပိုင်းများဖြင့် ခတ်နိုင်သော်လည်း ယင်းမှာခတ်ရိုးခတ်စဉ်မဟုတ်ချေ။

ခြင်းခတ်နည်းများအနက် ဒူးဖြင့်ခတ်ရာတွင် ဒူးရိုးရိုး၊နှစ်ထပ်ဒူး၊ ဝိုက်ဒူး၊ ထိုင်ထပ်ဒူး၊ ဒူးရောင်ရှိန်၊ နောက်ဒူး သို့မဟုတ် ဂုမ္ဘာန်ဒူး၊ ပတ်ဒူး သို့မဟုတ် စဝေ့ဒူး၊ သို့မဟုတ် ဂုမ္ဘာန်ဒူး သို့မဟုတ် ဒေဝီဒူးဟူ၍ကွဲပြားသည်။

ခြေစောင်းအပြင် ခြေဘေးဖြင့်ခတ်ရာတွင် ဘေးပေါက် စလွယ် သို့မဟုတ် နောက်ဝိုင်း၊ ဖီလာ သို့မဟုတ် ဝေဇယန္တာ၊ ခြေခွင်၊ နှစ်ထပ်ခြေခွင်၊ တခြမ်းဝိုက်၊ အပြည့်ဝိုက်၊ အပျောက် ဝိုက်၊ ဒေါင်းယဉ်ပျံဟူ၍ကွဲပြားသည်။

ခြေဖျားဖြင့်ခတ်ရာတွင် ခြေဖျားရိုးရိုး၊ မဟာ၊ မဟာ ညွန့်၊ မဟာနွယ်၊ ရောင်ရှိန်၊ ရှပ်ထိုးဟူ၍ကွဲပြားသည်။

ဖဝါး၊ ဖနောင့်ဖြင့်ခတ်ရာတွင် ဖီလာ၊ ရင်လိမ်၊ စောင်း၊ ရှမ်း၊ အရမ်း၊ အကောက်ဟူ၍ကွဲပြားသည်။

ဝိုင်းဖွဲ့၍ဝိုင်းအလိုက်ခြင်းအပြိုင်အဆိုင် ခတ်နိုင်ကြသည်။ ပွဲလမ်းသဘင်များတွင် ခြင်းပြိုင်ပွဲများ ထည့်သွင်းလေ့ရှိ သည်။ ခြင်းပြိုင်ပွဲတွင် ခြင်းဝင်၊ ခြင်းထွက်၊ ခြင်းတက်၊ ခြင်းကူး ကောင်းမွန်ခြင်း၊ ဝိုင်းလည်၍ အပေးအယူမျှတ ခြင်း၊ တဦးစီအခက်ခတ် အလှခတ်များစုံလင်ခြင်း၊ စည်း ကမ်းနှင့်ညီခြင်းတို့အတွက် အမှတ်ပေးရွေးချယ်လေ့ရှိသည်။

ခြင်းခတ်စည်းကမ်းမှာ ခြင်းလုံးကိုခြေဖြင့်သာ ခတ်ရခြင်း၊ မြေသို့မကျနိုင် သမျှ မကျအောင်ထိန်းရခြင်း၊ စည်းဝိုင်း အတွင်း မိမိ၏ညာဖက်ကွက်လပ်နှင့် ရှေ့ဖက်တွင် စည်းဝိုင်း ဗဟိုချက်ထက်မလွန်စေဘဲ ခတ်ရခြင်းစသည်တို့ဖြစ်သည်။

**ခြင်းနှင့်တောင်းများ။** ။အိမ်အသုံးအဆောင်အတွက် သစ်ပင်၊ မြက်ပင်၊ နွီး၊ ဝါး၊ ကြိမ်တို့ကို ရက်လုပ်သောပညာ မှာ ရှေးအကျဆုံးသော လက်မှုပညာတရပ်ဖြစ်သည်။

ရှေးနှစ်ပေါင်း ၆၀၀၀ ခန့်က ရက်လုပ်သုံးစွဲခဲ့သော စပါး ပုတ်တခုကို အီဂျစ်နိုင်ငံတွင် တူးဖော် တွေ့ရှိရလေသည်။ အမေရိကန် တိုင်းရင်းသား ရက်အင်ဒီးယန်း လူမျိုးတို့မှာ မွေးစကတည်းက ကြိမ်ဝါးစသည်တို့ဖြင့်ရက်လုပ်ထားသည့် ပုခက်တွင်အိပ်ခဲ့ရ၍ ရက်လုပ်ထားသည့် ကစားစရာများ ဖြင့် ကစားခဲ့ကြရသည်။ အရွယ်ရောက်သောအခါ ထိုသို့ ရက်လုပ်သည့် ခါးပတ်၊ ဖိနပ်၊ ဦးထုပ် တို့ကို ဝတ်ဆင်၍ ရက်လုပ်ထားသော လှေဖြင့် ရေကြောင်းခရီး သွားခဲ့ကြ ရသည်။ (ထိုလှေမျိုးကိုယခုထက်တိုင် အီရက်နိုင်ငံ တိုင်းဂရစ်မြစ်ရိုးတွင် အသုံးပြုလျက်ရှိသေးသည်။) အိမ် အသုံးအဆောင်ဟူသမျှမှာလည်း ရက် လုပ်သောပစ္စည်းများ သာဖြစ်၍ စစ် ပွဲဝင်သည့်အခါသုံးသည့် ချပ်ဝတ်တန် ဆာနှင့် ဒိုင်းများကိုလည်း မြားပစ်၍ မဝင်နိုင်အောင် ရက်လုပ်ထားလေ သည်။ လူသေသည့်အခါ မြှုပ်နှံရန် ခေါင်းကိုပင်လျှင်ရက်လုပ်ကြသည်။

အိမ်ရှင်မများသည် ပစ္စည်းများကို ထည့်သွင်း သိုလှောင်ထားရန်သော် ၎င်း၊ တနေရာမှ တနေရာသို့သယ် ယူရန်သော်၎င်း အိမ်အသုံးအဆောင် တို့ကို အနည်းနည်း ကြံစည်တီထွင်ကြ သည်။ ခြင်းကြားကြီးနှင့် ရေသယ်၍ မရနိုင်သော်လည်း သူတို့အဖို့ ရေသယ် ယူနိုင်မည့်ခြင်းမျိုးကို ရက်လုပ်အသုံး ပြုကြသည်မှာ အမှန်ပင်ဖြစ်သည်။ ခြင်း များ ကို စိပ် စိပ် ရက် ပြီး လျှင် ရေမယိုထွက်စေရန် အပြင်မှသစ်စေး သုတ်လိမ်းထားသဖြင့် ရေကိုကောင်း စွာသယ်နိုင်သော ခြင်းမျိုးရရှိသည်။ ထိုကဲ့သို့သော ခြင်းမျိုးကို ယခုထက် တိုင် ရှမ်းပြည်နယ်ဒေသများတွင် သုံး



ခြင်းညှပ်ကစားနည်း
ခြင်းဝိဇ္ဇာဦးလော်ပေါ် ခြင်း ၆ လုံးကိုတပြိုင်တည်းညှပ်၍ကစားနေဟန်

စွဲလျက်ရှိကြသေး၏။ အချို့ခြင်းများမှာ သစ်စေးသုတ်လိမ်းရန်ပင်မလိုဘဲ ရေမယိုထွက်နိုင်အောင် ရက်လုပ်ထားသည်။ စားသောက်စရာများကို ခြင်းထဲ၌ထည့်၍ ချက်ပြုတ်ကြသည်ဟုဆိုလျှင် အံ့ဖွယ်တခုဖြစ်ပေမည်။ လူရိုင်းများသည် အကယ်ပင် ခြင်းဖြင့်ချက်ပြုတ်ကြသည်။ သို့သော် ထိုသို့ချက်ပြုတ်ရာ၌ခြင်းကိုမီးပေါ် သို့တင်၍ချက်ပြုတ်ခြင်းမဟုတ်ဘဲ ခြစ်ခြစ်တောက်ပူအောင် မီးဖုတ်ထားသောကျောက်တုံးများကို ရေရှိသောခြင်းထဲသို့ ထည့်လိုက်ခြင်းဖြင့်ရေကိုဆူစေ၍ စားစရာများကိုကျက်စေခြင်းဖြစ်သည်။

အစတွင် ပစ္စည်းများကို အသုံးပြုဖြစ်ရုံ ရက်လုပ်ကြသော်လည်း တဖြည်းဖြည်းစိတ်ကူးဉာဏ်ကွန့်ကာ လှပဆန်းကြယ်စွာပြုလုပ်လာကြသည်။ ရက်လုပ်မည့်ကြိမ်၊ မြက်စသည်တို့ကို အမြစ်၊ အခေါက်၊ အသီး၊ အပွင့်တို့ဖြင့်ဆေးဆိုး၍ အသွေးအရောင်အမျိုးမျိုးဖြင့် အဆင်အကွက်ဖေါ်ကာ ရက်လုပ်ကြသည်။ ထိုသို့အဆင်အကွက်ဖေါ်ရာ၌ တောတောင် ရေမြေ နေလ၊ နက္ခတ်တာရာ သဏ္ဌာန်များအပြင် မိမိလူမျိုး၏အစဉ်အလာ ဓလေ့ထုံးစံများနှင့် စုန်းကဝေမှော်အတတ်စသည်တို့ကိုလည်း အထိမ်းအမှတ်လက္ခဏာများဖြင့် သရုပ်ဖေါ်ကာ ရက်လုပ်ကြလေသည်။ ထိုကဲ့သို့ ရက်လုပ်ကြသည့်အတွက် အချို့လူမျိုးများ၏ ဓလေ့ထုံးစံများကို ထိုခြင်းတောင်းစသည့် အသုံးအဆောင်များမှ သိရှိနိုင်လေသည်။ အချို့ကား အဆန်းတကြယ်စိတ်ကူးထွင်ကာ ရက်လုပ်ရုံသာမက ခရုများ၊ ငှက်တောင်များဖြင့်လည်း လှပအောင်မွမ်းမံ တန်ဆာဆင်ပေးကြသည်။ မလေးလူမျိုးတို့ကား ခြင်းတောင်းစသည်တို့ကို ထူးထွေဆန်းပြားစွာ ကြက်ငှက်စသည့်ပုံသဏ္ဌာန် ရက်လုပ်ကြလေသည်။

ဘုရားဟော ငါးရာငါးဆယ်ဇာတ်မှာပင် အလောင်းတော်ကုသမင်းသည် ပပဝတီအားချစ်စိတ်မွန်၍ တောင်းဖျာရက်ကာ မိမိ၏ဖြစ်အင်ကို ဇာတ်ကွက်ဖေါ်ခဲ့ကြောင်း ပါရှိလေသည်။

## စက်လုပ်နှင့်လက်ဖြစ်

စက်မှုလုပ်ငန်းများ တိုးတက်လာသည့် ယခုခေတ်တွင် ခြင်း၊ တောင်းစသည်တို့ကို စက်ဖြင့်လည်းရက်လုပ်ကြသည်။ ဤသို့ဖြင့် လက်ဖြစ်ပစ္စည်းများကို အသုံးနည်းသွားသော်လည်း ခြင်း၊ တောင်း၊ ပလုံး၊ ဖျာရက်သည့်လက်မှုပညာ အဆင့်အတန်းမှာ နိမ့်ကျသွားခြင်းမရှိခဲ့ချေ။ စက်လုပ်အသုံးအဆောင် ပစ္စည်းများကို လက်ဖြစ်ပစ္စည်းများလောက်လည်း တန်ဖိုးမထားကြပေ။ လက်မှုပညာသည်များကလည်း မိမိတို့၏ပစ္စည်းများကို ခေတ်မီအောင် လုပ်ကိုင်လာကြ၏။ ကြိမ်၊ ဝါး၊ မြက်စသည်ဖြင့် နူးညံ့လှပသောဦးထုပ်၊ လက်ကိုင်အိတ်၊ ဖိနပ်များမှအစ ထယ်ဝါသောကုလားထိုင် စားပွဲစသည့် အိမ်ထောင်ပရိဘောဂများအထိ ခေတ်ဆန်လှပစွာ ပြုလုပ်လာကြ၏။ ထိုလုပ်ငန်းကား



အယ်ရီဇိုးနားပြည်မှအမျိုးသမီးများရက်လုပ်သည့် ပန်းလှနှင့် ရုပ်စုံကွက်ဖေါ် တောင်းများ

စိတ်ကူးယဉ်လျှင် ယဉ်သလို ချဲ့ထွင်လုပ်ကိုင်နိုင်သော အနုပညာပါသည့် လုပ်ငန်းတရပ်ဖြစ်လေသည်။

ရက်လုပ်သည့်ပစ္စည်းများမှာ ဒေသအလျောက်ပေါက်ရောက်သော အပင်၊ အရွက်၊ ကြိမ်နွယ်စသည်တို့ဖြင့် လုပ်ကိုင်ကြသည်။ အာဖရိကတိုက်စသည့် ပူအိုက်သောဒေသများတွင် ငှက်ပျောရွက် ထန်းရွက်တို့ကို အသုံးပြုကြ၍ ဂျပန်နိုင်ငံနှင့် တရုပ်နိုင်ငံတို့၌ ဝါးကိုအသုံးပြုကြ၏။ မြန်မာနိုင်ငံတွင် နီး၊ ဝါး၊ ကြိမ်၊ သင်လျှော်၊ ထန်းလျှော်၊ ထန်းရွက်တို့ဖြင့် အိမ်သုံးပစ္စည်းများ ရက်လုပ်ကြ၏။ အရှေ့အိန္ဒိယကျွန်းစုတွင် ကြိမ်ကိုအသုံးပြုကြသည်။ ထိုအရှေ့အိန္ဒိယကျွန်းစုမှ ကြိမ်များကိုအခြားတိုင်းပြည်များသို့လည်း အသုံးအဆောင်ပစ္စည်းများပြုလုပ်ရန် အများအပြားတင်ပို့လေသည်။ အအေးပိုင်းဒေသများဖြစ်သော အင်္ဂလန်၊ အမေရိကန်စသည့် တိုင်းပြည်များတွင်ကား ခြင်း၊ တောင်း၊ ပလုံး စသည်ကိုရက်လုပ်ရန် ပျော့ပျောင်းသော မိုးမခပင်၊ ကိုင်းပင်၊ မြက်ပင်စသည်တို့ကို အသုံးပြုကြသည်။

ခြင်းတောင်း ဖျာစသည်တို့ကိုရက်လုပ်ရာ၌ လွန်ခဲ့သောနှစ် ထောင်ပေါင်းများစွာက အသုံးပြုခဲ့သောအခြေခံနည်းကိုပင် ဆက်လက်သုံးစွဲနေသေးသည်။ (တနေရာတဒေသတွင်သာမဟုတ်၊ တကမ္ဘာလုံးရှိ တိုင်းပြည်အသီးသီးတို့၌လည်း ရှေးရှေးမှရက်ပုံနည်းစံနစ်ကို အခြေခံထား၍ လုပ်ကိုင်လျက်ရှိကြပေသည်။) ထိုပညာရပ်မှာ အားလပ်ချိန်၌ အပျင်းပြေလုပ်ကိုင်ရန် အကောင်းဆုံးစိတ်ဝင်စားဖွယ်ရာ လုပ်ငန်းဖြစ်သည်။ မျက်မမြင်များပင် ပြုလုပ်နိုင်သော လုပ်ငန်း တခုလည်းဖြစ်သည်။ လုပ်ကိုင်ရာတွင် ကရိယာ တန်ဆာပလာ များစွာမလိုလှချေ။ ပြုလုပ်ရာ၌ ခက်ခဲခြင်းမရှိဘဲ အသုံးပြုရသည့်ပစ္စည်းများကိုလည်း အလွယ်တကူ ရနိုင်ပေသည်။

ပြုလုပ်သည့်ပစ္စည်းအလိုက် ရက်လုပ်ပုံအနည်းနည်း အဖုံဖုံရှိရာ အချို့မှာကျူထရံကွက် ပရွက်ကြောင်းနှင့် မှန်ကူကွက်ဖေါ်၍ငင်း၊ အချို့မှာ ၆ ထောင့်ချိုး ပုံသဏ္ဍာန်၊ အချို့မှာ အခွေခွေပြုလုပ်သွားရ၍ အချို့မှာ ကွင်းကလေးများမှ စတင်ရက်လုပ်သွားကြရလေသည်။ ခြင်း၊ တောင်း၊ ပလုံး၊ ကျပ်စသည့် အသုံးအဆောင်များကို ရက်လုပ်ရာ၌ အောက်အခြေခံမှ စတင်ရက်လုပ်ရ၍ တဖြည်းဖြည်းအပေါ်သို့တက်ကာ ရက်သွားရလေသည်။ ရက်လုပ်ယင်း ကြိမ်များကိုရေနှင့်နှူးကာ ကိုင်တွယ်လုပ်ကိုင်သွားရ၍ ပြီးစီးသောအခါ အစများကို ကတ်ကျေးနှင့် ဖြတ်တောက်၍ အနားသိမ်းရသည်။ (ကြိမ်ပင် — လည်းရှု။)

ပန်းကန်လုပ်ငန်းမှာလည်း ရက်လုပ်ခြင်းလက်မှုပညာ အငွေ့အသက်မကင်းခဲ့ပေ။ အဘယ်ကြောင့်ဆိုသော် ရှေးအခါက အိုး၊ ခွက်၊ ပန်းကန်၊ များကိုပြုလုပ်ရာ၌ အစပဌမ



လက်ဆွဲခြင်းရက်လုပ်နေကြသောမြန်မာအမျိုးသမီးများ

တွင် ခြင်းကိုရက်လုပ်ပြီးမှ မြေစေးနှင့်အပြင်မှသုတ်လိမ်းကာ မီးဖုတ်ရသောကြောင့်ဖြစ်လေသည်။ ထိုအပြင် ယွန်းထည်လုပ်ငန်း အထည်ရက်လုပ်သောလုပ်ငန်းမှာလည်း ထိုခြင်းတောင်း၊ ပလုံး၊ အစ် စသည်တို့မှ ဆင်းသက်ပေါက်ဖွားလာခြင်းဖြစ်သည်။ ရှေးအခါမှစ၍ ယနေ့ထက်တိုင်အောင် စက်မှုမပါဘဲ လက်မှုသက်သက်ဖြင့် တိုးတက်လာသောအိမ်တွင်းလက်မှုပညာတရပ်မှာ ခြင်း၊ တောင်း၊ ပလုံး၊ ကျပ် စသည်တို့ကိုရက်လုပ်သော ပညာရပ်ပင်ဖြစ်လေသည်။

**ခြည်ခင်စွတ်ငှက်။** ။ခြည်ခင်စွတ်ငှက်သည် အာဖရိကတိုက်နှင့် အာရှတိုက်အရှေ့ပိုင်းနိုင်ငံများတွင် အနှံ့အပြား ရှိသည်။ မြန်မာနိုင်ငံအတွင်းတွင်လည်း ခြည်ခင်စွတ်ငှက်သည် တနှစ်ပတ်လုံး ရှိတတ်သည်။

အလျား ၃၆ လက်မခန့် ရှိသည်။ ခြေတံ အလွန်ရှည်သည်။ နှုတ်သီးရှည်၍ သန်မာသည်။ အတောင် ကျယ်ပြန့်သည်။ ပျံသန်းရာတွင် အလွန်မြန်၍ လင်းတများကဲ့သို့ အလွန်မြင့်မားစွာလည်း ပျံနိုင်သည်။ ခြည်ခင်စွတ်ငှက်၏ အသံသည် အောသည်။ အာခေါင်သံနှင့် ဝက်ကဲ့သို့ မြည်သည်။ သို့သော်ဆောင်းရာသီ၌အသံမပေးဘဲနေတတ်သည်။

ရေကောင်းစွာရသော ဒေသများတွင် တကောင်ချင်းသော်၎င်း၊ စုံတွဲသော်၎င်း၊ အုပ်ဖွဲ့၍သော်၎င်း တွေ့ရတတ်သည်။ ရေလွှမ်းမိုးသောနေရာနှင့် လယ်ကွင်းများတွင်လည်း အစာရှာဖွေ၍ ဖါးငါးတီကောင်နှင့် ပိုးမွှားများကို စားသည်။ စရိုက်အားဖြင့် ငြိမ်သက်စွာနေတတ်သည်။

ခြည်ခင်စွတ်ငှက်သည် မိုးဦးကျတွင် သားပေါက်သည်။ အသိုက်ကို သစ်ကိုင်းပေါ်တွင် တုတ်ချောင်း၊ သစ်ကိုင်းများဖြင့်လုပ်၍ ကောက်ရိုး မြက် ငှက်မွေးငှက်တောင်တို့ဖြင့် ကာရံထားသည်။ တမြုံလျှင်ဥ ၃၊ ၄ လုံးရှိတတ်၍ ဥများမှာလက်ဦးတွင်အဖြူရောင်ဖြစ်သော်လည်း နောင်အခါညိုမည်းသွားသည်။ ဥအရွယ်မှာ ပျမ်းမျှအလျား ၂.၅၀ လက်မနှင့် ပြက် ၁.၇၃ လက်မခန့်ရှိသည်။ အသိုက်ကိုလက်ပံပင်ထက်၌ ဖွဲ့တတ်သည်။ ခြည်ခင်စွတ်ငှက်သည် သစ်ပင်တပင်ထည်းကိုသာစွဲ၍ နှစ်စဉ်နှစ်တိုင်း အသိုက်ဖွဲ့တတ်သည်။

**ခြည်ထိုးစက်။** ။လက်မှုပညာအဖြစ်မှ စက်မှုပညာအဖြစ်သို့တိုးတက်ပြောင်းလဲလာခဲ့သော ပညာရပ်များထဲတွင် ခြည်ထိုးခြင်းလည်း တခုပါဝင်သည်။ ထိုအတတ်သည် အထည်များပြုလုပ်သော အတတ်ဖြစ်သော်လည်း ရက်ကန်းအတတ်နှင့်ကား မတူပေ။ ဥရောပ အနောက်ပိုင်းတွင် ထိုပညာရပ်သည် ရက်ကန်းအတတ်နောက်မှပေါ်ပေါက်လာခဲ့၍ ခုနှစ်အားဖြင့် ၁၄ ရာစုလောက်ကမှ စတင်ပေါ်လာလေသည်။ (ရက်ကန်းပညာ — လည်းရှု။)



ကုန်စိမ်းနှင့်သစ်သီးထည့်ရန်ခြင်းများကိုရက်လုပ်နေစဉ်



ရေစပ်တွင်ကျက်စားလေ့ရှိသောခြည်ခင်စွတ်ငှက်

အမျိုးသမီးများ၏ ချုပ်လုပ်မှုပညာတရပ်အနေဖြင့်စတင် ပေါ်ပေါက်ခဲ့စဉ်က သိုးမွေးစသည့်ခြည်ပင်များကို ဝါး၊ သစ်သား၊ အရိုးစသောအပ်ရှည်ရှည် ၂ ချောင်းဖြင့်ထိုးကြလေသည်။ ထိုလက်မှုပညာရပ်ကို ၂ ချောင်းထိုးအတတ်ဟု ခေါ်လာကြ၍ ရက်ကန်းကဲ့သို့ စင်မလိုဘဲ အပ် ၂ ချောင်းကြားထဲတွင် ခြည်ပင်ကိုအပေါ်တင်ကာ၊ အောက်ချကာဖြင့် အပေါ်ထိုး အောက်ထိုးများထိုးကာ ခြေအိတ်၊ လည်စီး၊သိုးမွေးအင်္ကျီစသည်တို့ကိုပြုလုပ်ကြလေသည်။

နှစ်ချောင်းထိုးအတတ်ပေါ်ပြီးနောက် နှစ်ပေါင်း ၂၀၀ ခန့်ကြာသောအခါ မိန်းကလေးများ ၂ ချောင်းထိုးအပ်ဖြင့် အထည်တခုဖြစ်အောင် စိတ်ရှည်လက်ရှည်ထိုးနေသည်ကို အားမရ စိတ်မရှည်နိုင်သူတဦး ပေါ်ပေါက်လာသည်။ ထိုသူမှာ အင်္ဂလန်ပြည် နော့တင်ဂမ်ရှိုင်ယာခရိုင်မှ ဝီလျံလီး အမည်ရှိ ခရစ်ယန်ဘုန်းကြီးတပါးဖြစ်၏။ ဝီလျံလီး၏ချစ်သူ မိန်းကလေးမှာ မိမိထက် ၂ ချောင်းထိုးအလုပ်ကိုပို၍ စိတ်ဝင်စားကြောင်းသိရသည်။ မိန်းကလေးများသည် အထည်တခုဖြစ်ရန် ကျင်လျှင်သွက်လက်စွာ အပ် ၂ ချောင်းဖြင့် မရပ်မနားထိုးကာ ပြုလုပ်ပါသော်လည်း လက်စိုက်ရသလောက် အပြီးမမြန်လှသည်ကိုတွေ့ရသည်။ ထို့ကြောင့် ဝီလျံလီးသည် အလုပ်လုပ်ရသလောက် အထည်အဖြစ်မြန်မည့်နည်းကို ကြံစည်စိတ်ကူးပြီး နောက် အပ်များများ ထည့်၍ထိုးနိုင်သောခြည်ထိုးစက်တခုကို ခရစ် ၁၅၈၉ ခုနှစ်တွင် တီထွင်စမ်းသပ်ကြည့်သည်။ ထိုပဋ္ဌမတီထွင်သောစက်ဖြင့်လုပ်သည့် ခြေအိတ်တစုံကို အယ်လစ်ဇဗက်ဘုရင်မအား ဆက်သ၏။ သို့သော် အထည်မှာကြမ်း၍ ပိုးလည်းမဟုတ်သဖြင့် ဘုရင်မကြီးက သဘောမကျလှပေ။ ထိုအခါ ဝီလျံလီးသည် ယခင်စက်ထက်အပ်များပို၍ပါသော စက်တလုံးကို ပြုလုပ်သည်။ ယင်းစက်ဖြင့် နူးညံ့ကောင်းမွန်သောပိုးခြေအိတ်တစုံကိုထိုးပြီးလျှင် ဘုရင်မအား ဆက်သပြန်သည်။ သို့သော်လည်း ဘုရင်မကြီးကမည်သို့မျှအားပေးချီးမြှင့်ခြင်း မပြုသဖြင့် ဝီလျံလီးသည် စိတ်အပျက်ကြီးပျက်ကာ ပြင်သစ်နိုင်ငံသို့ ထွက်ခွာသွားလေတော့သည်။ ဘုရင်မကြီးက အားပေးခြင်းမပြုသည့်အကြောင်းမှာ ထိုစက်မျိုးကိုအသုံးပြုလာကြလျှင် ၂ ချောင်းထိုး လက်မှုပညာသည်များ တိမ်ကော၍ အလုပ်လက်မဲ့ဖြစ်သွားမည်ကို စိုးရိမ်သောကြောင့်ဟုဆိုသည်။

ဝီလျံလီး ပြင်သစ်နိုင်ငံသို့ရောက်သွားသော်လည်း သူ၏ တီထွင်မှုမှာ တိမ်ကောခြင်းမရှိပေ။ နောင်အခါ၌ သူတီထွင်ခဲ့သည့် လက်စများကို တိုးတက်ပြုပြင်လုပ်ကိုင်သူများ ပေါ်ပေါက်ခဲ့လေသည်။ ၁၇၅၈ ခုနှစ်တွင် ဒါဗီရှိုင်ယာခရိုင်မှ ဂျက် ဗီဒိုင်ယာ စထရတ် ဆိုသူပုဂ္ဂိုလ်တဦးသည် ဆွယ်တာအင်္ကျီအနားပတ်၊ ခြေအိတ်ရှည်ထိပ်အနားပတ်တို့တွင် ထည့်သည့် ကွမ်းရိုးစင်းဖေါ်ခြင်းကိုပင် စက်ဖြင့်ထိုး၍ပြုလုပ်နိုင်လာသည်။ စထရတ် တီထွင်သောစက်ဖြင့် ထိုးသည့် အထည်များမှာ ထိုစဉ်က ၂ ချောင်းထိုး လက်ဖြစ်ထည်များနှင့်အပြိုင်အဆိုင်ဖြစ်ခဲ့ကြ၏။ ဝီလျံလီးနှင့်အတူ ပြင်သစ်နိုင်ငံသို့ ပါသွားသည့်စက်ကို ပြင်သစ်လူမျိုးတို့ကလည်း တိုးတက်ကြံစည်ကြရာ ၁၇၉၈ ခုနှစ်တွင် ဒကရွားဆိုသူ တီထွင်သောစက်မှ ထွက်သည့်အထည်များမှာ အလွန်ပင် အဆင့်အတန်းမြင့်လာလေသည်။

ထိုမှတဆင့်ထက် တဆင့်တိုးတက်၍ ပြုပြင်တီထွင်လာခဲ့ကြရာ ၁၈၂၈ ခုနှစ်တွင် ရေနွေးငွေ့စက်ဖြင့် လည်သည့်ခြည်ထိုးစက်များ ပဋ္ဌမဦးစွာပေါ်ပေါက်လာသည်။ ထိုစက်များကြောင့် ခြည်ထိုးလုပ်ငန်းမှာ ပိုမိုတွင်ကျယ်လာ၏။ နောင်တွင် ပိုမိုဆန်းကြယ်စွာထိုးနိုင်သော ခေတ်မီစက်များ တဖြည်းဖြည်းတိုးတက်ပေါ်ပေါက်လာခဲ့လေသည်။ ယခင်ကခြေအိတ်စသည့်အထည်များကိုစက်များဖြင့် တပြင်တည်းထိုးပြီးမှ ပြန်၍ကွင်းဖြစ်အောင်ချုပ်ယူရသည်။ သို့သော် ၁၈၁၆ ခုနှစ်မှစ၍ ချုပ်ရိုးမရှိအောင် ပတ်လည်ကွင်းဖြစ်ပြီးသား အထည်များ ထိုးနိုင်သည့်အဝိုင်းပုံစက်များပေါ်ပေါက်ခဲ့သည်။

စက်ဖြင့်ထိုးသည့်အထည်များတွင် အခြေခံအားဖြင့် ၂ မျိုးရှိသည်။ တမျိုးမှာ လက်ထိုးမှာကဲ့သို့ ကြိုးတပင်တည်း



ခြည်ထိုးစက်ရုံကြီး တခုအတွင်းတွင်ခေတ်မှီစက်များတပ်ဆင်ထားသည်ကို ဤသို့တွေ့မြင်နိုင်သည်။

နှင့် ကွင်း ကလေး များ ပြုပြီး ထိုးသွားခြင်း ဖြစ်သည်။ ပြီးသွားသည့်အထည်မှအစတစကိုဆွဲထုတ်လိုက်ပါက အထည် တခုလုံး ပြေထွက် လာ နိုင်၏။ ယင်းသို့ထိုး နည်း ကို 'ဖောင် တင် ထိုး နည်း' ဟုခေါ် ကြသည်။ ထိုထိုးနည်းဖြင့် ဆွယ်တာ၊ ခြေအိတ်၊ အတွင်းခံစွပ် ကျယ်စသည်တို့ကိုထိုးကြသည်။

နောက်တမျိုးတွင် အထည်၏အနံ၌ ကွင်းကလေး များရှိသလောက် ခြည်အပင်များရှိသည်။ ရက်ကန်း ဖြင့် အထည် ရက် ရာ တွင် အတိုင် ခြည် မှာ အထည် အလျားအတိုင်းရှည်၍ ဖေါက်ခြည်ကို တိုင်ခြည်များ ကြားမှဖြတ်ကျော် ရက်သွားသကဲ့သို့ ဤနည်းတွင် လည်း တိုင်ခြည်ထား၍ ထိုးရသဖြင့် 'အတိုင်ထိုးနည်း' ဟုခေါ် ကြ သည်။ သို့သော် အထည်ရက် ပုံ နှင့် မတူခြင်းမှာ တိုင်ခြည်ကိုဖေါက်ခြည်က ကွင်းပြု လုပ်ကာ ချိတ်၍ ချိတ်၍ ယူသွား သည်။ အတိုင် ထိုး နည်းတွင် ခြည် ပင် အစ များ များ သုံး ရသော ကြောင့် ရှောစောင် လက်အိတ် စသည်များမှာ ကဲ့ သို့ အရောင်စပ် ထိုးလိုလျှင်သော်၎င်း၊ အဆင်ဖေါ် လိုလျှင်သော်၎င်း ဤနည်းကိုအသုံးပြုကြလေသည်။

ယခုခေတ်တွင်ကား လျှပ်စစ် ဓာတ်ကို အသုံးပြု၍ လူမပါဘဲ နှင့် အလို အလျောက် အထည် ဖြစ် အောင် ထိုး နိုင်သည့် ခြည် ထိုး စက် များ ပင် ပေါ် ပေါက်နေ ပေပြီ။ စက်အမျိုးမျိုးရှိသည့်အနက် အသုံးအများ ဆုံးမှာ ဖောင်ဝိုင်းစက်မျိုးဖြစ်၏။ ထိုစက်မျိုးတွင် ဖောင်ဝိုင်းကြီးပတ်လည်၌ အပ်များကို စီ၍တပ်ဆင်ထား သည်။ အဖျားများ၌ ချိတ်ကလေးများပါရှိ၍ ထိုအပ် များသည်အပေါ် နှင့် အောက် တက်ချည်ဆင်းချည် ဖြစ်နေ ကြသည်။ ယင်း သို့ အပ်များ သည် အပေါ် နှင့် အောက် တက်ချည် ဆင်းချည်ဖြစ်နေစဉ် အပ်အဖျားရှိချိတ်များက ခြည်ပင်များကိုဆွဲ၍ ကွင်း ကလေးများဖြစ်အောင် ပြုလုပ် သွားကြလေသည်။ အချို့သောစက်များမှာ တမိနစ်လျှင် အဆိုပါကွင်းကလေးပေါင်း ၆၀၀,၀၀၀ ကျပြုလုပ်နိုင်အောင် ပင် လျင်မြန်ပေသည်။

ရက်ကန်းစင်ဖြင့် အထည်ရက်ရာတွင် တိုင်ခြည်ကို ဖေါက် ခြည်ကဖြောင့်တန်းစွာ တပင်ကျော် တပင်ချရက်လုပ်သွား သည်။ သို့သော် ခြည်ထိုးနည်းတွင် ကွင်းကလေးများဖြစ် အောင်ထိုး သွား သည့် အတွက် ခြည်ထိုးနည်းဖြင့် ပြုလုပ် သောအထည်မျိုးမှာကား ဆန့်၍ရပြီးလျှင် လေဝင်ပေါက် လည်းပို၍ များသည်။ ထိုကြောင့် အတွင်းခံစွပ်ကျယ် အင်္ကျီ၊ ခြေအိတ်စသည့် အထည်မျိုးကို ခြည်ထိုးနည်းဖြင့် ပြုလုပ်ယူကြသည်။

ခြည်ထိုးသည့်လုပ်ငန်းမှာ စက်မှုသို့ပြောင်းခဲ့သည့်အခြား လုပ်ငန်းများနည်းတူ ယခုအခါ ကြီးကျယ်သည့်လုပ်ငန်းကြီး တခုဖြစ်နေပေပြီ။



ကဝိလက္ခဏာဒီပနီကျမ်းပြုဆရာကြီးဦးခြိမ့်

**ခြိမ့်။ဦး။** ။မြန်မာဂန္ထဝင်တွင် ကဝိလက္ခဏာဒီပနီကျမ်းကို ပြုစုခဲ့၍ မြောင် လှမြို့ စား နိုင်ငံ ခြား ဝန် ထောက် မင်း ကြီး မဟာမင်း လှ ဇေယျ သူ ဟု ထင် ရှား ခဲ့ သော ဦး ခြိမ့် သည် ရတနာသီခေါ် ရွှေဘိုစီရင်စုခွန်တောင်ကြီးရွာ၌ဖွားသည်။ ထိုပုဂ္ဂိုလ်သည် ပဉ္စမသံဂါယနာတင် ဘဝရှင်မင်းတုန်းမင်း တရားကြီး အိမ်ရှေ့စံဘဝမှစ၍ အထွတ်သို့ရောက်သည့်တိုင် အောင် အမှုတော်ကိုထမ်းရွက်ခဲ့သည့်အပြင် မာရ်အောင် ရတနာ စေတီ တော် ဒါ ယကာ သီပေါ မင်း တရား ကြီးလက် ထက်၌လည်း အမှုတော်ကို ဆက် လက် ထမ်း ရွက်ရသည်။ ပဌမသော် ဦးခြိမ့်သည် လက်ဖက်ရည်တော်အရာ နေမျိုး ဇေယျသူဘွဲ့နှင့် သူကောင်းပြုခြင်းခံရသည်။ ထိုနောက်၌ နေမျိုးမင်းလှဇေယျသူဘွဲ့ကိုခံယူရ၍ အာဏာတော်စာရေး အရာနှင့် အမှုထမ်းရွက်ရာ၌ ဖောင်းကတ္တီပါရွှေသားပန်းကို ဆင်ယင်ခွင့်ရသော လွှတ်တော် စာရေး တော်ကြီး အရာဖြင့် ချီးမြှင့်ခြင်းခံရသည်။

သက္ကရာဇ် ၁၂၃၃ ခုနှစ်တွင် ကင်းဝန်မင်းကြီးအင်္ဂလန်ပြည်သို့ သံတော်ကြီးအဖြစ်သွားရောက်ရာတွင် ဦးခြိမ့်သည် စာရေးတော်ကြီး အရာ သံငယ်အဖြစ် လိုက်ပါရသည်။ ထိုနောက်တဖန် သက္ကရာဇ် ၁၂၃၅ ခုနှစ်တွင် ကင်းဝန်မင်းကြီး ပြင်သစ်နိုင်ငံသို့ သွားရောက်ပြန်ရာ စာရေးတော်ကြီး ဦးခြိမ့်သည် သံလတ်အဖြစ်ဖြင့် လိုက်ပါထမ်းရွက်ရလေသည်။ ဣတလီမင်း၊ ပြင်သစ်မင်းတို့က ခြီးမြှင့်သောတံဆိပ်ဘယက်များကိုလက်ခံရရှိလေသည်။

ပြင်သစ်နိုင်ငံမှအပြန်တွင် မင်းကြီးသီရိမဟာဇေယျသူဘွဲ့နှင့်နိုင်ငံခြားဝန်ထောက်တော်အရာ ခန့်ထားသူကောင်းပြုခြင်းခံရ၍ မြောင်လှမြို့ကိုလည်းစားရသည်။ ထိုနောက် ၁၂၃၆ ခုနှစ်တွင် မဇ္ဈိမဒေသ ဗုဒ္ဓဂယာအရပ် ဗောဓိပင်တော်ကိုအလှူတော် အတင်တော်များလှူဒါန်းရန်ကိစ္စနှင့် အိန္ဒိယဘုရင်ခံမင်းထံ ကရင်နီ (ကယား) နယ်ပယ်တွင် ကချင်တိုက်ခိုက်မှု စကားပြောဆိုရန်ကိစ္စများကို ပြောဆိုဆောင်ရွက်ရန် နိုင်ငံခြားဝန်ထောက် မင်းကြီးမဟာမင်းလှဇေယျသူဘွဲ့နှင့် သံတော်ကြီးအရာခန့်အပ်ခြင်းခံရ၍ အိန္ဒိယပြည်သို့သွားရောက်ရသည်။ ထိုနောက် အိန္ဒိယမှပြန်လာ၍ ၁၂၃၇ ခုနှစ်သို့ရောက်သော် ဗောင်းကတ္တီပါနီရွှေသားပန်း (၁၂) တမာရွက်ထောင် (၁၂) တို့ဖြင့် ထပ်မံခြီးမြှင့်ခြင်းခံရသည်။

၁၂၄၀ ပြည့်နှစ်တွင် ဣတလီနိုင်ငံ၊ စပိန်နှင့်ပေါ်တူဂီနိုင်ငံများသို့လည်း သံတော်ကြီးအရာဖြင့်သွားရောက်ထမ်းရွက်ခဲ့သည်။ ထိုစဉ်က ဣတလီနိုင်ငံက ဒုတိယတံဆိပ်ဘယက်၊ စပိန်မင်းက ပဥ္စမရင်သိုင်းတံဆိပ်ဘယက်၊ ပေါ်တူဂီမင်းက ပဥ္စမရင်သိုင်းတံဆိပ်များ ခြီးမြှင့်ခြင်းခံရလေသည်။

ဦးခြိမ့်သည် မင်းမှုမင်းရေးနှင့် ကဗျာလင်္ကာနှစ်ဖက်လုံးတွင် ထူးချွန်သည်။ စာပေကျမ်းဂန်တတ်မြောက်၍ ပြင်သစ်နိုင်ငံသို့ရောက်စဉ်က တွေ့မြင်ခဲ့ရသည်များကို တေးထပ်များရေးစပ်ခဲ့သည်။ ပြင်သစ်နိုင်ငံတွင်တွေ့မြင်ခဲ့ရသော မီးအိမ်ပျံအကြောင်းကိုအောက်ပါအတိုင်းစပ်ဆိုခဲ့သည်။

'ဘူးလွန်းခေါ် မီးအိမ်ကြီး၊ ဂစ်ဘားစီးလုပ်တယ်။ ကွင်းမြေပြန့်အလယ်တွင်၊ တောင်သုံးဆယ်အချင်း။ အစောက်မြင့်လေးဆယ်မှန်၊ ကြိုးတန်တန်ဆိုင်းချက်ကရှင်း။ ဘယောင်းဆိုးပိုးထည်၊ ချုပ်ချည်စုံမယွင်း။ မီးအိမ်ပျံအတွင်းမှာ၊ဓာတ်ခိုးသွင်းစက်နှောင်။ တရွှေရွှေသူဖေါင်း၊ ထက်လမ်းကြောင်းမိုးထိလုအောင်။ ကြိမ်တောင်းကြီးဆွယ်မြှောင်၊ သုံးအဆောင်စုံများနှင့်၊ လိုက်သွားကြ ပျော်ပျော်ရွှင်ရွှင်၊ မိုးဝကောင်းကင်။ လေလိုက်သင့်ပြန်လျှင်တယ်၊ အပျံတွင်ဈာန်ငြိမ်းရှင့်လေး'။

၁၂၄၂ ခုနှစ်၌ ဦးခြိမ့်သည် စိန္တကျော်သူဦးဩ ပြုစုခဲ့သော မြန်မာစာပေကဏ္ဍဝင်တွင်ထင်ရှားသည့် ကဝိလက္ခဏာသတ်ပုံကျမ်းမှ နက်နဲသိမ်မွေ့၍ အသိခက်သောအချို့အပိုဒ်များကို မင်းတုန်းမင်းတရားမေးသောကြောင့် အထူးထူးသောဇာတ်နိပါတ် ကျမ်းဂန်ရာဇဝင်စသော အထောက်အထားများနှင့်ညှိနှိုင်း၍ ကဝိလက္ခဏာဒီပနီဟူသောကျမ်းကြီးကို ကြိုးကြိုးစားစားပြုစုလေသည်။



ခွာညိုပန်းအညိုမျိုးမှအပွင့်ဖူးတံ

ထိုကဝိလက္ခဏာဒီပနီကျမ်းသည်ကား စာပေလိုက်စားသူတို့အဖို့ လက်မလွှတ်နိုင်သောကျမ်းပင်ဖြစ်သည်။

ဦးခြိမ့်သည် စာဖတ်အလွန်ဝါသနာပါသည်။ နန်းတော်သို့ဝင်ကြိုက်နှင့် အိပ်ချိန်၌သာ မျက်စိနှင့်စာလွှတ်သည်။ အိမ်သာသွားသည့်အခါ၌ပင် စာကိုကြည့်ရှုလျက်သွားသည်ဟု မော်ဘိဆရာသိန်းကြီးက ပညာယိမျးအကြောင်း စာတွင်ပေါ်ပြထားလေသည်။ ဦးခြိမ့်သည် ခွေးရူးကိုက်၍ဆုံးကြောင်းနှင့်အဆိုရှိသည်။

**ခွာညိုပန်း**။ ။နွယ်ပင်များအနက် နှစ်သက်ဖွယ်ရာကောင်းသောအပင်မှာ ခွာညိုပင်ဖြစ်သည်။ ခွာညိုပင်အမျိုးပေါင်း ၁၀၀ မျှရှိ၏။ ထိုအပင်မျိုးမှာ နှစ်ကြာခံအပင်မျိုး ဖြစ်သည်။ အုတ်နံရံ၊ ခြံစည်းရိုး၊ သစ်ပင်တို့ကို နွယ်ပတ်၍ပေါက်တတ်သည်။

မြန်မာနိုင်ငံရှိ ခွာညိုပင်ကို ရုက္ခဗေဒအလိုအားဖြင့် ကလီမက်တစ်ဆမီလာစီဖိုလီယာဟုခေါ်သည်။ လူအများစိုက်

ပျိုးလေ့ရှိသော ခွာညိုမျိုးမှာ ပန်းဖြူမျိုးဖြစ်သည်။ အပွင့်များမှာ ဆွတ်ဆွတ်ဖြူ၍ အနံ့လည်းမွှေးသည်။ ခွာညိုပန်းပွင့်ချိန်တွင် တပင်လုံးမှာ ပွင့်ဖြူကလေးများလွှမ်းနေ၍ ဝေဝေဆာဆာရှိသည်။ အပွင့်များပွင့်ပြီးနောက် အစေ့များသည် လေတိုက်ရာတွင် လွင့်ပါသွား၍ ပန်းမျိုးဖြန့်ကြသည်။

ခွာညိုပန်းပြာမျိုးသည် ဂျပန်နိုင်ငံ၌ စတင်ပေါက်ပွားခဲ့သည်။ အခြားတိုင်းပြည်များက ထိုပန်းမျိုးကို ဂျပန်နိုင်ငံမှ မျိုးယူ၍ စိုက်ပျိုးကြသည်။ ခွာညိုပန်းပြာမျိုးသည် မြေသြဇာထက်သန်ကောင်းမွန်သော မြေတွင်သာ ဖွံ့ဖြိုးစွာ ပေါက်ရောက်နိုင်သည်။

ခွာညိုပင်သည် ဆေးဖက်ဝင်၏။ ခွာညိုပင်၏ ပင်စည်မှ အဆီကိုထုတ်ယူ၍ ဒူလာရောဂါများအတွက် အသုံးပြုလေ့ရှိကြသည်။ ခွာညိုစေ့များကိုလည်း မီးယပ်နှင့်ဒူလာရောဂါများအတွက် ဘယဆေးများတွင် အသုံးပြုလေ့ရှိကြသည်။

**ခွေ။မယ်။** ။မယ်ခွေသည် ကုန်းဘောင်ခေတ် ဘိုးတော်လက်ထက်တွင် ထင်ရှားကျော်စောသော အမျိုးသမီးစာဆိုတော်တဦး ဖြစ်သည်။ မယ်ခွေ၏အတ္တုပ္ပတ္တိကို အကျယ်တဝင့် သေချာစွာ မသိရပေ။ အဲချင်းဟူသောကဗျာအဖွဲ့အနွဲ့များစွာတို့ကို ရေးသားခဲ့သဖြင့် မြန်မာဂန္ထဝင်တွင် ထင်ရှားသော အမျိုးသမီးတဦးဖြစ်၍ အဲမယ်ခွေဟုပင် အမည်တွင်ကြောင်း သာမန်သိရသည်။ (အဲချင်း — ရှု။) မယ်ခွေ၏ကဆုန်လဘွဲ့ အဲတပုဒ်မှာ

**ကဆုန်လပြိုသရာသီဘွဲ့။ ။ဖလ်နန်းမှမျက်အုံလေ။ နေနှင့်ယှဉ်မှီ။ ရောဟဏီလည်း။ မှန်စီဆောင်က။ ရွှေထီးရိပ်ပြေပါလို့။ လွှမ်းစယုက်သွယ်။ မင်းမူဟန်ကျယ်လှ။ မိုးလယ်ဘုံမှာတဲ့လေး။ ။ကဆုန်ငယ်မှရတု။ မြနီလာစစ်။ အပြာရစ်နှင့်။ ရစ်မျက်နှာဆို။ တောတခိုမှာ။ ပျိုနုနုနှင့်။ ကျီးဥမှလဲ့ပြာ။ စကားထုံသင်း။ ကောဇာချင်းတွင်။ တုကင်းလွတ်ကွာ။ ငှက်ပေါင်းသာလို့။ ညာချွေယ်စံသည်။ ယုဂန်မှာ တိမ်တပိုက။ ဂဠုန်လိုဝဲ။ ။အသဲမှဆွတ်ကျင်။ သောင်သင်ဖြူးခင်း။ မြစ်ကြီးတွင်းမှာ။ ငါးကြင်းဆန်ကူး။ ငါးတန်မြူးသည်။ ပိုက်ဦးငင်လို့။ သဘင်မှ ဖြိုးဝေ။ ဇင်ယော်သောင်တင်း။ ရွှေပိန်ညင်းတို့။ ချစ်တင်းပိုင်ပိုင်။ အာလုပ်ကယ်လှိုင်လို့။ သံပြိုင်ယယ်ချွေသည်။ ကြိုဟ်စနေဖီလာပိုင်းဆီက။ မှန်တိုင်းချီပြင်း။ ။ပြည်ကမ္ဘောဇ။ တိုင်းညိုမြမှာ။ တံငါတာရာ။ ကြယ်ဥက္ကာနှင့်။ အခါညောင်ရေ။ ပွဲစုံယယ်ထွေလို့။ လွှမ်းဗွေဆိုင်ညီ။ သေမင်းပင်မှီရေ့ထင့်။ စက်ရာသီပြိုသရေးတဲ့။ ငိုကြွေးခင်း။ ။**

မယ်ခွေသည် ရတနာသိင်္ခမြို့မှ စစ်တောင်းဝန်ကြီး၏ သမီးဖြစ်၍ အမေ့ဝန်မောင်စွက်နှင့် လက်ထပ်သည်။ မယ်ခွေသည်ညောင်ရမ်းမင်းတရားလက်ထက်တွင် ကဗျာလင်္ကာများဖွဲ့ဆိုသည်။ သက္ကရာဇ် ၁၁၇၀ ပြည့်နှစ်တွင် စပ်ဆိုသောအဲချင်းများကို ၇၀ ပေါ်အဲဟု ခေါ်ကြသည်။

မယ်ခွေသည် ၁၂ ရာသီဘွဲ့များကို အဲကဗျာအဖွဲ့အနွဲ့ဖြင့် ရှေးဦးစွာဖွဲ့ဆိုသူ ဖြစ်သည်။ ရှေးက ၁၂ ရာသီဘွဲ့များမှာ ရတု၊ လူးတားစသည့်အဖွဲ့အနွဲ့များဖြင့်သာ ရှိခဲ့သည်။ မယ်ခွေ၏ရာသီဘွဲ့များမှာ စေ့စပ်ကျနသည်။ မယ်ခွေသည် အခြားအမျိုးသား စာဆိုတော်ကြီးများ၏လက်ရာကို မှီအောင်ဖွဲ့နွဲ့နိုင်သည်။ စိတ်ကူးဆန်းကြယ်၍ ယဉ်ကျေးနွဲ့နှောင်းသော စကားလုံးများဖြင့် ကဗျာများကို တန်ဆာဆင်နိုင်သည်။

မယ်ခွေသည် ရာသီဘွဲ့အဲများအပြင် ကျေးစေဘုရားတိုင်၊ မယ်ဘွဲ့မောင်ဘွဲ့၊ မိုးဘွဲ့၊ တောဘွဲ့၊ ရတုများနှင့်ငိုချင်းများကိုလည်း ရေးသားခဲ့သည်။ မယ်ခွေ၏ငိုချင်းများမှာ နောက်တွင်ခေတ်စားလာသော 'စုံနံ့သာမြိုင်' ရှာပုံတော်ကြီးစသောငိုချင်းရှည်များ၏ ရှေ့ပြေးဖြစ်သည်။

ပင်လုံးကျွတ်ပွင့်နေသည့်ခွာညိုပန်းဖြူမျိုး





ခွေးများကိုစွတ်ဖါးယာဉ်များတွင်တပ်ဆင်၍ အအေးပိုင်းဒေသများတွင် ရေခဲပြင်ပေါ်၌ ဤသို့ဆွဲစေသည်။

# လူတို့၏မိတ်ဆွေစစ်

**ရှေးကျောက်ခေတ်ကတည်းက လူတို့သည် ခွေးကို မွေးမြူခဲ့ကြသည်။ ခွေးသည် သခင်ကိုသစ္စာဖောက်၍ စွန့်ပစ်လေ့မရှိချေ။ သခင်အတွက် အသက်ကိုပင်စွန့်တတ်သည်။ ကမ္ဘာပေါ်တွင် ခွေးအမျိုးမျိုးရှိရာ ယင်းတို့၏ တမျိုးစီအသုံးကျပုံကို အောက်ပါအကြောင်းရပ်တွင်ဖတ်ရှုလေ့လာနိုင်ပေသည်။**

**ခွေး။**    ။လူတို့မွေးမြူအသုံးပြုသောတိရစ္ဆာန်များအနက် ခွေးသည် အားအကိုးရဆုံးသောမိတ်ဆွေ၊ သစ္စာအရှိဆုံးသောကျေးကျွန်မည်ပေသည်။ ရှေးကျောက်ခေတ်က လူတို့နေထိုင်ရာ ဂူလိုဏ်များကို တူးဖေါ်ကြည့်ရာတွင် လူရိုးနှင့်ခွေးရိုးများ အတူတကွတွေ့ရှိခြင်းကိုထောက်ရှုသော် သမိုင်းမတင်မီခေတ်အခါကပင် ခွေးသည်လူတို့အတွက် ယဉ်ပါးလာသောတိရစ္ဆာန်ဖြစ်၏ဟုဆိုရပေမည်။ အိမ်ခွေးတို့သည် ဝံပုလွေနှင့်ခွေးအများ အထူးသဖြင့် ဝံပုလွေများမှ တစတစဆင်းသက်လာသည်ဟု သိပ္ပံပညာရှင်များက ယုံကြည်ယူဆကြသည်။ ယင်းသိပ္ပံသုတေသီတို့၏ အဆိုအရ ရှေးခေတ်လူတို့သည် ရှေးဦးစွာ မိမိတို့ဒေသပတ်ဝန်းကျင်ရှိ ဝံပုလွေအရိုင်းများကို အမဲလိုက်ရာတွင် အသုံးပြုရန်မွေးမြူကြသည်။ ထိုနောက် လူတို့၏ယဉ်ကျေးမှုအဆင့်အတန်း တဖြည်းဖြည်းတိုးတက်လာသည်နှင့်အမျှ အမဲလိုက်ရန်တခုတည်းအတွက်မဟုတ်ဘဲ သီးခြားကိစ္စအလိုက် မွေးမြူလေ့ကျင့်ပေးခဲ့ရာမှ အိမ်ခွေးအမျိုးမျိုးပေါ်ပေါက်လာသည်ဟုဆိုသည်။

အိမ်ခွေးများသည် လူတို့နှင့်အတူ နေထိုင်ယဉ်ပါးနေပြီဟုဆိုရသော်လည်း မိမိတို့ဘိုးစဉ်ဘောင်ဆက်မှ မျိုးရိုးဇာတိစရိုက်အချို့ကိုမူ ယနေ့တိုင်အောင် မပျောက်နိုင်ကြသေးပေ။ ခွေးသည် မွေးစအရွယ်မှစ၍ အမဲလိုက်ရန်ဝါသနာထုံခဲ့သည့်အတိုင်း အငယ်ဆုံးသော ခွေးကလေးမျိုးပင်ဖြစ်စေကာမူ ပြေးလွှားနေသည့်ကြွက်၊ ငှက်၊ ကြွက်၊ ကြောင်မှစ၍ ယုန်၊ သိုး၊ ဆိတ်၊ ဝက်၊ သမင်၊ ဒရယ်၊ ချေ၊ ဆတ်စသည်တို့ကို မြင်ရုံနှင့်အပြေးလိုက်တတ်သည်။ ခွေးသည် အိပ်ခါနီး ၂ ပတ် ၃ ပတ်လှည့်ပြီးမှအိပ်တတ်သည်။ ဤအကျင့်မှာ ရှေးတွင်ဖေါ်ပြခဲ့သော မျိုးရိုးဇာတိစရိုက်ပင်ဖြစ်၏။ မယဉ်ပါးသေးသောအချိန်က ခွေးရိုင်းများသည် လုံခြုံသောကိုင်းတောမြက်တောများ၌ အိပ်ရန်ကြံသောအခါ အိပ်မည့်နေရာရှိမြက်နှင့်သစ်ရွက်များကို ပဌမ ၃၊ ၄ ပတ်မျှလှည့်၍နင်းပေးပြီး အိပ်ရာနေရာကိုပြင်လေ့ရှိသည်။ ညဖက်တွင် ခွေးများအူတတ်သည့်အကျင့်မှာလည်း ယင်းတို့၏မျိုးရိုးဖြစ်သောဝံပုလွေများသည် အစာရှာထွက်ချိန်၌ ဝံပုလွေအုပ်ကို အူ၍ခေါ်သောအလေ့မှ ဆင်းသက်လာခြင်းဖြစ်သည်။ အိမ်ခွေးများသည် မည်သည့်ရန်သူမျှမရှိစေကာမူ မိမိတို့၏အစာဖြစ်သောအရိုးများကို ဝှက်ထားတတ်သည်။ ဤအကျင့်မှာလည်း ရှေးခွေးရိုင်းများသည် မိမိတို့၏အစာကို ရန်သူမတွေ့နိုင်အောင် ဝှက်ထားတတ်သည့်အလေ့မှ ဆင်းသက်ခဲ့ပေသည်။ ထိုမှတပါး အနံ့ခံကောင်းခြင်း၊ မျက်စိရှင်ခြင်း၊ နားပါးခြင်း၊ ချွန်ထက်သောသွားများရှိခြင်း၊ ပြေးလွှားနိုင်ရန်သန်စွမ်းသောခြေထောက်များရှိခြင်း၊ ကိုယ်တွင်အမွေးကြမ်းများဖုံးလွှမ်းပါရှိခြင်း၊ သေးသွယ်၍ကြံ့ခိုင်တောင့်တင်းသောကိုယ်ရှိခြင်း စသည်တို့မှာလည်း မုဆိုးများနှင့်

အတူ အမဲလိုက်ရာ၌ သင့်တော်အောင်သဘာဝက ဖန်တီးပေးခဲ့သော ရှေးခွေးရိုင်းများမှဆက်ခံခဲ့သည့် မျိုးရိုးဇာတိအမွေများပေတည်း။ (မျိုးရိုးဇာတိ — ရှု။)

အာရှနှင့်အာဖရိကတိုက်ရှိ အမဲလိုက်ခွေးရိုင်းများနှင့် ယဉ်ပါးနေသောအိမ်ခွေးများ၏ခြားနားချက်တခုမှာကား များသောအားဖြင့် အိမ်ခွေးများကဟောင်တတ်၍ ခွေးရိုင်းများကအူရုံသာ အူတတ်ခြင်းပင်ဖြစ်သည်။ အမေရိကတိုက်ရှိ ဝံပုလွေနှင့်တူသောခွေးများသည် တခါတရံသာ ဟောင်တတ်သည်။ အက်စကီးမိုး လူမျိုးတို့ မွေးမြူထားသော 'ဟပ်စကီ' ခေါ် ခွေးများကမူ လုံးဝမဟောင်တတ်ချေ။

ကမ္ဘာပေါ်ရှိ တိရစ္ဆာန်မျိုးအားလုံးတွင် ခွေးတမျိုးတည်းသာ ကမ္ဘာအရပ်ရပ်သို့ လူနှင့်အမြဲလိုက်ပါကာ အမျိုးမျိုးသောရာသီဥတုကိုခံနိုင်၍ လူ အားအကူအညီပေးနိုင်သောတိရစ္ဆာန်ဖြစ်သည်။ အချို့သောခွေးမျိုးသည် ရဲရင့်သည်။ အချို့မှာသိမ်မွေ့၏။ အချို့ကားလိမ်မာ၏။ အချို့ကားထိုင်းမှိုင်း၏။ ဆိုးပေ၏။ သို့သော် အားလုံးသောတိရစ္ဆာန်များအနက် ခွေးသည် လူ၏သဘောကို နားအလည်ဆုံးဖြစ်သည်ဟုဆိုရပေမည်။

ခွေးသည် ဝံပုလွေမှဆင်းသက်လာသည်ဟု ယုံကြည်ဖွယ်ရာအကြောင်းရှိလေသည်။ မြောက်အမေရိကတိုက်မြောက်ပိုင်းရှိ အက်စကီးမိုးလူမျိုးတို့၏ခွေးများသည် ဝံပုလွေနှင့်အလွန် တူသည်။ ပကတိ ဝံပုလွေနှင့်တူလှသော ကြောင့်မကြာခဏပင် ခရီးသည်များ အထင်မှားကြရသည်။ ဖလော်ရီဒါပြည်နယ်ရှိ ခွေးအချို့မှာလည်း ဝံပုလွေနက်နှင့် ရွေးမရအောင်တူသည်။ အာရှ၊ အာဖရိကနှင့် ဥရောပတောင်ပိုင်းနိုင်ငံများရှိ အိမ်ခွေးများမှာမူ ခွေးအတို့၏ အဆက်အနွယ်များဖြစ်သည်ဟုယူဆရသည်။

အမေရိကနှင့် ဥရောပတိုက်မြောက်ပိုင်းရှိ အက်စကီးမိုးခွေးများကို ရေခဲပြင်ပေါ်၌ စွတ်ဖါးဆွဲရန်အသုံးပြုကြသည်။ ဝင်ရိုးစွန်းရှာဖွေသူတို့သည် ဤခွေးများ၏အကူအညီကိုများစွာရရှိကြသည်။ ယင်းတို့သည် အလွန်အမင်းအေးသောဒဏ်ကိုခံနိုင်၍ အစာအာဟာရအနည်းငယ်ဖြင့် အသက်ရှင်နေနိုင်ကြသည်။ အားကောင်းသော ဤခွေးမျိုးတစုသည် ခရီးလမ်းကောင်းမွန်ပါက ရေခဲပြင်ပေါ်၌ ပေါင်ချိန် ၃၆၀ ရှိသောဝန်ကို တနေ့လျှင် မိုင် ၄၀ ခန့် ခရီးပေါက်အောင် လွယ်ကူစွာဆွဲဆောင်နိုင်သည်။

ဗဲလဂျီယမ်နှင့်ဟော်လန်နိုင်ငံများတွင် လက်တွန်းလှည်း၊ ဟင်းသီးဟင်းရွက်လှည်းနှင့် နွားနို့လှည်းကလေးများကို သန်စွမ်းသောခွေးများအားဆွဲစေသည်။

စကော့တလန်ပြည်၌ အလွန်စိတ်ချ အသုံးဝင်သောသိုးကျောင်းခွေးများရှိသည်။ ချွန်သောနှုတ်သီးနှင့် အမွေးထူထပ်သောကိုယ်ရှိပြီးလျှင်လည်ပင်းနှင့်အမြီးတွင်လည်အမွေး



သခင်အတွက် ငါးဖမ်းပေးသော စပန္နယယ်သွေးပါသည့်ဗန္ဒတ်ခွေးလိမ်မာ



**သစ္စာရှိ၍စည်းကမ်းသေဝပ်သောခွေးဘီလူး**

ဖွားဖွားပါရှိသဖြင့် အထူးပင်လှပသည်။ ဤခွေးများသည် မျက်စိလည်လမ်းမှား၍ အုပ်ကွဲသွားသောသိုးများကို သိုးအုပ်ရှိရာသို့ပြန်လည်ပို့ပေးခြင်း၊ နေဝင်ချိန်၌ သိုးများကို စုရုံး၍ခြံသွင်းခြင်းစသည့် သိုးကျောင်းအလုပ်များကို လူနှင့်မခြား ဆောင်ရွက် နိုင်သည်။ အနံ့ခံလည်းကောင်းလှသဖြင့် အုပ်ကွဲနေသောသိုးများကို ဆီးနှင်းမုန်တိုင်းများကြားထဲမှပင် မရမနေတွေ့အောင်ရှာဖွေနိုင်ကြသည်။

အမဲလိုက်ခွေးများသည် အမဲကောင်ကိုအနံ့ခံ၍ မျက်ခြည်မပြတ်အောင်လိုက်နိုင်သည်။ သွေးစက်ကို အနံ့ခံလိုက်၍ ထိမှန်သွားသော အမဲကောင်များကို တွေ့အောင်ရှာနိုင်သည်။ ခြေရာခံခွေးကြီးများသည် ထွက်ပြေးလွတ်မြောက်သွားသောရာဇဝတ်သားများကို ခြေရာခံ၍လိုက်လံဖမ်းဆီးပေးနိုင်သည်။

ဥရောပတိုက်အလယ်ပိုင်းရှိ မြင့်မား၍ဆီးနှင်းများဖုံးအုပ်နေသည့် အဲ့လပတောင်တန်းများပေါ်တွင် သွားလာကြသော ခရီးသည်များသည် တခါတရံ မျက်စိလည်လမ်းမှား၍ဖြစ်စေ၊ ဆီးနှင်းမုန်တိုင်းမိ၍ဖြစ်စေ၊ ခြေကုန်လက်ပမ်းကျကာအတိဒုက္ခရောက်နေတတ်သည်။ ထိုဒုက္ခသည်များအား လိုက်လံရှာဖွေကယ်ဆယ်ရန်အတွက် 'စိန်ဗားနတ်' ခေါ် ခွေးကြီးများကို တောင်ခြေရှိဘုန်းကြီးကျောင်းများ၌ မွေးမြူလေ့ကျင့်ပေးထားကြသည်။ ရာသီဥတု ဆိုးရွားသောနေ့များတွင် ဤခွေးကြီးများကိုလည်ပင်း၌ ခေါင်းလောင်းကလေးများဆွဲကာ ဒုက္ခသည်များအား ရှာဖွေရန်စေလွှတ်လိုက်သည်။ အများအားဖြင့် ၂ကောင်တွဲစေလွှတ်လေ့ရှိ၏။ ဒုက္ခသည်တဦးတယောက်ကို တွေ့သောအခါ တကောင်က အကူအညီရရန် ဘုန်းကြီးများထံပြန်ပြေး၍ ကျန်တကောင်က ဒုက္ခသည်အားဖုံးနေသော နှင်းခဲများကိုဖယ်ရှားပေးခြင်း၊ အနွေးဓာတ်ရစေရန် မျက်နှာနှင့်ခြေလက်များကို လျှာဖြင့်လျက်ပေးခြင်းဖြင့် စောင့်ရှောက်ကာကျန်ခဲ့သည်။

ပဌမကမ္ဘာစစ်ကြီးအတွင်းက စိန်ဗားနတ်နှင့်အခြားခွေးမျိုးများအပါအဝင် ခွေးပေါင်း ၁၀,၀၀၀ ကျော်တို့သည် စစ်မြေပြင်၌အရေးကြီးသောအလုပ်များကိုဆောင်ရွက်ပေးခဲ့ကြလေသည်။ တယ်ရီယာ ခွေးငယ်ကလေးများက မြေကတုတ်အတွင်းရှိ ကြွက်များကိုနှိမ်နင်းပေးခဲ့သည်။ သန်မာထွားကျိုင်းသောခွေးကြီးများက ကင်းစောင့်စစ်သားများထံ ပူနွေးသောစားသောက်ဖွယ်တို့ကို ပို့ဆောင်ပေးခဲ့သည်။ လူမသွားနိုင်လောက်အောင် ဘေးရန်ပေါသောနေရာများသို့ စစ်သတင်းများကို ပို့ဆောင်ပေးခဲ့သည်။ သူနာပြုခွေးများက ကြက်ခြေနီသူနာပြုတပ်သားများအား ဒဏ်ရာဖြင့်လဲနေသော စစ်သားများထံသို့ ရောက်အောင် လမ်းပြပေးခဲ့သည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်းကလည်း အထက်ပါကိစ္စများအပြင် ကင်းစောင့်ခြင်း၊ စစ်ပစ္စည်း စစ်စခန်းများစောင့်ထိန်းခြင်း၊ မြေမြှုပ်ဗုံးများ ရှာဖွေခြင်းစသည့်ဝတ်တရားများကို ဆောင်ရွက်ရန်အတွက် ခွေးပေါင်းမြောက်မြားစွာကို လေ့ကျင့်အသုံးချခဲ့ကြသည်။ အထူးသဖြင့်



**အက်စကီးမိုးလူမျိုးတို့မွေးမြူလေ့ရှိသောဟပ်စကီခွေးမျိုး**








အပေါ်ပုံ (ဝဲ) ရဲအားကူညီသောခြေရာခံခွေး
(ယာ) ခွေးပြေးပွဲအတွက် ပြိုင်ခွေးများကိုတာလွှတ်
ရန်နေရာသို့ခေါ်ဆောင်လာစဉ်
အလယ်ပုံ ခွေးများအပြေးပြိုင်နေစဉ်
အောက်ပုံ (ဝဲ) သိုးကျောင်းသားနှင့် စိတ်ချရသော
သိုးကျောင်းခွေးများ
(ယာ) ဆပ်ကပ်ပွဲအတွက် ခွေးအားလေ့ကျင့်ပေးနေစဉ်





ကင်းစောင့်ခွေးများသည် စစ်သားတို့ထက်ဦးအောင် ချဉ်းကပ်လာသောရန်သူကို အနံ့ဖြင့်သိရှိကြသည်။

အင်္ဂလိပ်ပေးမိုးတို့၏ ဟပ်စကီခွေးမျိုးနည်းတူပင် အိမ်စောင့်ရာ၌အထူးအားကိုးရသည့် 'ဂရိတ်ဒိန်း' ခေါ် ခွေးကြီးမျိုးနှင့် 'ခွေးဘီလူး' များ လည်း ရှိသေး သည်။ ခွေး ဘီလူး သည် မက်စတစ်မျိုးတွင်ပါဝင်၍ အရုပ်ဆိုးသလောက် စည်းကမ်းသေဝပ်ပြီးလျှင် သစ္စာရှိပေသည်။ သတ္တိအလွန်ကောင်း၍ ကိုက်မိလျှင်မလွှတ်တမ်း ခဲထားလေ့ရှိသဖြင့် ခွေးဘီလူးများကို ရှေးအခါက တောဝက်လိုက်ရာ၌ရင်း၊ ခွေးနှင့်နွားတိုက်ပွဲများ၌ရင်း အသုံးပြုခဲ့ဘူးသည်။

ခွေးများတွင် အနံ့ခံအကောင်းဆုံးခွေးမှာ အမဲလိုက်ခွေးများပင်ဖြစ်၏။ အမဲလိုက်ခွေးမျိုးတို့သည် အပြေးမြန်သည်။ အထူးသဖြင့် ခွေးသမင်မျိုးမှာ အပြေးအလွန်မြန်၏။ မြေခွေးလိုက်ရာတွင် အသုံးပြုသည့်ခွေးမျိုးမှာလည်း အလွန်လုပ၍ ယင်းတို့ကို အင်္ဂလန်ပြည်၌အုပ်လိုက်မွေးမြူကာ အသုံးပြုလေ့ရှိကြသည်။

ကမ္ဘာတွင် ယဉ်ပါးနေသော ခွေးမျိုးသန့်သန့်ပေါင်း ၂၂၅ မျိုးခန့်ရှိ၍ ယင်းတို့အနက် ၂၅ မျိုးခန့်မှာ အကြီးမျိုးထဲက ဖြစ်သည်။ ထိုသို့အသိအမှတ်ပြုထားသော ခွေးများကို တဖန်အမျိုးအစားအလိုက် ၆ စုခွဲထားပြန်သည်။ ပဌမအစုမှာ ဝံပုလွေနှင့်တူသည့် 'ခွေးဝံပုလွေ' မျိုးဖြစ်၍ ဤအစုတွင် အင်္ဂလိပ်မိုးတို့၏ခွေးများ၊ အမေရိကတိုက်မှ ခွေးဝံပုလွေများ၊ သိုးကျောင်းခွေးများ၊ တရုပ်တို့၏ 'ချောင်ချောင်' ခေါ် ခွေးများနှင့် အထက်ကျော်ကာလက ဗဲလဂျီယမ်နိုင်ငံ၌ လှေများကိုစောင့်ပေးသော အမြီးမပါသည့် 'စခစ်ပါကီ' ခွေးမျိုးများပါဝင်သည်။



ဂရေးဂိုခေါ် ဝင်းမားရန်နားခွေးသမင်

ဒုတိယအစုမှာ 'ခွေးသမင်' မျိုးဖြစ်၍ ဤအစုတွင် နိုင်ငံအရပ်ရပ်မှ ခွေးသမင်အမျိုးမျိုး၊ အိုင်ရစ်နှင့် ရုရှဝံပုလွေခွေးသမင်များအပြင်၊ တောင်အမေရိကတိုက်၊ မက္ကဆီကိုနှင့်တရုပ်နိုင်ငံရှိ အမွေးမပါသည့် ထူးခြားသော ခွေးသမင်မျိုးတို့အားလုံးပါဝင်သည်။

တတိယအစုမှာ 'စပန္နယယ်' ခေါ် သဘော်ခွေးမွေးရှည်မျိုးဖြစ်၍ ဤခွေးမျိုးတွင် အမွေးရှည်ခြင်း၊ ခေါင်းကြီးခြင်း၊



ပီကင်းခွေးမျိုး

နားရွက်ဖါးခြင်းတို့၌ အခြားခွေးမျိုးများနှင့်ကွဲပြားသည်။ ဤအစုတွင် 'နယူးဖေါင်းလန်း' ခွေးများ၊ တရုပ်နိုင်ငံမှ 'ပီကင်းဂီ' ခွေးမျိုးနှင့်တကွ ငှက်ပစ်ထွက်ရာတွင်လိုက်လေ့ရှိသော တောလိုက်ခွေးအမျိုးမျိုးပါဝင်သည်။

စတုတ္ထအစုမှာ 'အမဲလိုက်ခွေး' မျိုးဖြစ်၍ ဤအစုတွင် မြေခွေးလိုက်ခွေး၊ ဖျံလိုက်ခွေး၊ ဆတ်လိုက်ခွေး စသော အမဲလိုက်ခွေးအမျိုးမျိုး ပါဝင်သည်။

ပဉ္စမအစုမှာ 'မက်စတစ်' ခေါ် အိမ်စောင့်ခွေးကြီးမျိုးဖြစ်၍ ဤအစုတွင် ဂရိတ်ဒိန်း ခွေးကြီးမျိုး၊ စိန့်ဗားနတ် ခွေးကြီးမျိုးနှင့် ခွေးဘီလူးများပါဝင်သည်။ ယင်းတို့သည်သစ္စာရှိ၍ သတ္တိကောင်းသဖြင့် အလွန်စိတ်ချရ၏။

ဆဋ္ဌမအစုမှာ 'တယ်ရီယာ' ခေါ် မြေတူးခွေးမျိုးဖြစ်သည်။ မြေတူးခွေးမျိုးဟု ခေါ်ရခြင်းမှာ ကြွက်စသော တွင်းအောင်းသတ္တဝါများကို လိုက်လံဖေါ်ယူတတ်သော အလေ့ရှိသောကြောင့် ဖြစ်၏။ ဤခွေးမျိုးသည် ဉာဏ်ကောင်းသည်။ လိမ္မာသည်။ လုလည်းလှသဖြင့် အလှမွေးခွေးလိမ္မာများအဖြစ်ဖြင့် လူကြိုက်များသည်။ ဤခွေးမျိုးတွင် စကော့တယ်ရီယား၊ အိုင်ရစ်တယ်ရီယာ၊



စိန် ဗားနတ်ခေါ် အသက်ကယ်ခွေးမျိုး

အဲယားဒေးတယ်ရီယာ၊ ယော့ရှိုင်ယာတယ်ရီယာ၊ စံကိုင်း တယ်ရီယာစသော တယ်ရီယာအမျိုးမျိုးအပြင် 'ပူးဒဲ' ခေါ် အလိမ်မာဆုံး ဖြစ်သည့် ခွေးလည်ဆံရှည်မျိုးလည်း ပါဝင်သည်။

အထက်ပါ ခွေးမျိုးသန့်များအပြင် အလိုရှိသောခွေးမျိုး ရအောင် မျိုးကွဲချင်းစပ်ထားသော ခွေးမျိုးစပ်များလည်း ရှိသေးသည်။ ခွေးမျိုးစပ် (ဝါ) ဗန္ဒတ်ခွေးတို့သည် ခွေးမျိုး သန့်တို့လောက် တန်ဖိုးမများပေ။ သို့သော်များသောအား ဖြင့် အလွန်လိမ်မာဉာဏ်ကောင်းတတ်၍ ယင်းတို့၏သခင်များ အဖို့ အပေါ်လည်းရတတ်သည်။

နောက်ဆုံးတွင် မည်သူကမှ မပိုင်၊ တန်ဖိုးလည်းမထား သော ခွေးဝင်စားခေါ် အလေ့ပေါက်ခွေးများရှိသည်။ ယင်း တို့ကိုအထူးသဖြင့် ဥရောပတိုက်အရှေ့ပိုင်း၊ အာရှနှင့်အာဖရိ ကတိုက်တို့၌ ပေါများစွာတွေ့ရသည်။ အိမ်ကြို အိမ်ကြား များတွင်နေထိုင်ကာ တွေ့ရာကို ရှာဖွေစားသောက်ကြ၏။ ဤခွေးလေများကြောင့် ကူးစက်တတ်သောရောဂါများပြန့် ပွားလေ့ရှိသည်အတိုင်း နိုင်ငံကြီးများ၌ ခွေးပိုင်ရှင်တို့သည် ခွေးများကို အစိုးရထံအခွန်ဆောင်ရသော လိုင်စင်ဖြင့်သာ မွေးမြူနိုင်ပေသည်။ ခွေးမှ ကူးစက်တတ်သောရောဂါများ အနက် အထူးသဖြင့် ခွေးရူးနာမှာ ကြောက်မက်ဖွယ် အကောင်းဆုံးပင်ဖြစ်သည်။ (ခွေးရူးနာ — ရှု။)

မြန်မာနိုင်ငံ၌ အတွေ့ရများသောခွေးများမှာ ခွေးဝင်စား များ ဖြစ်ကြသည်။ ထိုခွေးဝင်စားများအပြင် နိုင်ငံခြား ခွေးမျိုးများကိုလည်း မွေးမြူတတ်ကြ၏။ နိုင်ငံခြားခွေး များနှင့် မြန်မာခွေးများစပ်ရာမှ ပေါက်ပွားလာသော ခွေး ဗန္ဒတ်မျိုးများလည်း ရှိသေးသည်။ မြန်မာတို့မွေးမြူလေ့ရှိ သောခွေးမျိုးများမှာ သဘော်ခွေး၊ အင်းခွေး၊ ကမာဘီ၊ ခွေးသမင်၊ ပွေလီ၊ ခွေးဘီလူးစသည်တို့ဖြစ်ကြသည်။ ထိုပြင်



ညာဏ်ကောင်း၍လိမ်မာသောတယ်ရီယာခေါ် မြေတူးခွေးမျိုး

ချင်းခွေးမျိုးဖြစ်သော ခွေးပုကလေးများကိုလည်း အလှမွေးမြူတတ်ကြသည်။

အင်္ဂလန်၊ အမေရိကန်နှင့် ဥရောပတိုက်ရှိ အချို့နိုင်ငံများတွင် ခွေးများကို ဂရုတစိုက်မွေးမြူကြသည်။ အသင်းအပင်းများဖွဲ့စည်း၍ပြပွဲပြိုင်ပွဲများကျင်းပကာအမျိုးမျိုးအားပေးကြသည်။ ခွေးသမင်အပြေးပြိုင်ပွဲမှာ အချို့နိုင်ငံ၌ မြင်းပွဲတမျှပင်ခေတ်စားလျက်ရှိပေသည်။

ခွေးသည် အလွန်အားကိုးရသည်။ အလွန်လိမ်မာသည်ဟုဆိုသော်လည်း ကျွေးမွေးထားရုံနှင့် မလိမ်မာချေ။ ခွေးမွေးလိုသူတို့သည် ရှေးဦးစွာ မိမိတို့အလိုရှိသော ခွေးမျိုးသန့်သန့်ကိုရွေးချယ်၍ လသားအရွယ်ကစတင်မွေးမြူ သင့်သည်။ ထိုနောက် ဂရုတစိုက်စောင့်ရှောက်ပြုစု၍ ပြောစကားနားလည်စေရန်၊ ခိုင်းသည့်အတိုင်းလုပ်စေရန်၊ စည်းကမ်းရှိစေရန်စသည် တို့ကို စံနစ် တကျ စိတ်ရှည် လက် ရှည် လေ့ကျင့်သင်ကြားပေးရန်လိုပေသည်။

**ခွေးခေါ် ရစ်ငှက်**။ ။ခွေးခေါ် ရစ်သည် ဥဩငှက်တမျိုးဖြစ်၍ မိုးစောင့်ငှက်ဟုလည်းခေါ်ကြသည်။ ခွေးခေါ် ရစ်ကိုလူသိမများလှချေ။

အာဖရိကတိုက်၊ အိန္ဒိယနိုင်ငံ၊ သီဟိုဠ်ကျွန်းနှင့် မြန်မာနိုင်ငံတို့တွင် ခွေးခေါ် ရစ်ငှက်ကိုတွေ့ရသည်။ မြန်မာနိုင်ငံ၌ အပူပိုင်းဒေသတွင်ကျက်စား၍ ဧရာဝတီမြစ်ဝှမ်းမှ သာယာဝတီခရိုင်အထိ ပျံ့နှံ့စွာ နေတတ်သည်။ မေလမှ အောက်တိုဘာလအတွင်းတွင်သာ မြန်မာနိုင်ငံ၌ နေကြဟန်တူသည်။ ခွေးခေါ် ရစ် ငှက် သည် အလျား ၁၃ လက်မခန့်ရှိ၍ ခေါင်းတွင်နောက်ဖက်သို့ ခေါ နေ သော အမောက်ပါရှိသည်။ အပေါ် ပိုင်းမည်း၍ အောက်ပိုင်းဖြူသည်။ အတောင်သည် အဖြူနှင့်အမည်းကျားနေပြီးလျှင် တို၍ဝိုင်းသည်။ အမြီးမှာရှည်၍ အဖျားသွယ်သည်။ ပျံသည့်အခါ အားစိုက်၍ ပျံသန်းသကဲ့သို့ထင်မှတ်ရသည်။

ရေကောင်းစွာရသော နေရာနှင့် သစ်ပင်အတော်အသင့်ထူထပ်သော လယာပြင်များတွင် ကျက်စားတတ်၍ ပင့်ကူ၊ ပရွက်ဆိတ်၊ ချေးထိုးပိုးနှင့် သစ်ရွက်အချို့ကို စားလေ့ရှိသည်။ အငြိမ်မနေဘဲ ဆူညံစွာအော်တတ်၍ တကောင်နောက်တကောင် လိုက်နေတတ်သည်။ အော်သံမှာကျယ်လောင်၍ စူးရှပြီးလျှင် ‘ခွေးခေါ် ရစ် ခွေးခေါ် ရစ်’ ဟုအသံထွက်သယောင်ကြားရသဖြင့် မြန်မာတို့က ခွေးခေါ် ရစ်ငှက်ဟု အမည်တွင်သည်။

ခွေးခေါ် ရစ် ငှက် သည် မေလနှင့်ဇွန်လများတွင် သားပေါက်သည်။ ကိုယ်ပိုင်အသိုက်မလုပ်ဘဲ စွေငှက်၊ ဝါးရောင်းငှက်တို့၏ အသိုက်များတွင် ဥလေ့ရှိ၏။ ဥသည် ရှည်မျော၍ ထိပ် ၂ ဖက်စလုံးပြားနေသည်။ ဥခွံမှာချောမွတ်၍ အပြာရောင်သန်းနေသည်။ ဥအရွယ်မှာ ပျမ်းမျှအလျား ၀.၉၄ လက်မနှင့်ပြက် ၀.၇၃ လက်မခန့်ရှိသည်။

**ခွေးတူဝက်တူ**။ ။ခွေးတူဝက်တူ ဟူသောအမည်ကပင် ထိုတိရစ္ဆာန်မျိုး၏ ပုံပန်းသဏ္ဌာန်ကို ဖေါ်ပြလျက်ရှိပေသည်။ ဝက်ဝံနှင့်လည်းဆင်တူ၏။ ခွေးတူဝက်တူသည်လူကိုရန်မမူဘဲ အေးအေးပင်နေလေ့ရှိသည်။ သို့သော် သားစားတိရစ္ဆာန်မျိုးဖြစ်သည့်အတိုင်း တိရစ္ဆာန်ငယ်ကလေးများကိုဖမ်းဆီးသတ်ဖြတ်၍ စားတတ်သည်။ ယင်းတို့၏ကိုယ်မှာထူးခြားစွာကျယ်ပြန့်ပြားချပ်၍ နှာဖျားမှအမြီးအထိ ၂ ပေ၊ ၂½ ပေခန့်ရှည်သည်။ နူတ်သီးချွန်သောဦးခေါင်းနှင့် အမြီး



နေ့အချိန်၌ တွင်းအောင်း၍ ညအချိန်ရောက်မှအစာရှာထွက်လေ့ရှိသောခွေးတူဝက်တူ

တိုကလေးတို့လည်း ခပ်ပြားပြားပင်ဖြစ်သည်။ ခြေလက်များမှာ အလွန်သန်၍ မာကျောချွန်ထက်သောခြေသည်းလက်သည်းရှည်ကြီးများပါရှိသဖြင့် မြေတူးအလွန်ကျင်လျင်သည်။ သို့သော် ဖါးလျားကျနေသော အမွေးရှည်များက ခြေလက်တို့ကို ဖုံးအုပ်ထားသည့်အတွက် လမ်းသွားနေစဉ်ကြည့်လျှင် ဝမ်းပိုက်ဖြင့်ကပ်၍သွားနေသလောဟု ထင်ရသည်။ အရောင်မှာ ကိုယ်တွင်မီးခိုးရောင်ဖြစ်၍ ခြေလက်၊ လည်ပင်းနှင့် ရင်ပတ်ဝမ်းပိုက်တို့တွင် မည်းသည်။ မျက်နှာတွင်မူ အနက်ရောင်အောက်ခံ၌ နှာတံပေါ်တွင်အဖြူစင်းတကြောင်း၊ ပါးတဖက်တချက်တွင်တကြောင်းစီ အဖြူစင်းသုံးကြောင်းပါရှိသောကြောင့် တနည်းအားဖြင့် ရယ်စရာကောင်းသည်။

ခွေးတူဝက်တူသည် လူသူကိုကြောက်ရွံ့တတ်၍ နေ့ဖက်၌တွင်းအောင်းကာ ညဖက်တွင်သာ အစာရှာထွက်တတ်သည့်အတိုင်း ယင်းတို့ကိုမြင်ဘူးသူများရှားသည်။ ခွေးတူဝက်တူသည် ဖွတ်၊ ပုတတ်၊ ပုရစ်၊ နှံကောင်၊ မြေကြွက်၊ ရှဉ့်စသောအကောင်များကိုဌင်း၊ မြေကြီးပေါ်၌အသိုက်လုပ်နေထိုင်တတ်သော ငှက်နှင့်ငှက်ဥများကိုဌင်း လိုက်လံရှာဖွေ၍စားသောက်လေ့ရှိသည်။ သစ်ဥသစ်ဖု များကိုလည်းစားသည်။ ဝက်ဝံနည်းတူ ပျားရည်ကို အလွန်နှစ်သက်သည့်အတိုင်း ပျားအုံများကိုပျားတုပ်ခံကာ ဖျက်ဆီးစားသောက်လေ့ရှိသည်။ ပျားတုပ်သော်လည်း အမွေးရှည်တို့ကြောင့်မနာကျင်ပေ။ နကျယ်အိမ်များကိုလည်းဖျက်ဆီး၍အတွင်းရှိပိုးကောင်ကလေးများကို စားသောက်လေ့ရှိသည်။

လူသံသူသံကြားလျှင်ဖြစ်စေ၊ ရန်သူနှင့် တွေ့လျှင်ဖြစ်စေ ခွေးတူဝက်တူသည် တွင်းထဲသို့ဝင်ပြေးတတ်သည်။ တွင်းသို့ရောက်အောင်မပြေးနိုင်ပါက လျှင်မြန်စွာတွင်းဖေါ်၍ ပုန်းအောင်းတတ်သည်။ သို့တည်းမဟုတ် ကိုယ်အောက်သို့ ဦးခေါင်းနှင့်ခြေလက်တို့ကိုသွင်းကာ မြေကြီးပေါ်မှာပင် ပြားပြားဝပ်ချလိုက်တတ်သည်။ ထိုသို့ဝပ်နေစဉ် ကြည့်လျှင်ကျောက်ခဲကျောက်တုံးများနှင့်ပင် အမြင်မှားလောက်ပေသည်။ ခွေးတူဝက်တူသည် လူသူကိုကြောက်ရွံ့တတ်သော်လည်း ပြေးမလွတ်သောအခြေအနေမျိုးနှင့် ကြုံကြိုက်သောအခါတွင်မူ ရန်သူကိုသတ္တိကောင်းစွာဖြင့် သဲသဲမဲမဲ ပြန်လည်ခုခံတတ်သည်။ သူ၏ မာကျောချွန်ထက်သောခြေသည်းလက်သည်းတို့သည် ရန်သူ၏အသားအရေကို စုတ်ပြတ်သွားအောင် ကုတ်ဖဲ့နိုင်၍ သူ၏ခိုင်မာသန်စွမ်းသော ပါးစောင်ဖြင့်လည်း ခွေးဘီလူးတို့ကဲ့သို့ မလွတ်တမ်းကိုက်ခဲထားနိုင်သည်။ ခွေးတူဝက်တူတကောင်သည် ခွေး ၄၊ ၅၊ ၆ ကောင်နှင့် ဖက်ပြိုင်တိုက်ခိုက်နိုင်၏။ ထိုကြောင့် အင်္ဂလန်ပြည်တွင် ရှေးကခွေးတူဝက်တူတကောင်ကို စည်တခု၌ထည့်၍ ပြင်ဖက်မှခွေးများနှင့် တိုက်ခိုက်ဆွဲထုတ်စေသော ကစားနည်းတမျိုး အလွန်ခေတ်စားခဲ့ဘူးရာ၊ ၁၈၅၀ ပြည့်နှစ်သို့ရောက်မှ ဥပဒေဖြင့်တားမြစ်၍ ပျောက်ကွယ်သွားလေသည်။

ခွေးတူဝက်တူသည် မြေပါမြီးတိုမျိုးတွင်ပါဝင်၍ ယင်းတို့ကို ဥရောပတိုက်မြောက်ပိုင်း၊ အာရှတိုက်နှင့်အမေရိကတိုက်တို့၌ တွေ့ရသည်။ အေးသောဒေသတွင် နေထိုင်သောခွေးတူဝက်တူတို့သည် ဆောင်းရာသီ၌ တွင်းအောင်းနေလေ့ရှိသည်။ ခွေးတူဝက်တူသည် တကြိမ်လျှင် သား ၁ ကောင်မှ ၅ ကောင်အထိ မွေးသည်။ အကောင်ကလေးများသည် ၁½ လခန့် မိခင်ရှာကျွေးသောအစာကို စားသောက်နေပြီးသော် ကိုယ်တိုင်အစာရှာဖွေစားသောက်နိုင်ကြသည်။ ခွေးတူဝက်တူတွင် ဆိုးရွားသောကိုယ်နံ့ရှိသည်။ ယင်းတို့၏အသားကိုလည်း စားလေ့မရှိချေ။ သို့သော်ထူထဲသောသားမွေးမှာ အဖိုးတန်၍ အမွေးအမှင်များမှာမူ ပန်းချီရေးစုတ်တံနှင့် မုတ်ဆိတ်ရိတ်ဗရွတ်များပြုလုပ်ရာတွင် အသုံးဝင်သည်။



ခွေးတောက်ရွက်နှင့်အညွန့်များ

**ခွေးတောက်ပင်။** ။ခွေးတောက်ပင်သည် မြန်မာနိုင်ငံအနှံ့အပြားတွင်ပေါက်ရောက်၍ တနင်္သာရီတောင်ပိုင်းတွင် အများအပြားတွေ့ရသည်။ အသီးသည် အတောင့်ဖြစ်၍ ကြက်သွေးရောင်ရှိသည်။ အရွက်ကို စိမ်းလဲ့လဲ့အရောင်ရှိသော ဆိုးဆေးမျိုးလုပ်နိုင်၏။ ထိုဆိုးဆေးသည်

ဆေးခိုင်မည့် လက္ခဏာမရှိချေ။ ခွေးတောက်သားသည် ခိုင်မာ၍ လေးလံသည်။ ခွေးတောက်ရွက်သည်ခါးသက်သောအရသာရှိ၍ လူတို့ဟင်းချိုချက်သောက်ကြသည်။ ခွေးတောက်ရွက်၏ ခါးသက်သော အရသာသည် စွဲမြဲလှသဖြင့် 'ခွေးတောက်မြစ်ရှက်၊ စိုက်ရေဖက်က၊ သရက်ပင်မင်း၊ သီးချိုကင်း၏၊' ဟူ၍ပင်စာပေတို့တွင် ဖွဲ့ဆိုထားပေသည်။ သို့သော် ခွေးတောက်သီးကိုမူခွေးစားမိလျှင် သေတတ်သည်ဟုဆိုကြသည်။

**ခွေးရူးနာ**။ ။ခွေးရူးနာရောဂါသည် ခွေးတွင် မူလဖြစ်ပေါ်၍ ထိုခွေးမှတဆင့် အခြားတိရစ္ဆာန်နှင့်လူတို့သို့ကူးစက်ပြန့်ပွားသွားတတ်သည်။ ခွေးရူးနာစွဲကပ်သော တိရစ္ဆာန်သို့မဟုတ် လူ၏နဗ်ကြောဆဲမျာဲတွင် နက်ဂရီဗောဒီ ကိုအစဉ်တွေ့ရ၏။ နက်ဂရီဗောဒီဟုခေါ်ခြင်းသည် နက်ဂရီအမည်ရှိသူတဦးက စတင်တွေ့ရှိသောကြောင့် ထိုပုဂ္ဂိုလ်၏အမည်ကိုအစွဲပြု၍ ခေါ်ခြင်းဖြစ်သည်။ ထိုနက်ဂရီဗောဒီသည် အလွန်သေးငယ်သည့် ဗိုင်းရပ်များဖြစ်၍ အခြားရောဂါမျိုးတွင် မတွေ့ရချေ။ ထိုကြောင့် ခွေးရူးနာစွဲကပ်သည်ဟု သင်္ကာမကင်းသောလူနာနှင့် တိရစ္ဆာန်များကိုစစ်ဆေးသောအခါ ထိုနက်ဂရီဗောဒီများကိုတွေ့ရလျှင် ရောဂါရှင်တွင် ခွေးရူးနာကေန်စွဲကပ်နေပြီဟု တိကျစွာပြောနိုင်ပေသည်။ လက်တွေ့စမ်းသပ်သည့်သဘောဖြင့် ခွေးရူးနာစွဲကပ်သောတိရစ္ဆာန်မှရောဂါကို အခြားတိရစ္ဆာန်သို့ကူးစက်ပြန့်ပွားစေ၍ စစ်ဆေးကြည့်ရှုသောအခါ ဆိုခဲ့ပြီးသည့်အတိုင်း နက်ဂရီဗောဒီကို ထိုတိရစ္ဆာန်၏နဗ်ကြောဆဲတွင် သာမက ဦးနှောက်၌ပင်တွေ့ရလေသည်။ သို့ရာတွင် နက်ဂရီဗောဒီများကို တံထွေး၌ မတွေ့ရချေ။ ထိုရောဂါသည် ခွေး၌သာဖြစ်သောရောဂါမဟုတ်။ မြေခွေး၊ ဝံပုလွေ၊ ခွေးအစသော အခြားတိရစ္ဆာန်များတွင်လည်း စွဲကပ်ကြောင်းသေချာစွာသိရသည်။ သို့သော် ထိုရောဂါသည်ခွေးမှသာစ၍ဖြစ်ပေါ်လာဟန်တူသည်။ ထိုရောဂါသည် ဖေါ်ပြခဲ့သောဗိုင်းရပ်များကြောင့်ဖြစ်ပေါ်၍ အခြားသွေးပူသတ္တဝါများသို့ကူးစက်ပြန့်ပွားတတ်သည်။

ထိုရောဂါစတင်ဖြစ်ပွားသည်မှစ၍ တဆင့်ထက်တဆင့်တွင် ရောဂါပြင်းထန်လာသည်။ သို့ဖြစ်၍ ထိုရောဂါစွဲကပ်နေသောတိရစ္ဆာန်သည် ရောဂါ၏အဆင့်တဆင့်တွင် စိတ်တက်ကြွမှုအနည်းငယ်ရှိခြင်းကြောင့် ရန်မူလိုတတ်သည်။ ခွေး၌ ထိုရောဂါစွဲကပ်ကြောင်းကို ၇ ရက်တပတ် အတွင်းတွင် သိသာနိုင်၏။ ရောဂါစွဲစ၌ ခွေး၏ရှိရင်းစွဲအလေ့အထများသည်ပြောင်းလဲလာ၏။ သာဓကပြရသော် မိမိသခင် အိမ်



ရန်ကုန်မြို့ပါးစတားဆေးရုံ၌ ခွေးရူးကိုက်ခံရသောကလေးအားဆေးထိုး၍ကုသနေပုံ



ပါရစ်မြို့ပါးစတားဆေးရုံရှေ့ရှိ ခွေးရူးကိုက်ခံရသောသိုးကျောင်းသားရုပ်တု
ခွေးရူးကိုက်ခံရသူအား ပါးစတားကုထုံးဖြင့်ပဌမဆုံးကုသပေးခြင်းအထိမ်းအမှတ်ဖြစ်သည်။

သို့ပြန်လာသောအခါ သခင်ထံသို့ အပြေးအလွှားသွား၍ ကြိုဆိုခြင်း၊ သခင်ကိုတွေ့သောအခါအမြီးနန့်ခြင်း စသော အလေ့အကျင့်ကို မပြုတော့ပေ။ ခွေးသည် ထိုင်းမှိုင်းလာ တတ်ပြီးလျှင် ခပ်ဝေးဝေးရှောင်ခွာ၍ သီးသန့်နေတတ်သည်။ ကောက်ရိုးစသော အသုံးမဝင်သည့်အရာများကို စုဆောင်း ခြင်း၊ သံနှင့်ကျောက်ခဲစသည့် အေးသောအရာပစ္စည်းများ ကိုလျက်ခြင်း၊ အခြားတိရစ္ဆာန်များကိုလျက်ခြင်း စသည် တို့ကို ပြုလုပ်လို၏။ ထိုရောဂါစွဲသော တိရစ္ဆာန်တိုင်းတွင် ရောဂါစွဲစအချိန်၌ ကာမစိတ်တက်ကြွခြင်းကို တခါတရံတွေ့ ရ၏။ ထိုအချိန်မျိုး၌ ခွေးတွင်ကိုက်လိုစိတ်မရှိချေ။ ရောဂါ လက္ခဏာများသည် ခွေးရူးနာရင့်လေ ပို၍ထူးခြားလာ လေဖြစ်ပြီးလျှင် တဆင့်ထက်တဆင့် ဆိုးရွားလာတတ်၏။ ထိုအချိန်တွင် ရုတ်တရက်ဟပ်ခြင်း၊ ရိုးရိုးရွရွနှင့်လှုပ်ရှား သွားလာခြင်း စသည်တို့ကိုပြုတတ်သည်။ ထိုအခြေ၌ ခွေး သည် မိမိသခင်၏အသံကို မှတ်မိသေးသည်။ ထိုနောက် တဖြည်းဖြည်းရောဂါတိုးလာ၍ တုန်လှုပ်ချောက်ချားခြင်း၊ တည်ငြိမ်မှုမရှိခြင်းတို့ဖြစ်ပေါ်လာလေသည်။

ခွေးရူးသည်ရေကိုမြင်လျှင်မကြောက်ရွံ့တတ်ချေ။ ရောဂါ စွဲစအချိန်တွင် ရေကိုအလွန်ငတ်တတ်သည်။ အကယ်၍ ထိုခွေးအား ရေတိုက်လျှင် ရေကိုလောဘကြီးစွာသောက် တတ်၏။ ရောဂါစွဲကပ်ပြီးနောက်တွင် ခွေး၌ လည်ချောင်း ကျုံ့လာ၍ စားသောက်ရာတွင် အကျပ်အတည်းတွေ့လာ၏။ ထိုအခြေ၌ ရေကိုတိုက်လျှင် သောက်နိုင်ရန်ကြိုးစားအား ထုတ်ပေသေးသည်။ လည်ချောင်းကျုံ့လာခြင်းသည် ခွေး ရူးနာရောဂါ၏ လက္ခဏာတရပ်ဖြစ်၏။ ရောဂါစွဲစအချိန်၌ ခွေးသည်အများအားဖြင့် အစာကိုကောင်းစွာစား နိုင်သေး၏။ ထိုနောက် တဖြည်းဖြည်းတွင် အစာကိုစား နေကျအတိုင်း မစားနိုင်တော့ပေ။ ကောက်ရိုး၊ မြက် စသောခွေးအိပ်ရန်ခင်းထားသည့် ပစ္စည်းများကို ကိုက် ဖြတ်တတ်၏။ ထိုမျှမကသေး သစ်သားစ၊ သိုးမွေးစ၊ မြေကြီး၊ ကျောက်ခဲစသည့်တွေ့ရာပစ္စည်းများကို ပါကိုက် တတ်သည်။

ခွေးရူးနာစွဲကပ်လျှင်အသံသည် ပင်ကိုယ်အသံမျိုးမဟုတ် တော့ချေ။ လည်မျိုတွင်တမျိုးတဖုံ ပြောင်းလဲမှုကြောင့် အသံသည် သူငယ်နာချောင်းနက် စွဲကပ်သောကလေး၏ အသံကဲ့သို့ဖြစ်လာ၏။ အက်ကွဲခြောက်ကပ်သောအသံဖြင့် ဟောင်တတ်၏။ ၆ ကြိမ်သို့မဟုတ် ၈ ကြိမ် ဖြည်းညင်းစွာ ဟောင်ပြီးနောက် ပါးစပ်ကိုဖွင့်၍ ကျယ်လောင်စွာအူတတ် ၏။ ဤသို့အသံပြောင်းလာခြင်းသည် ဤရောဂါ၏ အစလက္ခဏာဖြစ်ကြောင်းတခါတရံတွေ့ရပေသည်။

ခွေးရူးနာစွဲကပ်ခိုက်တွင် အရေပြားဖြင့် ခံစားရသော အာရုံများသည် နည်းပါးသွားသော်လည်း စိတ်အာရုံတက် ကြွမှုများသည်တိုးလာ၏။ ခွေးရူးနာစွဲသော တိရစ္ဆာန်အား လုံးသည် ခွေးကိုမြင်လျှင် အမျက်ဒေါသပြင်းစွာထွက်လာ၍ ရန်မူလို၏။ ခွေးရူးနာစွဲကပ်သော သိုးပင်လျှင် ထိုကဲ့သို့သော အမူအရာကိုပြုတတ်သည်။

ခွေးရူးနာစွဲစတွင် ခွေးရူးသည် ရင်းနှီးခင်မင်သူတို့အား အများအားဖြင့် ရန်မမူတတ်ချေ။ သို့သော် အချုပ် အနှောင်မှ လွတ်မြောက်ရန်ကိုမူ အစဉ်ကြိုးစားတတ်၏။ အချုပ်အနှောင်မှ လွတ်မြောက်သောအခါ ဦးတည့်ရာသို့ ပြေးတတ်၏။ လမ်းခရီးတွင် တွေ့သမျှသက်ရှိသတ္တဝါများကို ရန်မူတတ်လေသည်။ ရန်မူ၍ ကိုက်ဖြတ်လိုလျှင် ခွေးရူးသည် အသံမပြုချေ။ တိတ်ဆိတ်စွာသာ ကိုက်တတ်လေသည်။ အကယ်၍ခွေးရူးသည် ထိခိုက်မိ၍ ဒဏ်ရာအနာတရဖြစ်လျှင် သို့မဟုတ် အခြားသက်ရှိသတ္တဝါ၏ အကိုက်ခံရလျှင်လည်း နာပင်နာကျင်စေကာမူ မအော်ချေ။ ခွေးရူး၏ကြမ်းကြုတ် ခြင်းအရှိန်သည် ခွေး၏စိတ်တွင်တည်၏။ လိမ္မာသောခွေး တကောင်ရူးလျှင် ခက်ထန်ကြမ်းကြုတ်ခြင်း နည်းပါး၏။ အချို့ခွေးများသည် ဦးတည့်ရာသို့ပြေးခိုက် တွေ့သမျှကို ကိုက်ရုံသာကိုက်ကြ၏။ အချို့ခွေးများကမူကား တွေ့ သမျှကို သွားများကျိုးသည့်အထိ ပြင်းထန်စွာကိုက်တတ် သည်။ မောဟိုက်နွမ်းနယ်နေခိုက်တွင် ခွေးရူး၌ သွက်ချာ ပါဒမိသော လက္ခဏာများပေါ်လာတတ်၏။ ခြေလက် တို့သည်လည်း အားနည်းလာပြီးလျှင် လမ်းပင်ကောင်းစွာ မလျှောက်နိုင်တော့ချေ။ နောက်ခြေများကို တရွတ်တိုက် ဆွဲရသည့် အခြေသို့ပင်ရောက်လာ၏။ အမြီးကိုထောင်၍ မထားနိုင်သဖြင့် အောက်သို့ကျနေ၏။ ဦးခေါင်းသည်လည်း ရှေ့သို့ငိုက်လျက်ရှိ၏။ ပါးစပ်ပွင့်လျက် လျှာသည်လည်း ပါးစပ်အပြင်သို့ထွက်လာ၏။

ခွေးရူးနာစွဲကပ်သောတိရစ္ဆာန်၏သွားရည်သည် အကိုက် ခံရသူ၏အနာ သို့မဟုတ် အရေပြားတွင် ပွန်းပဲ့သောနေရာမှ ကိုယ်တွင်းသို့ဝင်သွားလျှင် ခွေးရူးရောဂါသည် ထိုသူကို ကူး စက်ပြန့်ပွားနိုင်၏။ ခွေးရူးနာစွဲကပ်သောလူနာများကို စစ် ဆေးသောအခါ ရာခိုင်နှုန်း ၉၀ သည် ခွေးရူးကိုက်ခံရသော ကြောင့် စွဲကပ်သည်ကိုတွေ့ရသည်။ ထိုရောဂါသည် ခွေးရူး ကိုက်ခံရခြင်းကြောင့်သာ ဖြစ်ပေါ်နိုင်သည်မဟုတ် ခွေးရူး နာစွဲကပ်နေသော ကြောင်၊ ဝံပုလွေ၊ မြေခွေး၊ ခွေးအ စသောအခြားတိရစ္ဆာန်များကြောင့်လည်း လူသို့ကူးစက် နိုင်၏။ ရောဂါစွဲကပ်သည့်အချိန်မှ ရောဂါသိသာဖြစ်ပေါ် လာသည့်အချိန်အထိကို ပိုးမျိုးပျိုးရက်ဟုခေါ်၏။ ပိုးမျိုး ပျိုးရက်သည် လူနာတဦးနှင့် တဦးမတူချေ။ အချို့လူနာ တွင် အနည်းဆုံး ၂ သီတင်းကြာ၍ အချို့တွင်လပေါင်း များစွာ သို့မဟုတ် နှစ်ပေါင်းများစွာပင်လျှင်ကြာတတ်၏။ သို့သော် ပျမ်းမျှခြင်းအားဖြင့် ထိုရောဂါပိုးပျိုးချိန်မှာ

သီတင်းပတ် ၆ ပတ်မှ ၃ လအထိကြာတတ်၏။ ခွေးရူးကိုက်ခံရသော ကိုယ်အင်္ဂါအစိတ်အပိုင်းကိုလိုက်၍ ပိုးမျိုးပျိုးချိန်သည် ရက်တိုသည်လည်းရှိ၏။ ရက်ရှည်သည်လည်းရှိ၏။ ပိုးမျိုးပျိုးရက်သည် ကလေးများတွင်ပို၍တိုတောင်း၏။

ခွေးရူးကိုက်ခံရသောအနာသည် လျင်မြန်စွာကျက်သွားပြီးနောက် ခွေးရူးရောဂါထလာလျှင် အနာနေရာတွင်ရောင်ရမ်း ယားယံနာကျင်လာတတ်သည်။ အနာတဝိုက်၌လည်း ထုံလာတတ်၏။ ခွေးရူးကိုက်ခံရ၍ ရောဂါဖြစ်စလူနာတွင် စိတ်ညှိုးငယ်ခြင်း၊ တည်ငြိမ်မှုမရှိခြင်း၊ အလွန်ကြောက်ရွံ့ခြင်းစသောလက္ခဏာများကိုတွေ့ရပေမည်။ လူနာစကားပြောပုံလည်း တမျိုးပြောင်းလဲလာ၏။ စကားကို တိုတောင်းစွာနှင့် လျင်မြန်စွာပြောတတ်၏။ အဖျားဝင်ခြင်း၊ စားသောက်ချင်စိတ်မရှိခြင်း၊ အိပ်မပျော်ခြင်း၊ ခေါင်းကိုက်ခြင်း၊ စိတ်မတည်ငြိမ်ခြင်း၊ သက်ပြင်းချ၍အသက်ရှူခြင်းစသော လက္ခဏာများကိုလည်း တွေ့ရ၏။ လူနာသည် အရည်ကို တခါတရံစက်ဆုပ်တတ်၏။ ထိုလက္ခဏာများကို ၁ ရက် ၂ ရက်အတွင်းတွေ့ရတတ်သည်။

ထိုနောက် လူနာသည် စိတ်ဓာတ်ပိုမိုပြင်းထန်စွာတုန်လှုပ်ချောက်ချားလာ၏။ အသက်ရှူကျပ်လာ၏။ ဤအဆင့်တွင် လူနာသည် အရည်ကိုမျိုချနိုင်ရန် ကြိုးစားအားထုတ်ရ၏။ ရေအလွန်ငတ်၏။ အသက်ရှူကျပ်၍ မွန်းသွားတတ်၏။ ဤသို့မွန်းရခြင်းမှာ အစာမျိုချရာ၌ အခရာဖြစ်သောကြွက်သားနှင့် အသက်ရှူရာ၌အခရာဖြစ်သော ကြွက်သားတို့ အလိုအလျောက်လှုပ်ရှားနေသောကြောင့်ဖြစ်၏။ မွန်းရာမှ သတိရလာသော် လူနာသည်ထိတ်လန့်၏။ ခန္ဓာကိုယ် နွမ်းနယ်၏။ လူနာသည် တောက်ပြောင်သော အလင်း၊ ကျယ်လောင်သောအသံ၊ တိုက်ခပ်သောလေအေးစသည်တို့ကို သိလွယ်၏။ ရောဂါတိုးလာသည်နှင့် အမျှ ရောဂါလက္ခဏာများသည်လည်းပြင်းထန်၍ ထပ်ကာထပ်ကာပေါ်လာတတ်၏။ သို့သော် ရောဂါအတက်အကျကားရှိသေးသည်။ ရောဂါကျချိန်တွင် လူနာသည်ငြိမ်၍နေတတ်၏။ ထိုအချိန်တွင် လူနာသည် စိုးရိမ်ကြောင့်ကြသောလက္ခဏာရှိ၍အသက်ရှူရာတွင် အသံမြည်လာ၏။ ထိုအသက်ရှူသံမျိုးပေါ်လာသည်ကို ခွေးကဲ့သို့ အူသည်ဟု ဆိုကြသည်။ လူနာသည် စိတ်နောက်ချည်တလှည့် ကောင်းချည်တခါဖြစ်တတ်၏။ ထိုအခြေတွင် လူနာသည် မိမိ၏ပါးစပ်မှထွက်လာသည့် တံတွေးစေးတို့ကို မျိုချခြင်းငှာမစွမ်းနိုင်သဖြင့် အစဉ်တံတွေးကို ထွေးလျက်ရှိ၏။ လူနာသည် ပစ္စည်းတခုခုကို ဟပ်သကဲ့သို့ ပါးသွယ်ရိုးကို လှုပ်ပေးတတ်၏။ အဖျားကျသွားသော်လည်း ဝမ်းချုပ်ခြင်း၊ ဆီးနည်းခြင်းဖြစ်တတ်၏။ ကာမစိတ်တက်ကြွမှုတရံတခါရှိတတ်၏။ ဖေါ်ပြသည့်အတိုင်း လူနာသည် ၂ ရက် သို့မဟုတ် ၃ ရက် မျှဝေဒနာကိုခံစားပြီးနောက် သေဆုံးသွားတတ်၏။ သေဆုံးရခြင်းသည် မွန်း၍သော်၎င်း၊ အားကုန်၍သော်၎င်းဖြစ်၏။

ခွေးရူးနာကို သမားရိုးကျကုနည်းမှာ အနာကိုလှီးဖြတ်ထုတ်ပယ်ခြင်းနှင့် အနာနေရာကို သံပူမီးပူထိုးခြင်း ဖြစ်သည်။ သို့သော် ယခုအခါ ပါးစတားကုထုံးနှင့်ကုသသည်။ (ပါးစတားကုထုံး — ရှု။) ပါးစတားကုထုံးနှင့် ကုသသည့်တိုင်အောင် လှီးဖြတ်၍၎င်း၊ သံပူကပ်၍၎င်း ကုသသောနည်းကို လိုက်နာသင့်သည်ဟုအဆိုရှိသည်။

**ခွေးအ**။ ။အိမ်ခွေးများသည် ခွေးအ တို့မှ ဆင်းသက်ပေါက်ဖွားလာကြသည်ဟု သုတေသီများက ယုံကြည်ကြလေသည်။ ခွေးအသည် အိမ်ခွေးနှင့်ဆင်ဆင်တူသော်လည်း ကိုယ်လုံးသေး၍ နှုတ်သီးချွန်သည့်အတွက် မြေခွေးနှင့်သာ၍တူသည်။ အရောင်မှာ အဝါညစ်ဖြစ်၍ ကျောဖက်တွင်



အိမ်ခွေးများသည် ပုံတွင်တွေ့မြင်ရသောခွေးအမှဆင်းသက်ပေါက်ဖွားလာသည်ဟုဆိုသည်။

အရောင်ပို၍မွဲလာပြီးလျှင် ရင်ဖက်တွင် ဖျော့သွားသည်။ နှုတ်သီးဖျားမှ အမြီးဖျားအထိ ၂၅ ပေကျော်ကျော်ရှည်၏။ အမြီးမှာ ရှစ်လက်မခန့်ရှည်၍ အမွေးဖွားသည်။

ခွေးအသည် လောဘကြီးသည်။ ကောက်ကျစ်စဉ်းလဲသည်။ ခိုးကြောင်ခိုးဝှက် ပြုကျင့်တတ်သည်။ ရှယ်တူတိရစ္ဆာန်များကို မည်သည့်အခါမျှ မတိုက်ခိုက်ချေ။ မြို့ရွာများနှင့် မနီးမဝေးဖြစ်သော ဂူများ၊ မြေတွင်းများတွင် နေလေ့ရှိသည်။ ခွေးအ အမများသည် တကြိမ်လျှင် သား ၃ ကောင်မှ ၅ ကောင်အထိ မွေးလေ့ရှိသည်။ နေ့အခါ ခွေးအတို့သည် တွင်းအောင်းနေကြ၍ ညအခါမှ တကောင်ချင်းဖြစ်စေ၊ အုပ်ဖွဲ့၍ဖြစ်စေ အစာရှာထွက်လေ့ရှိကြသည်။ ထိုသို့အစာရှာထွက်စဉ် မသာယာသောအသံဖြင့် အူတတ်ကြ၏။ လူတို့စိုက်ပျိုးထားသောသစ်သီး၊ ဟင်းသီးဟင်းရွက်နှင့် လူတို့မွေးမြူထားသော ကြက်၊ ဘဲ၊ သိုး၊ ဆိတ်စသည်တို့ကို ခိုးဝှက်စားသောက်တတ်ကြသဖြင့် ခွေးအများကို လူတို့အလွန်မုန်းတီးကြသည်။ သို့သော် လူနေရပ်ကွက်တို့၌ တွေ့ရတတ်သောအပုပ်အစပ်နှင့် အသေကောင်များကို စားသောက်ရှင်းလင်းသွားတတ်သည့်အတွက် လူတို့အား တနည်းတဖုံကျေးဇူးပြုသည်ဟုလည်း ဆိုနိုင်ပေသည်။ တောထဲ၌ကျားခြင်္သေ့စသောသားရဲတိရစ္ဆာန်များနောက်မှ နောက်ယောင်ခံလိုက်ကာ ယင်းတို့၏ စားကြွင်းစားကျန်များကိုလည်း လိုက်လံစားသောက်တတ်သည်။ ကျင်လျှင်စွာပြေးလွှားတတ်ခြင်း၊ သဲသဲမဲမဲ ပြန်လည်ခုခံတတ်ခြင်းတို့ကြောင့် အိန္ဒိယနိုင်ငံတွင် ခွေးအများကို အမဲလိုက်ခွေးများဖြင့် အပျော်တမ်းအမဲလိုက်လေ့ရှိကြသည်။

ခွေးအ သည် အိမ်၌မွေးမြူလျှင် ယဉ်ပါးလွယ်သော်လည်း မင်္ဂလာမဲ့သောအသံနှင့် ညှီစို့စို့ကိုယ်အနံ့တို့ကြောင့် ယင်းတို့အား လူတို့မွေးမြူခြင်းမပြုကြချေ။

ခွေးအကို ဥရောပတိုက်အရှေ့တောင်ပိုင်း၊ အာရှတိုက်တောင်ပိုင်းနှင့် အာဖရိကတိုက်မြောက်ပိုင်းတွင် များစွာတွေ့ရတတ်သည်။ အာဖရိကတိုက်တွင် တွေ့ရသောခွေးအ မျိုးမှာ အခြားခွေးအတို့ထက်လှ၍ သားမွေးရသည့်အတွက် အဖိုးတန်သည်။ အမေရိကတိုက်တွင်မူ ခွေးအ များကို အလျင်းမတွေ့ရချေ။ မြန်မာနိုင်ငံတွင် ခွေးအကို ရခိုင်ရိုးမအရှေ့ဖက်ရော အနောက်ဖက်ပါ တောစပ်ဒေသတွင် များစွာတွေ့နိုင်သည်။ ရခိုင်တိုင်းတွင် ခွေးအကို ခဲဝါဟု ခေါ်ဝေါ်လေ့ရှိသည်။

**ခွံမာသီးများ။** ။အသီးကိုဖုံးအုပ်ထားသောအခွံသည် သစ်ကျားသီးစသည်တို့ကဲ့သို့ မာခဲ့ပါလျှင် ထိုအသီးမျိုးကို ခွံမာသီးဟုခေါ်သည်။ ထိုခွံမာသီး၏ အခွံအတွင်း၌ကား စား၍ကောင်းသော အသားနှင့်အဆန်များ ရှိကြသည်။



**အုန်းသီးများကိုအခွံခွာရန်အတွက်စုပုံထားစဉ်**



အတွင်းရှိအသားနှင့်အဆန်ကို စားသုံးရသောခွံမာသီးမျိုးစုံ

လူတို့သည် ရှေးနှစ်ပေါင်းများစွာကပင်လျှင် အလေ့ကျပေါက်သောခွံမာသီးအမျိုးမျိုးကို အစာအဖြစ်နှင့် စားလာခဲ့ကြပေသည်။

ရှေးဦးလူတို့သည် ထိုခွံမာသီးများကို စားသောက်နေခဲ့ကြရာမှ ယဉ်ကျေးမှုအဆင့်အတန်း တိုးတက်လာသောအခါ ဆန်၊ ဂျုံ၊ ပြောင်းစသောသီးနှံများကို အစာအလို့ငှာ အသုံးပြုလာတတ်ကြသည်ဟု ယူဆရသည်။ ထိုအခါ အသီးဆန်များကို ယခင်ကလောက် အရေးမထားတော့ဘဲ သီးနှံတို့ကိုသာ ပဓာနအစာအဖြစ်ဖြင့် သုံးစွဲလာကြသည်ဟု သမိုင်းဆရာတို့အဆိုရှိသည်။

ခွံမာသီးများသီးသည့်အပင်မျိုးမှာ အပင်ကြီးများဖြစ်၍ အမျိုးများစွာပြားသည်။ အချို့အပင်များမှာ အေးသောတိုင်းပြည်များ၌ ပေါက်လေ့ရှိ၍ အချို့မှာ ပူသောတိုင်းပြည်များတွင် ပေါက်ကြသည်။ အသီးခွံများသည် အတွင်းရှိအဆန်များကို သေချာလုံခြုံစွာ ဖုံးအုပ်ထားသဖြင့် ထိုအဆန်ကိုစားလိုလျှင် အခွံကိုထုခွဲပြီးမှ စားနိုင်သည်။ အထဲမှအသားနှင့်အဆန်များမှာ စားသုံးရာ၌ မျှားသောအားဖြင့် အလွန်အရသာရှိသည်။

ကမ္ဘာပေါ်တွင် ခွံမာသီးပင် အမျိုးမျိုးရှိသည့်အနက် လူသိများသောအပင်များအကြောင်းကိုသာ ဖော်ပြလိုပေသည်။ ခွံမာသီးပင်များတွင် အုန်းပင်သည် အထင်ရှားဆုံးဖြစ်၏။ အုန်းပင်များသည် ပူအိုက်စိုစွတ်သောတိုင်းပြည်များ၊ ကျွန်းများ၊ ပင်လယ်ကမ်းနားများ၌ ပေါက်ရောက်လေ့ရှိသောအပင်မျိုးဖြစ်သည်။ ဖြူဆွတ်၍ ချိုဆိမ့်လှသော အုန်းသီးအသားကိုရနိုင်ရန် အပေါ်ယံ၌ ဖုံးလွှမ်းနေသော အမျှင်ထူတထပ်နှင့် မာကျောသောအခွံတထပ်တို့ကို ခွာလိုက်ရသည်။ အုန်းသီး၏အတွင်းသားကို အစိမ်းအတိုင်းသော်၎င်း၊ အမှုန့်ကလေးများဖြစ်အောင် ခြစ်ပြီးနောက် အုန်းနို့ညှစ်၍သော်၎င်း၊ အဖတ်ကလေးများဖြစ်အောင် လှီးကာကြော်၍သော်၎င်း စားသုံးကြလေသည်။ မုန့်လုပ်ရာ၌ အုန်းသီးကိုထည့်၍သုံးပါက ပို၍အရသာရှိသည်။ ထို့မှတပါး အုန်းသီးမှ အုန်းဆီကိုလည်း ထုတ်ယူနိုင်သည်။ (အုန်းပင် — ရှု။)

ခွံမာသီးများတွင် အပါအဝင်ဖြစ်သော သစ်ကျားသီးကို လူမျိုးတိုင်း ကြိုက်နှစ်သက်ကြပေသည်။ သစ်ကျားသီးပင်များကို အထက်မြန်မာနိုင်ငံ အချို့သောအရပ်ဒေသတို့၌သာ စိုက်ကြသည်။ အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယားပြည်နယ်၌ သစ်ကျားသီးများကို စီးပွားဖြစ်စိုက်ပျိုးကြသည်။ အင်္ဂလန်ပြည်၌လည်း စိုက်ပျိုးကြ၏။ ထိုအပင်မျိုးမှာ အသီးသီးရန် နှစ်အတော်ကြာသည်။ သီးချိန်တန်၍ သီးပြန်သောအခါ၌မူကား အများအပြား သီးတတ်သည်။ သစ်ကျားသီးပင်များသည် ရှေးဦးစွာ ပါးရှားနိုင်ငံ၌ အလေ့ကျပေါက်သော်လည်း ပြုပြင်စိုက်ပျိုးခြင်းမရှိသဖြင့်



စားဖွယ်အဖြစ်ပြုလုပ်ထားသောဗာဒံစေ့များ

အင်္ဂလန်၊ အမေရိကန်တို့မှာလောက် အမျိုးမကောင်းချေ။ ဣတလီနှင့်ပြင်သစ်နိုင်ငံတို့၌ကား အထူးပြုပြင် စိုက်ပျိုးကြသဖြင့်များစွာအောင်မြင်၍ နိုင်ငံခြားသို့ပင် တင်ပို့နိုင်သည်။ သို့ရာတွင် သစ်ကျားပင်ကို စီးပွားဖြစ်စိုက်ပျိုးကြသောနိုင်ငံများတွင် အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယားပြည်နယ်သည် ကမ္ဘာပေါ်တွင် ပဌမဖြစ်ဖွယ်ရာရှိသည်။ (သစ်ကျားသီး — ရှု။)

သစ်ကျားသီးကဲ့သို့ လူသုံးများသော ခွံမာသီးတမျိုးမှာ သစ်အယ်သီးဖြစ်သည်။ သစ်အယ်သီး၏ မာကျောခြောက်သွေ့သော အခွံအတွင်းမှအဆန်မှာ အလွန်ဆိမ့်သည်။ မြန်မာနိုင်ငံသို့ တရုပ်နိုင်ငံမှ သစ်အယ်သီးများကို ဗန်းမော်ဖက်မှနေ၍ တင်သွင်းသည်။ စပိန်နိုင်ငံတွင် သစ်အယ်သီးတို့ကို အထူးပင် တန်ဖိုးထားသည်။ အင်္ဂလန်တောင်ပိုင်းတွင်လည်း သစ်အယ်သီးများ ရရှိသည်။ သစ်အယ်ပင်သည် အလွန်အသက်ရှည်သော အပင်မျိုးဖြစ်၍ အချို့အပင်များမှာ နှစ်ပေါင်း ၅၀၀ ကျော် ၆၀၀ ခန့်အထိ အသက်ရှည်ကြသည်။ ဗာဒံသီးများမှာ အလွန်ဆိမ့်၍ ဆီထွက်သည်။ ထိုပြင်ပူသောဓာတ်လည်းရှိသည်။ ထိုအပင်များ၏အကိုင်းအလက်ထွက်ပုံမှာ ထီးသဖွယ်ဝိုင်း၍ အဆင့်ဆင့်ထွက်သဖြင့် သပ်ရပ်တင့်တယ်သည်။ မြန်မာနိုင်ငံ အချို့အရပ်ဒေသများ၌ ပေါက်သော်လည်း စံနစ်တကျစိုက်ပျိုးလုပ်ကိုင်ခြင်း မရှိသေးချေ။ (သစ်အယ်ပင်။ ဗာဒံပင် — ရှု။)

အထက်ဖေါ်ပြပါ ခွံမာသီးများအပြင် အချို့နိုင်ငံများ၌ ထင်ရှားပေါများသော ခွံမာသီးများလည်း အများအပြားရှိပေသေးသည်။ မြန်မာနိုင်ငံ၌ကား ထန်းသီး၊ ကွမ်းသီး စသောအခွံမာသီးများသည် အုန်းသီးကဲ့သို့ အသုံးဝင်သည်။ အုန်းသီးနှင့်ထန်းသီးများမှာ အခွံ၏အတွင်း၌ အရသာရှိသောအသားများအပြင် ချိုမြသော အရည်လည်း ပါရှိသဖြင့်ထူးခြားလှပေသည်။ အနောက်တိုင်းပြည်တို့တွင်ကား သစ်ကျားသီး သစ်အယ်သီးများအပြင် ဗာဒံသီး ဟတ်ကရီသီး၊ ဗရာဇီးသီးစသော ခွံမာသီးများလည်းရှိပေသေးသည်။

ခွံမာပင်မျိုးမှာ ရှေးအခါမှစ၍ ဂရုတစိုက်စိုက်ပျိုးရခြင်းမရှိဘဲ အလေ့ကျပေါက်သောအပင်မျိုးဖြစ်သည်။ သို့ရာတွင် အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယားပြည်နယ်တွင်ကား ခွံမာသီးပင်မျိုးကို ယခုအခါ စံနစ်တကျ ပြုပြင်၍ စီးပွားဖြစ်စိုက်ပျိုးလုပ်ကိုင်လာကြသည်။ ထို့ကြောင့် ကာလီဖိုးနီးယားပြည်နယ်မှ ကမ္ဘာ့အရပ်ရပ်သို့ခွံမာသီးများကို ရိုးရိုးအတိုင်းသော်၎င်း၊ စည်သွတ်၍သော်၎င်း တင်ပို့ရောင်းချနိုင်သည်။

ခွံမာသီးမျိုး၌အထင်ရှားဆုံးဖြစ်သော အုန်းပင်များပေါက်ရာပင်လယ်ကမ်းခြေတခု၏သဘာဝရှုခင်း



ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင်ပဌမဆုံး ပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလိုပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသော အမည်များ မြောက်မြားစွာ ပါဝင်လေသည်။

ဤကျမ်းတွင်ပါဝင်သော ဝေါဟာရနှင့် အသံလှယ်ယူထားသော အမည်တို့ကို မူရင်းစကားနှင့်တကွ အောက်တွင် အက္ခရာစဉ်အတိုင်း ဖော်ပြထားသည်။

## ဝေါဟာရများ

| | |
|---|---|
| ကပေါင်းကြိမ် | Calamus Longisetus |
| ကာဗော်လစ်ဆီ | Carbolic Oil |
| ကာဗွန်မှုန့် | Carbon Dust |
| ကားသေ့စစ်ပွဲများ | Carthagenian Wars |
| ကုဗပေ | Cubic Feet |
| ကုရုန္ဒ | Corundum |
| ကူပွန်ခံဝန်ချုပ် | Coupon Bond |
| ကူးသန်းရောင်းဝယ်ရေးဝန်ကြီး (ဂရိတ်ဗြိတိန်) | President of the Board of Trade |
| ကယ်ဆယ်ရေးတပ် | Salvation Army |
| ကယ်လဗင်မက်သဒစ်သာသနာပြုအဖွဲ့ | Calvinistic Methodist Missions |
| ကော်ဖတ်စက္ကူ | Sandpaper |
| ကော်မစ်ရှင် | Commission |
| ကိုဓဥပဒေ | Code |
| ကိုလိုနီနယ်များဆိုင်ရာဝန်ကြီး | Minister for the Colonies |
| ကင်းစောင့်ခွေး | Watch Dog |
| ကောင်းကင်တမန် | Angel |
| ကောင်းကင်ဘုံ | Heaven |
| ကတ္တူလှေ | Junk |
| ကန့်ကျောက် | Sulphurous Stone |
| ကန့်ဝင်ခနောက်စိမ်း | Stibnite |
| 'ကန်တာဗာရီပုံပြင်များ' | ' Canterbury Tales ' |
| ကိန်း | Number |
| ကုန်တင်ကုန်ချမောင်း | Crane |
| ကုန်ထုတ်ကရိယာ | Means of Production |
| ကုန်းနေရေနေသတ္တဝါ | Amphibia |
| ကုန်းနေရေနေသတ္တဝါခေတ် | Age of Amphibians |
| ကမ္ဘာ့ဆွဲအား | Gravity |
| 'ကမ္ဘာ့အရေးတကြီးအခြေအနေ' | 'The World Crisis ' |
| ကမ္ဘာလုံးခြမ်း | Hemisphere |
| ကမ္ဘာသစ် | New World |
| ကမ္ဘာဟောင်း | Old World |
| ကျေးကုလား | Burmese Slaty-Headed Parakeet (*Psitticula Himalayan Finshi*) |
| ကျေးကုလားမ | Indian Red-Breasted Parakeet (*Psitticula Alexandri Fasciata*) |
| ကျေးကျွတ် | Eastern Rose-Ringed Parakeet (*Psitticula Krameri Borealis*) |
| ကျေးကျွန်စံနစ် | Slavery and Serfdom |
| ကျေးကျွန်များလွတ်မြောက်ရေး ကျေညာစာတမ်း | Emancipation Proclamation |
| ကျေးတမာ | Eastern Blossom-Headed Parakeet (*Psitticula Cyanocephala Rosea*) |
| ကျေးရွာသာယာမှု | Preservation of the Countryside |
| ကျေးသန္တာ | Indian Lorikeet (*Coryllis Vernalis*) |

| | |
|---|---|
| ကျောရိုး (တနည်း) ကျောက်ကုန်းရိုး | Spinal Cord |
| ကျောရိုးမဲ့သတ္တဝါခေတ် | Age of Invertebrates |
| ကျောက်ကတ္တရာ | Rock Asphalt |
| ကျောက်ကပ် | Kidney |
| ကျောက်ကပ်ခွက် | Basin of the Kidneys |
| ကျောက်ကပ်ရောင်ရောဂါ | Bright's Disease |
| ကျောက်ကြိုးကွင်းထိုးနည်း | Eye Splice |
| ကျောက်ကြိုးဆက်အတိုထိုးနည်း | Short Splice |
| ကျောက်ကြိုးဆက်အရှည်ထိုးနည်း | Long Splice |
| ကျောက်ကြိတ်စက်ရုံ | Grinding or Crushing Mill |
| ကျောက်ခက်ပင်မျိုး | Ferns |
| ကျောက်ခေတ် | Stone Age |
| ကျောက်ခေတ်သစ် | New Stone Age or Neolithic Age |
| ကျောက်ခေတ်ဟောင်း | Old Stone Age or Paleolithic Age |
| ကျောက်ခွဲပင် | Saxifrage |
| ကျောက်ဂွမ်းပြား | Asbestos Sheet |
| ကျောက်စုန်းတောက်ခြင်း | Phosphorescence |
| ကျောက်စိမ်း | Jade |
| ကျောက်ဆေးထိုးခြင်း | Vaccination |
| ကျောက်တုရိုင် | Stonehenge |
| ကျောက်တူးလုပ်ငန်း | Quarrying |
| ကျောက်ပုံနှိပ်အတတ် | Lithography |
| ကျောက်ပြာတုံး | Bluestone |
| ကျောက်ပွ | Pumice |
| ကျောက်မီးသွေးခေတ် | Coal Age |
| ကျောက်မျက် | Gem |
| ကျောက်မျက်တို့၏ဘုရင် | King of Gems |
| ကျောက်သလင်း | Quartz |
| ကျောက်သွေးအတတ် | Lapidary |
| ကျောင်းဥယျာဉ် | School Garden |
| ကျိုင်းကောင် | Locust |
| ကျည်းပင် | Barringtonia Acutangula |
| ကျည်းလံပင် | Shorea Assamica |
| ကျိတ်ပင် | Coix Lachryma-Jobi |
| ကြာဆံ | Vermicelli |
| ကြာဖက်နင်းငှက် | Bronze-Winged Jacana (*Metopidius Indicus*) |
| ကြာပင် | Water Lily |
| ကြေးညိုခေတ် | Bronze Age |
| ကြေးနန်းရိုက်ခြင်း | Telegraphy |
| ကြေးနန်းရိုက်လက်နှိပ်စက် | Telegraph Typewriter |
| ကြေးရုပ်သွင်းလုပ်ငန်း | Statuary |
| ကြယ်စု | Star Cluster |
| ကြယ်ပျံ | Shooting Star |
| ကြို့ပင် | Schleichera Trujuga |
| ကြိုး | Rope and Twine |
| ကြိုးကြာ | Burmese Sarus Crane |
| ကြိုးထုံးနည်း၊ချည်နည်း၊ထိုးနည်း | Knots, Hitches and Splices |
| ကြိုးမဲ့ကြေးနန်း | Wireless |
| ကြက်ခြေနီစာချုပ် | Red Cross Treaty |
| ကြက်ခြေနီလူငယ်အသင်း | Junior Red Cross |

| | |
|---|---|
| ကြက်ခြေနီအသင်းချုပ်ကြီး | Red Cross Society |
| ကြက်ငှက်မွေးမြူခြင်း | Poultry Farming |
| ကြက်ဆူပင် | Castor Oil Plant (*Ricinus Communis*) |
| ကြက်ဆင် | Turkey |
| ကြက်တူရွေး | Parakeet ; Lorikeet |
| ကြက်တော (ကျေးဖေါင်းကား) | Burmese Large Parakeet (*Psitticula Eupatria Avensis*) |
| ကြက်တောင်ဖေါ့လုံး | Shuttlecork |
| ကြက်တောင်ရိုက်ကစားခြင်း | Badminton |
| ကြက်ပေါင်ပင် | Urœola Esculenta |
| ကြက်သွန် | Onion (*Allium Ascalonicum*) |
| ကြက်သွန်ဖြူ | Garlic (*Allium Saltivum*) |
| ကြောင် (ကျောက်မျက်) | Cat's Eye ; Moonstone |
| ကြောင်မြီးတို | Lynx |
| ကြဉ် (သည်) | Excommunicated |
| ကြည့်မှန် | Mirror |
| ကြည့်မှန်အခုံး | Convex Mirror |
| ကြည့်မှန်အခွက် | Concave Mirror |
| ကြတ်နန်ပင် | Carapa Molucœnsis |
| ကြိတ်စက် | Crushing Machine |
| ကြံ့ | Rhinoceros |
| ကြံ့ဆင် | Single Horned Rhinoceros |
| ကြံ့ရှော် | Double Horned Rhinoceros |
| ကြံ့သူတော် | Tapir |

| | |
|---|---|
| ကြံပင် | Sugar Cane Plant |
| ကြိမ်ပင် | Cane |
| ကြိမ်ခါး | Calamus Viminalis |
| ကြိမ်နီ | Calamus Guruba |
| ကွာဒရူပလက်နည်း | Quadruplex System |
| ကွိုက်ပစ်ကစားနည်း | Quoits |
| ကွင်းလျှောထုံးနည်း | Running Knot or Slipknot |
| ကွန်စတန်တင်းမုတ်ဝ | Arch of Constantine |
| ကွန်ဆာဗေးတစ်ပါတီ | Conservative Party |
| ကွန်မြူနစ်ကြေညာစာတမ်း | Communist Manifesto |
| ကွန်မြူနစ်ဝါဒ | Communism |
| ကွမ်း | Betel (*Callicera Rubella*) |
| ကွမ်းရိုးစင်း (ခြည်ထိုးနည်း) | Rib |
| ကွမ်းသီးပင် | Areca Catechu |
| ကျွဲကောပင် | Citrus Decumana |
| ကျွဲကျောင်းဗျိုင်း | Cattle Egret (*Ardeola Ibis Coromandus*) |
| ကျွဲခေါင်းသီး | Horn Nut (*Trapa Bispinosa*) |
| ကျွဲဓညင်း | Pithecolobium Dulce |
| ကျွန်ကုန်ကူးခြင်းလုပ်ငန်း (ကျွန်အရောင်းအဝယ်) | Slave Trade |
| 'ကျွန်ုပ်ဘဝ' | ' My Life ' |
| ကျွန်းစု | Archipelago |
| ကျွန်းပင် | Teak (*Tectona Grandis*) |
| ကြွေစေ့ | Cowry |

